ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပညာရေးဝန်ကြီးဌာန
မြန်မာစာအဖွဲ့ဦးစီးဌာန




# မြန်မာသဒ္ဒါ

၂၀၁၃

# **မြန်မာသဒ္ဒါ**

ဒုတိယအကြိမ်၊ မွမ်းမံတည်းဖြတ်ပုံနှိပ်ခြင်း

အမှာစာ

မြန်မာစာအဖွဲ့သည် မြန်မာသဒ္ဒါကို ၂၀၀၅–ခုနှစ်၊ ဇွန်လတွင် ပထမအကြိမ် ပုံနှိပ်ထုတ်ဝေခဲ့ပါသည်။ ယခုအခါ ပထမအကြိမ် ပုံနှိပ်ဖြန့်ချိခဲ့သော မြန်မာသဒ္ဒါ စာအုပ်များသည် ပြတ်လပ်နေပြီ ဖြစ်သဖြင့် ကျောင်းသားကျောင်းသူများအကျိုးငှာ ဒုတိယအကြိမ် တည်းဖြတ်ထုတ်ဝေရန် စီစဉ်ပါသည်။

ဒုတိယအကြိမ်ထုတ်ဝေရာတွင် ပထမအကြိမ် ပုံနှိပ်ဖြန့်ချိစဉ်က အကျအပေါက်၊ အချွတ်အချော်များကို ပြန်လည်စိစစ်မွမ်းမံ၍ တည်းဖြတ်ပါသည်။

**မြန်မာစာအဖွဲ့**

## ပထမအကြိမ် အမှာစာ

မြန်မာစာအခွန့်ရှည်စွာ တည်တံ့ခိုင်မြဲရေးကိုရည်သန်၍ မြန်မာစာအဖွဲ့ဦးစီးဌာနသည် **မြန်မာသဒ္ဒါအခြေပြုကျမ်းကို** ရေးဦးစွာ ပြုစုခဲ့ပါသည်။ ထိုမြန်မာသဒ္ဒါအခြေပြုကျမ်းကိုအခြေခံလျက် ကျောင်းများတွင် မြန်မာသဒ္ဒါကို လွယ်ကူစွာ လေ့လာသင်ယူနိုင်ရန်အတွက် ကျောင်းသူ ကျောင်းသားတို့၏ အသက်၊ ဉာဏ်ရည်နှင့်ဆီလျော်မည့် သဒ္ဒါကျမ်းများကို ဆက်လက် ပြုစုခဲ့ပါသည်။

**မြန်မာသဒ္ဒါကို** ၁၉၈၄–ခုနှစ်၊ ဇန်နဝါရီလတွင် အတွဲ ၁ ကိုလည်းကောင်း၊ ၁၉၈၄– ခုနှစ် နိုဝင်ဘာလတွင် အတွဲ ၂ ကိုလည်းကောင်း၊ ၁၉၈၈–ခု မတ်လတွင် အတွဲ ၃ ကိုလည်းကောင်း ကျောင်းသုံးအဖြစ် ထုတ်ဝေခဲ့သည်။ အတွဲ ၁ အခန်း ၁ မှ အတွဲ ၁ အခန်း ၄ အထိ အလယ်တန်း၊ အတွဲ ၂ အခန်း ၅ မှ အတွဲ ၂ အခန်း ၆ အထိ အထက်တန်း၊ အတွဲ ၃ ကို အဆင့်မြင့်ပညာအတွက် ထုတ်ဝေခဲ့ပါသည်။ ယင်းကို တစ်စုတည်း ပြုလုပ်ပြင်ဆင်ကာ ဤမြန်မာသဒ္ဒါကို ထုတ်ဝေလိုက်ခြင်း ဖြစ်ပါသည်။

**မြန်မာစာအဖွဲ့**

# မာတိကာ

| အမှတ်စဉ် | | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|---|
| | (ည) | သရအမည်များ | ၃၄၉ |
| | (ဋ) | စကားသံဖွဲ့ထုံး | ၃၅၂ |
| | (ဌ) | မြန်မာစကားသံအဖွဲ့ | ၃၅၂ |
| | (ဍ) | မြန်မာစကားသံဖွဲ့ထုံး | ၃၅၃ |
| | (ဎ) | မြန်မာစကားသံပြောင်းလဲမှု | ၃၅၅ |
| ၁၁။ | | စကားလုံး၊ ပုဒ်၊ ပုဒ်စု | ၈၈၊ ၃၆၀ |
| | | စကားလုံး ၂ မျိုး | ၃၆၀ |
| ၁၂။ | | ပုဒ် | ၃၆၁ |
| | (က) | ပုဒ် ၄ မျိုး | ၃၆၁ |
| | (ခ) | ပုဒ်ရိုး | ၃၆၁ |
| | (ဂ) | ပေါင်းစပ်ပုဒ် | ၃၆၁ |
| | (ဃ) | ပစ္စည်းရောပုဒ် | ၃၇၃ |
| | (င) | ဝိဘတ်သွယ်ပုဒ် | ၃၇၈ |
| ၁၃။ | | ဝါစင်္ဂ | ၃ |
| | (က) | နာမ် | ၅၊ ၄၀၊ ၁၀၉၊ ၁၅၅၊ ၂၀၉၊ |
| | (ခ) | နာမ်စား | ၇၊ ၄၅၊ ၁၁၄၊ ၁၆၃၊ ၂၁၅ |
| | | လိင်၊ ကိန်း | ၁၀၊ ၅၀၊ ၅၃ |
| | (ဂ) | ကြိယာ | ၁၃၊ ၅၅၊ ၁၁၉၊ ၁၆၆ |
| | | ကာလ | ၁၅ |
| | (ဃ) | နာမဝိသေသန | ၁၆၊ ၅၀၊ ၁၂၄၊ ၁၆၈၊ ၂၁၇ |
| | | နာမဝိသေသနအဆင့်ခွဲခြားခြင်း | ၆၂ |
| | | အညွှန်းနာမဝိသေသနနှင့်အညွှန်းနာမ်စား | ၁၇၀ |
| | (င) | ကြိယာဝိသေသန | ၁၈၊ ၆၆၊ ၁၂၈၊ ၁၇၂၊ ၂၂၄ |
| | (စ) | ဝိဘတ် | ၂၀၊ ၆၉၊ ၁၃၁၊ ၁၇၅၊ ၂၃၂ |
| | (ဆ) | သမ္ဗန္ဓ | ၂၄၊ ၇၅၊ ၁၃၇၊ ၁၇၉၊ ၂၄၃ |
| | | ဝါကျဆက်သမ္ဗန္ဓနှင့်နာမ်ဝိဘတ် | ၁၈၇ |

# အတွဲ ၁၊ အခန်း ၁

## သဒ္ဒါ

**အသံ**

၁။ နားဖြင့် ကြားသမျှကို **အသံ** ဟု ခေါ်သည်။

**သာဓက**။ ။ လူသံ၊ ခွေးသံ၊ လေသံ၊ မိုးသံ၊ ဆိုင်းသံ၊ ဗုံသံ၊ တယောသံ၊ သီချင်းသံ စသည် လူတို့နှုတ်မှ အသံအမြောက်အမြား ထွက်နိုင်သည်။ ထိုအသံတို့တွင် အချို့သည် အဓိပ္ပာယ်ရှိသည်။ အချို့မှာမူအဓိပ္ပာယ် မရှိချေ။ "လူ၊ စာအုပ်၊ ကြက်ဟင်းခါးသီး၊ တစ်နေ့က၊ ထိုင်ပါ" စသည်တို့သည် အဓိပ္ပာယ်ရှိသော အသံများ ဖြစ်ကြသည်။ "ခေါ်ခေါ်" ဟူသော ဟောက်သံ၊ "ရွှီရွှီ" ဟူသော အကြောင်းမဲ့ လေချွန်သံ စသည်တို့မှာ အဓိပ္ပာယ်မရှိသည့် အသံများ ဖြစ်ကြသည်။

**သဒ္ဒ**

၂။ **သဒ္ဒ**သည် ပါဠိစကားဖြစ်သည်။ **အသံ**ဟု အဓိပ္ပာယ်ရသည်။

**သဒ္ဒါ**

၃။ အဓိပ္ပာယ်ရှိသောအသံကို အစွဲပြု၍ ရေးသားထားသောကြောင့် **သဒ္ဒါ**ဟု ခေါ်သည်။ လူတို့နှုတ်မှထွက်သောအသံတို့ကို ဆိုလိုသည့် အဓိပ္ပာယ်ရောက်အောင် စနစ်တကျ ပြောဆိုရေးသားရသည်။ ထိုသို့ ပြောဆိုရေးသားရာ၌ အသုံးပြုရမည့်စည်းစနစ်တို့ကို ဖော်ပြသောကျမ်းသည် သဒ္ဒါကျမ်းဖြစ်သည်။

## အက္ခရာ

**အက္ခရာ**

၄။ လူတို့နှုတ်မှ ထွက်သော အသံတို့ကို နားဖြင့်ကြားရသည်။ ထိုအသံတို့ကို ကိုယ်စားပြုထားသည့် အမှတ်သင်္ကေတများကို **အက္ခရာ** ဟု ခေါ်သည်။ "က၊ ခ၊ ဂ၊ ဃ၊ င" စသော အမှတ်သင်္ကေတများသည် အက္ခရာများဖြစ်ကြသည်။ ထိုအက္ခရာများကို စာရေးသားရာတွင် အသုံးပြုကြရသည်။

**မှတ်ရန်**။ ။ **အသံများကို ကိုယ်စားပြုထားသည့် အမှတ်သင်္ကေတများကို အက္ခရာဟု ခေါ်သည်။**

**အက္ခရာ ၂ မျိုး**

၅။ **သရအက္ခရာ၊ ဗျည်းအက္ခရာ**ဟူ၍ အက္ခရာ ၂ မျိုးရှိသည်။

သရအက္ခရာ ၁၁ လုံး၊

ဗျည်းအက္ခရာ ၃၃ လုံး၊

မြန်မာဘာသာတွင် စုစုပေါင်း အက္ခရာ ၄၄ လုံးရှိသည်။

၆။ **သရအက္ခရာ။** ။ မြန်မာဘာသာ၌ အခြေခံသရ ၁၁ လုံး၊ သင်ရိုးသရ ၁၂ လုံး ရှိသည်။

(က) အခြေခံသရ ၁၁ လုံးမှာ အောက်ပါအတိုင်း ဖြစ်သည်။
အ၊ အာ၊ ဣ၊ ဤ၊ ဥ၊ ဦ၊
ဧ၊ အဲ၊ ဩ၊ ဪ၊ အို။

(ခ) သင်ရိုးသရ ၁၂ လုံးမှာ အောက်ပါအတိုင်းဖြစ်သည်။
အ၊ အာ၊ ဣ၊ ဤ၊ ဥ၊ ဦ၊
ဧ၊ အဲ၊ ဩ၊ ဪ၊ အံ၊ အား။

**မှတ်ရန်။** ။ (၁) **"အ" အစ "အို" အဆုံး ၁၁ လုံးသော အက္ခရာတို့ကို အခြေခံသရဟု ခေါ်သည်။**
(၂) **"အ" အစ "အား" အဆုံး ၁၂လုံးသော အက္ခရာတို့ကို သင်ရိုးသရဟု ခေါ်သည်။**

၇။ **သရသင်္ကေတ။** ။ သရများကို ဗျည်းနှင့်တွဲသောအခါ သရသင်္ကေတများကို အသုံးပြုသည်။

၈။ ဗျည်းနှင့်တွဲဖက်ရန်အတွက် သရများကို အောက်ပါအတိုင်း သင်္ကေတပြုထားသည်။ အောက်ပါဇယား၌ သရသင်္ကေတနှင့်တွဲစပ်မည့် ဗျည်းနေရာများကို (–)မျဉ်းတိုဖြင့် ပြထားသည်။

**အခြေခံသရနှင့် သရသင်္ကေတပြဇယား**

| **သရ** | အ | အာ | ဣ | ဤ | ဥ | ဦ | ဧ | အဲ | ဩ | ဪ | အို |
|---|---|---|---|---|---|---|---|---|---|---|---|
| **အသံထွက်** | အ | အာ | အိ | အီ | အု | အူ | အေ | အဲ | အော | အော် | အို |
| **သင်္ကေတ** | – | –ာ<br>–ါ | –ိ | –ီ | –ု | –ူ | ေ– | –ဲ | ေ–ာ<br>ေ–ါ | ေ–ာ်<br>ေ–ါ် | –ို |
| **တွဲပုံ** | ခ | ခါ | ခိ | ခီ | ခု | ခူ | ခေ | ခဲ | ခေါ | ခေါ် | ခို |

**သင်ရိုးသရနှင့် သရသင်္ကေတပြဇယား**

| **သရ** | အ | အာ | ဣ | ဤ | ဥ | ဦ | ဧ | အဲ | ဩ | ဪ | အံ | အား |
|---|---|---|---|---|---|---|---|---|---|---|---|---|
| **အသံထွက်** | အ | အာ | အိ | အီ | အု | အူ | အေ | အဲ | အော | အော် | အံ | အား |
| **သင်္ကေတ** | – | –ာ<br>–ါ | –ိ | –ီ | –ု | –ူ | ေ– | –ဲ | ေ–ာ<br>ေ–ါ | ေ–ာ်<br>ေ–ါ် | –ံ | –ား<br>–ါး |
| **တွဲပုံ** | က | ကာ | ကိ | ကီ | ကု | ကူ | ကေ | ကဲ | ကော | ကော် | ကံ | ကား |

**မှတ်ရန်။** ။ (၁) (–ာ) ဤသင်္ကေတကို ဝိုက်ချဟု ခေါ်သည်။
(၂) (–ါ) ဤသင်္ကေတကို မောက်ချဟု ခေါ်သည်။
(၃) မောက်ချ (–ါ)ကို "ခ၊ ဂ၊ င၊ ဒ၊ ပ၊ ဝ" ဗျည်းအက္ခရာတို့နှင့် တွဲစပ်ရာ၌ သုံးသည်။
(၄) ဝိုက်ချ (–ာ)ကို ကျန်သော ဗျည်းအက္ခရာတို့နှင့် တွဲစပ်ရာ၌ သုံးသည်။

**ဗျည်း**

**၉။** မြန်မာဗျည်း ၃၃ လုံးရှိသည်။ ၎င်းတို့မှာ အောက်ပါအတိုင်း ဖြစ်သည်။

| | | | | |
|---|---|---|---|---|
| က | ခ | ဂ | ဃ | င |
| စ | ဆ | ဇ | ဈ | ည |
| ဋ | ဌ | ဍ | ဎ | ဏ |
| တ | ထ | ဒ | ဓ | န |
| ပ | ဖ | ဗ | ဘ | မ |
| ယ | ရ | | လ | ဝ |
| သ | ဟ | | ဠ | အ |

**မှတ်ရန်။ ။ "က" အစ "အ" အဆုံး ၃၃လုံးသော အက္ခရာတို့ကို ဗျည်းဟုခေါ်သည်။**

# ဝါစင်္ဂ

**ဝါစင်္ဂ**

၁၀။ **ဝါစင်္ဂ** သည် **ဝါစာ**နှင့် **အင်္ဂ** ပေါင်းစပ်ထားသော ပါဠိစကား ဖြစ်သည်။ ဆိုလိုသည့် အဓိပ္ပာယ်ရောက်အောင် ပြောဆိုသောစကား၏ အစိတ်အပိုင်းကို **ဝါစင်္ဂ**ဟု ခေါ်သည်။

ဝါစာ = စကား၊ ဝါကျ
= အဓိပ္ပာယ်ပေါ်လွင်အောင် ပြောဆိုသော စကား
အင်္ဂ = အစိတ်အပိုင်း
ဝါစင်္ဂ = ဝါကျတွင်း၌ ပါရှိသော စကားအစိတ်အပိုင်း

**ဝါစင်္ဂ ၉ မျိုး**

၁၁။ ဝါစင်္ဂ ၉ မျိုးရှိသည်။ ၎င်းတို့မှာ အောက်ပါအတိုင်းဖြစ်သည်။
(က) နာမ်
(ခ) နာမ်စား

(ဂ) ကြိယာ

(ဃ) နာမဝိသေသန

(င) ကြိယာဝိသေသန

(စ) ဝိဘတ်

(ဆ) သမ္ဗန္ဓ

(ဇ) ပစ္စည်း

(ဈ) အာမေဍိတ်

## ဝါစင် ၉ မျိုး၏အဓိပ္ပာယ်

၁၂။ ဝါစင် ၉ မျိုး၏ အဓိပ္ပာယ်အသီးသီးမှာ အောက်ပါအတိုင်း ဖြစ်သည်။

(က) **နာမ်**။ ။ သက်ရှိသက်မဲ့၊ ဒြပ်ရှိဒြပ်မဲ့တို့၏ အမည်ဟူသမျှကို နာမ်ဟုခေါ်သည်။

(ခ) **နာမ်စား**။ ။ နာမ်၏အစားသုံးသော ပုဒ်ကို နာမ်စားဟုခေါ်သည်။

(ဂ) **ကြိယာ**။ ။ ပြုခြင်းကိုဖြစ်စေ၊ ဖြစ်ခြင်းကိုဖြစ်စေ၊ ရှိခြင်းကိုဖြစ်စေ ပြသောပုဒ်ကို ကြိယာဟုခေါ်သည်။

(ဃ) **နာမဝိသေသန**။ ။ နာမ်ကို အထူးပြုသော ပုဒ်ကို နာမဝိသေသနဟု ခေါ်သည်။

(င) **ကြိယာဝိသေသန**။ ။ ကြိယာကို အထူးပြုသောပုဒ်ကို ကြိယာဝိသေသနဟု ခေါ်သည်။

(စ) **ဝိဘတ်**။ ။ နာမ်၊ နာမ်စားတို့၏ နောက်၌တည်၍ ၎င်းတို့သည် ကတ္တား ဖြစ်သည် ကံဖြစ်သည် စသည်ကိုလည်းကောင်း၊ ကြိယာ၏နောက်၌တည်၍ ၎င်းကြိယာ၏ကာလနှင့် အမျိုးအစားကိုလည်းကောင်း ဝေဖန်ပိုင်းခြားပြသော စကားလုံးကို ဝိဘတ်ဟု ခေါ်သည်။

(ဆ) **သမ္ဗန္ဓ**။ ။ ပုဒ်အချင်းချင်းကိုဖြစ်စေ၊ ဝါကျအချင်းချင်းကိုဖြစ်စေ၊ အဓိပ္ပာယ် အချင်းချင်းကိုဖြစ်စေ ဆက်စပ်ပေးသောစကားလုံးကို သမ္ဗန္ဓဟု ခေါ်သည်။

(ဇ) **ပစ္စည်း**။ ။ နာမ်၊ နာမ်စား၊ နာမဝိသေသန၊ ကြိယာ၊ ကြိယာဝိသေသနတို့၏ အဓိပ္ပာယ်ကို ထူးခြားလေးနက်အောင် ကူညီထောက်ပံ့သောစကားလုံးကို ပစ္စည်းဟု ခေါ်သည်။

(ဈ) **အာမေဍိတ်**။ ။ ထိတ်လန့်ခြင်း၊ ဝမ်းသာခြင်း၊ အံ့သြခြင်း စသည့် တစ်စုံတစ်ခုသော အကြောင်းကြောင့် ပြင်းပြင်းထန်ထန် စိတ်လှုပ်ရှားကာ နှုတ်မှ ရုတ်တရက် ထွက်ပေါ်လာသောအသံကို အာမေဍိတ်ဟုခေါ်သည်။

# နာမ်

## နာမ်

၁၃။ သက်ရှိသက်မဲ့၊ ဒြပ်ရှိဒြပ်မဲ့တို့၏ အမည်ဟူသမျှကို နာမ်ဟု ခေါ်သည်။

(က) **မောင်လှ**သည် **ကျောင်း**သို့ **ကား**ဖြင့်သွားသည်။

ဤဝါကျ၌–

(၁) **မောင်လှ**သည် လူ၏အမည်ဖြစ်သည်။

(၂) **ကျောင်း**သည် အဆောက်အအုံ၏ အမည်ဖြစ်သည်။

(၃) **ကား**သည် အရာဝတ္ထု၏ အမည်ဖြစ်သည်။

(ခ) **ခွေး**သည် **ကြောင်**ကို ကိုက်သည်။

ဤဝါကျ၌–

(၁) **ခွေး**သည် တိရစ္ဆာန်၏အမည်ဖြစ်သည်။

(၂) **ကြောင်**သည် တိရစ္ဆာန်၏ အမည်ဖြစ်သည်။

(ဂ) မိဘ၏**မေတ္တာ**သည် ကြီးမားသည်။

ဤဝါကျ၌–

**မေတ္တာ**သည် သဘောတစ်ခု၏အမည်ဖြစ်သည်။

အထက်ပါဝါကျ ၃ ခု၌ ပါဝင်သော **မောင်လှ၊ ကျောင်း၊ ကား၊ ခွေး၊ ကြောင်၊ မေတ္တာ** တို့သည် **အမည်များ** ဖြစ်ကြသည်။

(က) (၁) **မောင်လှ**ဟူသော အမည်သည် လူ၏အမည်ဖြစ်သည်။ လူသည် အသက်ရှိသည်။ လူကို မျက်စိဖြင့် မြင်နိုင်ပြီး လက်ဖြင့် စမ်းသပ်ထိတွေ့နိုင်သောကြောင့် ဒြပ်ရှိသည်ဟု ဆိုရသည်။

(၂) ထို့ကြောင့် **မောင်လှ** ဟူသောအမည်သည် **သက်ရှိဒြပ်ရှိ**အမည်ဖြစ်သည်။

(ခ) (၁) **ကျောင်း၊ ကား** ဟူသော အမည်တို့သည် အရာဝတ္ထု၏အမည်များ ဖြစ်ကြသည်။ ထိုအရာဝတ္ထုများသည် သက်မဲ့များဖြစ်ကြသည်။

(၂) ထို့ပြင် ထိုအရာဝတ္ထုတို့ကို မျက်စိဖြင့်မြင်နိုင်ပြီး လက်ဖြင့် စမ်းသပ် ထိတွေ့နိုင်သောကြောင့် ဒြပ်ရှိသည်ဟု ဆိုရသည်။

(၃) ထို့ကြောင့် **ကျောင်း၊ ကား** ဟူသော အမည်များသည် **သက်မဲ့ဒြပ်ရှိ** အမည်များ ဖြစ်ကြသည်။

(ဂ) **မေတ္တာ**ဟူသော အမည်သည် မျက်စိဖြင့် ကြည့်၍လည်း မမြင်နိုင်၊ လက်ဖြင့် စမ်းသပ်ထိတွေ့၍လည်း မရနိုင်သော သဘောတစ်ခု၏အမည်ဖြစ်သည်။ ထို့ကြောင့် **ဒြပ်မဲ့** အမည်ဖြစ်သည်။

**နာမ်များ**

မောင်လှ၊ ကျောင်းသား၊ လူ၊ ခွေး၊ ကြောင်၊ စားပွဲ၊ ကုလားထိုင်၊ စာအုပ်၊ ကျောင်း၊ ကား၊ မေတ္တာ၊ သတ္တိ၊ ကျန်းမာခြင်း၊ အချစ်၊ အမုန်း စသည်

| သက်ရှိဒြပ်ရှိနာမ် | သက်မဲ့ဒြပ်ရှိနာမ် | ဒြပ်မဲ့နာမ် |
|---|---|---|
| မောင်လှ | စားပွဲ | မေတ္တာ |
| ကျောင်းသား | ကုလားထိုင် | သတ္တိ |
| လူ | စာအုပ် | ကျန်းမာခြင်း |
| ခွေး | ကျောင်း | အချစ် |
| ကြောင် | ကား | အမုန်း |

**မှတ်ရန်။ ။ သက်ရှိသက်မဲ့၊ ဒြပ်ရှိဒြပ်မဲ့တို့၏ အမည်ဟူသမျှကို နာမ်ဟုခေါ်သည်။**

## လေ့ကျင့်ခန်း

၁။ နာမ်၏အဓိပ္ပာယ်ကို ရေးပါ။

၂။ အောက်ပါဝါကျအသီးသီး၌ ပါဝင်သော နာမ်များကို မျဉ်းသားပါ။

(က) မောင်လှသည် ကျောင်းသားဖြစ်သည်။

(ခ) ကျောင်းသားများသည် စာသင်ခန်းသို့ သွားကြသည်။

(ဂ) အလုပ်သမားများသည် အလုပ်ခွင်သို့ ဝင်ကြသည်။

(ဃ) အမျိုး၊ ဘာသာ၊ စာပေ၊ ယဉ်ကျေးမှုတို့ကို ချစ်မြတ်နိုးရမည်။

(င) သားသမီးတို့အပေါ်တွင်ထားရှိသော မိဘ၏မေတ္တာကား ကြီးမားလှသည်။

၃။ အောက်ပါကွက်လပ်အသီးသီး၌ ဆီလျော်သော နာမ်တစ်ခုကို ဖြည့်ပါ။

(က) ...သည် ...မှ ...သို့ သွားသည်။

(ခ) ...သည်...၌ ပျံဝဲလျက်ရှိသည်။

(ဂ) ကျောင်းသားတို့သည်...၌ လုပ်အားပေးကြသည်။

(ဃ) ...ကင်းစင်၍...သာသော ညများတွင်...တစ်ခွင်လုံး သာယာနေတတ်သည်။

(င) ...ရာသီ၌ ထူထဲသော...များကို ဂရုတစိုက် ဝတ်ဆင်ထားကြသည်။

၄။ စာသင်ခန်းထဲ၌ ရှိသော အရာဝတ္ထု ၅ မျိုး၏ အမည်များကိုရေးပါ။

၅။ သင် နေထိုင်ရာရပ်ကွက်၌ရှိသော သစ်ပင် ၅ မျိုး၏အမည်များကို ရေးပါ။

၆။ ကျောင်းကစားကွင်းထဲ၌ ရှိသော အရာဝတ္ထု ၅ မျိုး၏အမည်များကို ရေးပါ။

၇။ သင်သိသော တိရစ္ဆာန် ၅ မျိုး၏အမည်များကို ရေးပါ။

၈။ သင်ရောက်ဖူးသောနေရာ ၅ ခု၏အမည်များကို ရေးပါ။

၉။ သင်၏သူငယ်ချင်း ၅ ယောက်၏ အမည်များကို ရေးပါ။

၁၀။ သက်ရှိဒြပ်ရှိနာမ် ၅ ခု၏အမည်များကို ရေးပါ။

၁၁။ သက်မဲ့ဒြပ်ရှိနာမ် ၅ ခု၏အမည်များကို ရေးပါ။

၁၂။ ဒြပ်မဲ့နာမ် ၅ ခု၏အမည်များကို ရေးပါ။

၁၃။ အောက်ပါနာမ်များကို (က)သက်ရှိဒြပ်ရှိ (ခ)သက်မဲ့ဒြပ်ရှိ (ဂ)ဒြပ်မဲ့ဟူ၍ အစု ၃ စုခွဲပြပါ။
လူ၊ စားပွဲ၊ ခွေး၊ ကြောင်၊ စာအုပ်၊ မေတ္တာ၊ ကုလားထိုင်၊ ကျွဲ၊ နွား၊ စေတနာ၊ ဘောလုံး၊ ခဲတံ၊ ကျောက်သင်ပုန်း၊ ပုရွက်ဆိတ်၊ ဖွဲ၊ ကျောင်း၊ အချစ်၊ အမုန်း၊ မောင်ဘ၊ မောင်လှ၊ ကျန်းမာခြင်း။

# နာမ်စား

**နာမ်စား**

၁၄။ နာမ်၏အစားသုံးသော ပုဒ်ကို **နာမ်စား**ဟု ခေါ်သည်။

(က) (၁) **မောင်မောင်**သည် ကျောင်းသို့သွားသည်။

(၂) **သူ**သည် ပဉ္စမတန်းကျောင်းသားဖြစ်သည်။

ပထမဝါကျ၌ရှိသော **မောင်မောင်**သည် နာမ်ဖြစ်သည်။ ဒုတိယဝါကျ၌ ရှိသော **သူ**ဟူသော ပုဒ်သည် နာမ်ပုဒ် **မောင်မောင်**၏နေရာတွင် အစားထိုး၍ သုံးသောပုဒ် ဖြစ်သည်။ ထို့ကြောင့် **သူ** ဟူသော ပုဒ်သည် နာမ်စားဖြစ်သည်။

(ခ) (၁) **မိုမို**သည် လိမ္မာသော ဆင်တစ်ကောင်ဖြစ်သည်။

(၂) **သူ**သည် ကြံကို အလွန်ကြိုက်သည်။

ပထမဝါကျ၌ရှိသော **မိုမို**သည် နာမ်ဖြစ်သည်။ ဒုတိယ ဝါကျ၌ရှိသော **သူ**ဟူသော ပုဒ်သည် နာမ်ပုဒ် **မိုမို** ၏နေရာတွင် အစားထိုး၍ သုံးသောပုဒ် ဖြစ်သည်။ ထို့ကြောင့် **သူ** ဟူသော ပုဒ်သည် နာမ်စား ဖြစ်သည်။

(ဂ) (၁) မောင်မောင်သည် **မန္တလေး**သို့ သွားသည်။

(၂) **ထို**မှတစ်ဆင့် မေမြို့သို့ ခရီးဆက်မည်။

ပထမဝါကျ၌ရှိသော **မန္တလေး**သည် နာမ်ဖြစ်သည်။ ဒုတိယဝါကျ၌ ရှိသော **ထို** ဟူသောပုဒ်သည် နာမ်ပုဒ် **မန္တလေး**၏နေရာတွင် အစား ထိုး၍ သုံးသောပုဒ် ဖြစ်သည်။ ထို့ကြောင့် **ထို**ဟူသောပုဒ်သည် နာမ်စား ဖြစ်သည်။

| **နာမ်စားများ** |
| --- |
| သူ၊ မင်း၊ ငါ၊ ကျွန်တော်၊ ကျွန်မ၊ ရှင်၊ ခင်ဗျား၊ |
| နင်၊ ညည်း၊ ကျုပ်၊ ကျွန်ုပ်၊ မိမိ၊ သင်၊ ထို၊ ဤ၊ ၎င်း စသည် |

**မှတ်ရန်။** ။ **နာမ်၏အစားသုံးသော ပုဒ်ကို နာမ်စားဟု ခေါ်သည်။**

## လေ့ကျင့်ခန်း

၁။ နာမ်စား၏အဓိပ္ပာယ်ကို ရေးပါ။

၂။ သင်သိသော နာမ်စား ၅ ခုကို ရေးပါ။

၃။ အောက်ပါဝါကျအသီးသီး၌ ပါဝင်သော နာမ်စားများကို မျဉ်းသားပါ။

(က) "ဒီနေ့ကျောင်းဆင်းရင် မင်းကို ကျောင်းအောက်က ငါစောင့်နေမယ်" ဟု ဆရာက မောင်ဝင်းကို ပြောသည်။

(ခ) "လမ်းကြုံသားပဲ၊ ရှင်လည်း ကျောင်းဆင်းတော့ ကျွန်မတို့နဲ့ ပြန်လိုက်ပါလား"ဟု မအေးက မောင်ဝင်းကို အဖော်စပ်သည်။

(ဂ) "ကျွန်တော်လိုက်လို့ မဖြစ်ဘူးထင်တယ်၊ ဆရာကျောင်းအောက်က စောင့်နေတယ်၊ ခင်ဗျား ပြန်နှင့်ပေတော့" ဟု မောင်ဝင်းက မအေးကို ပြောသည်။

(ဃ) "ညည်းပြန်ရမှာ တစ်ယောက်တည်း ဖြစ်နေရင် ကျုပ် အဖော်လိုက်ခဲ့မယ်လေ" ဟု မဘုတ်က မအေးကို ပြောသည်။

(င) "နင်လိုက်လာရင် ပိုကောင်းတာပေါ့၊ နင်ရော ငါရော နှစ်ယောက်စလုံး အဖော်ရသွားတာပေါ့" ဟု မအေးက ဝမ်းသာအားရ ပြောလိုက်သည်။

၄။ အောက်ပါကွက်လပ်အသီးသီး၌ ဆီလျော်သော နာမ်စားကို ဖြည့်ပါ။

(က) "...အပြင် ခဏ သွားပါရစေ ဆရာမ"ဟု မောင်ခိုင်က ခွင့်တောင်းသည်။

(ခ) "လာမယ့် တနင်္ဂနွေနေ့မှာ...ရုပ်ရှင်သွားချင်တယ်ကွာ၊ ...အမေ့ကို ပြောပါလား၊ ...တို့အတူတူသွားကြမယ်" ဟု မောင်မြင့်က မောင်ဖြူကို အဖော်စပ်သည်။

(ဂ) "မောင်ဝင်းတို့ကိုလည်း ပြောလိုက်ပါလား၊ ...လည်းလိုက်ရင် ပျော်စရာကြီး နေမှာ"ဟု မောင်ဖြူက မောင်မြင့်ကို ပြောသည်။

(ဃ) "...တို့နဲ့ လိုက်တော့လိုက်ချင်တယ်၊ ဒါပေမဲ့...က မောင်ငြိမ်းတို့အိမ်က အလှူကို ကူဖို့ ကတိပေးထားတယ်၊ နောက်တစ်ခါ... တို့သွားတော့ခေါ်ကွာ၊... လိုက်မယ်" ဟု မောင်ဝင်းက မောင်မြင့်ကို ပြောသည်။

(င) "ဒီတစ်ခါ...မလိုက်နိုင်ရင် နောက်တစ်ခါတော့ လိုက်ဖြစ်အောင်လိုက်နော်၊ ...တို့ ပျော်ပျော်ပါးပါး သွားကြရအောင်"ဟု မောင်ဖြူက မောင်ဝင်းကို ပြောသည်။

၅။ အောက်ပါမျဉ်းသားထားသော နာမ်အသီးသီးကို ဆီလျော်သော နာမ်စားဖြင့် အစားထိုးပါ။

(က) မောင်မြင့်သည် ကျောင်းသားတစ်ယောက်ဖြစ်သည်။
<u>မောင်မြင့်</u>သည် အလွန်စာကြိုးစားသည်။

(ခ) မောင်မြင့်နှင့် မောင်ဆင့်သည် ညီအစ်ကိုဖြစ်သည်။
<u>မောင်မြင့်နှင့်မောင်ဆင့်</u>တို့သည် တစ်ယောက်နှင့်တစ်ယောက် ချစ်ခင်ကြင်နာကြသည်။

(ဂ) "<u>မောင်သန်း</u> တစ်မနက်လုံး စာကျက်နေတယ်"ဟု မောင်သန်းက သူငယ်ချင်း မောင်မြင့်ကို ပြောသည်။

(ဃ) "ညနေဘက် <u>မောင်သန်း</u> ဘယ်သွားသေးလဲ"ဟု မောင်မြင့်က မောင်သန်းကို မေးသည်။

(င) "ကိုသန်းနဲ့ကိုမြင့်တို့ပါလား၊ ကိုသန်းနဲ့ကိုမြင့်တို့ နေကောင်းတယ်နော်" ဟု မအေးက နှုတ်ဆက်သည်။

၆။ အောက်ပါဝါကျအသီးသီး၌ မျဉ်းသားထားသော နာမ်စားကို သက်ဆိုင်ရာ နာမ်နှင့်တွဲပါ။

**နမူနာ–** "ငါလာမည်" ဟု မောင်ဘက ပြောသည်။

ငါ– မောင်ဘ

(က) "မင်းတို့ စာမေးပွဲအောင်ချင်ရင် စာကြိုးစားကြ" ဟု ဆရာကြီးက ကျောင်းသားများကို ဆုံးမသည်။

(ခ) "မင်းကို ငါပြောစရာရှိတယ်" ဟု မောင်ဝင်းက မောင်မြင့်ကို တိုးတိုးပြောသည်။

(ဂ) "ကျောင်းဆင်းရင် ကျွန်တော် အိမ်ပြန်တော့မယ်" ဟု မောင်သန်းက ပြောသည်။

(ဃ) "နင်ဘာပြောနေတာလဲ" ဟု မအေးက မောင်ဝင်းကို မေးသည်။

(င) "ခင်ဗျားကို ကျွန်တော် ဈေးထဲမှာ တွေ့လိုက်တယ်" ဟု မောင်ခိုင်က မောင်ဘကို ပြောသည်။

၇။ အောက်ပါဝါကျအသီးသီး၌ မျဉ်းသားထားသော နာမ်စားကို ဆီလျော်အောင်ပြင်ပါ။

(က) မောင်ငြိမ်းသည် လိမ္မာသည်။ ၎င်းသည် မိဘကို ကူညီသည်။

(ခ) မောင်မြင့်၊ မောင်ဆင့်နှင့် မောင်သန်းတို့သည် သူငယ်ချင်းများ ဖြစ်ကြသည်။ ကျွန်ုပ် တို့သည် တစ်ယောက်နှင့် တစ်ယောက် အလွန်ခင်မင်ကြသည်။

(ဂ) "ညည်းကို ငါလာတွေ့ဦးမယ်" ဟု မောင်ခင်က မောင်လှကို ပြောသည်။

(ဃ) "ကျွန်ုပ် ထင်တာမှန်တယ်မဟုတ်လား" ဟု မစန်းက သူငယ်ချင်း မဝိုင်းကို မေးသည်။

(င) "သူငယ်ချင်း၊ လာမယ့်တနင်္ဂနွေနေ့မှာ ငါရုပ်ရှင်သွားမလို့၊ သင်ရောလိုက်ဦး မလား" ဟု မောင်ကျော်က မောင်ခိုင်ကို ပြောသည်။

၈။ ပေးထားသော နာမ်စားတို့မှ ဆီလျော်သော နာမ်စားကို ရွေး၍ ကွက်လပ်ဖြည့်ပါ။

(က) ဦးဘချစ်က သဘာပတိအဖြစ် ဆောင်ရွက်ပြီး...က အခမ်းအနားမှူးအဖြစ် ဆောင်ရွက်ပါမည်။ (ကျွန်တော်၊ ခင်ဗျား)

(ခ) မိုမိုသည် လိမ္မာသော ဆင်တစ်ကောင်ဖြစ်သည်။ ...သည် ကြံကို အလွန်ကြိုက်သည်။ (ကျွန်ုပ်၊ သူ)

(ဂ) ...တို့သည် တိုင်းပြည်နှင့် လူမျိုးအပေါ်တွင် သစ္စာရှိကြရမည်။ (သူ၊ ကျွန်ုပ်)

(ဃ) ...ကိုယ်ကို ကောင်းအောင် ကြိုးစားသင့်သည်။ (ကျွန်ုပ်၊ မိမိ)

(င) ညီလေးက မုန့်ဟင်းခါးကြိုက်၍...က ခေါက်ဆွဲကြိုက်သည်။ (ကျွန်မ၊ ကျွန်တော်)

# လိင်၊ ကိန်း

## လိင်

၁၅။ အထီးအမသဘာဝကို **လိင်**ဟု ခေါ်သည်။ လိင် ၄ မျိုးရှိသည်။ ၎င်းတို့မှာ–

(က) ပုလ္လိင်

(ခ) ဣတ္ထိလိင်

(ဂ) နပုလ္လိင်

(ဃ) ဒွိလိင် တို့ဖြစ်ကြသည်။

၁၆။ (က) **ပုလ္လိင်**။ ။ ယောကျ်ားသဘာဝ၊ အထီးသဘာဝရှိသော နာမ်သည် **ပုလ္လိင်** ဖြစ်သည်။

**ဦးတင့်**သည် **မောင်မြင့်**၏ **အဘိုး**ဖြစ်သည်။

ဤဝါကျ၌–

(၁) ဦးတင့် = (ယောကျ်ား)

(၂) မောင်မြင့် = (ယောကျ်ား)

(၃) အဘိုး = (ယောကျ်ား)တို့သည် ယောကျ်ားသဘာဝရှိသော နာမ်များ ဖြစ်သောကြောင့် ပုလ္လိင် ဖြစ်သည်။

(ခ) **ဣတ္ထိလိင်**။ ။ မိန်းမသဘာဝ၊ အမသဘာဝရှိသော နာမ်သည် **ဣတ္ထိလိင်** ဖြစ်သည်။

**ဒေါ်ချစ်**သည် **မအေး**၏**အဘွား**ဖြစ်သည်။

ဤဝါကျ၌–

(၁) ဒေါ်ချစ် = (မိန်းမ)

(၂) မအေး = (မိန်းမ)

(၃) အဘွား = (မိန်းမ) တို့သည် မိန်းမသဘာဝရှိသောနာမ်များ ဖြစ်သောကြောင့် ဣတ္ထိလိင်ဖြစ်သည်။

(ဂ) **နပုလ္လိင်**။ ။ အထီးအမသဘာဝမရှိသော နာမ်သည် **နပုလ္လိင်** ဖြစ်သည်။ **ဖန်ခွက်**ကို **စားပွဲ**ပေါ်မှာ တင်ထားပါ။

ဤဝါကျ၌–

(၁) ဖန်ခွက်

(၂) စားပွဲတို့သည် အထီးအမသဘာဝမရှိသော နာမ်များ ဖြစ်သောကြောင့် နပုလ္လိင်ဖြစ်သည်။

(ဃ) **ဒွိလိင်**။ ။ အထီးသဘာဝ၊ အမသဘာဝနှစ်မျိုးစလုံးနှင့် ဆိုင်သော နာမ်သည် **ဒွိလိင်** ဖြစ်သည်။

**ငှက်**ပျံသည်။

ဤဝါကျ၌ **ငှက်**သည် ငှက်ဖိုနှင့်လည်း ဆိုင်သည်။ ငှက်မနှင့်လည်းဆိုင်သည်။ ဤသို့ အထီးသဘာဝ၊ အမသဘာဝ နှစ်မျိုးစလုံးနှင့် ဆိုင်သောကြောင့် ငှက် သည် ဒွိလိင်ဖြစ်သည်။

၁၇။ လိင် ၄ မျိုးကို သိသာလွယ်စေရန် အောက်ပါဇယား၌ ပြထားသည်။

| ပုလ္လိင် | ဣတ္ထိလိင် | နပုလ္လိင် | ဒွိလိင် |
|---|---|---|---|
| ဦးတင့် | ဒေါ်ချစ် | ဖန်ခွက် | ငှက် |
| မောင်မြင့် | မအေး | စားပွဲ | လူ |
| အဘိုး | အဘွား | ကုလားထိုင် | ခွေး |
| ကြက်ဖ | ကြက်မ | စာအုပ် | တိရစ္ဆာန် |

**မှတ်ရန်**။ ။ အထီးအမ သဘာဝကို လိင်ဟု ခေါ်သည်။ လိင် ၄ မျိုးရှိသည်။

(က) ပုလ္လိင် (ဦးတင့်၊ မောင်မြင့်၊ အဘိုး) = အထီးသဘာဝကို ပြသည်။

(ခ) ဣတ္ထိလိင် (ဒေါ်ချစ်၊ မအေး၊ အဘွား) = အမသဘာဝကို ပြသည်။

(ဂ) နပုလ္လိင် (ဖန်ခွက်၊ စားပွဲ) = အထီးအမ မဟုတ်သော သဘာဝကိုပြသည်။

(ဃ) ဒွိလိင် (ငှက်၊ လူ၊ တိရစ္ဆာန်) = အထီးအမ နှစ်မျိုးစလုံးနှင့်ဆိုင်သော သဘာဝကို ပြသည်။

**ကိန်း**

၁၈။ အရေအတွက်ကို **ကိန်း**ဟု ခေါ်သည်။ ကိန်း ၂ မျိုး ရှိသည်။ ၎င်းတို့မှာ–

(က) ဧကဝုစ်ကိန်း

(ခ) ဗဟုဝုစ်ကိန်းတို့ ဖြစ်ကြသည်။

၁၉။ (က) **ဧကဝုစ်ကိန်း**။ ။ ဧကဝုစ်ကိန်းသည် အရေအတွက် တစ်ခုကို ပြသည်။

(၁) **မောင်မြင့်**သည် **မတင့်၏သူငယ်ချင်း** ဖြစ်သည်။

ဤဝါကျ၌–

(ကက) မောင်မြင့် = (နာမ်)

(ခခ) မတင့် = (နာမ်)

(ဂဂ) သူငယ်ချင်း = (နာမ်)တို့သည် အရေအတွက်တစ်ခုသာ ရှိသောကြောင့် ဧကဝုစ်ကိန်း ဖြစ်သည်။

(၂) **သူ**ကျောင်းသို့ သွားသည်။

ဤဝါကျ၌ **သူ**သည် အရေအတွက် တစ်ခုသာရှိသော နာမ်စားဖြစ်သောကြောင့် ဧကဝုစ်ကိန်း ဖြစ်သည်။

(ခ) **ဗဟုဝုစ်ကိန်း**။ ။ ဗဟုဝုစ်ကိန်းသည် တစ်ခုထက် ပိုသော အရေအတွက်ကိုပြသည်။

(၁) မောင်မြင့်ကို **သူငယ်ချင်းများ**က ချစ်ခင်ကြသည်။

ဤဝါကျ၌ **သူငယ်ချင်းများ**သည် အရေအတွက်တစ်ခုထက်ပိုသော နာမ် ဖြစ်သည်။ အရေအတွက် တစ်ခုထက်ပိုကြောင်းကို **များ**ဟူသော စကားလုံးက ပြသည်။ ထို့ကြောင့် **သူငယ်ချင်းများ**သည် ဗဟုဝုစ်ကိန်း ဖြစ်သည်။

(၂) **သူတို့** ကျောင်းသို့ သွားကြသည်။

ဤဝါကျ၌ **သူတို့** သည် အရေအတွက် တစ်ခုထက် ပိုသော နာမ်စားဖြစ်သည်။

အရေအတွက် တစ်ခုထက်ပိုကြောင်းကို **တို့** ဟူသော စကားလုံးက ပြသည်။ ထို့ကြောင့် **သူတို့**သည် ဗဟုဝုစ်ကိန်းဖြစ်သည်။

၂၀။ အောက်ပါဇယားတွင် **ကေဝုစ်ကိန်း**နှင့် **ဗဟုဝုစ်ကိန်း**တို့ကို ပြထားသည်။

| ကေဝုစ်ကိန်း | ဗဟုဝုစ်ကိန်း |
|---|---|
| လူ | လူတို့၊ လူများ |
| သူ | သူတို့ |
| ခွေး | ခွေးတို့၊ ခွေးများ |
| ကြောင် | ကြောင်တို့၊ ကြောင်များ |
| ငှက် | ငှက်တို့၊ ငှက်များ |
| ကြက် | ကြက်တို့၊ ကြက်များ |
| စာအုပ် | စာအုပ်များ |
| စားပွဲ | စားပွဲများ |
| ဖန်ခွက် | ဖန်ခွက်များ |

**မှတ်ရန်။ ။ အရေအတွက်ကို ကိန်းဟုခေါ်သည်။ အရေအတွက်တစ်ခုသာရှိသော နာမ်သည် ကေဝုစ်ကိန်းဖြစ်သည်။ အရေအတွက် တစ်ခုထက်ပိုသော နာမ်သည် ဗဟုဝုစ်ကိန်းဖြစ်သည်။**

## လေ့ကျင့်ခန်း

၁။ အောက်ပါ နာမ်အသီးသီးကို လိင်ခွဲပြပါ။
အဘိုး၊ လှေ၊ အိမ်၊ မိန်းကလေး၊ အမိ၊ အဖ၊ ရှင်ဘုရင်၊ မိဖုရား၊ ကလေး၊ ကျောင်း၊ ဘုန်းကြီး၊ မယ်သီလ၊ အဘွား၊ သူငယ်ချင်း။

၂။ အောက်ပါပုလ္လိင်နာမ်အသီးသီးကို ဣတ္ထိလိင်နာမ်သို့ ပြောင်းပါ။
အဖေ၊ အဘိုး၊ ယောက်ျား၊ ကြက်ဖ၊ ဆိတ်ထီး၊ နွားထီး၊ ဝတ်ဆံဖို၊ ထန်းဖို။

၃။ အောက်ပါ နာမ်အသီးသီးမှ ဒွိလိင်နာမ်ကို ထုတ်ပြပါ။
အပျို၊ လူပျို၊ လူ၊ သူငယ်ချင်း၊ မိတ်ဆွေ၊ မင်းသမီး၊ ကျောင်းသား၊ ကျောင်းသူ၊ ကလေး၊ ညှော်သည်၊ အမေ၊ အဖေ၊ အဘိုး၊ အဘွား။

၄။ အောက်ပါ နာမ်အသီးသီးကို ဗဟုဝုစ်ကိန်းသို့ ပြောင်းပါ။
မြင်း၊ ခွေး၊ သစ်ပင်၊ ပုလင်း၊ မျက်စိ၊ ကျောင်းသား၊ အိမ်၊ ကျွန်ုပ်၊ သင်၊ ဆရာ၊ သူ။

၅။ အောက်ပါနာမ်အသီးသီးကို ကေဝုစ်ကိန်းသို့ ပြောင်းပါ။
အိမ်များ၊ တိရစ္ဆာန်များ၊ စာအုပ်များ၊ လူတို့၊ လူများ၊ ခဲတံများ၊ ယောက်ျားများ၊ မိန်းမများ၊ သစ်ပင်များ၊ မြစ်များ၊ ချောင်းများ၊ ဆရာတို့၊ ဆရာမတို့၊ ကလေးတို့၊ နွားတို့၊ ဆိတ်တို့။

# ကြိယာ

**ကြိယာ**

၂၁။ ပြုခြင်းကိုဖြစ်စေ၊ ဖြစ်ခြင်းကိုဖြစ်စေ၊ ရှိခြင်းကိုဖြစ်စေ ပြသောပုဒ်ကို **ကြိယာ**ဟု ခေါ်သည်။

(က) မောင်အောင်သည် ကျောင်းသို့ **သွား**သည်။

ဤဝါကျ၌ **သွား**ဟူသော ပုဒ်က မောင်အောင်၏ပြုခြင်းကိုပြသည်။ ထိုသို့ ပြုခြင်းကို ပြသည့်ပုဒ်ကို ကြိယာဟုခေါ်သည်။ ထို့ကြောင့် **သွား**သည် ကြိယာ ဖြစ်သည်။

( ခ ) မောင်အောင်သည် ကျောင်းသား**ဖြစ်**သည်။

ဤဝါကျ၌**ဖြစ်**ဟူသော ပုဒ်က မောင်အောင် ကျောင်းသားဖြစ်ခြင်းကို ပြသည်။ ထိုသို့ ဖြစ်ခြင်းကို ပြသည့်ပုဒ်ကို ကြိယာဟုခေါ်သည်။ ထို့ကြောင့် **ဖြစ်**သည် ကြိယာဖြစ်သည်။

( ဂ ) တောင်**ပြို**သည်။

ဤဝါကျ၌**ပြို** ဟူသော ပုဒ်က တောင်၏ ဖြစ်ခြင်းကို ပြသည်။ ထိုသို့ ဖြစ်ခြင်းကို ပြသည့်ပုဒ်ကို ကြိယာဟုခေါ်သည်။ ထို့ကြောင့် **ပြို**သည် ကြိယာဖြစ်သည်။

(ဃ) မောင်အောင်၏ စာအုပ်သည် စားပွဲပေါ်မှာ **ရှိ**သည်။

ဤဝါကျ၌ **ရှိ** ဟူသောပုဒ်က မောင်အောင်၏စာအုပ် စားပွဲပေါ်၌ ရှိခြင်းကို ပြသည်။ ထိုသို့ ရှိခြင်းကိုပြသည့်ပုဒ်ကို ကြိယာဟု ခေါ်သည်။ ထို့ကြောင့် **ရှိ**သည် ကြိယာ ဖြစ်သည်။

**ကြိယာများ**

သွား၊ လာ၊ စား၊ သောက်၊ ပျောက်၊ ဖျောက်၊
ကျိုး၊ ချိုး၊ အိပ်၊ ဖြစ်၊ ရှိ၊ ရှိသေ၊ ကူညီ၊
စီးဆင်း၊ ထမ်းဆောင် စသည်

**မှတ်ရန်။ ။ပြုခြင်းကိုဖြစ်စေ၊ ဖြစ်ခြင်းကို ဖြစ်စေ၊ ရှိခြင်းကိုဖြစ်စေ ပြသောပုဒ်ကို ကြိယာဟု ခေါ်သည်။**

## လေ့ကျင့်ခန်း

၁။ ကြိယာ၏အဓိပ္ပာယ်ကို ရေးပါ။

၂။ အောက်ပါဝါကျအသီးသီး၌ ပါဝင်သော ကြိယာကို မျဉ်းသားပါ။

(က) ဆရာမိဘကို ရိုသေပါ။

( ခ ) မောင်မြင့်သည် ကလေးသူငယ်များနှင့် အိုမင်းမစွမ်းသူများကို ကူညီသည်။

( ဂ ) မပိုင်းသည် သူငယ်ချင်းများနှင့် ခင်ခင်မင်မင်ဆက်ဆံသည်။

(ဃ) မောင်မြင့်၊ မောင်ဆင့်နှင့် မောင်တင့်တို့သည် တာဝန်ကို ကျေပွန်စွာ ထမ်းဆောင်သည်။

(င)  ကစားချိန်၌ ကစားပါ။ စာကျက်ချိန်၌ စာကျက်ပါ။
(စ)  မဝိုင်းသည် အဝတ်အစားကို သပ်သပ်ရပ်ရပ်ဝတ်သည်။ ဆံပင်ကို သေသေသပ်သပ် ဖြီးသည်။
(ဆ)  နေပြည်တော်သည် မြန်မာပြည်၏ မြို့တော်ဖြစ်သည်။
(ဇ)  မန္တလေးမြို့၌ မြို့ရိုးနှင့် ကျုံးရှိသည်။
(ဈ)  ကျောင်းသားလူငယ်များသည် လုပ်အားပေးပွဲတွင် ပါဝင်ကြသည်။
(ည)  ဆရာကြီးက တပည့်ကို ဆုံးမသည်။

၃။ အောက်ပါကွက်လပ်အသီးသီး၌ ဆီလျော်သောကြိယာကို ဖြည့်ပါ။
(က)  ကြိုးစားခြင်းသည်  အောင်မြင်ခြင်း၏လမ်းစ...သည်။
(ခ)  အပြစ်ရှိသူသည်  ထိုက်တန်သောအပြစ်ဒဏ်ကို  ...ရမည်။
(ဂ)  ဆင်သွားရာလမ်း...သည်။
(ဃ)  သံချေးသည်  သံကို...သည်။
(င)  ပျင်းရိခြင်းသည်  လူကို...သည်။
(စ)  စာဖတ်ခြင်းသည်  ပညာဗဟုသုတကို  ...စေသည်။
(ဆ)  ကိုယ်လက်လှုပ်ရှားကစားခြင်းသည်  လူကို...စေသည်။
(ဇ)  ချိုသာသောစကားကို  လူတိုင်း...သည်။

၄။ ပြုခြင်းကို ပြသော ကြိယာ ၅ ခုကို ရေးပါ။

၅။ ဖြစ်ခြင်းကို ပြသော ကြိယာ ၅ ခုကို ရေးပါ။

၆။ ရှိခြင်းကို ပြသော ကြိယာ ၂ ခုကို ရေးပါ။

၇။ အောက်ပါဝါကျအသီးသီးရှိ ကြိယာတို့သည် မည်သည့်ကြိယာမျိုးဖြစ်ကြောင်းကို ဖော်ပြပါ။

**သာဓက**။ ။ စားသည် = ပြုခြင်းပြကြိယာ
ပျော်သည်= ဖြစ်ခြင်းပြကြိယာ
ရှိသည် = ရှိခြင်းပြကြိယာ

(က)  ဗိုလ်ချုပ်အောင်ဆန်းသည် အာဇာနည်ခေါင်းဆောင်ကြီး ဖြစ်သည်။
(ခ)  ကျောင်းအားရက်တွင် မိဘကို ကူညီပါ။
(ဂ)  စာသင်ခန်းထဲ၌ ကျောင်းသား ၅၀ ရှိသည်။
(ဃ)  ဧရာဝတီမြစ်သည် မြောက်ဘက်မှ တောင်ဘက်သို့ စီးဆင်းသည်။
(င)  မြန်မာပြည်၏အရှေ့ဘက်တွင် ရှမ်းကုန်းပြင်မြင့်ရှိသည်။
(စ)  ကချင်၊ ကယား၊ ချင်း၊ ရှမ်းစသည်တို့သည် တိုင်းရင်းသားများ ဖြစ်ကြသည်။
(ဆ)  မီးဘေးကြောင့် လူတို့၏ အသက်အိုးအိမ်စည်းစိမ်များ ပျက်စီးသည်။
(ဇ)  ခွာညိုပန်းသည် ပြာသိုလတွင် ပွင့်သည်။
(ဈ)  မြန်မာပြည်တွင် ရာသီဥတု ၃ မျိုးရှိသည်။
(ည)  ကျောင်းစည်းကမ်းကို လိုက်နာပါ။

# ကာလ

**ကာလ**

၂၂။ ကြိယာ၏ပြုခြင်း၊ ဖြစ်ခြင်း၊ ရှိခြင်းနှင့် စပ်ဆိုင်သော အချိန်ကို ပြသည်။

၂၃။ မြန်မာဘာသာ၌ ကြိယာနှင့်စပ်ဆိုင်သော ကာလ ၃ ပါး ရှိသည်။ ၎င်းတို့မှာ–

(က) ပစ္စုပ္ပန်ကာလ

(ခ) အတိတ်ကာလ

(ဂ) အနာဂတ်ကာလတို့ဖြစ်ကြသည်။

၂၄။ (က) **ပစ္စုပ္ပန်ကာလ**။ ။ ပြုဆဲ၊ ဖြစ်ဆဲ၊ ရှိဆဲအချိန်အခါသည် **ပစ္စုပ္ပန်ကာလ**ဖြစ်သည်။

ယနေ့ နေပူ**သည်**။

ယနေ့ နေပူ**၏**။

ဆရာ လာ**ပြီ**။

ဤဝါကျ ၃ခု၌ပါဝင်သော **သည်၊ ၏၊ ပြီ** ဝိဘတ်တို့သည် ကြိယာ၏ပစ္စုပ္ပန်ကာလကို ပြသည်။

(ခ) **အတိတ်ကာလ**။ ။ ပြုခဲ့၊ ဖြစ်ခဲ့၊ ရှိခဲ့ပြီးသော အချိန်အခါသည် **အတိတ်ကာလ** ဖြစ်သည်။

မနေ့က နေပူ**သည်**။

မနေ့က နေပူ**၏**။

ဆရာ ပြန်သွား**ပြီ**။

ဤဝါကျ ၃ ခု၌ ပါဝင်သော **သည်၊ ၏၊ ပြီ** ဝိဘတ်တို့သည် ကြိယာ၏ အတိတ်ကာလကို ပြသည်။

(ဂ) **အနာဂတ်ကာလ**။ ။ ပြုအံ့၊ ဖြစ်အံ့၊ ရှိအံ့သော အချိန်အခါသည် **အနာဂတ်ကာလ** ဖြစသည်။

ဆရာ မနက်ဖြန် ပြန်ရောက်**မည်**။

အမြန်ရထားသည် မကြာမီဆိုက်**မည်**။

မိုးကောင်းလျှင် စပါးအောင်**အံ့**။

ဤအမှုကိုပြုလျှင် အများက ကဲ့ရဲ့ကြ**လတ္တံ့**။

ဤဝါကျ ၄ ခု၌ ပါဝင်သော **မည်၊ အံ့၊ လတ္တံ့** ဝိဘတ်တို့သည် ကြိယာ၏ အနာဂတ်ကာလကိုပြသည်။

၂၅။ **သည်၊ ၏၊ ပြီ** ကြိယာဝိဘတ်တို့ကို "ပစ္စုပ္ပန်ကာလပြကြိယာ ဝိဘတ်၊ အတိတ်ကာလပြကြိယာဝိဘတ်"ဟူ၍ သတ်သတ်မှတ်မှတ် သုံးစွဲခြင်းမရှိချေ။ ဝါကျ၏ ဆိုလိုသည့်အဓိပ္ပာယ်နှင့် ဝါကျ၌ပါဝင်သော အချိန်ပြပုဒ်ကို ထောက်၍ ပစ္စုပ္ပန်နှင့်အတိတ်ကို ခွဲခြားနိုင်ခြင်းဖြစ်သည်။

# နာမဝိသေသန

**နာမဝိသေသန**

၂၆။ နာမ်ကို အထူးပြုသောပုဒ်ကို **နာမဝိသေသန**ဟု ခေါ်သည်။

(က) (၁) မောင်သူရသည် **ကျောင်းသား**ဖြစ်သည်။

(၂) မောင်သူရသည် **လိမ္မာသောကျောင်းသား**ဖြစ်သည်။

ပထမဝါကျ၌ မောင်သူရသည်ကျောင်းသား ဖြစ်ကြောင်းကို ဖော်ပြသည်။ ဒုတိယဝါကျ၌မူ မောင်သူရသည် မည်သို့သောကျောင်းသား ဖြစ်ကြောင်းကို ဖော်ပြထားသည်။

မောင်သူရသည် မည်သို့သော ကျောင်းသားဖြစ်သနည်း။ **လိမ္မာသော ကျောင်းသား** ဖြစ်သည်။ ဤ၌ **လိမ္မာသော** ဟူသောပုဒ်သည် **ကျောင်းသား** ဟူသော နာမ်ပုဒ်ကို အထူးပြုသည်။ ဤကဲ့သို့ နာမ်ကို အထူးပြုသည့်ပုဒ်ကို နာမဝိသေသနဟုခေါ်သည်။ ထို့ကြောင့် **လိမ္မာသော**သည် နာမဝိသေသနဖြစ်သည်။

( ခ ) (၁) စိန်ဗေဒါသည် **ဆိုင်းပညာရှင်**ဖြစ်သည်။

(၂) စိန်ဗေဒါသည် **ကျော်ကြားသော ဆိုင်းပညာရှင်**ဖြစ်သည်။

ပထမဝါကျ၌ စိန်ဗေဒါသည် ဆိုင်းပညာရှင်ဖြစ်ကြောင်းကို ဖော်ပြသည်။ ဒုတိယဝါကျ၌မူစိန်ဗေဒါသည် မည်သို့သော ဆိုင်းပညာရှင် ဖြစ်ကြောင်းကို ဖော်ပြထားသည်။

စိန်ဗေဒါသည် မည်သို့သော ဆိုင်းပညာရှင် ဖြစ်သနည်း။ **ကျော်ကြားသော ဆိုင်းပညာရှင်** ဖြစ်သည်။ ဤ၌ **ကျော်ကြားသော** ဟူသောပုဒ်သည် **ဆိုင်းပညာရှင်**ဟူသော နာမ်ပုဒ်ကို အထူးပြုသည်။ ဤကဲ့သို့ နာမ်ကို အထူးပြုသည့်ပုဒ်ကို နာမဝိသေသနဟု ခေါ်သည်။ ထို့ကြောင့် **ကျော်ကြားသော**သည် နာမဝိသေသနဖြစ်သည်။

| **နာမဝိသေသနများ** |
|---|
| လိမ္မာသော၊ ရဲရင့်သော၊ ကောင်းသော၊ ချိုသော၊ မှောင်မိုက်သော၊ ခမ်းနားသော၊ မွန်မြတ်သော၊ ဖြောင့်တန်းသော စသည် |

**မှတ်ရန်။** ။ **နာမ်ကို အထူးပြုသောပုဒ်ကို နာမဝိသေသနဟု ခေါ်သည်။**

## လေ့ကျင့်ခန်း

၁။ နာမဝိသေသန၏အဓိပ္ပာယ်ကို ရေးပါ။

၂။ အောက်ပါဝါကျအသီးသီး၌ ပါဝင်သော နာမဝိသေသနကို မျဉ်းသားပါ။

(က) စလေဦးပုညသည် ထင်ရှားသောစာဆိုတစ်ဦး ဖြစ်သည်။

(ခ) လတ်ဆတ်သော အသီးအနှံများကိုသာ စားသင့်သည်။

(ဂ) ကြက်ဟင်းခါးသီးတွင် ခါးသက်သော အရသာရှိသည်။

(ဃ) ချိုသာသောစကားကို လူတိုင်းနှစ်လိုသည်။

(င) ရွှေတိဂုံသည် သပ္ပာယ်သော စေတီတော်ကြီးတစ်ဆူဖြစ်သည်။

(စ) လေးလံသော အရာဝတ္ထုများကို ကရိန်းခေါ်ဝန်ချီစက်ဖြင့် မနိုင်သည်။

(ဆ) သံလွင်မြစ်သည် မြန်မာပြည်ရှိ ရှည်လျားသော မြစ်ကြီးတစ်ခုဖြစ်သည်။

(ဇ) မဟာဗန္ဓုလသည် ရဲရင့်သော စစ်သူကြီးတစ်ဦးဖြစ်သည်။

(ဈ) ကျန်းမာရေးအတွက် သန့်ရှင်းသော အစားအစာများကို နေ့စဉ် စားသင့်သည်။

(ည) ရွာ၏ ပတ်ဝန်းကျင်တွင် စိမ်းလန်းသောလယ်ကွင်းများ ရှိသည်။

၃။ အောက်ပါကွက်လပ်အသီးသီး၌ ဆီလျော်သော နာမဝိသေသနကို ဖြည့်ပါ။

(က) ...သော အဝတ်အထည်များကို ဝတ်လျှင် ဖျားတတ်သည်။

(ခ) ...သော ပုံပြင်များသည် စိတ်ဝင်စားဖွယ် ကောင်းသည်။

(ဂ) အခန်းနံရံတွင်...သော ပန်းချီကားများကို ချိတ်ဆွဲထားသည်။

(ဃ) ...သော အဘိုးအဘွားများကို တွေ့လျှင် အကူအညီပေးပါ။

(င) ...သော တောင်ထိပ်ပေါ်တွင် စေတီတစ်ဆူကို တည်ထားသည်။

(စ) ကြက်ဆူဆီသည်...သော အရည်တစ်မျိုးဖြစ်သည်။

(ဆ) ...သော ရှုခင်းတို့သည် စိတ်ကို လန်းဆန်းစေသည်။

(ဇ) ဝမ်းကိုက်ရောဂါပိုးကို...သော မှန်ဘီလူးဖြင့် တွေ့မြင်နိုင်သည်။

(ဈ) ...သောဆောင်းရာသီနံနက်ခင်းတွင် ကျန်းမာရေးအတွက် လမ်းလျှောက် ကြသည်။

၄။ နာမဝိသေသန ၅ ခုကို ရေးပါ။

၅။ အောက်ပါနာမဝိသေသနတို့နှင့် နာမ်တို့ကို ဆီလျော်အောင်တွဲပါ။

| | |
|---|---|
| ကျယ်လောင်သော | ပန္နာ |
| စိမ်းလန်းသော | အာဇာနည် |
| သပ္ပာယ်သော | ည |
| ရဲရင့်သော | မြစ် |
| နီမြန်းသော | မြက်ခင်း |
| ကောက်ကွေ့သော | ရနံ့ |
| လေးလံသော | စေတီ |
| ခက်ခဲသော | နှုတ်ခမ်း |
| မွှေးကြိုင်သော | ဆိုင်းသံ |
| မှောင်မိုက်သော | ခြင်းတောင်း |

၆။ အောက်ပါ နာမဝိသေသနအသီးသီးကို ဝါကျတစ်ခုစီတွင် သုံးပြပါ။

ကြည်လင်သော၊ စည်ကားသော၊ တောက်ပြောင်သော၊ မွန်မြတ်သော၊ လွဲမှားသော၊ ဖြောင့်တန်းသော။

# ကြိယာဝိသေသန

**ကြိယာဝိသေသန**

၂၇။ ကြိယာကို အထူးပြုသောပုဒ်ကို **ကြိယာဝိသေသန** ဟု ခေါ်သည်။

(က) (၁) မောင်လှဝင်းသည် ကျောင်းသို့ **သွား**သည်။

(၂) မောင်လှဝင်းသည် ကျောင်းသို့ **မြန်မြန်**သွားသည်။

ပထမဝါကျ၌ မောင်လှဝင်းသည် ကျောင်းသို့သွားကြောင်းကို ဖော်ပြသည်။ ဒုတိယဝါကျ၌မူ မောင်လှဝင်းသည် ကျောင်းသို့ မည်သို့သွားကြောင်းကို ဖော်ပြထားသည်။

မောင်လှဝင်း ကျောင်းသို့ မည်သို့သွားသနည်း။ **မြန်မြန်**သွားသည်။ **မြန်မြန်**ဟူသောပုဒ်သည် **သွား**ဟူသော ကြိယာကို အထူးပြုသည်။ ဤသို့ ကြိယာကို အထူးပြုသည့်ပုဒ်ကို ကြိယာဝိသေသနဟုခေါ်သည်။ ထို့ကြောင့် **မြန်မြန်**သည် ကြိယာဝိသေသန ဖြစ်သည်။

(ခ) (၁) မောင်လှဝင်းသည် ဆရာကို **ကန်တော့**သည်။

(၂) မောင်လှဝင်းသည် ဆရာကို **ရိုသေစွာ ကန်တော့**သည်။

ပထမဝါကျ၌ မောင်လှဝင်းသည် ဆရာကို ကန်တော့ကြောင်းကို ဖော်ပြသည်။ ဒုတိယဝါကျ၌မူ မောင်လှဝင်းသည် ဆရာကို မည်သို့ကန်တော့ကြောင်း ဖော်ပြထားသည်။

မောင်လှဝင်း ဆရာကို မည်သို့ကန်တော့သနည်း။ **ရိုသေစွာ ကန်တော့**သည်။ ဤတွင် **ရိုသေစွာ**ဟူသော ပုဒ်သည် **ကန်တော့**ဟူသော ကြိယာကို အထူးပြုသည်။ ဤသို့ ကြိယာကို အထူးပြုသည့်ပုဒ်ကို ကြိယာဝိသေသနဟု ခေါ်သည်။ ထို့ကြောင့် **ရိုသေစွာ**သည် ကြိယာဝိသေသနဖြစ်သည်။

**ကြိယာဝိသေသနများ**

မြန်မြန်၊ ရိုသေစွာ၊ မကြာခဏ၊ မုချ၊ နည်းနည်း၊ အသေအချာ၊ အမြတ်တနိုး၊ တရွေ့ရွေ့၊ တဒုန်းဒုန်း၊ ပမာမခန့် စသည်

**မှတ်ရန်။ ။ ကြိယာကို အထူးပြုသော ပုဒ်ကို ကြိယာဝိသေသနဟုခေါ်သည်။**

## လေ့ကျင့်ခန်း

၁။ ကြိယာဝိသေသန၏အဓိပ္ပာယ်ကို ရေးပါ။

၂။ အောက်ပါ ဝါကျအသီးသီး၌ ပါဝင်သော ကြိယာဝိသေသနကို မျဉ်းသားပါ။

(က) အလောတကြီး လုပ်လျှင် အမှားတွေ့တတ်သည်။

(ခ) လူချစ်လူခင် များလိုလျှင် စကားကို ချိုချိုသာသာပြောပါ။

(ဂ) မိခင်သည် သားငယ်ကို ယုယုယယပိုက်ထွေးသည်။

(ဃ) မီးလောင်လျှင် မီးသတ်ကို ချက်ချင်းအကြောင်းကြားပါ။

(င) မည်သည့်ကိစ္စကိုမဆို အလေးအနက် ဆောင်ရွက်သင့်သည်။
(စ) ကြက်ဥကို မကျက်တကျက် ပြုတ်ပါ။
(ဆ) ဘကြီးဖြိုးသည် ကွမ်းကို တမြုံ့မြုံ့ဝါးနေသည်။
(ဇ) ထမင်းကို ပလုတ်ပလောင်း မစားပါနှင့်။
(ဈ) စမ်းရေ တသွင်သွင် စီးနေသည်။
(ည) နှစ်ပတ်လည် ဆုနှင်းသဘင်ကို တခမ်းတနားကျင်းပသည်။

၃။ ပေးထားသော ကြိယာဝိသေသနတစ်ခုစီကို အောက်ပါကွက်လပ်အသီးသီးတွင် ဆီလျော်အောင် ဖြည့်ပါ။

အပြတ်၊ ရိုသေစွာ၊ တစိမ့်စိမ့်၊ တစီစီ၊ ကန့်လန့်၊ တကောက်ကောက်၊ ဗိုင်းခနဲ၊ တဝ၊ သည်းထန်စွာ၊ တစ်ခဲနက်။

(က) မိခင်သည် သားငယ်၏မျက်နှာကို ... ကြည့်သည်။
(ခ) ညအိပ်ရာဝင်ချိန်၌ အစာကို...စားလျှင် အစာမကြေ ဖြစ်တတ်သည်။
(ဂ) ကလေးငယ်သည် ကြမ်းပေါ်သို့...လဲကျသွားသည်။
(ဃ) လူထုကြီးသည် ပြည်ထောင်စုနေ့ အခမ်းအနားသို့...ချီတက်လာသည်။
(င) မိုးဦးကျအခါတွင် ပုရစ်တို့သည်...အော်မြည်ကြသည်။
(စ) အောင်နက်သည် သူ့သခင် သွားလေရာသို့...လိုက်သည်။
(ဆ) "မင်္ဂလာပါဆရာ"ဟု ကျောင်းသား ကျောင်းသူများက ဆရာကို ... နှုတ်ဆက်ကြသည်။
(ဇ) သစ်ပင်ကြီးတစ်ပင်သည် လဲ၍ လမ်းမကြီးပေါ်၌ ...ခံနေသည်။
(ဈ) အနီရောင်အသင်းက အဝါရောင်အသင်းကို... နိုင်လိုက်သည်။
(ည) မိုး...ရွာသည်။

၄။ ကြိယာဝိသေသန ၅ ခုကို ရေးပါ။

၅။ အောက်ပါ ကြိယာဝိသေသနတို့နှင့် ကြိယာတို့ကို ဆီလျော်အောင်တွဲပါ။

| | | | |
|---|---|---|---|
| တခစ်ခစ် | ဆောင်ရွက်သည် | ရွှဲရွှဲ | ပူသည် |
| ရိုသေစွာ | မသည် | မနိုင့်တနိုင် | သီဆိုသည် |
| ချစ်ချစ်တောက် | တောက်လောင်သည် | တဟုန်းဟုန်း | ကန်တော့သည် |
| တရှုပ်ရှုပ် | စိုသည် | သာယာစွာ | စားသည် |
| ညီညွတ်စွာ | ရယ်သည် | ပလုတ်ပလောင်း | ငိုသည် |

၆။ အောက်ပါကြိယာဝိသေသနအသီးသီးကို ဝါကျတစ်ခုစီတွင် သုံးပြပါ။

စွန့်စွန့်စားစား၊ သေသပ်စွာ၊ တအံ့တသြ၊ အလွယ်တကူ၊ မနိုင့်တနိုင်၊ မြန်မြန်။

# ဝိဘတ်

**ဝိဘတ်**

၂၈။ နာမ်၊ နာမ်စားတို့၏ နောက်၌တည်၍ ၎င်းတို့သည် ကတ္တားဖြစ်သည်၊ ကံဖြစ်သည် စသည်ကိုလည်းကောင်း၊ ကြိယာ၏နောက်၌တည်၍ ၎င်းကြိယာ၏ကာလနှင့်အမျိုးအစားကို လည်းကောင်း ဝေဖန်ပိုင်းခြားပြသော စကားလုံးကို **ဝိဘတ်**ဟု ခေါ်သည်။

(က) မောင်သံချောင်း**သည်** သွားသည်။
ဤဝါကျ၌ **မောင်သံချောင်း**သည် ပြုသူဖြစ်သည်။ မောင်သံချောင်း ပြုသူ ဖြစ်ကြောင်းကို **မောင်သံချောင်း** ဟူသော နာမ်နောက်ရှိ **သည်** ဟူသော စကားလုံးက ပြသည်။ ထို့ကြောင့် **သည်**သည် ဝိဘတ်ဖြစ်သည်။

(ခ) မောင်သံချောင်းသည် မန္တလေး**သို့**သွားသည်။
ဤဝါကျ၌ မောင်သံချောင်းသွားသော နေရာမှာ **မန္တလေး**ဖြစ်သည်။ မောင်သံချောင်း ရှေးရှုသွားသည့်နေရာသည် မန္တလေးဖြစ်ကြောင်းကို **မန္တလေး** ဟူသော နာမ်နောက်ရှိ **သို့** ဟူသော စကားလုံးကပြသည်။ ထို့ကြောင့် **သို့** သည် ဝိဘတ်ဖြစ်သည်။

(ဂ) မောင်သံချောင်းသည် ရန်ကုန်**မှ** မန္တလေးသို့သွားသည်။
ဤဝါကျ၌ မောင်သံချောင်း ထွက်ခွာရာနေရာသည် **ရန်ကုန်** ဖြစ်သည်။ မောင်သံချောင်းထွက်ခွာရာမှာ ရန်ကုန်ဖြစ်ကြောင်းကို **ရန်ကုန်** ဟူသော နာမ်နောက်ရှိ **မှ** ဟူသော စကားလုံးက ပြသည်။ ထို့ကြောင့် **မှ** သည် ဝိဘတ် ဖြစ်သည်။

(ဃ) မောင်သံချောင်းသည် ရန်ကုန်မှ မန္တလေးသို့ ကား**ဖြင့်** သွားသည်။
ဤဝါကျ၌ မောင်သံချောင်းမန္တလေးသို့သွားရာ၌ အသုံးပြုသောအရာမှာ **ကား** ဖြစ်သည်။ ကားသည် မောင်သံချောင်း၏ အသုံးပြုခြင်းခံရသောအရာဖြစ်ကြောင်း ကို **ကား**ဟူသော နာမ်နောက်ရှိ **ဖြင့်**ဟူသောစကားလုံးက ပြသည်။ ထို့ကြောင့် **ဖြင့်** သည် ဝိဘတ်ဖြစ်သည်။

(င) မောင်သံချောင်းသည် စာအုပ်**ကို** ဆရာ**အား** ပေးသည်။
ဤဝါကျ၌ ဆရာအား မောင်သံချောင်းပေးသည့်အရာမှာ **စာအုပ်** ဖြစ်သည်။ စာအုပ်သည် အပေးခံရသော ပစ္စည်းဖြစ်ကြောင်းကို **စာအုပ်**ဟူသော နာမ်၏ နောက်ရှိ **ကို** ဟူသော စကားလုံးကပြသည်။ ထို့ကြောင့် **ကို**သည် ဝိဘတ် ဖြစ်သည်။
မောင်သံချောင်းသည် စာအုပ်ကို မည်သူအားပေးသနည်း။ ဆရာ့အား ပေးသည်။ စာအုပ်ကို လက်ခံသူသည် မည်သူနည်း။ **ဆရာ**ဖြစ်သည်။ လက်ခံသူဆရာဖြစ်ကြောင်းကို **ဆရာ**ဟူသော နာမ်၏နောက်ရှိ **အား** ဟူသော စကားလုံးက ပြသည်။ ထို့ကြောင့် **အား**သည် ဝိဘတ်ဖြစ်သည်။

(စ) မောင်သံချောင်းသည် ရန်ကုန်မြို့**၌** နေသည်။
ဤဝါကျ၌ မောင်သံချောင်းနေထိုင်ရာမြို့မှာ ရန်ကုန် ဖြစ်ကြောင်းကို **ရန်ကုန်မြို့** ဟူသော နာမ်၏နောက်ရှိ **၌**ဟူသော စကားလုံးက ပြသည်။ ထို့ကြောင့် **၌**သည် ဝိဘတ်ဖြစ်သည်။

( ဆ ) (၁) မောင်သံချောင်းသည် ရန်ကုန်မြို့၌ နေ**သည်**။

(၂) မောင်သံချောင်းသည် လွန်ခဲ့သော ငါးနှစ်က မန္တလေး၌ နေ**သည်**။

အထက်ပါ ဝါကျနှစ်ခုတို့တွင် ပထမဝါကျ၌ရှိသော **နေ**ဟူသော ကြိယာ၏ နောက်ရှိ**သည်** သည် ပစ္စုပ္ပန်ကာလ၌ ပြုခြင်းကိုပြသည်။ ဒုတိယဝါကျ၌ ရှိသော **နေ** ဟူသော ကြိယာ၏ နောက်ရှိ **သည်** သည် လွန်ခဲ့ပြီးသော အတိတ်ကာလ၌ ပြုခြင်းကို ပြသည်။ ထိုသို့ ကြိယာ၏ကာလကို ပြခြင်းကြောင့် **သည်** သည် ဝိဘတ် ဖြစ်သည်။

( ဇ ) (၁) ဝန်ကြီးပဒေသရာဇာသည် သန်လျင်မြို့၌ ကွယ်လွန်**၏**။

(၂) မောင်သံချောင်းသည် ရန်ကုန်မြို့၌ နေ**၏**။

အထက်ပါဝါကျနှစ်ခုတို့တွင် ပထမဝါကျ၌ရှိသော **ကွယ်လွန်**ဟူသော ကြိယာ၏နောက်ရှိ **၏**သည် လွန်ခဲ့ပြီးသောအတိတ်ကာလ၌ ဖြစ်ခြင်းကို ပြသည်။ ဒုတိယဝါကျ၌ ရှိသော **နေ**ဟူသော ကြိယာ၏ နောက်ရှိ **၏** သည် ပစ္စုပ္ပန်ကာလ၌ ပြုခြင်းကိုပြသည်။ ထိုသို့ ကြိယာ၏ ကာလကို ပြခြင်းကြောင့် **၏** သည် ဝိဘတ် ဖြစ်သည်။

( ဈ ) (၁) ဆရာလာ**ပြီ**။

(၂) လကမ္ဘာသို့ လူသားများ ရောက်**ပြီ**။

အထက်ပါဝါကျနှစ်ခုတို့တွင် ပထမဝါကျ၌ရှိသော **လာ** ဟူသော ကြိယာ၏နောက်ရှိ **ပြီ** သည် ပစ္စုပ္ပန်ကာလ၌ ပြုခြင်းကို ပြသည်။ ဒုတိယဝါကျ၌ ရှိသော **ရောက်** ဟူသော ကြိယာ၏ နောက်ရှိ **ပြီ** သည် လွန်ခဲ့ပြီးသော အတိတ်ကာလ၌ ဖြစ်ခြင်းကိုပြသည်။ ထိုသို့ ကြိယာ၏ကာလကို ပြခြင်းကြောင့် **ပြီ**သည် ဝိဘတ်ဖြစ်သည်။

**မှတ်ချက်**။ ။ အထက်ပါ ဝါကျ (ဆ)၊ (ဇ)၊ (ဈ)တို့ကို ထောက်ထားလျှင် မြန်မာစကား၌ အတိတ်ကာလပြ ကြိယာဝိဘတ်၊ ပစ္စုပ္ပန်ကာလပြ ကြိယာဝိဘတ်ဟူ၍ သီးခြားသတ်မှတ်သုံးနှုန်းခြင်း မရှိပါ။ ဝါကျအနေအထားအလိုက်သာလျှင် ခွဲခြားနိုင်ခြင်းဖြစ်သည်။

(ည) (၁) မောင်သံချောင်းသည် မန္တလေး**သို့** မနက်ဖြန် ရောက်မည်။

(၂) ကျွန်ုပ်တို့သည် နွေရာသီ ကျောင်းပိတ်ရက်၌ လုပ်အားပေးကြ**မည်**။

ပထမဝါကျ၌ ရှိသော **ရောက်**နှင့် ဒုတိယဝါကျ၌ရှိသော **လုပ်အားပေး** တို့ သည် ကြိယာများ ဖြစ်ကြသည်။ **ရောက်** ဟူသော ကြိယာနှင့် **လုပ်အားပေး** ဟူသော ကြိယာတို့၏နောက်၌ ရှိသော **မည်**သည် ထိုကြိယာတို့၏ ဖြစ်လတ္တံ့ အနာဂတ်ကာလကို ပြသည်။ ထိုသို့ ကြိယာ၏ကာလကို ပြခြင်းကြောင့် **မည်**သည် ဝိဘတ်ဖြစ်သည်။

| ဝိဘတ်များ |
| --- |
| သည်၊ က၊ ကို၊ အား၊ သို့၊ မှ၊ ဖြင့်၊ နှင့်၊ ၌၊ မှာ၊ |
| တွင်၊ ဝယ်၊ အတွက်၊ ၏၊ ပြီ၊ မည် စသည် |

**မှတ်ရန်။ ။ နာမ်၊ နာမ်စားတို့၏ နောက်၌တည်၍ ၎င်းတို့သည် ကတ္တားဖြစ်သည် ကံဖြစ်သည် စသည်ကိုလည်းကောင်း၊ ကြိယာ၏ နောက်၌တည်၍ ၎င်းကြိယာ၏ ကာလနှင့် အမျိုးအစားကို လည်းကောင်း ဝေဖန်ပိုင်းခြားပြသော စကားလုံးကို ဝိဘတ်ဟု ခေါ်သည်။**

## လေ့ကျင့်ခန်း

၁။ ဝိဘတ်၏အဓိပ္ပာယ်ကို ရေးပါ။

၂။ အောက်ပါဝါကျအသီးသီး၌ ပါဝင်သော ဝိဘတ်များကို မျဉ်းသားပါ။

(က) မောင်မြင့်သည် ကစားကွင်း၌ ဘောလုံးကစားနေသည်။
(ခ) အိမ်နားက ခွေးသည် မောင်မြင့်ကို ကိုက်သည်။
(ဂ) မောင်မြင့်က ခွေးကို တုတ်ဖြင့် ရိုက်သည်။
(ဃ) ခွေးသည် အဝေးသို့ ထွက်ပြေးသွားသည်။
(င) မောင်မြင့်သည် အိမ်သို့ ပြန်လာသည်။
(စ) မောင်မြင့်သည် ခွေးကိုက်သော ဒဏ်ရာကို သူ့အမေအား ပြသည်။
(ဆ) သူ့အမေက ဒဏ်ရာကို ဆေးထည့်ပေးသည်။
(ဇ) တနင်္လာနေ့တွင် ကျောင်းဖွင့်သည်။
(ဈ) မောင်မြင့်သည် လမ်းမလျှောက်နိုင်သောကြောင့် အိမ်မှာနေသည်။
(ည) သူငယ်ချင်းများက မောင်မြင့်အတွက် ကျောင်းစာများကို ကူးပေးကြသည်။
(ဋ) အမေက မောင်မြင့်၏ သူငယ်ချင်းများကို မုန့်လုပ်ကျွေးသည်။

၃။ အောက်ပါ ကွက်လပ်အသီးသီး၌ ဆီလျော်သော ဝိဘတ်ကို ဖြည့်ပါ။

(က) ငါးခုံးမတစ်ကောင်...တစ်လေ့လုံးပုပ်သည်။
(ခ) မီး...ရေ...ငြိမ်းစေနိုင်သည်။
(ဂ) မြန်မာပြည်...စိုက်ပျိုးရေးနိုင်ငံတစ်နိုင်ငံဖြစ်သည်။
(ဃ) မူးယစ်ဆေးဝါးအန္တရာယ်...စုပေါင်းကာကွယ်ကြ။
(င) တပို့တွဲလ...ထမနဲထိုးကြသည်။
(စ) ဤမေးခွန်း...မဖြေတတ်လျှင်ဆရာ...မေးရန် ဝန်မလေးပါနှင့်။
(ဆ) တောင်ပေါ်...တောင်အောက်...သွားရန်အတွက် ခြေကျင်ခရီး...သာ အားထား ရသည်။

(ဇ) အစည်းအဝေး...ဆရာကြီး...အစည်းအဝေးအဖွင့် မိန့်ခွန်း ...ပြောသည်။

(ဈ) ကျောင်းသားသည် စာအုပ်...ဆရာ...ပေးသည်။

(ည) ရန်ကုန်... မန္တလေး... သွားလိုလျှင် ကား...လည်းကောင်း၊ မီးရထား... လည်းကောင်း သွားနိုင်သည်။

၄။ ဝိဘတ် ၅ ခုကို ရေးပါ။

၅။ ယှဉ်တွဲဖော်ပြထားသော ဝိဘတ်များမှ ဆီလျော်သော ဝိဘတ် ကို ရွေး၍ ကွက်လပ်တွင် ဖြည့်ပါ။

(က) အလုပ်သမားနေ့ အခမ်းအနားတွင် သဘာပတိကြီး... မိန့်ခွန်းမြွက်ကြား သည်။ (က၊ မှ)

(ခ) လူရည်ချွန်များ...ဂုဏ်ပြုတံဆိပ် ချီးမြှင့်သည်။ (အား၊ ကို)

(ဂ) မောင်မောင်သည် တုတ်...လူဆိုးကို ရိုက်သည်။ (ဖြင့်၊ နှင့်)

(ဃ) ဤတဲ...ဝါးကပ်ဖြင့် မိုးထားသည်။ (ကို၊ အား)

(င) သူသည် ရန်ကုန်...မန္တလေးသို့ သွားသည်။ (မှ၊ က)

၆။ အောက်ပါမျဉ်းသားထားသော ဝိဘတ်အသီးသီးသည် မည်သည့်ကာလကို ပြကြောင်း ဖော်ပြပါ။

(က) မောင်သံချောင်းသည် မနေ့က ဖျား**<u>သည်။</u>**

(ခ) ကျွန်တော့်အဘိုးသည် အသက် ၈၀ ရှိ**<u>ပြီ။</u>**

(ဂ) ဘကြီးဖြိုးသည် နှလုံးရောဂါဖြင့် ကွယ်လွန်**<u>သည်။</u>**

(ဃ) မောင်သံချောင်းသည် ပဋ္ဌမတန်းကျောင်းသား ဖြစ်**<u>၏။</u>**

(င) သူသည် နက်ဖြန်တွင် ပြန်ရောက်**<u>မည်။</u>**

# **သမ္ဗန္ဓ**

**သမ္ဗန္ဓ**

၂၉။ ပုဒ်အချင်းချင်းကို ဖြစ်စေ၊ ဝါကျအချင်းချင်းကို ဖြစ်စေ၊ အဓိပ္ပာယ်အချင်းချင်းကို ဖြစ်စေ ဆက်စပ်ပေးသော စကားလုံးကို **သမ္ဗန္ဓ**ဟု ခေါ်သည်။

(က) (၁) နှင်းဆီပန်း**နှင့်** စံပယ်ပန်း

(၂) ထမင်း**နှင့်**ဟင်း

ဤတွင် **နှင်းဆီပန်း၊ စံပယ်ပန်း** တို့သည် နာမ်ပုဒ်များ ဖြစ်ကြသည်။ ၎င်းနာမ်ပုဒ်များကို **နှင့်**ဟူသော စကားလုံးက ဆက်စပ်ပေးသည်။ ထိုနည်းအတူ **ထမင်း၊ ဟင်း**တို့သည် နာမ်ပုဒ်များ ဖြစ်ကြသည်။ ၎င်းနာမ်ပုဒ်များကို **နှင့်**ဟူသောစကားလုံးက ဆက်စပ်ပေးသည်။ ထိုသို့ ပုဒ် ၂ ခုကို ဆက်စပ်ပေးခြင်းကြောင့် **နှင့်**သည် သမ္ဗန္ဓဖြစ်သည်။

(ခ) (၁) မောင်ကံကောင်းသည် စာကြိုးစားသည်။

(၂) မောင်ကံကောင်းသည် စာမေးပွဲအောင်သည်။

အထက်ပါပထမဝါကျနှင့် ဒုတိယဝါကျတို့ကို ဝါကျ တစ်ခုတည်းဖြစ်စေရန် **သောကြောင့်** ဟူသော စကားလုံးဖြင့် အောက်ပါအတိုင်း ဆက်စပ်နိုင်သည်။

(၃) မောင်ကံကောင်းသည် စာကြိုးစား**သောကြောင့်** စာမေးပွဲအောင်သည်။ ထို့သို့ ဝါကျ ၂ ခုကို ဆက်စပ်ပေးခြင်းကြောင့် **သောကြောင့်**သည် သမ္ဗန္ဓ ဖြစ်သည်။

(ဂ) (၁) ယနေ့မိုးရွာသည်။

(၂) မောင်ကံကောင်းသည် ကျောင်းသို့ သွားသည်။

အထက်ပါပထမဝါကျနှင့် ဒုတိယဝါကျတို့ကို ဝါကျ တစ်ခုတည်းဖြစ်စေရန် **သော်လည်း**ဟူသော စကားလုံးဖြင့် အောက်ပါအတိုင်းဆက်စပ်နိုင်သည်။

(၃) ယနေ့ မိုးရွာ**သော်လည်း** မောင်ကံကောင်းသည် ကျောင်းသို့ သွားသည်။ ထိုသို့ ဝါကျ ၂ ခုကို ဆက်စပ်ပေးခြင်းကြောင့် **သော်လည်း**သည် သမ္ဗန္ဓ ဖြစ်သည်။

(ဃ) (၁) နွေရာသီ၌ ကျောင်းပိတ်သည်။

(၂) မောင်သံချောင်းသည် စက်ရုံ၌ လုပ်အားပေးမည်။

အထက်ပါ ပထမဝါကျနှင့် ဒုတိယဝါကျတို့ကို ဝါကျ တစ်ခုတည်း ဖြစ်စေရန် **သောအခါ** ဟူသော စကားလုံးဖြင့် အောက်ပါအတိုင်း ဆက်စပ်နိုင်သည်။

(၃) နွေရာသီ၌ ကျောင်းပိတ်**သောအခါ** မောင်သံချောင်းသည် စက်ရုံ၌ လုပ်အားပေးမည်။

ထိုသို့ ဝါကျ ၂ ခုကို ဆက်စပ်ပေးခြင်းကြောင့် **သောအခါ**သည် သမ္ဗန္ဓ ဖြစ်သည်။

( င ) (၁) ယနေ့မိုးရွာသည်။

(၂) မောင်ကံကောင်းသည် ကျောင်းသို့သွားသည်။

အထက်ပါ ပထမဝါကျနှင့် ဒုတိယဝါကျတို့ကို **သို့ရာတွင်**ဟူသော စကားလုံးဖြင့် ဆက်စပ်လိုက်သောအခါ ထိုဝါကျ ၂ ခုသည် အောက်ပါ အတိုင်း အဓိပ္ပာယ်အရ ဆက်သွယ်မှု ရှိလာသည်။

(၃) ယနေ့မိုးရွာသည် **သို့ရာတွင်** မောင်ကံကောင်းသည် ကျောင်းသို့ သွားသည်။

ထိုသို့ ဝါကျ ၂ခုကို အဓိပ္ပာယ်အရ ဆက်စပ်ပေးခြင်းကြောင့် **သို့ရာတွင်** သည် သမ္ဗန္ဓဖြစ်သည်။

( စ ) (၁) နွေရာသီ၌ ကျောင်းပိတ်သည်။

(၂) မောင်သံချောင်းသည် စက်ရုံ၌ လုပ်အားပေးမည်။

အထက်ပါ ပထမဝါကျနှင့် ဒုတိယဝါကျတို့ကို **ထိုအခါ** ဟူသောစကားလုံး ဖြင့် ဆက်စပ်လိုက်သောအခါ ထိုဝါကျ ၂ ခုသည် အောက်ပါအတိုင်း အဓိပ္ပာယ်အရ ဆက်သွယ်မှုရှိလာသည်။

(၃) နွေရာသီ၌ ကျောင်းပိတ်သည် **ထိုအခါ** မောင်သံချောင်းသည် စက်ရုံ ၌ လုပ်အားပေးမည်။

ထိုသို့ ဝါကျ ၂ ခုကို အဓိပ္ပာယ်အရ ဆက်စပ်ပေးခြင်းကြောင့် **ထိုအခါ** သည် သမ္ဗန္ဓဖြစ်သည်။

**သမ္ဗန္ဓများ**

ဘဲနှင့်၊ နှင့်တစ်ပြိုင်နက်၊ နှင့်၊ သောကြောင့်၊ သော်လည်း၊ မှ၊ သော်၊ သဖြင့်၊ သို့မဟုတ်၊ သောအခါ၊ လျှင်၊ ခိုက်၊ က၊ သာမက၊ ၍၊ လျက်၊ သို့ရာတွင်၊ ထိုအခါ၊ ထို့ကြောင့်၊ တုန်း၊ ဖြစ်စေ ...ဖြစ်စေ၊ ထို့ပြင်၊ အတွက် စသည်

**မှတ်ရန်။ ။ ပုဒ်အချင်းချင်းကို ဖြစ်စေ၊ ဝါကျအချင်းချင်းကိုဖြစ်စေ၊ အဓိပ္ပာယ် အချင်းချင်း ကိုဖြစ်စေ ဆက်စပ်ပေးသော စကားလုံးကို သမ္ဗန္ဓဟု ခေါ်သည်။**

## လေ့ကျင့်ခန်း

၁။ သမ္ဗန္ဓ၏အဓိပ္ပာယ်ကို ရေးပါ။

၂။ အောက်ပါ ဝါကျအသီးသီး၌ ပါဝင်သော သမ္ဗန္ဓများကို မျဉ်းသားပါ။

(က) တစ်နှင့်တစ်ပေါင်းလျှင် နှစ်ဖြစ်သည်။

( ခ ) ရေနှင့်ကြာသည် လွန်စွာပနံရသည်။

( ဂ ) အဆင်းလှသော်လည်း အချင်းမလှ။

(ဃ) မခေါ်ဘဲနှင့် လာသည်၊ မနှင်ဘဲနှင့် ပြန်သည်။

(င) မိုးလွန်မှထွန်ချသည်။
(စ) ဘုရားကောင်းသော် စင်ခံသည်။
(ဆ) မိုးသံကြားသည်နှင့်တစ်ပြိုင်နက် လယ်သမားတို့သည် ထွန်တုံးကို ပြင်ကြသည်။
(ဇ) မိုးရွာလျှင် ရေချိုးမည်။
(ဈ) ညီညာမှ ပြည်သာမည်။
(ည) မိုးလေဝသကောင်းသောကြောင့် စပါးအထွက်တိုးသည်။

၃။ ပေးထားသော သမ္ဗန္ဓတစ်ခုစီကို အောက်ပါကွက်လပ်အသီးသီးတွင် ဆီလျော်အောင်ဖြည့်ပါ။
ကာ၊နှင့်၊ သို့မဟုတ်၊ လျှင်၊ မှ၊ တုန်း၊ ဖြစ်စေ...ဖြစ်စေ။

(က) မင်း...ငါအတူသွားကြမည်။
(ခ) မင်း...ငါ ...သွားဖြစ်အောင် သွားရမည်။
(ဂ) မိုးရွာ...သစ်ပင်များ စိမ်းလန်းစိုပြည်ကြသည်။
(ဃ) လသာ...ဗိုင်းငင်သင့်သည်။
(င) ကြိုးစား...အောင်မြင်မည်။
(စ) ပျင်းရိ...ကျရှုံးတတ်သည်။
(ဆ) မိဘ...ဆရာသမားတို့ကို ရိုသေပါ။
(ဇ) စာကြည့်တိုက်...စက်ရုံ၌ လုပ်အားပေးကြမည်။
(ဈ) သားသမီးလိမ္မာ...မိဘစိတ်ချမ်းသာသည်။
(ည) မိုးရွာ...ပျိုးသာမည်။

၄။ သမ္ဗန္ဓ ၅ ခုကို ရေးပါ။

၅။ ယှဉ်တွဲဖော်ပြထားသော သမ္ဗန္ဓများမှ ဆီလျော်သောသမ္ဗန္ဓကိုရွေး၍ ဝါကျအစုံကို ဆက်စပ်ရေးသားပါ။

(က) (၁) မောင်မောင်သည် ဖျားသည်။
(၂) မောင်မောင်သည် ကျောင်းသို့ သွားသည်။
(သော်လည်း၊ သဖြင့်၊ က)

(ခ) (၁) အမေသည် ဈေးသို့ သွားသည်။
(၂) အမေသည် ငါးဝယ်သည်။ (မှ၊ လျှင်၊ ၍)

(ဂ) (၁) မောင်မြင့်သည် စာကြိုးစားသည်။
(၂) မောင်မြင့်သည် ဂုဏ်ထူးနှင့်အောင်မြင်သည်။
(သော်လည်း၊ ဖြစ်စေ...ဖြစ်စေ၊ ထို့ကြောင့်)

(ဃ) (၁) မဝိုင်းသည် ဆရာကို ရိုသေသည်။
(၂) မဝိုင်းသည် မိဘကို ရိုသေသည်။
(သဖြင့်၊ အတွက်၊ ထို့ပြင်)

(င) (၁) မိုးသံလေသံကို ကြားရပြီ။
(၂) လယ်သမားတို့သည် ထွန်တုံးကို ပြင်ကြသည်။
(သို့မဟုတ်၊ ထိုအခါ၊ လျက်)

(စ) (၁) ချိုသာသောစကားကို ဆိုသည်။
(၂) လူချစ်လူခင်များမည်။
(ခိုက်၊ သောကြောင့်၊ လျှင်)

(ဆ) (၁) ကျောင်းသားတို့သည် စာကြည့်တိုက်၌ လုပ်အားပေးကြမည်။
(၂) ကျောင်းသားတို့သည် အလုပ်ရုံ၌ လုပ်အားပေးကြမည်။
(ထို့ကြောင့်၊ သော်လည်း၊ ထို့ပြင်)

(ဇ) (၁) သူသည် ပက်လက်ကုလားထိုင်ပေါ်၌ ထိုင်နေသည်။
(၂) သူသည် စာဖတ်နေသည်။
(သောအခါ၊ သဖြင့်၊ လျက်)

(ဈ) (၁) မိုးကုတ်မြို့မှ ပတ္တမြားထွက်သည်။
(၂) မိုးကုတ်မြို့မှ နီလာလည်းထွက်သည်။
(သော်၊ သာမက၊ သဖြင့်)

(ည) (၁) မိုးဥတုရောက်ပြီ။
(၂) သစ်ပင်ပန်းပင်များသည် စိမ်းလန်းစိုပြည်ကြသည်။
(သောအခါ၊ နှင့်၊ သော်လည်း)

# ပစ္စည်း

**ပစ္စည်း**

၃၀။ နာမ်၊ နာမ်စား၊ နာမဝိသေသန၊ ကြိယာ၊ ကြိယာဝိသေသနတို့၏အဓိပ္ပာယ်ကို ထူးခြားလေးနက်အောင် ကူညီထောက်ပံ့သော စကားလုံးကို **ပစ္စည်း**ဟု ခေါ်သည်။

(က) မောင်ဘချစ်ကို သူငယ်ချင်းများက ချစ်ခင်ကြသည်။

ဤဝါကျ၌ **များ**ဟူသော စကားလုံးသည် အရေအတွက် တစ်ခုထက် ပိုကြောင်းကို ပြသည်။ ဤသို့ပြခြင်းဖြင့် **သူငယ်ချင်း**ဟူသော နာမ်ပုဒ်၏အဓိပ္ပာယ်ကို ထူးခြားအောင် ကူညီထောက်ပံ့သည်။ ထို့ကြောင့်**များ**သည် ပစ္စည်းဖြစ်သည်။

(ခ) မောင်ဘချစ်သည် ယဉ်ကျေးသောသူတစ်ဦး ဖြစ်သည်။

ဤဝါကျ၌ **ယဉ်ကျေးသော** ဟူသည့် နာမဝိသေသနသည် **သူ**ဟူသော နာမ်စားကို အထူးပြုခြင်းဖြင့် မောင်ဘချစ်သည် မည်သို့သော သူဖြစ်ကြောင်းကို ပြ သည်။ ဤသို့ ပြရာ၌ **သော**ဟူသော စကားလုံးက ကူညီထောက်ပံ့သည်။ ထို့ကြောင့် **သော**သည် ပစ္စည်းဖြစ်သည်။

(ဂ) မောင်ဘချစ်သည် ကြက်သားဟင်းကိုသာ စားသည်။

ဤဝါကျ၌ မောင်ဘချစ်သည် အခြားဟင်းများကို မစားဘဲ ကြက်သားဟင်းတစ်မျိုးတည်းသာ စားကြောင်းကို **သာ**ဟူသော စကားလုံးက **ကန့်**သတ်ပြသည်။ ဤသို့ ကြက်သားဟင်းကို ကန့်သတ်ပြခြင်းဖြင့် **သာ** ဟူသော စကားလုံး သည် **ကြက်သားဟင်း**ဟူသော နာမ်ပုဒ်၏ အဓိပ္ပာယ်ကို ထူးခြားလေးနက်အောင် ကူညီထောက်ပံ့သည်။ ထို့ကြောင့် **သာ** သည် ပစ္စည်းဖြစ်သည်။

(ဃ) ဤကိစ္စကို မြန်မြန်သာ ဆောင်ရွက်ပါ။

ဤဝါကျ၌ ပြဖွယ်ရှိသော ကိစ္စကို နှေးနှေးမဆောင်ရွက်ဘဲ မြန်မြန် ဆောင်ရွက်စေလိုကြောင်းကို**သာ** ဟူသော စကားလုံးက ကန့်သတ်ပြသည်။

ဤသို့ ကန့်သတ်ပြခြင်းဖြင့် **သာ** သည် **မြန်မြန်** ဟူသော ကြိယာဝိသေသနကို ထူးခြားအောင် ကူညီထောက်ပံ့သည်။ ထို့ကြောင့် **သာ**သည် ပစ္စည်းဖြစ်သည်။

(င) မောင်ဘချစ်သည် မှန်ရာကို ပြောဝံ့သည်။

ဤဝါကျ၌ မောင်ဘချစ်သည် မှန်ရာကို ပြောရန် မကြောက်မရွံ့ကြောင်းကို **ဝံ့**ဟူသော စကားလုံးက ပြသည်။ ဤသို့ ပြခြင်းဖြင့် **ဝံ့**သည် **ပြော** ဟူသော ကြိယာ၏ အဓိပ္ပာယ်ကို ထူးခြားအောင် ကူညီထောက်ပံ့သည်။ ထို့ကြောင့် **ဝံ့**သည် **ပစ္စည်း**ဖြစ်သည်။

(စ) မင်းကြက်သားဟင်း ကြိုက်သလား။

ဤဝါကျ၌ **လား** သည် ကြက်သားဟင်း ကြိုက်မကြိုက် ကို မေးမြန်းသည့်သဘောဖြင့် **ကြိုက်** ဟူသော ကြိယာ၏အဓိပ္ပာယ်ကို ထူးခြားအောင် ကူညီထောက်ပံ့သည်။ ထို့ကြောင့် **လား**သည် **ပစ္စည်း**ဖြစ်သည်။

(ဆ) ကျွန်တော် ကြက်သားဟင်း မကြိုက်ပါ။

ဤဝါကျ၌ **မ**သည် ကြက်သားဟင်း မကြိုက်ကြောင်း ကို ငြင်းပယ်သည့်သဘောဖြင့် **ကြိုက်** ဟူသော ကြိယာ၏ အဓိပ္ပာယ်ကို ထူးခြားအောင် ကူညီထောက်ပံ့သည်။ ထို့ကြောင့် **မ** သည် **ပစ္စည်း**ဖြစ်သည်။

**ပစ္စည်းများ**

များ၊ တို့၊ သော၊ သည့်၊ မည့်၊ သာ၊ ရဲ၊ သင့်၊ ပင်၊ ဝံ့၊ ရက်၊ ရှာ၊ တော့၊ နှင့်၊ ချည်း၊ ပါ၊ နှယ်၊ လို၊ ရ၊ ခဲ၊ နိုင်၊ ကြ၊ ကုန်၊ ပေ၊ အတိုင်း၊ မ၊ လား စသည်

**မှတ်ရန်။ ။ နာမ်၊ နာမ်စား၊ နာမဝိသေသန၊ ကြိယာ၊ ကြိယာဝိသေသနတို့၏ အဓိပ္ပာယ်ကို ထူးခြားလေးနက်အောင် ကူညီထောက်ပံ့သော စကားလုံးကို ပစ္စည်းဟု ခေါ်သည်။**

## လေ့ကျင့်ခန်း

၁။ ပစ္စည်း၏ အဓိပ္ပာယ်ကို ရေးပါ။

၂။ အောက်ပါဝါကျအသီးသီး၌ ပါဝင်သောပစ္စည်းကို မျဉ်းသားပါ။

(က) ကလေးတို့သည် အပြစ်ကင်းကြသည်။

(ခ) မျက်နှာချိုသော သူကို လူတိုင်းချစ်သည်။

(ဂ) မောင်ဝင်းသည် မှောင်ထဲ၌ နေဝံ့သည်။

(ဃ) မဝိုင်းသည် ငါးဟင်းကိုသာ စားသည်။

(င) မန္တလေးမှ လာသည့် အဆန်ရထားဆိုက်ပြီ။

(စ) ငါ သွားနှင့်မည်။

(ဆ) ငါ့ကိုတော့ မပေး၊ သူချည်းယူသည်။

(ဇ) ငါ့မျက်နှာကိုမထောက်၊ သူပြောရက်သည်။

(ဈ) ဆရာမသည် ကျွန်တော်တို့ကို ပုံပြောပြသည်။

(ည) မဝိုင်းသည် ဆရာမကို လိမ်မပြောရဲပါ။

၃။ အောက်ပါ ကွက်လပ်အသီးသီးတွင် ဆီလျော်သော ပစ္စည်းကို ဖြည့်ပါ။

(က) ငါ့ဘာသာတစ်ယောက်တည်းသွား...သည်။

(ခ) မောင်မြင့်သည် လိမ္မာ...ကျောင်းသားဖြစ်သည်ဟု ဆရာမက ချီးမွမ်းသည်။

(ဂ) ပုံပြောကောင်းသောဆရာမကို ကျောင်းသား...က ချစ်ခင်ကြသည်။

(ဃ) "မင်းတစ်ယောက်တည်း သွား...သလား"ဟု မောင်မြင့်က မောင်ဇော်ကို မေးသည်။

(င) "ဆရာ့ကို ငါ မပြော...ဘူး"ဟု မဝိုင်းကပြောသည်။

၄။ သင်သိသော ပစ္စည်း ၅ ခုကို ရေးပါ။

၅။ ယှဉ်တွဲဖော်ပြထားသော ပစ္စည်းများမှ ဆီလျော်သော ပစ္စည်းကိုရွေး၍ ကွက်လပ်တွင် ဖြည့်ပါ။

(က) အပြစ်ရှိသူမှာ အပြစ်အလျောက် အပြစ်ဒဏ်ခံ...သည်။ (ရ၊ ဝံ့)
(ခ) မိမိတာဝန်ကို ကျေပွန်စွာ ထမ်းဆောင်...သည်။ (သင့်၊ တော့)
(ဂ) လူ့သဘာဝအရ ချမ်းသာခြင်း၏ ဒဏ်ကို ခံနိုင်...သည်။ (ခဲ၊ ရဲ)
(ဃ) ကတိအတိုင်း နက်ဖြန်ဆက်ဆက်လာ...မည်။ (နိုင်၊ပါ)
(င) မဝိုင်းကို သူငယ်ချင်းများက ချစ်ခင်...သည်။ (ကြ၊ ကုန်)
(စ) မောင်မြင့်သည် ယဉ်ကျေး...သူငယ်ကလေးဖြစ်သည်။ (သော၊ မည့်)
(ဆ) "တပည့်တို့ စာကြိုးစားကြ..."ဟု ဆရာကြီးက ဆုံးမသည်။ (ပေ၊ ပါ)
(ဇ) စာကို...မှန်မှန်ကျက်ပါ။ (သာ၊ ပါ)
(ဈ) ပထမအစမ်းစာမေးပွဲ၌ သာမက ဒုတိယအစမ်းစာမေးပွဲတွင်လည်း မောင်မြင့်... ပထမ ရသည်။ (ပင်၊ တော့)
(ည) ပန်း...မွှေး၍ စမ်း...အေးကြပါစေ။ (နှယ်၊ အတိုင်း)

# အာမေဍိတ်

**အာမေဍိတ်**

၃၁။ ထိတ်လန့်ခြင်း၊ ဝမ်းသာခြင်း၊ အံ့ဩခြင်းစသည့် တစ်စုံတစ်ခုသော အကြောင်းကြောင့် ပြင်းပြင်းထန်ထန် စိတ်လှုပ်ရှားကာနှုတ်မှ ရုတ်တရက် ထွက်ပေါ်လာသောအသံကို **အာမေဍိတ်**ဟု ခေါ်သည်။

(က) "အမယ်လေး"

(ခ) "အမယ်လေး...မြွေကြီး၊ မြွေကြီး"

(ဂ) "မီး...မီး"

(ဃ) "သူခိုး...သူခိုး"

(င) "သူခိုး...သူခိုး၊ လိုက်ဟ...လိုက်ဟ"

ထိုအသံတို့သည် ထိတ်လန့်ကြောက်ရွံ့သောကြောင့် နှုတ်မှရုတ်တရက် ထွက်ပေါ်လာသည့် အာမေဍိတ်များ ဖြစ်ကြသည်။

(စ) "အား..."

(ဆ) "အား...သေပါပြီ"

(ဇ) "ခွေးရူး...ခွေးရူး"

ထိုအသံတို့သည် ဘေးအန္တရာယ်တစ်ခုခုကို ကြုံတွေ့ရသဖြင့် နှုတ်မှ ရုတ်တရက် ထွက်ပေါ်လာသည့် အာမေဍိတ်များ ဖြစ်ကြသည်။

**မှတ်ရန်။ ။ ထိတ်လန့်ခြင်း၊ ဝမ်းသာခြင်း၊ အံ့ဩခြင်း စသည့် တစ်စုံတစ်ခုသော အကြောင်းကြောင့် ပြင်းပြင်းထန်ထန် စိတ်လှုပ်ရှားကာ နှုတ်မှ ရုတ်တရက် ထွက်ပေါ်လာသောအသံကို အာမေဍိတ်ဟုခေါ်သည်။**

## လေ့ကျင့်ခန်း

၁။ အာမေဍိတ်၏အဓိပ္ပာယ်ကို ရေးပါ။

၂။ သင် သိသော အာမေဍိတ် ၅ ခုကို ရေးပါ။

၃။ အောက်ပါကွက်လပ်အသီးသီး၌ ဆီလျော်သော အာမေဍိတ်ကို ဖြည့်ပါ။

(က) ...တယ်ထူးဆန်းပါလား။

(ခ) ...တကယ်လား။

(ဂ) ...ကောင်းကွာ။

(ဃ) ...တော်ကြတော့။

(င) ...ဒါကြောင့်ကိုး။

၄။ အောက်ပါဝါကျအသီးသီးရှိ အာမေဍိတ်တို့သည် မည်သို့သော စိတ်လှုပ်ရှားမှုကြောင့် ဖြစ်ပေါ်လာသနည်း။

(က) အမယ်လေး...ကယ်ကြပါဦး။

(ခ) ဟင်း...နင်တော့လား၊ ငါ ပြန်လာမှ သိမယ်။

(ဂ) ဟော...ဖေဖေ ပြန်လာပြီ မေမေရေ။

(ဃ) ဟေ...တယ်တော်တဲ့ ငါ့သားကြီးပါလားကွ။

(င) အော်...ဖြစ်မှဖြစ်ရလေတယ်။

# ဝါကျ

**ဝါကျ**

၃၂။ ဆိုလိုသည့်အဓိပ္ပာယ် ရောက်အောင် စနစ်တကျ စီစဉ်ထားသော ပုဒ်အစုအပေါင်းကို **ဝါကျ**ဟု ခေါ်သည်။ ဝါကျတစ်ခုတွင် အနည်းဆုံး ကတ္တားတစ်ခုနှင့် ကြိယာတစ်ခု ပါဝင်သည်။

(က) မောင်ဖိုးချစ်သည် ပြေးသည်။

(ခ) မောင်ဖိုးနှစ်သည် လိမ္မာသည်။

(ဂ) စာအုပ်သည် စားပွဲပေါ်မှာရှိသည်။

၃၃။ အထက်ပါဝါကျ ၃ ခု၌-

(က) မောင်ဖိုးချစ်သည်

(ခ) မောင်ဖိုးနှစ်သည်

(ဂ) စာအုပ်သည်ဟူသော နာမ်ပုဒ်တို့သည် **ကတ္တားများ** ဖြစ်ကြသည်။

၃၄။ (က) ပြေးသည်

(ခ) လိမ္မာသည်

(ဂ) ရှိသည် ဟူသောပုဒ်တို့သည် **ကြိယာများ** ဖြစ်ကြသည်။

၃၅။ အဆိုပါဝါကျ ၃ခုသည် ကတ္တားတစ်ခုနှင့် ကြိယာတစ်ခု ပါဝင်သောဝါကျများ ဖြစ်ကြသည်။

၃၆။ ကတ္တားသည် ပြုသူကို ပြသည်။ ကြိယာသည် ပြုခြင်းကို ပြသည်။

မောင်ဖိုးချစ်သည် ပြေးသည်။

ဤဝါကျ၌ မောင်ဖိုးချစ်သည် ပြေးခြင်းကို ပြုသူဖြစ်သည်။ ထို့ကြောင့် **မောင်ဖိုးချစ်**သည် ပြုသူကိုပြသော **ကတ္တား** ဖြစ်သည်။

**ပြေးသည်**သည် မောင်ဖိုးချစ်၏ပြုခြင်းကို ပြသည်။ ထို့ကြောင့် **ပြေးသည်**သည် ကြိယာ ဖြစ်သည်။

၃၇။ ကတ္တားသည် ဖြစ်သူကို ပြသည်။ ကြိယာသည် ဖြစ်ခြင်းကို ပြသည်။

မောင်ဖိုးနှစ်သည် လိမ္မာသည်။

ဤဝါကျ၌ လိမ္မာသောသူမှာ မောင်ဖိုးနှစ် ဖြစ်သည်။ ထို့ကြောင့် **မောင်ဖိုးနှစ်** သည် ဖြစ်သူကို ပြသော **ကတ္တား** ဖြစ်သည်။

**လိမ္မာသည်**သည် မောင်ဖိုးနှစ်၏ ဖြစ်ခြင်းကို ပြသည်။ ထို့ကြောင့် **လိမ္မာသည်** သည် ကြိယာ ဖြစ်သည်။

၃၈။ ကတ္တားသည် ရှိသည့်အရာကို ပြသည်။ ကြိယာသည် ရှိခြင်းကိုပြသည်။

စာအုပ်သည် စားပွဲပေါ်မှာရှိသည်။

ဤဝါကျ၌ စာအုပ်သည် ရှိသောအရာဖြစ်သည်။ ထို့ကြောင့် **စာအုပ်**သည်ရှိသော အရာကို ပြသော **ကတ္တား** ဖြစ်သည်။

**ရှိသည်**သည် စာအုပ်၏ ရှိခြင်းကို ပြသည်။ ထို့ကြောင့် **ရှိသည်**သည် **ကြိယာ**ဖြစ်သည်။

၃၉။ ကတ္တားတစ်ခုနှင့် ကြိယာတစ်ခုပါဝင်သော ဝါကျတွင်လို အပ်သော ပုဒ်တို့ကို ဖြည့်စွက်၍ အောက်ပါအတိုင်း ဝါကျများဖွဲ့နိုင်သည်။

(က) မောင်ဖိုးချစ်သည် သွားသည်။

(ခ) မောင်ဖိုးချစ်သည် ကျောင်းသို့ သွားသည်။

(ဂ) မောင်ဖိုးချစ်သည် အိမ်မှ ကျောင်းသို့ သွားသည်။
(ဃ) မောင်ဖိုးချစ်သည် အိမ်မှ ကျောင်းသို့ ကားဖြင့် သွားသည်။
(င) မောင်ဖိုးချစ်သည် အိမ်မှကျောင်းသို့ ကားဖြင့် နံနက် ၉ နာရီ၌ သွားသည်။

**မှတ်ရန်။ ။ ကတ္တားသည် ပြုသူ၊ ဖြစ်သူ၊ ရှိသူကို ပြသည်။ ကြိယာသည် ပြုခြင်း၊ ဖြစ်ခြင်း၊ ရှိခြင်းကို ပြသည်။**

## လေ့ကျင့်ခန်း

၁။ ကတ္တား၏အဓိပ္ပာယ်ကို ရေးပါ။
၂။ ကြိယာ၏ အဓိပ္ပာယ်ကို ရေးပါ။
၃။ အောက်ပါ ကွက်လပ်အသီးသီး၌ ဆီလျော်သော ကတ္တားကို ဖြည့်ပါ။
(က) ...သာယာ၏။
(ခ) ...ရိုင်းစိုင်း၏။
(ဂ) ...သပ္ပာယ်၏။
(ဃ) ...မတ်စောက်၏။
(င) ...အဖိုးထိုက်၏။
(စ) ...အားကောင်း၏။
(ဆ) ...ကြည်လင်၏။
(ဇ) ...ချွဲပျစ်၏။
(ဈ) ...ဟိန်း၏။
(ည) ...တွန်၏။
၄။ အောက်ပါ ကွက်လပ်အသီးသီး၌ ဆီလျော်သော ကြိယာကို ဖြည့်ပါ။
(က) ချောင်းရေ...။
(ခ) အငြိမ့်မင်းသမီးသည်...။
(ဂ) ဤမြစ်သည်...။
(ဃ) တောင်တန်းသည်...။
(င) လေသည်...။
(စ) မိုး...။
(ဆ) သဘာပတိကြီးက...။
(ဇ) ကျောင်းသားသည်...။
(ဈ) တပ်မတော်သားများ...။
(ည) လျှပ်စီး...။
၅။ အောက်ပါ ကွက်လပ်အသီးသီး၌ ဆီလျော်သော ဝါစင်္ကို ဖြည့်ပါ။
(က) မောင်သံချောင်း...ရွာသာယာရွာ...နေ...။
(ခ) ...သည်...သော ကလေးတစ်ယောက်...သည်။

(ဂ) သူ...ဖခင်...ဦးဘချစ် ဖြစ်...မိခင်...ဒေါ်ငွေခင် ဖြစ်သည်။

(ဃ) ဦးဘချစ်...ဒေါ်ငွေခင်...သည် မောင်သံချောင်း...ချစ်ကြ၏။

(င) မောင်သံချောင်းသည် မိဘစကား...နားထောင်...ရှိသည်။

(စ) ကျောင်း...အိမ်...ပြန်ရောက်...မိဘနှစ်ပါးကို... သည်။

(ဆ) အိမ်၌...ကျောင်း၌...သူငယ်ချင်း...ကို ကူညီသည်။

(ဇ) မောင်သံချောင်းလာသည်...မြင်...“ဟိုမှာ သံချောင်း လာပြီ” ...... အော်ဟစ် ......... သူငယ်ချင်းများသည် မောင်သံချောင်းထံသို့... ပြေးလာ...သည်။

(ဈ) မောင်သံချောင်းကို သူ၏ မိဘနှစ်ပါး...သူငယ်ချင်းများက ... ချစ်ခင်ကြသည် မဟုတ်၊ ဆရာ ဆရာမများက... ချစ်ခင်ကြ...သည်။

(ည) စိတ်သဘောကောင်း...ကူညီတတ်...သူကိုလူ...က ချစ် ကြမည်...ဖြစ်သည်။

၆။ အောက်ပါ ကတ္တားများနှင့် ကြိယာများကို ဆီလျော်အောင် တွဲပါ။

| | |
|---|---|
| ရာသီဥတု | ကြိုဆိုကြသည်။ |
| တောတောင် | ဟောက်သည်။ |
| ရည်ရွယ်ချက် | လိမ္မာသည်။ |
| ဤလမ်း | လစ်လပ်သည်။ |
| သူ၏ဆုံးဖြတ်ချက် | ပြတ်သားသည်။ |
| ရာထူးများ | သာယာသည်။ |
| အပြောအဆို | ညည်းတွားသည်။ |
| ချေ | ဖြောင့်တန်းသည်။ |
| လုပ်သားပြည်သူများ | ထူထပ်သည်။ |
| လူနာ | အောင်မြင်သည်။ |

၇။ ကတ္တားတစ်ခုနှင့် ကြိယာတစ်ခု ပါရှိသော ဝါကျ ၃ ခုကို ရေးပါ။

# ပုဒ်ဖြတ်ပုဒ်ရပ်သင်္ကေတများ

**ပုဒ်ဖြတ်ပုဒ်ရပ်**

၄၀။ မြန်မာစာရေးသားရာ၌ အဓိပ္ပာယ်ရှင်းလင်းစေရန် ပုဒ်ကလေး၊ ပုဒ်မ၊ ဝိုက်ကွင်းစသော သင်္ကေတများကို အသုံးပြု၍ ရေးရသည်။ ထိုသင်္ကေတများကို **ပုဒ်ဖြတ်ပုဒ်ရပ်သင်္ကေတများ**ဟု ခေါ်သည်။

**ပုဒ်ကလေး ၊**

၄၁။ (က) နှစ်ခုထက် ပိုသော ပုဒ်များအကြားတွင် ပုဒ်ကလေးကို သုံးသည်။
**သာဓက**။ ။ ကျွဲ၊ နွား၊ သိုး၊ ဆိတ်၊ သမင်၊ ဒရယ်၊ ဆင်၊ မျောက်တို့သည် အသီးအနှံ၊ အရွက်၊ သစ်ဥ၊ သစ်ဖုတို့ကိုသာ စားသည်။ (ပုံနှိပ်ရာ၌ ပုဒ်များ အကြားတွင် ပုဒ်ကလေးကို **မသုံးဘဲ** နေရာချဲ၍လည်း ရိုက်နှိပ်လေ့ရှိသည်။)

(ခ) နှစ်ခုထက်ပိုသော ပုဒ်စုများအကြားတွင် ပုဒ်ကလေးကို သုံးသည်။
**သာဓက**။ ။ သစ်ထုတ်လုပ်ငန်းတွင် သဘာဝပေါက်ပင်များ မပျက်စီးစေရန် ကာကွယ်စောင့်ရှောက်ခြင်း၊ သစ်တောများကို သိပ္ပံနည်းဖြင့် ပြုစုပျိုးထောင်ခြင်း၊ စနစ်တကျ ချဲ့ထွင်စိုက်ပျိုးခြင်းစသောလုပ်ငန်းများကို ဆောင်ရွက်ရသည်။

(ဂ) ခုနှစ်၊ လ၊ ရက်တို့ကို တစ်တန်းတည်း စဉ်ရေးရာ၌ ပုဒ်ကလေးကိုသုံးသည်။
**သာဓက**။ ။ ၁၉၄၈–ခုနှစ်၊ ဇန်နဝါရီလ၊ ၄–ရက်၊ တနင်္ဂနွေနေ့။

(ဃ) အချိန်၊ နာရီတို့ကို တစ်တန်းတည်း စဉ်ရေးရာ၌ ပုဒ်ကလေးကို သုံးသည်။
**သာဓက**။ ။ နံနက် ၄–နာရီ၊ မိနစ်–၂၀။

(င) လိပ်စာကို တစ်တန်းတည်း စဉ်ရေးရာ၌ ပုဒ်ကလေးကို သုံးသည်။
**သာဓက**။ ။ မြန်မာစာအဖွဲ့ဦးစီးဌာန၊ ၂၇၊ ပြည်လမ်း၊ ၆–မိုင်ခွဲ၊ ရန်ကုန်။

(စ) အလုပ်အကိုင်ကို လူအမည်၏နောက်တွင် ဖော်ပြရာ၌ ပုဒ်ကလေးကို သုံးသည်။
**သာဓက**။ ။ ဦးချစ်ခင်၊ ဥက္ကဋ္ဌ၊ ရပ်ကွက်ပြည်သူ့ကောင်စီ။

**ပုဒ်မ ။**

၄၂။ (က) ဝါကျအဆုံး၌ ပုဒ်မကို သုံးသည်။
**သာဓက**။ ။ ပြည်ထောင်စု မြန်မာနိုင်ငံတော်သည် ကချင်၊ ကယား၊ ကရင်၊ ချင်း၊ ဗမာ၊ မွန်၊ ရခိုင်၊ ရှမ်း စသည့် တိုင်းရင်းသားလူမျိုးများ စုဝေးနေထိုင်ကြသော နိုင်ငံတစ်ခု ဖြစ်သည်။

(ခ) အမှတ်စဉ်ကို ဖော်ပြရာ၌ ပုဒ်မကို သုံးသည်။
**သာဓက**။ ။

| **အမှတ်စဉ်** | **အကြောင်းအရာ** | **စာမျက်နှာ** |
|---|---|---|
| ၁။ | သဒ္ဒါ | ၁ |
| ၂။ | အက္ခရာ | ၂ |
| ၃။ | ဝါစင်္ဂ | ၅ |

၄။ နာမ် ၇
၅။ နာမ်စား ၁၁

(ဂ) အထက်တွင် ဖော်ပြပြီးသော အကြောင်းအရာ၊ အချက်အလက်တို့နှင့် အောက်တွင် ဆက်လက်ဖော်ပြသော အကြောင်းအရာ၊ အချက်အလက်တို့ တူညီကြကြောင်းကို ပြရာ၌ ပုဒ်မကို သုံးသည်။
**သာဓက**။ ။

| စဉ် | အမည် | ဝါစင် | ကျား/မ | လိင် |
|---|---|---|---|---|
| ၁။ | ဦးတင့် | နာမ် | ယောက်ျား | ပုလ္လိင် |
| ၂။ | မောင်မြင့် | ။ | ။ | ။ |
| ၃။ | အဘိုး | ။ | ။ | ။ |

**ဝိုက်ကွင်း ( )**

၄၃။ (က) ကိန်းဂဏာန်းဖြင့် ဖော်ပြသော ငွေကြေးအရေအတွက်ကို စာဖြင့် တိတိကျကျ ဖော်ပြလိုလျှင် ဝိုက်ကွင်းကို သုံးသည်။
**သာဓက**။ ။ ၁၉၈၅/၅ဝါး (ကျပ်တစ်ထောင်ကိုးရာရှစ်ဆယ့်နှစ်နှင့် ပြားငါးဆယ်တိတိ။)

(ခ) စာအုပ်အမည်၏နောက်တွင် ထုတ်ဝေရာဌာန၊ သို့မဟုတ် စာရေးသူ၏ အမည်ကို ဖော်ပြရာ၌ ဝိုက်ကွင်းကို သုံးသည်။
**သာဓက**။ ။ မြန်မာ့စွယ်စုံကျမ်း (စာပေဗိမာန်)
မြန်မာ့မျက်ပွင့် (ဇေယျ)

(ဂ) အမည်တူပုဂ္ဂိုလ်များရှိလျှင် ထိုပုဂ္ဂိုလ်များ၏ဖခင်အမည်ကို ဖြစ်စေ၊ အလုပ်အကိုင်ကိုဖြစ်စေ၊ နေရပ်ဒေသကိုဖြစ်စေ ဝိုက်ကွင်းဖြင့် ပြသည်။
**သာဓက**။ ။ မောင်ကျော် (ဦးဘ)
မောင်ကျော် (ဦးလှ)
ဦးမောင်မောင်ကြီး (မြန်မာစာပါမောက္ခ)
ဦးမောင်မောင်ကြီး (ကျောင်းဆရာကြီး)
မခင်ပြုံး (ရွှေဘို)
မခင်ပြုံး (သာယာဝတီ)

**အောက်မျဉ်း** ________

၄၄။ စာဖတ်သူ အထူးသတိထား၍ ဖတ်စေချင်သော စကားလုံး၊ ပုဒ်၊ ဝါကျ စသည်တို့ကို အောက်မျဉ်းသား၍ ဖော်ပြသည်။ (ပုံနှိပ်ရာ၌ စာလုံးမည်းဖြင့်လည်း ပြတတ်သည်။)

**သာဓက**။ ။– သက်ရှိသက်မဲ့၊ ဒြပ်ရှိဒြပ်မဲ့တို့၏ အမည်ဟူသမျှကို **နာမ်** ဟု ခေါ်သည်။

– ဤဝါကျ၌ **များ**သည် အရေအတွက် တစ်ခုထက် ပိုကြောင်းကို ပြသည်။

**မျဉ်းတို –**

၄၅။(က) ရက်စွဲကို အတိုရေးရာ၌ မျဉ်းတိုကို သုံးသည်။ (မျဉ်းစောင်း၊ ပုဒ်ကလေးကိုလည်း သုံးသည်။)

**သာဓက**။ ။ ၄–၁–၄၈

(ခ) ဂဏန်းဖြင့်ရေးသော ကျပ်၊ ပြားကို ဖော်ပြရာ၌ မျဉ်းတိုကို သုံးသည်။ (မျဉ်းစောင်းကိုလည်း သုံးသည်။)

**သာဓက**။ ။ ၁၉၈၅–၅ဝါး

**မျဉ်းစောင်း/**

၄၆။(က) ရက်စွဲကို အတိုရေးရာ၌ မျဉ်းစောင်းကိုသုံးသည်။ (မျဉ်းတို၊ ပုဒ်ကလေးကိုလည်း သုံးသည်။)

**သာဓက**။ ။ ၄/၁/၄၈

(ခ) ဂဏန်းဖြင့် ရေးသော ကျပ်၊ ပြားတို့ကို ဖော်ပြရာ၌ မျဉ်းစောင်းကိုသုံးသည်။ (မျဉ်းတိုကိုလည်း သုံးသည်။)

**သာဓက**။ ။ ၁၉၈၅/၅ဝါး

## အတွဲ ၁၊ အခန်း ၂

# ဝဂ်

### ဝဂ်

၁။ “ဝဂ်”ဟူသော စကားမှာ “ဝဂ္ဂ”ဟူသော ပါဠိစကားမှလာသည်။ **အစု** ဟု အဓိပ္ပာယ်ရသည်။ ဗျည်းများကို အသံဖြစ်ရာနေရာ ဌာန်တူရာတူရာ စုဖွဲ့ထားသည်။ ထိုဗျည်းအစုတို့ကို ဝဂ်ဟု ခေါ်သည်။

**သာဓက**။ ။ က၊ ခ၊ ဂ၊ ဃ၊ င (ကဝဂ်)

၂။ “က၊ ခ၊ ဂ၊ ဃ၊ င”ဟူသော ဗျည်း ၅လုံးသည် ဖြစ်ရာ ဌာန်တူကြသည်။ အစုလိုက် အလွယ်တကူရွတ်ဆို၍ ရသည်။ ထို့ကြောင့် ယင်းဗျည်း ၅လုံးအစုကို **ဝဂ်**ဟုခေါ်သည်။ ‘က’ဗျည်းဖြင့် စသည့်ဝဂ်ဖြစ်ခြင်းကြောင့် ‘ကဝဂ်’ဟု အမည်တွင်သည်။

၃။ ထို့ကြောင့်–

က၊ ခ၊ ဂ၊ ဃ၊ င

စ၊ ဆ၊ ဇ၊ ဈ၊ ည

ဋ၊ ဌ၊ ဍ၊ ဎ၊ ဏ

တ၊ ထ၊ ဒ၊ ဓ၊ န

ပ၊ ဖ၊ ဗ၊ ဘ၊ မ တို့သည် **ကဝဂ်၊ စဝဂ်၊ ဋဝဂ်၊ တဝဂ်၊ ပဝဂ်** ဟု အသီးသီးအမည်တွင်ကြသည်။

၄။ **ဝဂ်ဗျည်း**။ ။ ဝဂ်၌ပါဝင်သော ဗျည်းများကို **ဝဂ်ဗျည်း**ဟု ခေါ်သည်။ “က၊ စ၊ ဋ၊ တ၊ ပ”ဝဂ် ၅ ခုရှိ၍ ဝဂ်တစ်ခု၌ ဗျည်း ၅ လုံးစီ ပါဝင်ခြင်းကြောင့် ဝဂ်ဗျည်းပေါင်း ၂၅ လုံး ရှိသည်။

### အဝဂ်

၅။ “အဝဂ်”ဟူသော စကားမှာ“အဝဂ္ဂ”ဟူသော ပါဠိစကားမှ လာသည်။ **အစုမဟုတ်**ဟု အဓိပ္ပာယ်ရသည်။ ဗျည်းအချို့သည် ဖြစ်ရာဌာန် တူညီမှုမရှိသောကြောင့် အစုဖွဲ့မရချေ။ ထိုသို့ အစုမဟုတ်သည်ကို **အဝဂ်**ဟု ခေါ်သည်။

၆။ **အဝဂ်ဗျည်း**။ ။ ဝဂ်ဗျည်း ၂၅ လုံး၌ မပါဝင်သော ဗျည်းများသည် **အဝဂ်ဗျည်း**များ ဖြစ်ကြသည်။ အဝဂ်ဗျည်း ၈ လုံးရှိသည်။ ၎င်းတို့မှာ–

“ယ၊ ရ၊ လ၊ ဝ၊ သ၊ ဟ၊ ဠ၊ အ”တို့ ဖြစ်ကြသည်။

### ဝဂ္ဂန္တ

၇။ “ဝဂ္ဂန္တ”ဟူသော စကားမှာ ပါဠိစကားဖြစ်သည်။ **အစု၏အဆုံး**ဟု အဓိပ္ပာယ်ရသည်။

၈။ **ဝဂ္ဂန္တဗျည်း**။ ။ ဝဂ်ဗျည်း ၅ လုံးအစု တစ်စုစီ၏အဆုံး၌ရှိသောကြောင့် **ဝဂ္ဂန္တဗျည်း**ဟု ခေါ်သည်။

"င"ဗျည်းသည် **ကဝဂ်၏** အဆုံးဗျည်းဖြစ်သည်။
"ည"ဗျည်းသည် **စဝဂ်၏** အဆုံးဗျည်းဖြစ်သည်။
"ဏ"ဗျည်းသည် **ဋဝဂ်၏** အဆုံးဗျည်းဖြစ်သည်။
"န"ဗျည်းသည် **တဝဂ်၏** အဆုံးဗျည်းဖြစ်သည်။
"မ"ဗျည်းသည် **ပဝဂ်၏** အဆုံးဗျည်းဖြစ်သည်။
ထို "င၊ ည၊ ဏ၊ န၊ မ"ဗျည်း ၅လုံးတို့သည် **ဝဂ္ဂန္တဗျည်း**များ ဖြစ်ကြသည်။

**ဝဂ်ဗျည်းနှင့်အဝဂ်ဗျည်းပြဇယား**

| **ဝဂ်အမည်** | **ဗျည်း** | | | | |
|---|---|---|---|---|---|
| ကဝဂ် | က | ခ | ဂ | ဃ | င |
| စဝဂ် | စ | ဆ | ဇ | ဈ | ည |
| ဋဝဂ် | ဋ | ဌ | ဍ | ဎ | ဏ |
| တဝဂ် | တ | ထ | ဒ | ဓ | န |
| ပဝဂ် | ပ | ဖ | ဗ | ဘ | မ |
| အဝဂ် | ယ | ရ | လ | ဝ | |
| | သ | ဟ | ဠ | အ | |

# နာမ်

**နာမ်**

၉။ သက်ရှိသက်မဲ့၊ ဒြပ်ရှိဒြပ်မဲ့တို့၏ အမည်ဟူသမျှကို နာမ်ဟုခေါ်သည်။

**သာဓက**။ ။ မောင်လှ၊ ကျောင်းသား၊ လူ၊ တိရစ္ဆာန်၊ စာအုပ်၊ ကျောင်း၊ ကား၊ မေတ္တာ၊ သတ္တိ၊ အချစ်၊ အမုန်း၊ ခွန်အား။

၁၀။ နာမ်သည်အနက်အဓိပ္ပာယ်အရ ၄ မျိုးရှိသည်။ ၎င်းတို့မှာ–

(က) တစ်ဦးဆိုင်နာမ်

(ခ) အများဆိုင်နာမ်

(ဂ) စိတ္တဇနာမ်

(ဃ) အစုပြနာမ်တို့ဖြစ်ကြသည်။

၁၁။ (က) **တစ်ဦးဆိုင်နာမ်**။ ။ တစ်ဦး၊ တစ်ယောက်၊ တစ်ခုအတွက် သီးခြား မှည့်ခေါ်ထားသောအမည်ကို **တစ်ဦးဆိုင်နာမ်**ဟု ခေါ်သည်။

**သာဓက**။ ။ ရွှေတိဂုံ၊ ရွှေစည်းခုံ၊ ရန်ကုန်၊ မန္တလေး၊ ဧရာဝတီ၊ ချင်းတွင်း၊ ပေလီ၊ ရွှေဝါချိုင်၊ မောင်းမကန်၊ မဟာဗန္ဓုလ၊ မောင်မျိုးတင့်၊ မအေးမြင့်။

(၁) **ရွှေတိဂုံ** သည် စေတီတစ်ဆူကို သီးခြားမှည့်ခေါ်ထားသော အမည် ဖြစ်သည်။

(၂) **ရန်ကုန်**သည် မြို့တစ်မြို့ကို သီးခြားမှည့်ခေါ်ထားသော အမည် ဖြစ်သည်။

(၃) **ဧရာဝတီ**သည် မြစ်တစ်စင်းကို သီးခြားမှည့်ခေါ်ထားသော အမည် ဖြစ်သည်။

(၄) **ပေလီ**သည် ပင်လယ်ကမ်းခြေစခန်းတစ်ခုကို သီးခြား မှည့်ခေါ်ထားသော အမည် ဖြစ်သည်။

(၅) **မဟာဗန္ဓုလ**သည် စစ်သူကြီးတစ်ဦးကို သီးခြား မှည့်ခေါ်ထားသော အမည် ဖြစ်သည်။

(ထိုနည်းအတူ **ရွှေစည်းခုံ၊ မန္တလေး၊ ချင်းတွင်း၊ ရွှေဝါချိုင်၊ မောင်းမကန်၊ မောင်မျိုးတင့်၊ မအေးမြင့်** ဟူသော နာမ်တို့သည် တစ်ဦး၊ တစ်ယောက်၊ တစ်ခုအတွက် သီးခြားမှည့်ခေါ်ထားသော အမည်များဖြစ်ကြသည်။)

(ခ) **အများဆိုင်နာမ်။** ။ အများနှင့်ဆိုင်သောပုဂ္ဂိုလ်၊ သတ္တဝါ၊ အရာဝတ္ထုတို့၏ အမည်ကို **အများဆိုင်နာမ်** ဟုခေါ်သည်။

**သာဓက။** ။ မြို့၊ အိမ်၊ ကျောင်း၊ မြစ်၊ ချောင်း၊ အင်း၊ အိုင်၊ လူ၊ ကြောင်၊ ခွေး။

(၁) **မြို့** ဟူသော နာမ်သည် ရန်ကုန်၊ မန္တလေး၊ စစ်ကိုင်း၊ မေမြို့၊ တောင်ကြီး၊ စစ်တွေ၊ သံတွဲ၊ မော်လမြိုင်၊ ထားဝယ် အစရှိသော မြို့အားလုံးနှင့် ဆိုင်သည်။

(၂) **အိမ်** ဟူသော နာမ်သည် ပျဉ်ထောင်အိမ်၊ တိုက်ခံအိမ်၊ အိမ်အို၊ အိမ်ဟောင်း၊ အိမ်သစ်အစရှိသော အိမ်အားလုံးနှင့် ဆိုင်သည်။

(၃) **ကျောင်း** ဟူသော နာမ်သည် အခြေခံပညာမူလတန်းကျောင်း၊ အခြေခံပညာ အလယ်တန်းကျောင်း၊ အခြေခံပညာ အထက်တန်း ကျောင်း၊ ဘုန်းကြီးကျောင်း၊ မယ်သီလရှင်ကျောင်း အစရှိသော ကျောင်းအားလုံးနှင့်ဆိုင်သည်။

(၄) **မြစ်**ဟူသော နာမ်သည် ဧရာဝတီ၊ ချင်းတွင်း၊ သံလွင်၊ စစ်တောင်း အစရှိသော မြစ်ကြီးမြစ်ငယ်အားလုံးနှင့်ဆိုင်သည်။

(ထိုနည်းအတူ **ချောင်း၊ အင်း၊ အိုင်၊ လူ၊ ကြောင်** ဟူသော နာမ်တို့သည် တစ်ဦး၊ တစ်ယောက်၊ တစ်ခုအတွက် သီးခြား မှည့်ခေါ်ထားသော အမည်များ မဟုတ်ကြပေ။ အများနှင့်ဆိုင်သော အမည်များ ဖြစ်ကြသည်။)

(ဂ) **စိတ္တဇနာမ်။** ။ ဒြပ်မရှိ၊ ကိုင်တွယ်စမ်းသပ်၍မရ၊ မြင်လည်း မမြင်နိုင်၊ စိတ် ဖြင့်သာ တွေးတောသိနိုင်သော နာမ်ကို **စိတ္တဇနာမ်** ဟု ခေါ်သည်။

**သာဓက။** ။ မေတ္တာ၊ စေတနာ၊ ဇွဲ၊ သတ္တိ၊ အောင်မြင်ခြင်း၊ အချစ်၊ အမုန်း၊ ဝမ်းသာခြင်း၊ ဝမ်းနည်းခြင်း။

(၁) **မေတ္တာ**ဟူသော နာမ်မှာ အကောင်အထည် ဒြပ်မရှိချေ။ ကိုယ်နှုတ် အမူအရာကို ကြည့်ရှုထောက်ချင့်၍ စိတ်ဖြင့်သာ တွေးတောသိရှိရသော သဘောမျှသာ ဖြစ်သည်။

(၂) **စေတနာ** ဟူသောနာမ်မှာ အကောင်အထည်ဒြပ်မရှိချေ။ ကိုယ်နှုတ် အမူအရာကို ကြည့်ရှုထောက်ချင့်၍ စိတ်ဖြင့်သာ တွေးတောသိရှိရသော သဘောမျှသာ ဖြစ်သည်။

(၃) **ဇွဲ၊ သတ္တိ** ဟူသောနာမ်တို့မှာ အကောင်အထည်ဒြပ် မရှိချေ။ ကိုယ် နှုတ် အမူအရာကို ကြည့်ရှုထောက်ချင့်၍ စိတ်ဖြင့်သာ တွေးတော သိရှိရသော သဘောမျှသာဖြစ်သည်။

(ထိုနည်းအတူ **အချစ်၊ အမုန်း၊ အောင်မြင်ခြင်း၊ ဝမ်းသာခြင်း၊ ဝမ်းနည်းခြင်း** ဟူသော နာမ်တို့မှာလည်း စိတ်ဖြင့်သာ တွေးတော သိရှိရသော သဘောများသာ ဖြစ်ကြသည်။)

**(ဃ)** **အစုပြနာမ်။ ။** အစုအပေါင်း၊ အသင်းအဖွဲ့၏အမည်ကို **အစုပြနာမ်** ဟု ခေါ်သည်။

**သာဓက။။** တပ်မတော်၊ လူထု၊ ပရိဘောဂ၊ ကောင်စီ၊ အသင်း၊ အဖွဲ့၊ ကော်မတီ။

(၁) **တပ်မတော်** ဟူသောနာမ်သည် စစ်သား တစ်ဦးတစ်ယောက်၏အမည် မဟုတ်ချေ။ စစ်သားအများအပြား ပါဝင်သော အဖွဲ့အစည်း၏ အမည် ဖြစ်သည်။

(၂) **လူထု**ဟူသော နာမ်သည် လူတစ်ဦးတစ်ယောက်၏ အမည် မဟုတ်ချေ။ လူအများအပြား ပါဝင်သော လူစုလူဝေး၏အမည် ဖြစ်သည်။

(၃) **ပရိဘောဂ** ဟူသော နာမ်သည် စားပွဲ၊ ကုလားထိုင် စသည့် တစ်ခုစီ၏အမည် မဟုတ်ချေ။ စားပွဲ၊ ကုလားထိုင်၊ ခုတင်၊ ဗီရို အစရှိသော အသုံးအဆောင်ပစ္စည်း အစုအပေါင်း၏အမည်ဖြစ်သည်။ (ထိုနည်းအတူ **အသင်း၊ အဖွဲ့၊ ကောင်စီ၊ ကော်မတီ**ဟူသော နာမ်တို့သည်လည်း လူတစ်ဦးတည်းကို သီးခြား မှည့်ခေါ်ထားသော အမည်များ မဟုတ်ကြပေ။ လူတစ်ဦးမက ပါဝင်သည့် အစုအဖွဲ့ကို သီးခြားမှည့်ခေါ်ထားသော အမည်များ ဖြစ်ကြသည်။)

## နာမ် ၄ မျိုးပြဇယား

## (အနက်အဓိပ္ပာယ်အရ)

| တစ်ဦးဆိုင်နာမ် | အများဆိုင်နာမ် | စိတ္တဇနာမ် | အစုပြနာမ် |
|---|---|---|---|
| ရွှေတိဂုံ<br>ရွှေစည်းခုံ } | စေတီ | မေတ္တာ<br>စေတနာ<br>ဖွဲ | တပ်မတော်<br>လူထု<br>ပရိဘောဂ |
| ရန်ကုန်<br>မန္တလေး } | မြို့ | သတ္တိ<br>အောင်မြင်ခြင်း<br>အချစ်<br>အမုန်း | ကောင်စီ<br>အသင်း<br>အဖွဲ့<br>ကော်မတီ |
| ဧရာဝတီ<br>ချင်းတွင်း } | မြစ် | ဝမ်းသာခြင်း<br>ဝမ်းနည်းခြင်း | |
| ငပလီ<br>ရွှေဝါချိုင်<br>မောင်းမကန် } | ပင်လယ်ကမ်း | | |
| မောင်မျိုးတင့်<br>မအေးမြင့် } | လူ | | |
| | ကျောင်း<br>ချောင်း<br>အင်း<br>အိုင်<br>ကြောင်<br>ခွေး | | |

# လေ့ကျင့်ခန်း

၁။ နာမ်ဆိုသည်မှာ အဘယ်နည်း။

၂။ တစ်ဦးဆိုင်နာမ်ဆိုသည်မှာ အဘယ်နည်း။ တစ်ဦးဆိုင် နာမ် ၅ ခုကို ရေးပါ။

၃။ အများဆိုင်နာမ်ဆိုသည်မှာ အဘယ်နည်း။ အများဆိုင်နာမ် ၅ ခုကို ရေးပါ။

၄။ စိတ္တဇနာမ်ဆိုသည်မှာ အဘယ်နည်း။ စိတ္တဇနာမ် ၅ ခုကို ရေးပါ။

၅။ အစုပြနာမ်ဆိုသည်မှာ အဘယ်နည်း။ အစုပြနာမ် ၅ ခုကို ရေးပါ။

၆။ အောက်ပါ ဝါကျများရှိ မျဉ်းသားထားသော နာမ်အသီးသီး၏ အမျိုးအမည်ကို ရေးပါ။

(က) ရွှေတိဂုံသည် မြန်မာပြည်၌ ထင်ရှားသော စေတီ တစ်ဆူဖြစ်သည်။

(ခ) မဟာဗန္ဓုလသည် လက်ရုံးရည်၊ နှလုံးရည်နှင့် ပြည့်စုံသော စစ်သူကြီး တစ်ဦးဖြစ်သည်။

(ဂ) ဟိုက်ဒရိုဂျင်သည် လေထက်ပေါ့သည်။

(ဃ) ပုပ္ပားသည် ရှေးအခါက မီးတောင် ဖြစ်ခဲ့ဖူးသည်။

(င) ပျားရည်သည် ခွန်အားကို ဖြစ်စေသည်။

(စ) ဖွဲ့ရှိက အောင်မြင်သည်။

(ဆ) ညီညွတ်ခြင်းသည် အင်အားဖြစ်သည်။

(ဇ) ဆင်သည်လူတို့အတွက် အလွန်အသုံးဝင်သော တိရစ္ဆာန်ဖြစ်သည်။

(ဈ) အလိမ္မာ စာ မှာရှိသည်။

(ည) ဆရာကြီး ဦးဘသည် ကျောင်းကောင်စီ၏ ဥက္ကဋ္ဌ ဖြစ်သည်။

၇။ ကွက်လပ်များကို ဖြည့်ပါ။

(က) ဒြပ်မရှိ၊ ကိုင်တွယ်စမ်းသပ်၍မရ၊ မြင်လည်းမမြင်နိုင်၊ စိတ်ဖြင့်သာ တွေးတော သိနိုင်သော နာမ်ကို .........နာမ်ဟု ခေါ်သည်။

(ခ) တစ်ဦး၊ တစ်ယောက်၊ တစ်ခုအတွက် သီးခြား မှည့်ခေါ်ထားသောအမည်ကို .........နာမ်ဟု ခေါ်သည်။

(ဂ) အများနှင့်ဆိုင်သောပုဂ္ဂိုလ်၊ သတ္တဝါ၊ အရာဝတ္ထု တို့၏အမည်ကို .........နာမ် ဟု ခေါ်သည်။

(ဃ) အစုအပေါင်း၊ အသင်းအဖွဲ့ကို ဖော်ပြသော နာမ်ကို.........နာမ်ဟု ခေါ်သည်။

(င) ဖွဲ့၊ သတ္တိ၊ စေတနာတို့သည်.........နာမ်များ ဖြစ်ကြသည်။

(စ) လူထု၊ ပရိဘောဂ၊ တပ်မတော်တို့သည်......... နာမ်များဖြစ်ကြသည်။

(ဆ) ကော်မတီ၊ ကောင်စီ၊ အဖွဲ့တို့သည်.........နာမ် များဖြစ်ကြသည်။

(ဇ) ရန်ကုန်၊ မန္တလေး၊ မြစ်ကြီးနားတို့သည်......... နာမ်များ ဖြစ်ကြသည်။

(ဈ) ချစ်ခြင်း၊ မုန်းခြင်း၊ ကျန်းမာခြင်းတို့သည် .........နာမ်များဖြစ်ကြသည်။

# နာမ်စား

**နာမ်စား**

၁၂။ နာမ်၏အစားသုံးသော ပုဒ်ကို **နာမ်စား**ဟု ခေါ်သည်။

**သာဓက**။ ။ ကျွန်တော်၊ ကျွန်မ၊ ငါ၊ ကျွန်ုပ်၊ ကျုပ်၊ မိမိ၊ သင်၊ မင်း၊ ခင်ဗျား၊ ရှင်၊ နင်၊ ညည်း၊ သူ၊ သင်း၊ ဤ၊ သည်၊ ထို၊ ၎င်း၊ အဘယ်၊ ဘယ်၊ ဘာ၊ မည်သူ၊ အချို့၊ အားလုံး။

၁၃။ နာမ်စား ၄ မျိုးရှိသည်။ ၎င်းတို့မှာ–

(က) ပုဂ္ဂလနာမ်စား

(ခ) အညွှန်းနာမ်စား

(ဂ) အမေးနာမ်စား

(ဃ) သင်္ချာနာမ်စားတို့ဖြစ်ကြသည်။

၁၄။ (က) **ပုဂ္ဂလနာမ်စား**။ ။ ပုဂ္ဂိုလ်၏အစားသုံးသော နာမ်စားကို **ပုဂ္ဂလနာမ်စား** ဟု ခေါ်သည်။

**သာဓက**။ ။ ကျွန်တော်၊ ကျွန်မ၊ ငါ၊ ကျွန်ုပ်၊ မိမိ၊ မင်း၊ နင်၊ ရှင်၊ သူ။

(၁) "**ကျွန်တော်** ဖျားနေလို့ အိမ်ပြန်ခွင့်ပြုပါဆရာမ" ဟု မောင်ခင်က သူ၏ ဆရာမထံ ခွင့်တောင်းသည်။

ဤဝါကျ၌ **မောင်ခင်**ဟူသော နာမ်သည် ပုဂ္ဂိုလ်၏အမည်ဖြစ်သည်။ **ကျွန်တော်**နှင့် **သူ**သည် ပြောသူ **မောင်ခင်**ဟူသော နာမ်၏အစားသုံးသော နာမ်စားဖြစ်သည်။ ထို့ကြောင့် **ကျွန်တော်**နှင့်**သူ**သည် **ပုဂ္ဂလနာမ်စား** ဖြစ်သည်။

(၂) "**မင်း**ကို **ငါ**ဈေးထဲမှာ တွေ့လိုက်တယ်"ဟု မောင်ဘကို မောင်ခိုင်က ပြောသည်။

ဤဝါကျ၌ ပြောသူမှာ **မောင်ခိုင်**ဖြစ်သည်။ နားထောင်သူမှာ **မောင်ဘ** ဖြစ်သည်။ **မင်း**သည် နားထောင်သူ **မောင်ဘ**ဟူသော နာမ်၏အစား သုံးသော နာမ်စား ဖြစ်သည်။ **ငါ**သည် ပြောသူ **မောင်ခိုင်**ဟူသော နာမ်၏ အစားသုံးသော နာမ်စားဖြစ်သည်။ ထိုကြောင့် **မင်း**နှင့်**ငါ**သည် **ပုဂ္ဂလနာမ်စား** ဖြစ်သည်။

(၃) "**ရှင်**မနေ့က အလှူသွားသေးသလား၊ **ကျွန်မ**တော့ မသွားဖြစ်ဘူး" ဟု အေးမိက ဖိုးမောင်ကို ပြောသည်။

ဤဝါကျ၌ ပြောသူမှာ **အေးမိ** ဖြစ်သည်။ နားထောင်သူမှာ **ဖိုးမောင်** ဖြစ်သည်။ **ရှင်** သည် နားထောင်သူ **ဖိုးမောင်** ဟူသော နာမ်၏အစား သုံးသော နာမ်စား ဖြစ်သည်။ **ကျွန်မ**သည် ပြောသူ **အေးမိ** ဟူသော နာမ်၏အစားသုံးသော နာမ်စားဖြစ်သည်။ ထို့ကြောင့် **ရှင်**နှင့်**ကျွန်မ** သည် **ပုဂ္ဂလနာမ်စား** ဖြစ်သည်။

(၄) "**မိမိ**ကိုယ်ကို ကောင်းအောင်ကြိုးစားပါ" ဟု **ဆရာကြီး**က **တပည့်ကို** ဆုံးမသည်။

ဤဝါကျ၌ ဆုံးမသူမှာ **ဆရာကြီး**ဖြစ်၍ နားထောင်သူမှာ **တပည့်** ဖြစ်သည်။ **မိမိ**သည် နားထောင်သူ **တပည့်** ဟူသော နာမ်၏အစား သုံးထားသော နာမ်စားဖြစ်သည်။ ထို့ကြောင့် **မိမိ**သည် **ပုဂ္ဂလနာမ်စား** ဖြစ်သည်။

(ခ) **အညွှန်းနာမ်စား**။ ။ နာမ်ပုဒ်တစ်ခုကို ညွှန်ပြသည့် နာမ်စားကို **အညွှန်းနာမ်စား** ဟု ခေါ်သည်။

**သာဓက**။ ။ ဤ၊ သည်၊ ထို၊ ၎င်း။

(၁) (ကက) "ပညာရွှေအိုးလူမခိုး" ဟူသော **စကား**ရှိသည်။

(ခခ) **ဤ**ကား ရှေးပညာရှိတို့၏ အဆိုအမိန့်တည်း။

ဤဝါကျ ၂ ခုတွင် ပထမဝါကျရှိ **စကား**သည် နာမ်ဖြစ်သည်။ ဒုတိယဝါကျရှိ **ဤ**သည် ပထမဝါကျရှိ **စကား** ဟူသော နာမ်၏အစားသုံးထားသော နာမ်စား ဖြစ်သည်။ ထို့ပြင် **စကား**ဟူသော နာမ်ကိုလည်း ညွှန်ပြသည်။ ထို့ကြောင့် **ဤ**သည် **အညွှန်းနာမ်စား**ဖြစ်သည်။

(၂) (ကက) ထမင်းဆိုင်မှာ မစားပါနှင့်၊ **သည်**မှာ စားပါ။

(ခခ) သူတို့အိမ်မှာ မတည်းပါနှင့်၊ **သည်**မှာတည်းပါ။

ဤဝါကျ ၂ ခုစလုံးတွင် **သည်**သည် ပြောသူနေထိုင်ရာ ကို ညွှန်ပြသော စကားလုံးဖြစ်သည်။ "ကျွန်ုပ်အိမ်မှာ စားပါ၊ ကျွန်ုပ်အိမ်မှာတည်းပါ"ဟု ဆိုမည့် အစား "**သည်**မှာ စားပါ၊ **သည်**မှာတည်းပါ" ဟု ဆိုခြင်းကြောင့် "(ကျွန်ုပ်) **အိမ်"** ဟူသော နာမ်၏အစား **သည်**ကို သုံးထားခြင်း ဖြစ်သည်။ ထို့ကြောင့် **သည်**သည် **အညွှန်းနာမ်စား**ဖြစ်သည်။

(၃) (ကက) မောင်နိုင်သည်**မန္တလေး**သို့ သွားသည်။

(ခခ) **ထို**မှတစ်ဆင့် မေမြို့သို့ ခရီးဆက်မည်။

ဤဝါကျ ၂ခုတွင် ပထမဝါကျရှိ **မန္တလေး**သည် နာမ်ဖြစ်သည်။ ဒုတိယဝါကျရှိ **ထို**သည် ပထမဝါကျရှိ **မန္တလေး** ဟူသော နာမ်၏အစား သုံးထားသော နာမ်စား ဖြစ်သည်။ ထို့ပြင် **မန္တလေး**ဟူသော နာမ်ကိုလည်း ညွှန်ပြသည်။ ထို့ကြောင့် **ထို**သည် **အညွှန်းနာမ်စား** ဖြစ်သည်။

(၄) (ကက) မောင်ကျော်သည် မွေးနေ့လက်ဆောင်အဖြစ် **စက်ဘီး** တစ်စီးကို ရသည်။

(ခခ) **၎င်း**ကို သူအလွန်နှစ်သက်သည်။

ဤဝါကျ ၂ ခုတွင် ပထမဝါကျရှိ **စက်ဘီး**သည် နာမ်

ဖြစ်သည်။ ဒုတိယဝါကျရှိ **၎င်း**သည် ပထမဝါကျရှိ **စက်ဘီး**ဟူသော နာမ်၏အစားသုံးထားသော နာမ်စား ဖြစ်သည်။ ထို့ပြင် **စက်ဘီး**ဟူသော နာမ်ကိုလည်း ညွှန်ပြသည်။ ထို့ကြောင့် **၎င်း**သည် **အညွှန်းနာမ်စား** ဖြစ်သည်။

(ဂ) **အမေးနာမ်စား**။ ။ အမေးသဘောဖြင့် သုံးသော နာမ်စားကို **အမေးနာမ်စား** ဟု ခေါ်သည်။

**သာဓက**။ ။ ဘယ်၊ ဘာ၊ မည်သူ။

(၁) (ကက) ဤစာအုပ်ကို **ဘယ်**က ဝယ်လာသနည်း။

(ခခ) အမေ**ဘယ်**သွားသနည်း။

ဤဝါကျ ၂ ခုတွင် ပထမဝါကျရှိ **ဘယ်**သည် စာအုပ်ဝယ်လာသည့်နေရာကို မေးမြန်းခြင်းဖြင့် ဝယ်လာသည့်နေရာ (နာမ်)၏အစား သုံးသော နာမ်စားဖြစ်သည်။ ဒုတိယဝါကျရှိ **ဘယ်**မှာမူ အမေသွားသည့်နေရာကို မေးမြန်းခြင်းဖြင့် အမေသွားရာနေရာ (နာမ်)၏အစား သုံးသော နာမ်စားဖြစ်သည်။ ထို့ကြောင့် **ဘယ်**သည် **အမေးနာမ်စား** ဖြစ်သည်။

(၂) (ကက) အမေ**ဘာ**ကိုကြိုက်သလဲ။

(ခခ) အမေ **ဘာ**ဝယ်လာသလဲ။

ဤဝါကျ ၂ ခုတွင် ပထမဝါကျရှိ **ဘာ**သည် အမေကြိုက်သည့်အရာကို မေးမြန်းခြင်းဖြင့် အမေကြိုက်သည့်အရာ (နာမ်)၏အစားသုံးသော နာမ်စားဖြစ်သည်။

ဒုတိယဝါကျရှိ **ဘာ**မှာမူအမေဝယ်လာသည့် အရာကို မေးမြန်းခြင်း ဖြင့် ဝယ်လာသည့်အရာ (နာမ်)၏အစား သုံးသော နာမ်စားဖြစ်သည်။ ထို့ကြောင့် **ဘာ**သည် **အမေးနာမ်စား**ဖြစ်သည်။

(၃) (ကက) ဈေးသို့ **မည်သူ** သွားသနည်း။

(ခခ) ဈေး၌ **မည်သူ**နှင့် တွေ့ခဲ့သနည်း။

ဤဝါကျ ၂ ခုတွင် ပထမဝါကျရှိ **မည်သူ**သည် ဈေးသို့ သွားသူကို မေးမြန်းခြင်းဖြင့် သွားသူ(နာမ်)၏ အစား သုံးသော နာမ်စား ဖြစ်သည်။ ဒုတိယဝါကျရှိ **မည်သူ**မှာမူ ဈေး၌တွေ့ခဲ့သူကို မေးမြန်းခြင်းဖြင့် တွေ့ခဲ့သူ(နာမ်)၏အစား သုံးသော နာမ်စားဖြစ်သည်။ ထို့ကြောင့် **မည်သူ**သည် **အမေးနာမ်စား**ဖြစ်သည်။

(ဃ) **သင်္ချာနာမ်စား**။ ။ အရေအတွက်အနည်းအများ၊ ပမာဏကို ပြသော နာမ်စားကို **သင်္ချာနာမ်စား**ဟု ခေါ်သည်။

**သာဓက** ။ ။ တစ်ပါး၊ နှစ်ယောက်၊ သုံးကောင်၊ လေးခု၊ အချို့၊ အားလုံး၊ အနည်းငယ်၊ တစ်ဝက်။

(၁) (ကက) ဦးမြမှာ **သား**နှစ်ယောက်ရှိသည်။

(ခခ) **တစ်ယောက်**သည် ရန်ကုန်မြို့တွင် နေသည်။

(ဂဂ) **တစ်ယောက်**သည် မန္တလေးမှာ နေသည်။

ဤဝါကျ ၃ ခုတွင် ပထမဝါကျရှိ **သား**သည် နာမ် ဖြစ်သည်။ ဒုတိယဝါကျရှိ **တစ်ယောက်**နှင့် တတိယဝါကျ ရှိ **တစ်ယောက်** တို့သည် **သား**ဟူသော နာမ်၏ အစားသုံးထားသော နာမ်စားများ ဖြစ်ကြသည်။ ထို့ပြင် အရေအတွက်ကိုလည်း ပြသည်။ ထို့ကြောင့် **တစ်ယောက်** သည် **သင်္ချာနာမ်စား**ဖြစ်သည်။

(၂) (ကက) ကျွန်ုပ်တွင် **မြင်း**လေးကောင်ရှိသည်။

(ခခ) **တစ်ကောင်**မှာ အုန်းခွံရောင်ဖြစ်သည်။

(ဂဂ) **သုံးကောင်**မှာ အညိုရောင်ဖြစ်သည်။

ဤဝါကျ ၃ ခုတွင် ပထမဝါကျရှိ **မြင်း**သည် နာမ်ဖြစ်သည်။ ဒုတိယဝါကျရှိ **တစ်ကောင်**နှင့် တတိယဝါကျရှိ **သုံးကောင်** တို့ သည် **မြင်း**ဟူသော နာမ်၏အစား သုံးထားသည့် နာမ်စားများ ဖြစ်ကြသည်။ ထို့ပြင် အရေအတွက်ကိုလည်း ပြသည်။ ထို့ကြောင့် **တစ်ကောင်**နှင့်**သုံးကောင်**တို့သည် **သင်္ချာနာမ်စားများ** ဖြစ်ကြသည်။

(၃) (ကက) ခြံထဲတွင် **ပန်းပင်များ**ရှိကြသည်။

(ခခ) **အချို့**သည် နှင်းဆီပန်းပင်များ ဖြစ်ကြသည်။

ဤဝါကျ ၂ ခုတွင် ပထမဝါကျရှိ **ပန်းပင်များ**သည် နာမ် ဖြစ်သည်။ ဒုတိယဝါကျရှိ **အချို့**သည် ပထမဝါကျရှိ ပန်းပင်အားလုံး အနက်မှ ပန်းပင်တစ်စိတ်တစ်ဒေသ၏ အစားသုံးထားသော နာမ်စားဖြစ်သည်။ ထို့ကြောင့် **အချို့** သည် **သင်္ချာနာမ်စား**ဖြစ်သည်။

(၄) (ကက) ဦးဖိုးမောင်တွင် **သားသမီး**သုံးယောက်ရှိသည်။

(ခခ) **အားလုံး**လိမ္မာကြသည်။

ဤဝါကျ ၂ ခုတွင် ပထမဝါကျရှိ **သားသမီး**သည် နာမ် ဖြစ်သည်။ ဒုတိယဝါကျရှိ **အားလုံး**သည် ပထမဝါကျရှိ **သားသမီး** ဟူသော နာမ်၏အစား သုံးထားသောနာမ်စား ဖြစ်သည်။ ထို့ပြင် အရေအတွက် ပမာဏကိုလည်းပြသည်။ ထို့ကြောင့် **အားလုံး**သည် **သင်္ချာနာမ်စား**ဖြစ်သည်။

# လေ့ကျင့်ခန်း

၁။ နာမ်စားဆိုသည်မှာ အဘယ်နည်း။

၂။ ပုဂ္ဂလနာမ်စားဆိုသည်မှာ အဘယ်နည်း။ ပုဂ္ဂလနာမ်စား ၅ ခုကို ရေးပါ။

၃။ အညွှန်းနာမ်စားဆိုသည်မှာ အဘယ်နည်း။ အညွှန်းနာမ်စား ၃ ခုကို ရေးပါ။

၄။ အမေးနာမ်စားဆိုသည်မှာ အဘယ်နည်း။ အမေးနာမ်စား ၃ ခုကို ရေးပါ။

၅။ သင်္ချာနာမ်စားဆိုသည်မှာ အဘယ်နည်း။ သင်္ချာနာမ်စား ၅ ခုကို ရေးပါ။

၆။ အောက်ပါ မျဉ်းသားထားသော နာမ်စားအသီးသီး၏ အမျိုးအမည်ကို ရေးပါ။

(က) ကျွန်ုပ်တွင် မြင်းလေးကောင်ရှိသည်။ တစ်ကောင်မှာ အုန်းခွံရောင်ဖြစ်သည်။ သုံးကောင် မှာ အညိုရောင်ဖြစ်သည်။

(ခ) ဦးဖိုးမောင်တွင် သားသုံးယောက်ရှိသည်။ ၎င်းတို့ အနက် နှစ်ယောက်သည် ပဥ္စမတန်း ကျောင်းသားများဖြစ်၍ တစ်ယောက်သည် ဆဋ္ဌမတန်းကျောင်းသား ဖြစ်သည်။

(ဂ) ကျွန်မသည် ပုံပြင်စာအုပ်တစ်အုပ်ကို မနေ့က ဖတ်ပါသည်။ ၎င်းသည် အလွန် စိတ်ဝင်စားဖွယ် ကောင်းပါသည်။

(ဃ) မခင်သည် ခြံထဲ၌ မြွေကြီးတစ်ကောင်ကို တွေ့သည်။ ၎င်းသည် ရောမမြွေကြီး ဖြစ်သည်။ သူ၏သူငယ်ချင်းများကို ခေါ်ပါသည်။ သူတို့လည်း အလွန် ကြောက်လန့်သွားကြသည်။

(င) အဘွားသည် အလွန်ပုံပြောကောင်းပါသည်။ ကျွန်တော့်ကို နတ်သမီးပုံပြင်များ ပြောပြပါသည်။ ၎င်းတို့ကို ကျွန်တော်နှစ်သက်ပါသည်။

# လိင်

## လိင်

၁၅။ အထီး၊ အမ သဘာဝကို **လိင်**ဟုခေါ်သည်။ နာမ်၊ နာမ်စားတို့ကို ယောကျ်ား၊ မိန်းမ၊ အထီး၊ အမ စသည်ဖြင့် ခွဲခြားခြင်းသည် **လိင်** သဘော ဖြစ်သည်။

၁၆။ လိင် ၄မျိုးရှိသည်။ ၎င်းတို့မှာ–

(က) ပုလ္လိင်

( ခ ) ဣတ္ထိလိင်

( ဂ ) နပုလ္လိင်

(ဃ) ဒွိလိင်တို့ ဖြစ်ကြသည်။

၁၇။(က) **ပုလ္လိင်**။ ။ အထီးသဘာဝရှိသော နာမ်ကို **ပုလ္လိင်** ဟုခေါ်သည်။

**သာဓက။** ။ အဘိုး၊ အဖေ၊ သား၊ ညီ၊ အစ်ကို၊ မောင်၊ ကျွန်တော်၊ မောင်ရင်၊ ကြောင်ထီး၊ မြင်းထီး၊ နွားထီး၊ ကြက်ဖ၊ သမင်ဖို၊ ငန်းဖို၊ ဝတ်ဆံဖို၊ ထန်းဖို။

(၁) **အဘိုး၊ အဖေ၊ သား၊ ညီ၊ အစ်ကို၊ မောင်**အစရှိသော နာမ်တို့သည် ယောကျ်ားသဘာဝရှိသော နာမ်များဖြစ်ကြသည်။ ထို့ကြောင့် အဆိုပါ နာမ်တို့သည် **ပုလ္လိင်**ဖြစ်သည်။

(၂) **ကျွန်တော်၊ မောင်ရင်**ဟူသော နာမ်စားတို့သည် ယောကျ်ား သဘာဝ ရှိသော ပြောသူ၊ နာသူနှင့်ဆိုင်သည်။ ထို့ကြောင့် အဆိုပါ နာမ်စား တို့သည်လည်း **ပုလ္လိင်** ဖြစ်သည်။

(၃) **ကြောင်ထီး၊ မြင်းထီး၊ နွားထီး၊ ကြက်ဖ၊ သမင်ဖို၊ ငန်းဖို** အစရှိသော နာမ်တို့သည် အထီးသဘာဝရှိသော နာမ်များ ဖြစ်ကြသည်။ ထို့ကြောင့် အဆိုပါနာမ်တို့သည်လည်း **ပုလ္လိင်**ဖြစ်သည်။

(၄) **ဝတ်ဆံဖို၊ ထန်းဖို** အစရှိသော နာမ်တို့သည်လည်း အဖိုသဘာဝ ရှိသော နာမ်များ ဖြစ်ကြသည်။ ထို့ကြောင့် အဆိုပါနာမ်တို့သည်လည်း **ပုလ္လိင်** ပင်ဖြစ်သည်။

(ခ) **ဣတ္ထိလိင်**။ ။ အမသဘာဝရှိသော နာမ်ကို **ဣတ္ထိလိင်** ဟု ခေါ်သည်။

**သာဓက**။ ။ အဘွား၊ အမေ၊ သမီး၊ ညီမ၊ အစ်မ၊ နှမ၊ ကျွန်မ၊ ညည်း၊ ကြောင်မ၊ မြင်းမ၊ နွားမ၊ ကြက်မ၊ ဆိတ်မ၊ သမင်မ၊ ငန်းမ၊ ဝတ်ဆံမ၊ ထန်းမ။

(၁) **အဘွား၊ အမေ၊ သမီး၊ ညီမ၊ အစ်မ၊ နှမ** အစရှိသောနာမ်တို့သည် မိန်းမ သဘာဝရှိသော နာမ်များ ဖြစ်ကြသည်။ ထို့ကြောင့် အဆိုပါနာမ်တို့သည် **ဣတ္ထိလိင်** ဖြစ်သည်။

(၂) **ကျွန်မ၊ ညည်း** ဟူသော နာမ်စားတို့သည် မိန်းမသဘာဝရှိသော ပြောသူ၊ နာသူနှင့်ဆိုင်သည်။ ထို့ကြောင့် အဆိုပါ နာမ်စား တို့သည်လည်း **ဣတ္ထိလိင်** ပင် ဖြစ်သည်။

(၃) **ကြောင်မ၊ မြင်းမ၊ နွားမ၊ ကြက်မ၊ ဆိတ်မ၊ သမင်မ၊ ငန်းမ** အစရှိသော နာမ်တို့သည် အမသဘာဝရှိသော နာမ်များ ဖြစ်ကြ သည်။ ထို့ကြောင့် အဆိုပါ နာမ်တို့သည်လည်း **ဣတ္ထိလိင်** ပင် ဖြစ်သည်။

(၄) **ဝတ်ဆံမ၊ ထန်းမ** အစရှိသော နာမ်တို့သည်လည်း အမသဘာဝ ရှိသော နာမ်များ ဖြစ်ကြသည်။ ထို့ကြောင့် အဆိုပါနာမ်တို့သည်လည်း **ဣတ္ထိလိင်** ပင်ဖြစ်သည်။

(ဂ) **နပုလ္လိင်။** ။ အထီးသဘာဝ၊ အမသဘာဝမရှိသော နာမ်ကို **နပုလ္လိင်** ဟု ခေါ်သည်။

**သာဓက။** ။ ခဲတံ၊ ခဲဖျက်၊ စာအုပ်၊ စားပွဲ၊ ကုလားထိုင်၊ ပုလင်း၊ ဖန်ခွက်။

ခဲတံ၊ ခဲဖျက်၊ စာအုပ် အစရှိသော နာမ်တို့သည် အထီး သဘာဝလည်းမရှိ၊ အမသဘာဝလည်း မရှိ။ ထို့ကြောင့် အဆိုပါ နာမ်တို့သည် **နပုလ္လိင်** ဖြစ်သည်။

(ဃ) **ဒွိလိင်။** ။ အထီးသဘာဝ၊ အမသဘာဝနှစ်မျိုးစလုံးနှင့် ဆိုင်သောနာမ်ကို **ဒွိလိင်**ဟုခေါ်သည်။

**သာဓက။** ။ လူ၊ ငါ၊ ကျွန်ုပ်၊ မင်း၊ နင်၊ သင်၊ သူ၊ သင်း၊ ခွေး၊ ငှက်၊ ဝတ်ဆံ။

(၁) **လူ**ဟူသော နာမ်သည် ယောက်ျား၊ မိန်းမနှစ်မျိုးစလုံးနှင့် ဆိုင်သည်။ ယောက်ျားသဘာဝရှိသူကိုလည်း **လူ**ဟုခေါ်သည်။ မိန်းမသဘာဝရှိသူ ကိုလည်း လူဟုခေါ်သည်။ ဤကဲ့သို့ ယောက်ျား၊ မိန်းမ သဘာဝ နှစ်မျိုးစလုံးနှင့် ဆိုင်သောကြောင့် အဆိုပါနာမ်သည် **ဒွိလိင်** ဖြစ်သည်။

(၂) **ငါ၊ ကျွန်ုပ်၊ မင်း၊ နင်၊ သင်၊ သူ၊ သင်း** ဟူသော နာမ်စား တို့သည် ယောက်ျားနှင့်လည်း ဆိုင်သည်။ မိန်းမနှင့်လည်း ဆိုင်သည်။ ဤသို့ ယောက်ျား၊ မိန်းမနှစ်မျိုးစလုံးနှင့် ဆိုင်သောကြောင့် အဆိုပါ နာမ်စား တို့သည် **ဒွိလိင်**ဖြစ်သည်။

(၃) **ခွေး** ဟူသော နာမ်သည် အထီးသဘာဝရှိသော **ခွေးထီး** နှင့်လည်း ဆိုင် သည်။ အမသဘာဝရှိသော **ခွေးမ**နှင့်လည်း ဆိုင်သည်။ ဤသို့ အထီး၊ အမ နှစ်မျိုးစလုံးနှင့်ဆိုင်သောကြောင့် အဆိုပါနာမ်သည် **ဒွိလိင်** ဖြစ်သည်။

(၄) **ငှက်**ဟူသောနာမ်သည် အဖိုသဘာဝရှိသော **ငှက်ဖို**နှင့်လည်း ဆိုင်သည်။ အမသဘာဝ ရှိသော **ငှက်မ**နှင့်လည်း ဆိုင်သည်။ ဤသို့ အဖို၊ အမ သဘာဝနှစ်မျိုးစလုံးနှင့် ဆိုင်သောကြောင့် အဆိုပါနာမ်သည် **ဒွိလိင်** ဖြစ်သည်။

(၅) **ဝတ်ဆံ**ဟူသော နာမ်သည် **ဝတ်ဆံဖို**နှင့်လည်း ဆိုင်သည်။ **ဝတ်ဆံမ** နှင့် လည်း ဆိုင်သည်။ ဤသို့ အဖိုသဘာဝ၊ အမသဘာဝ နှစ်မျိုးစလုံးနှင့် ဆိုင်သောကြောင့် အဆိုပါနာမ်သည် **ဒွိလိင်** ဖြစ်သည်။

**လိင် ၄ မျိုးပြဇယား**

| ပုလ္လိင် | ဣတ္ထိလိင် | နပုလ္လိင် | ဒွိလိင် |
|---|---|---|---|
| အဘိုး | အဘွား | ခဲတံ | လူ |
| အဖေ | အမေ | ခဲဖျက် | ငါ |
| သား | သမီး | စာအုပ် | ကျွန်ုပ် |
| အစ်ကို | အစ်မ | ကုလားထိုင် | နင် |
| ညီ | ညီမ | စားပွဲ | မင်း |
| မောင် | နှမ | ပုလင်း | သူ |
| ဦးကြီး | ဒေါ်ကြီး | ဖန်ခွက် | ခွေး |
| လူပျို | အပျို | အိမ် | ကြောင် |
| ကျွန်တော် | ကျွန်မ | ကျောင်း | ငှက် |
| မောင်ရင် | ညည်း | နာရီ | ဝတ်ဆံ |

# ကိန်း

## ကိန်း

၁၈။ အရေအတွက်ကို **ကိန်း**ဟု ခေါ်သည်။ ကိန်း ၂ မျိုးရှိသည်။ ၎င်းတို့မှာ–
(က) ကေဝုစ်ကိန်း
( ခ ) ဗဟုဝုစ်ကိန်းတို့ဖြစ်ကြသည်။

၁၉။ (က) **ကေဝုစ်ကိန်း။ ။** အရေအတွက်တစ်ခုသာ ပြသော နာမ်ကို **ကေဝုစ်ကိန်း** ဟု ခေါ်သည်။

(၁) **ကလေး**သည် ပျော်ရွှင်စွာ ကစားသည်။
ဤဝါကျ၌ **ကလေး**သည် အရေအတွက်တစ်ခုသာ ရှိသော နာမ်ဖြစ်သည်။ ထို့ကြောင့် **ကလေး**ဟူသော နာမ်သည် **ကေဝုစ်ကိန်း** ဖြစ်သည်။

(၂) မောင်ဘသည် **စာအုပ်**ကို ကိုင်ထားသည်။
ဤဝါကျ၌ **စာအုပ်**သည် အရေအတွက် တစ်ခုသာရှိသော နာမ်ဖြစ်သည်။ ထို့ကြောင့် **စာအုပ်**ဟူသော နာမ်သည် **ကေဝုစ်ကိန်း**ဖြစ်သည်။

(ခ) **ဗဟုဝုစ်ကိန်း။ ။** အရေအတွက် တစ်ခုထက်ပို၍ပြသော နာမ်ကို **ဗဟုဝုစ်ကိန်း** ဟု ခေါ်သည်။

(၁) **ကလေးများ** ပျော်ရွှင်စွာ ကစားကြသည်။
ဤဝါကျ၌ **ကလေးများ**သည် အရေအတွက်တစ်ခုထက် ပိုသော နာမ်ဖြစ်သည်။ အရေအတွက်တစ်ခုထက် ပိုကြောင်းကို **များ**ဟူသော ကိန်းညွှန်းပစ္စည်းက ပြသည်။ ထို့ကြောင့် **ကလေးများ**သည် **ဗဟုဝုစ်ကိန်း** ဖြစ်သည်။

(၂) မောင်ဘသည် **စာအုပ်များကို** ကိုင်ထားသည်။
ဤဝါကျ၌ **စာအုပ်များ** သည် အရေအတွက် တစ်ခုထက် ပိုသော နာမ်ဖြစ်သည်။ အရေအတွက် တစ်ခုထက်ပိုကြောင်းကို **များ** ဟူသော ကိန်းညွှန်းပစ္စည်းက ပြသည်။ ထို့ကြောင့် **စာအုပ်များ** သည် **ဗဟုဝုစ်ကိန်း** ဖြစ်သည်။

## လေ့ကျင့်ခန်း

၁။ လိင်ဆိုသည်မှာ အဘယ်နည်း။

၂။ ပုလ္လိင်ဆိုသည်မှာ အဘယ်နည်း။ အောက်ပါနာမ်များမှ ပုလ္လိင်နာမ်တို့ကို ရွေးထုတ်ပြပါ။
မမ၊ ကိုကို၊ ဘကြီး၊ ဒေါ်ကြီး၊ မိထွေး၊ ဘထွေး၊ ဦးလေး၊ ဒေါ်လေး၊ ကြက်မ၊ နွားမ၊ အဘွား၊ အဘိုး၊ အဖေ၊ အမေ၊ မြင်းမ၊ နွားထီး၊ ပျားဘုရင်မ၊ ပျားထီး၊ ငန်းဖို။

၃။ ဣတ္ထိလိင်ဆိုသည်မှာ အဘယ်နည်း။ အောက်ပါနာမ်များမှ ဣတ္ထိလိင်နာမ်တို့ကို ရွေးထုတ်ပြပါ။
အဘွား၊ အဘိုး၊ အမေ၊ အဖေ၊ ဆရာ၊ ကျွန်မ၊ ကျွန်တော်၊ သား၊ သမီး၊ ညီမ၊ မောင်၊ အစ်ကို၊ အစ်မ၊ မြင်းထီး၊ မြင်းမ၊ သမင်ဖို၊ သမင်မ၊ ဆိတ်ထီး၊ ဆိတ်မ၊ ထန်းဖို၊ ထန်းမ။

၄။ နပုလ္လိင်ဆိုသည်မှာ အဘယ်နည်း။ အောက်ပါနာမ်များမှ နပုလ္လိင်နာမ်တို့ကို ရွေးထုတ်ပြပါ။
ကျောင်းသား၊ ခဲတံ၊ စာအုပ်၊ ကျောင်းသူ၊ စားပွဲ၊ ထမင်း၊ ပန်းကန်၊ ခွေး၊ ကြောင်၊ ပုလင်း၊ ဖန်ခွက်၊ ယောက်ျား၊ မိန်းမ၊ သော့၊ ငါး၊ တံခါး၊ ပြတင်းပေါက်။

၅။ ဒွိလိင်ဆိုသည်မှာ အဘယ်နည်း။ အောက်ပါနာမ်များမှ ဒွိလိင်နာမ်တို့ကို ရွေးထုတ်ပြပါ။
လှေ၊ အိမ်၊ ငှက်၊ ယောက်ျား၊ ငါ၊ နင်၊ ရှင်ဘုရင်၊ ခွေး၊ သူ၊ ကလေး၊ အပျို၊ ဝတ်ဆံ၊ မင်း၊ ဦးကြီး၊ ခင်ဗျား။

၆။ အောက်ပါနာမ်များကို လိင်ခွဲပြပါ။
ကျောင်းဒကာ၊ အညာသူ၊ စစ်သူကြီး၊ သူနာပြုဆရာမ၊ မင်းသမီး၊ မင်အိုး၊ အဘိုး၊ ပေတံ၊ ယောက်ျား၊ နွား၊ ပြတင်းပေါက်၊ ခဲအို၊ ခယ်မ၊ ကျွန်မ၊ ပုလင်း၊ ကလေး၊ သော့၊ ညီမ၊ ဦးကြီး၊ နင်။

၇။ အောက်ပါ ပုလ္လိင်နာမ်အသီးသီးကို ဣတ္ထိလိင်နာမ်သို့ ပြောင်းပါ။
ဘကြီး၊ ဘထွေး၊ ယောက်ျား၊ လင်၊ မတ်၊ သမက်၊ ခဲအို၊ သား၊ မောင်၊ ညီ၊ ကျောင်းဒကာ၊ မင်းသား၊ မုဆိုးဖို၊ အဘိုး၊ အဖေ၊ အစ်ကို၊ မြို့သား။

၈။ အောက်ပါ ဣတ္ထိလိင်နာမ်အသီးသီးကို ပုလ္လိင်နာမ်သို့ ပြောင်းပါ။
တောသူ၊ ညီမ၊ တူမ၊ အိမ်ရှင်မ၊ ဆရာမ၊ မယ်တော်၊ အပျို၊ နွားမ၊ ဒေါ်ကြီး၊ အစ်မ၊ အမေ၊ မိန်းမ၊ ကျွန်မ။

၉။ အောက်ပါပုလ္လိင်နာမ်တို့နှင့် ဣတ္ထိလိင်နာမ်တို့ကို ဆီလျော်အောင် တွဲပြပါ။

| | |
|---|---|
| အလှူ့ဒကာ | မုဆိုးမ |
| မင်းသား | အဘွား |
| မုဆိုးဖို | အမေ |
| အဘိုး | မိန်းမ |
| အဖေ | အလှူ့အမ |
| ယောက်ျား | မင်းသမီး |
| လူပျို | ဆိတ်မ |
| ဦးလေး | နွားမ |
| နွားထီး | မြင်းမ |
| မြင်းထီး | အပျို |
| ဆိတ်ထီး | ဒေါ်လေး |

# ကြိယာ

**ကြိယာ**

၂၀။ ပြုခြင်းကိုဖြစ်စေ၊ ဖြစ်ခြင်းကိုဖြစ်စေ၊ ရှိခြင်းကိုဖြစ်စေ ပြသောပုဒ်ကို **ကြိယာ**ဟု ခေါ်သည်။

**သာဓက**။ ။ ပြေး၊ ကန်၊ ခွဲ၊ ချက်၊ ကွဲ၊ ကျက်၊ ဖြစ်၊ ပျော်၊ ရှိ။

၂၁။ ကြိယာသည် အနက်အဓိပ္ပာယ်အရ ၃ မျိုးရှိသည်။ ၎င်းတို့မှာ–

(က) ပြုခြင်းပြကြိယာ

(ခ) ဖြစ်ခြင်းပြကြိယာ

(ဂ) ရှိခြင်းပြကြိယာတို့ ဖြစ်ကြသည်။

၂၂။ (က) **ပြုခြင်းပြကြိယာ။ ။** ပြုမူလှုပ်ရှားမှုကိုပြသော ကြိယာကို **ပြုခြင်းပြကြိယာ** ဟု ခေါ်သည်။

**သာဓက**။ ။ ပြေး၊ ကန်၊ ခွဲ၊ ချက်။

(၁) သူ**ပြေး**သည်။

(၂) ညီညီသည် ဘောလုံးကို **ကန်**သည်။

(၃) အဖေသည် အုန်းသီးကို **ခွဲ**သည်။

(၄) အမေသည် ထမင်းကို **ချက်**သည်။

(ဖော်ပြပါ ဝါကျတို့တွင်–

– ဝါကျ (၁) ၌ **ပြေး**ဟူသော ကြိယာသည် "သူ" ဟူသော ကတ္တား၏ **ပြုခြင်း** ကို ပြသည်။

– ဝါကျ(၂) ၌ **ကန်**ဟူသော ကြိယာသည် "ညီညီ" ဟူသော ကတ္တား၏ **ပြုခြင်း** ကို ပြသည်။

– ဝါကျ (၃) ၌ **ခွဲ**ဟူသော ကြိယာသည် "အဖေ"ဟူသော ကတ္တား၏**ပြုခြင်း** ကို ပြသည်။

– ဝါကျ(၄)၌ **ချက်**ဟူသော ကြိယာသည် "အမေ" ဟူသော ကတ္တား၏ **ပြုခြင်း**ကို ပြသည်။

ထို့ကြောင့် **ပြေး၊ ကန်၊ ခွဲ၊ ချက်** ဟူသော ကြိယာတို့သည် ပြုခြင်းကို ပြသည့် **ပြုခြင်းပြကြိယာ**များ ဖြစ်ကြသည်။)

(ခ) **ဖြစ်ခြင်းပြကြိယာ။ ။** သက်ရှိသက်မဲ့တို့၏ ဖြစ်မှုအခြေအနေကို ဖော်ပြသော ကြိယာကို **ဖြစ်ခြင်းပြကြိယာ**ဟု ခေါ်သည်။

**သာဓက**။ ။ ကွဲ၊ ကျက်၊ ပျော်၊ ဖြစ်။

(၁) ဖန်ခွက်**ကွဲ**သည်။

(၂) ထမင်း**ကျက်**ပြီ။

(၃) သူ**ပျော်**သည်။

(၄) မောင်ဘသည် ကျောင်းသား**ဖြစ်**သည်။

(ဖော်ပြပါ ဝါကျတို့တွင် –

– ဝါကျ(၁)၌ **ကွဲ**ဟူသော ကြိယာသည် "ဖန်ခွက်" ဟူသော ကတ္တား၏ **ဖြစ်မှုအခြေအနေ**ကို ပြသည်။

– ဝါကျ(၂)၌ **ကျက်**ဟူသောကြိယာသည် "ထမင်း" ဟူသော ကတ္တား၏ **ဖြစ်မှုအခြေအနေ**ကို ပြသည်။

– ဝါကျ(၃)၌ **ပျော်**ဟူသော ကြိယာသည် "သူ"ဟူသော ကတ္တား၏ **ဖြစ်မှုအခြေအနေ**ကို ပြသည်။

– ဝါကျ (၄)၌ **ဖြစ်**ဟူသော ကြိယာသည် "မောင်ဘ" ဟူသော ကတ္တား၏ **ဖြစ်မှုအခြေအနေ**ကို ပြသည်။

– ထို့ကြောင့် **ကွဲ၊ ကျက်၊ ပျော်၊ ဖြစ်** ဟူသော ကြိယာတို့သည် ဖြစ်ခြင်းကိုပြသည့် **ဖြစ်ခြင်းပြကြိယာ** များ ဖြစ်ကြသည်။)

(ဂ) **ရှိခြင်းပြကြိယာ**။ ။ လူ၊ နေရာဒေသ၊ အရာဝတ္ထု စသည်တို့ ရှိနေခြင်း၊ တည်နေခြင်းကိုပြသောကြိယာကို **ရှိခြင်းပြကြိယာ**ဟု ခေါ်သည်။

**သာဓက**။ ။ ရှိ၊ တည်ရှိ။

(၁) ကန်ထဲ၌ ကြာ **ရှိ**သည်။

(၂) ရန်ကုန်မြို့သည် လှိုင်မြစ်ဝ၌ **တည်ရှိ**သည်။

(၃) ကျွန်ုပ်၌ ငွေငါးကျပ်**ရှိ**သည်။

(၄) အဖေသည် စာကြည့်ခန်း၌ **ရှိ**သည်။

(၅) ကျွန်ုပ်တို့ကျောင်းရှေ့၌ ကစားကွင်း**ရှိ**သည်။

(ဖော်ပြပါဝါကျတို့တွင် –

– ဝါကျ (၁) ၌ **ရှိ**ဟူသော ကြိယာသည် "ကြာ" ဟူသော ကတ္တား၏ **ရှိခြင်း** ကို ပြသည်။

– ဝါကျ (၂) ၌ **တည်ရှိ**ဟူသော ကြိယာသည် "ရန်ကုန်မြို့" ဟူသော ကတ္တား၏ **ရှိခြင်း**ကို ပြသည်။

– ဝါကျ (၃) ၌ **ရှိ**ဟူသော ကြိယာသည် "ငွေငါးကျပ်" ဟူသော ကတ္တား ၏ **ရှိခြင်း**ကို ပြသည်။

– ဝါကျ (၄) ၌ **ရှိ**ဟူသော ကြိယာသည် "အဖေ" ဟူသော ကတ္တား၏ **ရှိခြင်း**ကို ပြသည်။

– ဝါကျ (၅) ၌ **ရှိ**ဟူသော ကြိယာသည် "ကစားကွင်း" ဟူသော ကတ္တား၏ **ရှိခြင်း**ကို ပြသည်။

ထို့ကြောင့် **ရှိ၊ တည်ရှိ**ဟူသောကြိယာတို့သည် ရှိခြင်းကို ပြသည့် **ရှိခြင်းပြကြိယာ**များ ဖြစ်ကြသည်။)

## လေ့ကျင့်ခန်း

၁။ ကြိယာဆိုသည်မှာ အဘယ်နည်း။

၂။ အောက်ပါဝါကျအသီးသီး၌ပါဝင်သော ကြိယာတို့ကို ထုတ်၍ ၎င်းတို့၏ အမျိုးအမည်ကို ရေးပါ။

(က) ဖွဲ့ရှိက အောင်မြင်သည်။

(ခ) ကျန်းမာခြင်းသည် လာဘ်ကြီးတစ်ပါးဖြစ်သည်။

(ဂ) အလိမ္မာစာမှာရှိသည်။

(ဃ) မြန်မာမှုကို ထိန်းသိမ်းပါ။

(င) မိမိကိုယ်ကို ကောင်းအောင် ကြိုးစားမည်။

(စ) ကိုယ်ချင်းစာနာစိတ်ကို မွေးမြူပါ။

(ဆ) တန်ဆောင်မုန်းလပြည့်ကျော် ၁၀ ရက်နေ့သည် အမျိုးသားနေ့ဖြစ်သည်။

(ဇ) ချိုသာသောစကားကို လူတိုင်းနှစ်သက်သည်။

(ဈ) တို့နိုင်ငံကို တို့ချစ်သည်။

(ည) မူးယစ်ဆေးဝါးသုံးလျှင် လူမျိုးပါ ပြုန်းမည်။

၃။ ပြုခြင်းပြကြိယာဆိုသည်မှာ အဘယ်နည်း၊ ပြုခြင်းပြကြိယာ ၅ ခုကို ရေးပါ။

၄။ ဖြစ်ခြင်းပြကြိယာဆိုသည်မှာ အဘယ်နည်း၊ ဖြစ်ခြင်းပြ ကြိယာ ၅ ခုကို ရေးပါ။

၅။ ရှိခြင်းပြကြိယာဆိုသည်မှာ အဘယ်နည်း၊ ရှိခြင်းပြကြိယာ ၂ ခုကို ရေးပါ။

၆။ အောက်ပါကြိယာများကို အမျိုးအစားအလိုက် အစုခွဲပြပါ။

ပြေး၊ ရိုက်၊ ရှိ၊ ဖြစ်၊ ပျော်၊ နေ၊ လေ့ကျင့်၊ အိပ်၊ စား၊ မြင်၊ သွား၊ မှည့်။

၇။ ပြုခြင်းပြကြိယာပါသော ဝါကျ ၃ ခုရေးပါ။

၈။ ဖြစ်ခြင်းပြကြိယာပါသော ဝါကျ ၃ ခုရေးပါ။

၉။ ရှိခြင်းပြကြိယာပါသော ဝါကျ ၁ ခုရေးပါ။

# နာမဝိသေသန

**နာမဝိသေသန**

၂၃။ နာမ်ကို အထူးပြုသော ပုဒ်ကို **နာမဝိသေသန**ဟု ခေါ်သည်။

၂၄။ ဤတွင် **ဝိသေသန**နှင့် **ဝိသေသျ**ဟူသော အသုံးကို သိရန်လိုအပ်သည်။ **ဝိသေသန** ဆိုသည်မှာ အထူးပြုသောပုဒ်ဖြစ်သည်။ **ဝိသေသျ**ဆိုသည်မှာ အထူးပြုခြင်းခံရသောပုဒ် ဖြစ်သည်။

သာဓက။ ။ (က) မောင်ရေခဲသည် **လိမ္မာသော ကျောင်းသား** ဖြစ်သည်။

( ခ ) **ဤစကား**သည် ရှေးပညာရှိတို့၏ အဆိုအမိန့်တည်း။

( ဂ ) မောင်ရေခဲတွင် **ညီသုံးယောက်**ရှိသည်။

(ဖော်ပြပါ သာဓကများတွင်–

(၁) **လိမ္မာသော**သည် **ကျောင်းသား**ဟူသော နာမ်ကို အထူး ပြုသည်။
**ဤ**သည် **စကား**ဟူသောနာမ်ကို အထူးပြုသည်။
**သုံးယောက်**သည် **ညီ**ဟူသော နာမ်ကို အထူးပြုသည်။

ထို့ကြောင့် **လိမ္မာသော၊ ဤ၊ သုံးယောက်**တို့သည် **နာမဝိသေသန**များဖြစ်သည်။

(၂) **ကျောင်းသား**ဟူသောနာမ်သည် **လိမ္မာသော**၏ အထူးပြုခြင်းကို ခံရသည်။
**စကား**ဟူသောနာမ်သည် **ဤ**၏ အထူးပြုခြင်းကို ခံရသည်။
**ညီ**ဟူသောနာမ်သည် **သုံးယောက်**၏အထူးပြုခြင်းကို ခံရသည်။

ထို့ကြောင့် **ကျောင်းသား၊ စကား၊ ညီ**တို့သည် **နာမဝိသေသျ**များ ဖြစ်ကြသည်။)

၂၅။ နာမဝိသေသနသည် အနက်အဓိပ္ပာယ်အရ ၄ မျိုးရှိသည်။ ၎င်းတို့မှာ–

(က) ဂုဏ်ရည်ပြနာမဝိသေသန

( ခ ) အညွှန်းနာမဝိသေသန

( ဂ ) သင်္ချာနာမဝိသေသန

(ဃ) အမေးနာမဝိသေသနတို့ဖြစ်ကြသည်။

၂၆။ (က) **ဂုဏ်ရည်ပြနာမဝိသေသန**။ ။ နာမ်၏ဂုဏ်အရည်အချင်းကိုပြ၍ ယင်းနာမ်ကို အထူးပြုသည့် ပုဒ်ကို **ဂုဏ်ရည်ပြနာမဝိသေသန**ဟု ခေါ်သည်။

**သာဓက**။ ။ လိမ္မာသော၊ ကောင်းသော၊ မိုက်သော၊ ချိုသော၊ ခါးသော။
မောင်ရေခဲသည် **လိမ္မာသော** ကျောင်းသားဖြစ်သည်။ ဤဝါကျ၌ **လိမ္မာသော** က မောင်ရေခဲသည် မည်သို့သော ကျောင်းသားဖြစ်ကြောင်းကို ပြသည်။ **လိမ္မာသော** ဟူသောပုဒ်သည် ဂုဏ်အရည်အချင်းကိုပြခြင်းဖြင့် **ကျောင်းသား** ဟူသောနာမ်ကို အထူးပြုသည်။ ထို့ကြောင့် **လိမ္မာသော**သည် **ဂုဏ်ရည်ပြ နာမဝိသေသန** ဖြစ်သည်။

(ခ) **အညွှန်းနာမဝိသေသန**။ ။ နာမ်ကို ညွှန်ပြခြင်းဖြင့် အထူးပြုသည့်ပုဒ်ကို **အညွှန်းနာမဝိသေသန**ဟု ခေါ်သည်။

**သာဓက**။ ။ ဤ၊ သည်၊ ထို၊ ၎င်း၊ တစ်စုံတစ်ခု၊ တစ်ပါး၊ အခြား။

(၁) ဤစကားသည် ရှေးပညာရှိတို့၏ အဆိုအမိန့်တည်း။
ဤဝါကျ၌ **စကား**သည် နာမ်ဖြစ်သည်။ အဆိုပါစကားသည် အခြားတစ်ပါးသော စကားမဟုတ်။ ရှေးပညာရှိတို့စကားဖြစ်ကြောင်းကို **ဤ**က ညွှန်ပြသည်။ ထိုသို့ ညွှန်ပြခြင်းဖြင့် **ဤ**သည် **စကား**ဟူသော နာမ်ကို အထူးပြုသည်။ ထို့ကြောင့် **ဤ**သည် **အညွှန်းနာမဝိသေသန** ဖြစ်သည်။

(၂) ရှေးပညာရှိတို့၏ **အခြားအဆိုအမိန့်**များလည်း ရှိသေးသည်။
ဤဝါကျ၌ **အဆိုအမိန့်**သည် နာမ်ဖြစ်သည်။ သိရှိပြီး ဖြစ်သော အဆိုအမိန့်များသာမက တစ်ပါးသော အဆိုအမိန့်များလည်း ရှိသေးကြောင်းကို **အခြား**က ညွှန်ပြသည်။ ထိုသို့ညွှန်ပြခြင်းအားဖြင့် **အခြား**သည် **အဆိုအမိန့်**ဟူသောနာမ်ကို အထူးပြုသည်။ ထို့ကြောင့် **အခြား**သည် **အညွှန်းနာမဝိသေသန** ဖြစ်သည်။

(ဂ) **သင်္ချာနာမဝိသေသန**။ ။ အရေအတွက်ကို လည်းကောင်း၊ အစဉ်ကိုလည်းကောင်း၊ အနည်းအများပမာဏကိုလည်းကောင်း ဖော်ပြ၍ နာမ်ကို အထူးပြုသောပုဒ်ကို **သင်္ချာနာမဝိသေသန**ဟု ခေါ်သည်။

**သာဓက**။ ။ တစ်၊ နှစ်၊ သုံး။
ပထမ၊ ဒုတိယ၊ တတိယ။
အချို့၊ အားလုံး၊ အလုံးစုံ။

(၁) မောင်ရေခဲတွင် **ညီသုံးယောက်**ရှိသည်။
ဤဝါကျတွင် **သုံးယောက်**က မောင်ရေခဲ၌ ညီမည်မျှ ရှိကြောင်းကို ပြသည်။ **သုံးယောက်**ဟူသော ပုဒ်သည် အရေအတွက်ကို ပြခြင်းဖြင့် **ညီ**ဟူသော နာမ်ကို အထူးပြုသည်။ ထို့ကြောင့် **သုံးယောက်** သည် အရေအတွက်ကို ပြသော **သင်္ချာနာမဝိသေသန**ဖြစ်သည်။

(၂) မောင်ရေခဲသည် အတန်းတင်စာမေးပွဲ၌ **ပထမဆု**ကို ရရှိသည်။
ဤဝါကျတွင် **ပထမ**က မောင်ရေခဲသည် အတန်းတင်စာမေးပွဲ၌ မည်သည့် ဆုရရှိကြောင်းကို ပြသည်။ **ပထမ** ဟူသော ပုဒ်သည် မောင်ရေခဲ ရရှိ သောဆုအစဉ်ကို ပြခြင်းဖြင့် **ဆု**ဟူသော နာမ်ကို အထူးပြုသည်။ ထို့ကြောင့် **ပထမ**သည် နာမ်၏အစဉ်ကို ဖော်ပြသော **သင်္ချာနာမဝိသေသန** ဖြစ်သည်။

(၃) (ကက) မောင်သံချောင်းတို့အတန်းတွင် **ကျောင်းသား** ၄၅ ယောက် ရှိသည်။

(ခခ) **ကျောင်းသားအားလုံး** စာကြိုးစားကြသည်။

ဤဝါကျ ၂ခုတွင် ပထမဝါကျရှိ **ကျောင်းသား**သည် နာမ် ဖြစ်သည်။ ဒုတိယဝါကျရှိ **ကျောင်းသား**သည်လည်း နာမ် ဖြစ်သည်။ ထို့ပြင် ဒုတိယဝါကျ၌ **အားလုံး**သည် **ကျောင်းသား** ဟူသော နာမ်၏ အနည်းအများ ပမာဏကိုပြခြင်းဖြင့် အဆိုပါ နာမ်ကို အထူးပြုသည်။ ထို့ကြောင့် **အားလုံး**သည် အနည်း အများပမာဏကိုပြသော **သင်္ချာနာမဝိသေသန** ဖြစ်သည်။

(ဃ) **အမေးနာမဝိသေသန**။ ။ အမေးသဘောဖြင့် နာမ်ကို အထူးပြုသော ပုဒ်ကို **အမေးနာမဝိသေသန**ဟု ခေါ်သည်။

**သာဓက**။ ။ မည်မျှ၊ မည်သည့်၊ မည်သို့သော၊ ဘယ်၊ အဘယ်၊ ဘယ်လောက်။

(၁) မောင်သံချောင်းတို့အတန်းတွင် **ကျောင်းသားမည်မျှ** စာမေးပွဲအောင် သနည်း။

ဤဝါကျတွင်ရှိသော **ကျောင်းသား**သည် နာမ်ဖြစ်သည်။ **မည်မျှ** ဟူသော ပုဒ်သည် စာမေးပွဲအောင်သော အရေအတွက်ကို မေးမြန်း သည့်သဘောဖြင့် **ကျောင်းသား** ဟူသော နာမ်ကို အထူးပြုသည်။ ထို့ကြောင့် **မည်မျှ**သည် **အမေးနာမဝိသေသန** ဖြစ်သည်။

(၂) မုန့်နှစ်မျိုးတွင် **မည်သည့်မုန့်ကို** ပိုကြိုက်သနည်း။

ဤဝါကျတွင်ရှိသော **မုန့်**သည် နာမ်ဖြစ်သည်။ **မည်သည့်**ဟူသော ပုဒ်သည် ပိုကြိုက်သော မုန့်အမျိုးအမည်ကို မေးမြန်းသည့် သဘော ဖြင့် **မုန့်** ဟူသောနာမ်ကို အထူးပြုသည်။ ထို့ကြောင့် **မည်သည့်** သည် **အမေးနာမဝိသေသန** ဖြစ်သည်။

(၃) မောင်ရေခဲသည် **မည်သို့သော ကျောင်းသား**ဖြစ်သနည်း။

ဤဝါကျတွင်ရှိသော **ကျောင်းသား**သည် နာမ်ဖြစ်သည်။ **မည်သို့ သော** ဟူသောပုဒ်သည် မောင်ရေခဲ မည်သို့သောသူ ဖြစ်ကြောင်းကို မေးမြန်းသည့်သဘောဖြင့် **ကျောင်းသား** ဟူသောနာမ်ကို အထူး ပြုသည်။ ထို့ကြောင့် **မည်သို့သော**သည် **အမေးနာမဝိသေသန** ဖြစ်သည်။

# လေ့ကျင့်ခန်း

၁။ နာမဝိသေသနဆိုသည်မှာ အဘယ်နည်း။ ဝိသေသနနှင့် ဝိသေသျသဘောကို သာဓကဖြင့် ရှင်းပြပါ။

၂။ အောက်ပါ ဝါကျအသီးသီးရှိ ဂုဏ်ရည်ပြနာမဝိသေသနများကို ထုတ်ပြပါ။

(က) မောင်အောင်သည် ထွားကျိုင်းသောလူငယ်ဖြစ်သည်။

(ခ) ပျင်းရိသောကျောင်းသားသည် စာမေးပွဲကျရှုံးတတ်သည်။

(ဂ) မခင်သည် ဆင်းရဲသောမိန်းကလေးဖြစ်သော်လည်း ရိုးသားသည်။

(ဃ) မဝိုင်းတွင် နက်မှောင်သောဆံပင်နှင့် သွယ်တန်းသော နှာတံရှိသည်။

(င) မလှသည် သွက်လက်သောကျောင်းသူ ဖြစ်သည်။

(စ) မောင်ရေခဲသည် အားကစား၌ ထူးချွန်သောကျောင်းသားဖြစ်သည်။

(ဆ) မိုက်မဲသောကျောင်းသားကို ဆရာက ဆုံးမသည်။

(ဇ) ခါးသောအရသာကို ကျွန်တော် မကြိုက်သော်လည်း ချိုသောအရသာကိုမူ ကြိုက်ပါသည်။

(ဈ) ကျွန်တော်တို့၏ကျောင်းသည် ဆိတ်ငြိမ်သော ရပ်ကွက်တွင် တည်ရှိသည်။

(ည) ကြံ့ခိုင်သော ကျောင်းသားသူငယ်များဖြစ်အောင် ကျွန်တော်တို့ ကြိုးစားရပါမည်။

၃။ ဂုဏ်ရည်ပြနာမဝိသေသနဆိုသည်မှာ အဘယ်နည်း။ ဂုဏ်ရည်ပြနာမဝိသေသနပါသော ဝါကျ ၃ ခုကို ရေးပါ။

၄။ အညွှန်းနာမဝိသေသနဆိုသည်မှာ အဘယ်နည်း။ အညွှန်းနာမဝိသေသနပါသော ဝါကျ ၃ ခုကို ရေးပါ။

၅။ သင်္ချာနာမဝိသေသနဆိုသည်မှာ အဘယ်နည်း။ သင်္ချာနာမဝိသေသနပါသော ဝါကျ ၃ ခုကို ရေးပါ။

၆။ အမေးနာမဝိသေသနဆိုသည်မှာ အဘယ်နည်း။ အမေးနာမဝိသေသနပါသော ဝါကျ ၃ ခုကို ရေးပါ။

၇။ အောက်ပါဝါကျအသီးသီးရှိ နာမဝိသေသနများကိုထုတ်၍ ၎င်းတို့၏အမျိုးအမည်ကို ရေးပါ။

(က) မဝိုင်းသည် ယဉ်ကျေးသောကျောင်းသူ ဖြစ်သည်။

(ခ) ကြက်ဟင်းခါးသီးတွင် ခါးသောအရသာရှိသည်။

(ဂ) ဆား၌ရေတွင်ပျော်ဝင်သော ဂုဏ်သတ္တိရှိသည်။

(ဃ) ဤပုံပြင်သည် ကလေးတိုင်း နှစ်သက်သောပုံပြင် ဖြစ်သည်။

(င) ထိုအရောင်ကိုမကြိုက်လျှင် အခြားအရောင်ကို ရွေးပါ။

(စ) ကျွန်တော်တို့၏အိမ်တွင် ကြောင်သုံးကောင်နှင့် ခွေးတစ်ကောင် မွေးထားပါသည်။

(ဆ) ကျွန်မမှာ ညီမနှစ်ယောက် ရှိပါသည်။

(ဇ) ကျောင်းသားအားလုံး စာကြိုးစားကြသည်။

(ဈ) ကိတ်မုန့်နှင့် ထိုးမုန့်တွင် မည်သည့်မုန့်ကို ပိုကြိုက်သနည်း။

(ည) မောင်ဇော်သည် မည်သို့သောကျောင်းသားဖြစ်သနည်း။

# နာမဝိသေသနအဆင့်ခွဲခြားခြင်း

**နာမဝိသေသနအဆင့်ခွဲခြားခြင်း**

၂၇။ နာမဝိသေသနသည် နာမ်ကိုအထူးပြုသည်။ အချို့နာမဝိသေသနတို့သည် နာမ်ကို အထူးပြုခြင်းဖြင့် နာမ်၏ဂုဏ်အရည်အသွေး အနည်းအများကို ခွဲခြားပြသည်။ ထိုသို့ ခွဲခြားပြရာ၌ အဆင့် ၃ ဆင့် ရှိသည်။ ၎င်းတို့မှာ–

(က) သာမန်အဆင့်

(ခ) သာလွန်အဆင့်

(ဂ) အသာလွန်ဆုံးအဆင့်တို့ဖြစ်ကြသည်။

၂၈။ (က) **သာမန်အဆင့်။ ။** နာမ်ပုဒ်တစ်ခုခုကို အထူးပြုခြင်းဖြင့် ထိုနာမ်ပုဒ်တွင်ရှိသော ဂုဏ်အရည်အသွေးကို သာမန်မျှ ပြသော နာမဝိသေသနသည် **သာမန်အဆင့်** ဖြစ်သည်။

**သာဓက။ ။ ရဲရင့်သော စစ်သူကြီး**
**ချွဲပျစ်သော အရည်**
**လတ်ဆတ်သောအသီးအနှံ**
**မွှေးသောပန်း**

(၁) **ရဲရင့်သောစစ်သူကြီး၌** ပါဝင်သည့် **ရဲရင့်သော** က **စစ်သူကြီး** ၏ ရဲရင့်သည့် ဂုဏ်အရည်အသွေးကို သာမန်မျှ ဖော်ပြသည်။

(၂) **ချွဲပျစ်သောအရည်**၌ ပါဝင်သည့် **ချွဲပျစ်သော** က **အရည်၏** ချွဲပျစ်သည့် ဂုဏ်အရည်အသွေးကို သာမန်မျှဖော်ပြသည်။

(၃) **လတ်ဆတ်သောအသီးအနှံ**၌ပါဝင်သည့် **လတ်ဆတ်သော**က **အသီးအနှံ၏** လတ်ဆတ်သည့် ဂုဏ်အရည်အသွေးကို သာမန်မျှ ဖော်ပြသည်။

(၄) **မွှေးသောပန်း**၌ပါဝင်သည့် **မွှေးသော** က **ပန်း**၏ မွှေးသည့် ဂုဏ်အရည်အသွေးကို သာမန်မျှဖော်ပြသည်။

(ဤကဲ့သို့ နာမ်၏ဂုဏ်အရည်အသွေးကို သာမန်မျှဖော်ပြသော နာမဝိသေသနသည် **သာမန်အဆင့်** ဖြစ်သည်။)

(ခ) **သာလွန်အဆင့်။ ။** ဂုဏ်အရည်အသွေးရှိသော နာမ်ပုဒ်နှစ်ခုတို့တွင် တစ်ခုသည် အခြားတစ်ခုထက် ဂုဏ်အရည်အသွေး သာလွန်ကြောင်း နှိုင်းယှဉ်ပြသော နာမဝိသေသနသည် **သာလွန်အဆင့်**ဖြစ်သည်။

**သာဓက။** ။ သာ၍ ရဲရင့်သော စစ်သူကြီး
သာ၍ ချွဲပျစ်သော အရည်
သာ၍ လတ်ဆတ်သော အသီးအနှံ
သာ၍ မွှေးသောပန်း

(၁) **သာ၍ရဲရင့်သောစစ်သူကြီး**၌ ပါဝင်သော **စစ်သူကြီး**သည် အခြား စစ်သူကြီး တစ်ဦးထက် ရဲရင့်သည့် ဂုဏ်အရည်အသွေး သာလွန်ကြောင်းကို **သာ၍**

**ရဲရင့်သော** ဟူသည့် နာမဝိသေသနကပြသည်။

(၂) **သာ၍ချွဲပျစ်သောအရည်**၌ပါဝင်သော **အရည်**သည် အခြားအရည်တစ်မျိုးထက် ချွဲပျစ်သည့် ဂုဏ်အရည်အသွေး သာလွန်ကြောင်းကို **သာ၍ချွဲပျစ်သော** ဟူသည့် နာမဝိသေသနကပြသည်။

(၃) **သာ၍လတ်ဆတ်သောအသီးအနှံ**၌ပါဝင်သော **အသီးအနှံ**သည် အခြားအသီးအနှံတစ်မျိုးထက် လတ်ဆတ်သည့် ဂုဏ်အရည်အသွေး သာလွန်ကြောင်းကို **သာ၍ လတ်ဆတ်သော**ဟူသည့် နာမဝိသေသန က ပြသည်။

(၄) **သာ၍မွှေးသောပန်း**၌ ပါဝင်သော **ပန်း**သည် အခြား ပန်းတစ်မျိုးထက် မွှေးသည့် ဂုဏ်အရည်အသွေး သာလွန်ကြောင်းကို **သာ၍ မွှေးသော** ဟူသည့် နာမဝိသေသနက ပြသည်။

(ဤကဲ့သို့ အရာတစ်ခု၏ ဂုဏ်အရည်အသွေးသည် အခြားအရာတစ်ခု၏ ဂုဏ်အရည်အသွေးထက် သာလွန်ကြောင်းကိုပြသော နာမဝိသေသနသည် **သာလွန်အဆင့်**ဖြစ်သည်။)

(ဂ) **အသာလွန်ဆုံးအဆင့်။** ။ ဂုဏ်အရည်အသွေးရှိသော နာမ်ပုဒ်အားလုံး အနက်မှ နာမ်ပုဒ်တစ်ခု၏ ဂုဏ်အရည်အသွေးသည် အခြားနာမ်ပုဒ်အားလုံး၏ ဂုဏ်အရည်အသွေးထက် အသာလွန်ဆုံးဖြစ်ကြောင်းပြသည့် နာမဝိသေသနသည် **အသာလွန်ဆုံးအဆင့်** ဖြစ်သည်။

**သာဓက။** ။ အရဲရင့်ဆုံး စစ်သူကြီး
အချွဲပျစ်ဆုံး အရည်
အလတ်ဆတ်ဆုံး အသီးအနှံ
အမွှေးဆုံးပန်း

(၁) **အရဲရင့်ဆုံးစစ်သူကြီး**၌ ပါဝင်သော **စစ်သူကြီး**သည် စစ်သူကြီးအားလုံးအနက် ရဲရင့်သည့် ဂုဏ်အရည်အသွေး၌ အသာလွန်ဆုံးဖြစ်ကြောင်းကို **အရဲရင့်ဆုံး**ဟူသည့် နာမဝိသေသနက ပြသည်။

(၂) **အချွဲပျစ်ဆုံးအရည်**၌ ပါဝင်သော **အရည်**သည် အရည် အားလုံးအနက် ချွဲပျစ်သည့် ဂုဏ်အရည်အသွေး၌ အသာလွန်ဆုံးဖြစ်ကြောင်းကို **အချွဲပျစ်ဆုံး**ဟူသည့် နာမဝိသေသနက ပြသည်။

(၃) **အလတ်ဆတ်ဆုံးအသီးအနှံ**၌ ပါဝင်သော **အသီးအနှံ**သည် အသီးအနှံအားလုံးအနက် လတ်ဆတ်သည့် ဂုဏ်အရည်အသွေး၌ အသာလွန်ဆုံးဖြစ်ကြောင်းကို **အလတ်ဆတ်ဆုံး**ဟူသည့် နာမဝိသေသနက ပြသည်။

(၄) **အမွှေးဆုံးပန်း**တွင် ပါဝင်သည့် **ပန်း**သည် ပန်းအားလုံးအနက် မွှေးသည့် ဂုဏ်အရည်အသွေး၌ အသာလွန်ဆုံး ဖြစ်ကြောင်းကို **အမွှေးဆုံး**ဟူသည့် နာမဝိသေသနကပြသည်။

(ဤကဲ့သို့ အသာလွန်ဆုံး ဂုဏ်အရည်အသွေးရှိကြောင်းကို ပြသော နာမဝိသေသနသည် **အသာလွန်ဆုံးအဆင့်**ဖြစ်သည်။)

နာမဝိသေသနအဆင့် ၃ ဆင့်ကို သိသာလွယ်စေရန် အောက်ပါအတိုင်း ဇယားဖြင့် ပြထားသည်။

**နာမဝိသေသနအဆင့်ပြဇယား**

| **သာမန်အဆင့်** | **သာလွန်အဆင့်** | **အသာလွန်ဆုံးအဆင့်** |
|---|---|---|
| ရဲရင့်သော | သာ၍ရဲရင့်သော<br>ပို၍ရဲရင့်သော } | အရဲရင့်ဆုံး |
| ချွဲပျစ်သော | သာ၍ချွဲပျစ်သော<br>ပို၍ချွဲပျစ်သော } | အချွဲပျစ်ဆုံး |
| လတ်ဆတ်သော | သာ၍လတ်ဆတ်သော<br>ပို၍လတ်ဆတ်သော } | အလတ်ဆတ်ဆုံး |
| မွှေးသော | သာ၍မွှေးသော<br>ပို၍မွှေးသော } | အမွှေးဆုံး |
| ထူးချွန်သော | သာ၍ထူးချွန်သော<br>ပို၍ထူးချွန်သော } | အထူးချွန်ဆုံး |
| ဖြူသော | သာ၍ဖြူသော<br>ပို၍ဖြူသော } | အဖြူဆုံး |
| ကျော်စောသော | သာ၍ကျော်စောသော<br>ပို၍ကျော်စောသော } | အကျော်စောဆုံး |

## လေ့ကျင့်ခန်း

၁။ အောက်ပါနာမဝိသေသနအသီးသီးကို အဆင့်အလိုက် အစု ခွဲပြပါ။

| | | |
|---|---|---|
| လိမ္မာသော | ဖြူသော | အကောင်းဆုံး |
| ဝသော | သာ၍ကောင်းသော | သာ၍ကြီးသော |
| ကြီးသော | အဝဆုံး | သာ၍ဝသော |
| ကောင်းသော | အလိမ္မာဆုံး | အပူဆုံး |
| ပူသော | အကြီးဆုံး | သာ၍လိမ္မာသော |
| သာ၍ပူသော | သာ၍ဖြူသော | အဆိုးဆုံး |
| အဖြူဆုံး | သာ၍ဆိုးသော | ဆိုးသော |

၂။ အောက်ပါ ကွက်လပ်အသီးသီး၌ လိုသောနာမဝိသေသန အဆင့်ကို ဖြည့်ပါ။

| | | | |
|---|---|---|---|
| (က) | လျင်မြန်သော | ... ... ... ... | ... ... ... ... |
| (ခ) | ... ... ... ... | သာ၍အေးသော | ... ... ... ... |
| (ဂ) | ........... | ... ... ... ... | အနီးဆုံး |
| (ဃ) | လှပသော | ... ... ... ... | အလှဆုံး |
| (င) | မြင့်သော | သာ၍မြင့်သော | ... ... ... ... |

၃။ အောက်ပါ နာမဝိသေသနတစ်ခုစီကို အသုံးပြု၍ ဝါကျဖွဲ့ပါ။

| | | | |
|---|---|---|---|
| (က) | ထင်ရှားသော၊ | သာ၍ထင်ရှားသော၊ | အထင်ရှားဆုံး။ |
| (ခ) | ထူးဆန်းသော၊ | သာ၍ထူးဆန်းသော၊ | အထူးဆန်းဆုံး။ |
| (ဂ) | လှသော၊ | သာ၍လှသော၊ | အလှဆုံး။ |
| (ဃ) | အေးသော၊ | ပို၍အေးသော၊ | အအေးဆုံး။ |
| (င) | ချိုသော၊ | ပို၍ချိုသော၊ | အချိုဆုံး။ |

# ကြိယာဝိသေသန

**ကြိယာဝိသေသန**

၂၉။ ကြိယာကို အထူးပြုသော ပုဒ်ကို **ကြိယာဝိသေသန**ဟု ခေါ်သည်။

၃၀။ ဤတွင် **ဝိသေသန**နှင့်**ဝိသေသျ**ဟူသော အသုံးကို နာမဝိသေသနအခန်း၌ တွေ့ခဲ့ကြပြီ။ **ဝိသေသန**ဆိုသည်မှာ အထူးပြုသောပုဒ် ဖြစ်သည်။ **ဝိသေသျ**ဆိုသည်မှာ အထူးပြုခြင်းခံရသော ပုဒ်ဖြစ်သည်။

**သာဓက**။ ။ (က) သူ **မြန်မြန်ပြေး**သည်။

(ခ) နက်ဖြန် **စောစောလာ**ပါ။

(ဂ) သူမုန့်ဟင်းခါးကို **အလွန်ကြိုက်**သည်။

(ဃ) သူထမင်းကို **မြိန်ရှက်စွာ စား**သည်။

(ဖော်ပြပါ သာဓကများတွင် –

(က) **မြန်မြန်**သည် **ပြေး**ဟူသော ကြိယာကို အထူးပြုသည်။ **စောစော**သည် **လာ**ဟူသော ကြိယာကို အထူးပြုသည်။ **အလွန်**သည် **ကြိုက်**ဟူသော ကြိယာကို အထူးပြုသည်။ **မြိန်ရှက်စွာ**သည် **စား**ဟူသော ကြိယာကို အထူးပြုသည်။ ထို့ကြောင့် **မြန်မြန်၊ စောစော၊ အလွန်၊ မြိန်ရှက်စွာ** တို့သည် **ကြိယာဝိသေသန**များ ဖြစ်ကြသည်။

(ခ) **ပြေး**ဟူသော ကြိယာသည် **မြန်မြန်**၏အထူးပြုခြင်းကို ခံရသည်။ **လာ**ဟူသော ကြိယာသည် **စောစော**၏ အထူးပြုခြင်းကို ခံရသည်။ **ကြိုက်**ဟူသော ကြိယာသည် **အလွန်**၏အထူးပြုခြင်းကို ခံရသည်။ **စား**ဟူသောကြိယာသည် **မြိန်ရှက်စွာ**၏ အထူးပြုခြင်းကို ခံရသည်။

ထို့ကြောင့် **ပြေး၊ လာ၊ ကြိုက်၊ စား**တို့သည် **ကြိယာဝိသေသျ**များ ဖြစ်ကြသည်။)

၃၁။ ကြိယာဝိသေသနသည် အနက်အဓိပ္ပာယ်အရ ၅ မျိုးရှိသည်။ ၎င်းတို့မှာ –

(က) အချိန်ပြကြိယာဝိသေသန

(ခ) အမူအရာပြကြိယာဝိသေသန

(ဂ) အခြေအနေပြကြိယာဝိသေသန

(ဃ) ပမာဏပြကြိယာဝိသေသန

(င) အမေးကြိယာဝိသေသန တို့ဖြစ်ကြသည်။

၃၂။ (က) **အချိန်ပြကြိယာဝိသေသန။ ။** အချိန်ကာလကိုပြခြင်းဖြင့် ကြိယာကို အထူးပြုသောပုဒ်ကို **အချိန်ပြကြိယာဝိသေသန** ဟုခေါ်သည်။

**သာဓက**။ ။ စောစော၊ ကြာမြင့်စွာ၊ မကြာခဏ၊ ချက်ချင်း။

မောင်ထွေးသည် ကျောင်းသို့ **စောစော**သွားလေ့ရှိသည်။

ဤဝါကျ၌ **စောစော**က မောင်ထွေးကျောင်းသွားလေ့ရှိသောအချိန်ကို ပြသည်။ **စောစော**ဟူသောပုဒ်သည် မောင်ထွေး ကျောင်းသွားချိန်ကို ပြခြင်းဖြင့် **သွား**ဟူသော

ကြိယာကို အထူးပြုသည်။ ထို့ကြောင့် **စောစော**သည် အချိန်ကိုပြသော **အချိန်ပြ ကြိယာဝိသေသန** ဖြစ်သည်။

( ခ ) **အမူအရာပြကြိယာဝိသေသန**။ ။ ဆောင်ရွက်ပုံအမူအရာကို ပြခြင်းဖြင့် ကြိယာကို အထူးပြုသောပုဒ်ကို **အမူအရာပြကြိယာဝိသေသန**ဟု ခေါ်သည်။

**သာဓက**။ ။ ရိုသေစွာ၊ လျင်မြန်စွာ၊ ကပိုကရို၊ ကချော်ကချွတ်၊ ပြုံးတုံးတုံး။

မောင်ထွေးသည် ဆရာကို **ရိုသေစွာ ကန်တော့**သည်။

ဤဝါကျ၌ **ရိုသေစွာ**က မောင်ထွေးသည် ဆရာအား မည်သို့ကန်တော့ကြောင်းကို ပြသည်။ **ရိုသေစွာ**ဟူသော ပုဒ်သည် မောင်ထွေး၏အမူအရာကို ပြခြင်းဖြင့် **ကန်တော့** ဟူသော **ကြိယာ**ကို အထူးပြုသည်။ ထို့ကြောင့် **ရိုသေစွာ** သည် အမူအရာကို ပြသော **အမူအရာပြကြိယာဝိသေသန** ဖြစ်သည်။

( ဂ ) **အခြေအနေပြကြိယာဝိသေသန**။ ။ အခြေအနေကို ပြခြင်းဖြင့် ကြိယာကို အထူး ပြုသောပုဒ်ကို **အခြေအနေပြကြိယာဝိသေသန**ဟု ခေါ်သည်။

**သာဓက**။ ။ အသေအချာ၊ မချွတ်၊ ကေန်၊ အမှန်၊ စင်စစ်၊ မုချ။

မောင်ထွေးသည် နေကြတ်ခြင်းကို **အသေအချာမြင်** ရသည်။

ဤဝါကျ၌ **အသေအချာ**က နေကြတ်ခြင်းကို မောင်ထွေး မည်သို့ မြင်ရကြောင်း ပြသည်။ **အသေအချာ**ဟူသော ပုဒ်သည် မောင်ထွေးမြင်ရပုံ အခြေအနေကို ပြခြင်းဖြင့် **မြင်** ဟူသော **ကြိယာ**ကို အထူးပြုသည်။ ထို့ကြောင့် **အသေအချာ** သည်အခြေအနေကို ပြသော **အခြေအနေပြကြိယာဝိသေသန** ဖြစ်သည်။

( ဃ ) **ပမာဏပြကြိယာဝိသေသန**။ ။ မည်ရွေ့မည်မျှ ပမာဏကို ပြခြင်းဖြင့် ကြိယာကို အထူးပြုသောပုဒ်ကို **ပမာဏပြကြိယာဝိသေသန**ဟု ခေါ်သည်။

**သာဓက**။ ။ အလွန်၊ နည်းနည်း၊ များစွာ၊ အဆမတန်။

မောင်ထွေးသည် ငှက်ပျောသီးကို **အလွန်ကြိုက်**သည်။

ဤဝါကျ၌ **အလွန်**က မောင်ထွေးသည် ငှက်ပျောသီးကို မည်မျှကြိုက် ကြောင်းပြသည်။ **အလွန်** ဟူသော ပုဒ်သည် မောင်ထွေး ငှက်ပျောသီး မည်မျှ ကြိုက်ကြောင်းကို ပြခြင်း ဖြင့် **ကြိုက်**ဟူသော **ကြိယာ**ကို အထူးပြုသည်။ ထို့ကြောင့် **အလွန်**သည် ပမာဏကို ပြသော **ပမာဏပြ ကြိယာဝိသေသန** ဖြစ်သည်။

( င ) **အမေးကြိယာဝိသေသန**။ ။ မေးမြန်းခြင်းဖြင့် ကြိယာကို အထူးပြုသောပုဒ်ကို **အမေးကြိယာဝိသေသန**ဟု ခေါ်သည်။

**သာဓက**။ ။ မည်မျှ၊ ဘယ်လို၊ ဘယ်လောက်၊ ဘယ်ပုံ။

မောင်ထွေးသည် စာကို **မည်မျှကြိုးစား** သနည်း။

ဤဝါကျသည် မောင်ထွေး၏ စာကြိုးစားမှုအခြေအနေကို မေးထားသော ဝါကျဖြစ်သည်။ **မည်မျှ** ဟူသော ပုဒ်သည် မောင်ထွေး၏ စာကြိုးစားမှုအခြေအနေကို မေးမြန်းခြင်းဖြင့် **ကြိုးစား**ဟူသောကြိယာကို အထူးပြုသည်။ ထို့ကြောင့် **မည်မျှ**သည် မေးမြန်းခြင်း သဘောသက်ရောက်သော **အမေးကြိယာဝိသေသန** ဖြစ်သည်။

# လေ့ကျင့်ခန်း

၁။ အောက်ပါ ဝါကျအသီးသီးရှိ ကြိယာဝိသေသနတို့ကို ထုတ်ပြပါ။

(က) သူသည် အခန်းထဲမှ တိတ်တဆိတ် ထွက်သွားသည်။

(ခ) မိုးသားများ တရိပ်ရိပ် တက်လာသည်။

(ဂ) လုပ်သားပြည်သူများသည် ရွှေ့တန်းပြန်ရဲဘော်များကို လှိုက်လှိုက်လှဲလှဲ ကြိုဆိုကြသည်။

(ဃ) အမေသည် သားကို ညင်သာစွာ ယပ်ခတ်ပေးသည်။

(င) မောင်ခိုင်သည် ကြက်သားဟင်းကို အလွန်ကြိုက်သည်။

(စ) ယနေ့ မိုးသည်းထန်စွာ ရွာသည်။

(ဆ) မပိုင်းသည် ကျောင်းနောက်ကျမည်စိုးသောကြောင့် ကပျာကယာပြေးသည်။

(ဇ) နိုင်ငံတော်အလံကို ညီညီညာညာ အလေးပြုကြသည်။

(ဈ) မနက်ဖြန် ဆက်ဆက်လာပါ။

(ည) အမေသည် အိပ်ရာမှ စောစောထ၍ ဈေးသို့ မြန်မြန်သွားပြီးလျှင် နံနက်စာကို ကတိုက်ကရိုက်ချက်သည်။

၂။ အောက်ပါ ဝါကျများရှိ မျဉ်းသားထားသော ကြိယာဝိသေသန အသီးသီး၏ အမျိုးအမည်ကို ရေးပါ။

(က) မောင်ထွေးသည် ကျောင်းသို့ **စောစော**သွားသည်။

(ခ) မပိုင်းသည် **ငြိမ်သက်စွာ** ထိုင်နေသည်။

(ဂ) စာကြိုးစားလျှင် စာမေးပွဲ **ကေန်**အောင်မည်။

(ဃ) မောင်အောင်ခိုင်သည် ငါးဟင်းကို **အလွန်**ကြိုက်သည်။

(င) ဤစာအုပ်**ဘယ်လောက်** ပေးရသနည်း။

၃။ အောက်ပါ ကြိယာဝိသေသနများကို အမျိုးအမည်အလိုက် အစုခွဲပြပါ။

ဖြည်းညင်းစွာ၊ ချက်ချင်း၊ မည်မျှ၊ ကချော်ကချွတ်၊ တိတ်တိတ်ဆိတ်ဆိတ်၊ မြန်မြန်၊ မကြာခဏ၊ တိတ်ဆိတ်စွာ၊ ပြုံးတုံးတုံး၊ တစုတဝေး၊ ဘယ်လို၊ တရကြမ်း၊ အလောတကြီး၊ မကြာမီ၊ အလုံအလောက်၊ ဘယ်လောက်၊ မုချ။

၄။ အောက်ပါ ကြိယာဝိသေသနအသီးသီးကို အသုံးပြု၍ ဝါကျ တစ်ခုစီဖွဲ့ပါ။

လျင်မြန်စွာ၊ ပျော်ပျော်ရွှင်ရွှင်၊ အသေအချာ၊ တဖြောက်ဖြောက်၊ အလန့်တကြား။

# ဝိဘတ်

## ဝိဘတ်

၃၃။ နာမ်၊ နာမ်စားတို့၏ နောက်၌ တည်၍ ၎င်းတို့သည် ကတ္တားဖြစ်သည် ကံဖြစ်သည် စသည်ကိုလည်းကောင်း၊ ကြိယာ ၏နောက်၌တည်၍ ၎င်းကြိယာ၏ကာလနှင့် အမျိုးအစားကို လည်းကောင်း ဝေဖန်ပိုင်းခြားပြသော စကားလုံးကို **ဝိဘတ်** ဟု ခေါ်သည်။

၃၄။ ဝိဘတ် ၂ မျိုးရှိသည်။ ၎င်းတို့မှာ–

(က) နာမ်ဝိဘတ်

( ခ ) ကြိယာဝိဘတ်တို့ဖြစ်ကြသည်။

## နာမ်ဝိဘတ်

၃၅။ နာမ်၊ နာမ်စားတို့၏ နောက်၌တည်၍ ၎င်းတို့သည် ကတ္တားဖြစ်သည်၊ ကံဖြစ်သည် စသည် ဝေဖန်ပိုင်းခြားပြသော စကားလုံးကို **နာမ်ဝိဘတ်**ဟု ခေါ်သည်။

၃၆။ နာမ်ဝိဘတ်ကို အနက်အဓိပ္ပာယ်အရ ၁၇ မျိုးခွဲသည်။

(က) ကတ္တားဝိဘတ် – သည်၊ က၊ မှာ။

( ခ ) ကံဝိဘတ် – ကို။

( ဂ ) ထွက်ခွာရာပြဝိဘတ် – မှ၊ က။

(ဃ) ရှေးရှုရာပြဝိဘတ် – သို့။

( င ) ဆိုက်ရောက်ရာပြဝိဘတ် – သို့၊ ထိ၊ အထိ၊ ထိအောင်၊ တိုင်အောင်။

( စ ) အသုံးခံပြဝိဘတ် – ဖြင့်၊ နှင့်။

(ဆ) အကြောင်းပြဝိဘတ် – ကြောင့်၊ ဖြင့်။

( ဇ ) လက်ခံပြဝိဘတ် – အား။

(ဈ ) နေရာပြဝိဘတ် – ၌၊ မှာ၊ တွင်၊ ဝယ်၊ က။

(ည) အချိန်ပြဝိဘတ် – ၌၊ မှာ၊ တွင်၊ ဝယ်၊ က။

(ဋ ) ပိုင်ဆိုင်ခြင်းပြဝိဘတ် – ၏။

(ဌ) လိုက်လျောပြဝိဘတ် – အလိုက်၊ အရ၊ အတိုင်း၊ အလျောက်၊ အားလျော်စွာ၊ နှင့်အညီ၊ နှင့်အမျှ။

( ဍ ) ယှဉ်တွဲပြဝိဘတ် – နှင့်၊ နှင့်တကွ၊ နှင့်အတူ။

( ဎ ) ခွဲထုတ်ရာပြဝိဘတ် – တွင်၊ အနက်၊ အထဲမှ၊ အထဲမှာ။

(ဏ) ရည်စူးချက်ပြဝိဘတ် – ငှာ၊ အလို့ငှာ၊ ဖို့၊ အဖို့၊ အတွက်။

( တ) နေရာဆက်တိုက်ပြဝိဘတ် – တိုင်တိုင်၊ တိုင်အောင်။

(ထ) အချိန်ဆက်တိုက်ပြဝိဘတ် – တိုင်တိုင်၊ တိုင်အောင်၊ ပတ်လုံး၊ လုံးလုံး။

(အဆိုပါ နာမ်ဝိဘတ် ၁၇မျိုးတို့အနက် နာမ်ဝိဘတ် အမှတ်စဉ် (က)မှ (ဋ)အထိကို ဤအတွဲ ၁၊ အခန်း ၂ ၌ ဖော်ပြမည်။ ကျန်သော နာမ်ဝိဘတ်အမှတ်စဉ် (ဌ)မှ (ထ) အထိကိုမူ အတွဲ ၁၊ အခန်း ၃ ၌ ဆက်လက်ဖော်ပြမည်။)

၃၇။ (က) **ကတ္တားဝိဘတ်**။ ။ ပြုသူ၊ ဖြစ်သူ၊ ရှိသူဖြစ်ကြောင်းကို ပြသောဝိဘတ်သည် **ကတ္တားဝိဘတ်** ဖြစ်သည်။

(၁) သဘာပတိကြီး**က** မိန့်ခွန်းပြောသည်။

ဤဝါကျ၌ **သဘာပတိကြီး**သည် မိန့်ခွန်းပြောသူဖြစ်သည်။ သဘာပတိကြီးသည် မိန့်ခွန်းပြောသူဖြစ်ကြောင်းကို **သဘာပတိကြီး**ဟူသော နာမ်နောက်ရှိ **က** ဝိဘတ်က ပြသည်။ ထို့ကြောင့် **က** ဝိဘတ်သည် **ပြုသူ**ကိုပြသော **ကတ္တားဝိဘတ်** ဖြစ်သည်။

(၂) ဦးဘ**မှာ** စံပြလုပ်သားကြီး ဖြစ်သည်။

ဤဝါကျ၌ စံပြလုပ်သားကြီးဖြစ်သူမှာ **ဦးဘ**ဖြစ်သည်။ ဦးဘသည် စံပြလုပ်သားကြီးဖြစ်ကြောင်းကို **ဦးဘ**ဟူသော နာမ်နောက်ရှိ **မှာ** ဝိဘတ်က ပြသည်။ ထို့ကြောင့် **မှာ** ဝိဘတ်သည် **ဖြစ်သူ**ကို ပြသော **ကတ္တားဝိဘတ်** ဖြစ်သည်။

(၃) မောင်မျိုးမြင့်**သည်** စာကြည့်ခန်းထဲ၌ ရှိသည်။

ဤဝါကျ၌ စာကြည့်ခန်းထဲ၌ ရှိသူမှာ **မောင်မျိုးမြင့်** ဖြစ်သည်။ မောင်မျိုးမြင့်သည် စာကြည့်ခန်းထဲ၌ရှိကြောင်းကို **မောင်မျိုးမြင့်** ဟူသော နာမ်နောက်ရှိ **သည်** ဝိဘတ်က ပြသည်။ ထို့ကြောင့် **သည်** ဝိဘတ်သည် **ရှိသူ**ကို ပြသော **ကတ္တားဝိဘတ်** ဖြစ်သည်။

(ခ) **ကံဝိဘတ်**။ ။ အပြုခံရသူဖြစ်ကြောင်းကို ပြသော ဝိဘတ်သည် **ကံဝိဘတ်** ဖြစ်သည်။

ဆရာက မောင်မျိုးမြင့်**ကို** ချီးမွမ်းသည်။

ဤဝါကျ၌ အချီးမွမ်းခံရသူမှာ **မောင်မျိုးမြင့်** ဖြစ်သည်။ မောင်မျိုးမြင့် အချီးမွမ်းခံ ရသူဖြစ်ကြောင်းကို **မောင်မျိုးမြင့်**ဟူသော နာမ်နောက်ရှိ **ကို** ဝိဘတ်က ပြသည်။ ထို့ကြောင့် **ကို** ဝိဘတ်သည် **အပြုခံရသူ**ကို ပြသော **ကံဝိဘတ်** ဖြစ်သည်။

(ဂ) **ထွက်ခွာရာပြဝိဘတ်။ ။** ထွက်ခွာရာနေရာ ဖြစ်ကြောင်းကို ပြသော ဝိဘတ်သည် **ထွက်ခွာရာပြဝိဘတ်**ဖြစ်သည်။

(၁) မောင်မျိုးမြင့်သည် မန္တလေး**မှ** ပြန်လာသည်။

ဤဝါကျ၌ မောင်မျိုးမြင့်ထွက်ခွာရာနေရာမှာ **မန္တလေး** ဖြစ်သည်။ မန္တလေးသည် မောင်မျိုးမြင့် ထွက်ခွာရာနေရာ ဖြစ်ကြောင်းကို **မန္တလေး** ဟူသော နာမ်နောက်ရှိ **မှ** ဝိဘတ်က ပြသည်။ ထို့ကြောင့် **မှ** ဝိဘတ်သည် **ထွက်ခွာရာပြဝိဘတ်** ဖြစ်သည်။

(၂) မောင်မျိုးမြင့်သည် မန္တလေး**က** ပြန်လာသည်။

ဤဝါကျ၌ မောင်မျိုးမြင့်ထွက်ခွာရာနေရာမှာ **မန္တလေး** ဖြစ်သည်။ မန္တလေးသည် မောင်မျိုးမြင့် ထွက်ခွာရာနေရာဖြစ်ကြောင်းကို **မန္တလေး**ဟူသော နာမ်နောက်ရှိ

**က** ဝိဘတ်က ပြသည်။ ထို့ကြောင့် **က** ဝိဘတ်သည် **ထွက်ခွာရာပြဝိဘတ်** ဖြစ်သည်။

**မှတ်ချက်။ ။ "က"ကို ထွက်ခွာရာပြဝိဘတ်အဖြစ် အသုံးပြုရာ၌ ကြိယာနှင့် ကပ်လျက်ထားရသည်။**

(ဃ) **ရှေးရှုရာပြဝိဘတ်**။ ။ ရှေးရှုရာနေရာဖြစ်ကြောင်းကိုပြသော ဝိဘတ်သည် **ရှေးရှုရာပြ ဝိဘတ်**ဖြစ်သည်။

မောင်မျိုးမြင့်သည် ကျောင်း**သို့**သွားသည်။

ဤဝါကျ၌ မောင်မျိုးမြင့်ရှေးရှုသွားသော နေရာမှာ **ကျောင်း**ဖြစ်သည်။ ကျောင်းသည် မောင်မျိုးမြင့် ရှေးရှုသွားသော နေရာဖြစ်ကြောင်းကို **ကျောင်း**ဟူသော နာမ်နောက်ရှိ **သို့** ဝိဘတ်က ပြသည်။ ထို့ကြောင့် **သို့** ဝိဘတ်သည် **ရှေးရှုရာပြဝိဘတ်** ဖြစ်သည်။

(င) **ဆိုက်ရောက်ရာပြဝိဘတ်**။ ။ ဆိုက်ရောက်ရာနေရာနှင့် အချိန်ကိုပြသော ဝိဘတ်သည် **ဆိုက်ရောက်ရာပြဝိဘတ်** ဖြစ်သည်။

(၁) မောင်မျိုးမြင့်သည် ညနေ ၅ နာရီတွင် အိမ်**သို့** ပြန်ရောက်သည်။ ဤဝါကျ၌ မောင်မျိုးမြင့် ပြန်ရောက်သောနေရာမှာ **အိမ်**ဖြစ်သည်။ အိမ်သည် မောင်မျိုးမြင့်ရောက်ရှိရာနေရာ ဖြစ်ကြောင်းကို **အိမ်**ဟူသော နာမ်နောက်ရှိ **သို့** ဝိဘတ်ကပြသည်။ ထို့ကြောင့် **သို့** သည် **ဆိုက်ရောက်ရာပြဝိဘတ်** ဖြစ်သည်။

(၂) မောင်မျိုးမြင့်သည် ည ၇ နာရီမှ ည ၁၂ နာရီ**အထိ** စာဖတ်သည်။ ဤဝါကျ၌ မောင်မျိုးမြင့် မည်သည့်အချိန်ထိ စာဖတ် ကြောင်းကို ဖော်ပြထားသည်။ မောင်မျိုးမြင့်သည် **ည ၁၂ နာရီ**တိုင်အောင် စာဖတ်လေ့ရှိကြောင်းကို **၁၂ နာရီ** ဟူသော နာမ်နောက်ရှိ **အထိ** ဝိဘတ်က ပြသည်။ ထို့ကြောင့် **အထိ** သည် **ဆိုက်ရောက်ရာပြဝိဘတ်** ဖြစ်သည်။

(စ) **အသုံးခံပြဝိဘတ်**။ ။ အသုံးပြုခံရသောအရာ ဖြစ်ကြောင်းကိုပြသော ဝိဘတ်သည် **အသုံးခံပြဝိဘတ်**ဖြစ်သည်။

(၁) မောင်မျိုးမြင့်သည် ခွေးကို တုတ်**ဖြင့်**ရိုက်သည်။

ဤဝါကျ၌ **တုတ်**သည် ခွေးကိုရိုက်ရာ၌ အသုံးပြုသောအရာ ဖြစ်သည်။ **တုတ်** သည် မောင်မျိုးမြင့်အသုံးပြုခံရသော အရာဖြစ်ကြောင်းကို **တုတ်** ဟူသော နာမ်နောက်ရှိ **ဖြင့်**ဝိဘတ်ကပြသည်။ ထို့ကြောင့် **ဖြင့်** ဝိဘတ်သည် **အသုံးပြု ခံရသောအရာ**ကို ပြသော **အသုံးခံပြဝိဘတ်**ဖြစ်သည်။

(၂) မောင်မျိုးမြင့်သည် ခွေးကို တုတ်**နှင့်**ရိုက်သည်။

ဤဝါကျ၌ **တုတ်**သည် ခွေးကိုရိုက်ရာ၌ အသုံးပြုသောအရာဖြစ်သည်။ **တုတ်**သည် မောင်မျိုးမြင့် အသုံးပြုခံရသောအရာဖြစ်ကြောင်းကို **တုတ်**ဟူသော နာမ်နောက်ရှိ **နှင့်** ဝိဘတ်က ပြသည်။ ထို့ကြောင့် **နှင့်** ဝိဘတ်သည် **အသုံးပြုခံရသောအရာ**ကို ပြသော **အသုံးခံပြဝိဘတ်** ဖြစ်သည်။

**မှတ်ချက်**။ ။ "နှင့်"ကို အသုံးခံပြုဝိဘတ်အဖြစ် အသုံးပြုရာ၌ ကြိယာနှင့် ကပ်လျက်ထားရသည်။

(ဆ) **အကြောင်းပြုဝိဘတ်**။ ။ တစ်စုံတစ်ရာ ဖြစ်ပျက်ရသည့် အကြောင်းရင်းကို ပြသော ဝိဘတ်သည် **အကြောင်းပြုဝိဘတ်** ဖြစ်သည်။

စပါးပင်တို့သည် ပိုး**ကြောင့်**ပျက်၏။

ဤဝါကျ၌ စပါးပင်တို့ပျက်ရသည့်အကြောင်းရင်းကို ဖော်ပြထားသည်။ စပါးပင်တို့ ပျက်ရသည့်အကြောင်းရင်းမှာ **ပိုး**ဖြစ်သည်။ **ပိုး**သည် စပါးပင်တို့ ပျက်ရသည့် အကြောင်းရင်းဖြစ်သည်ကို ယင်း **ပိုး**ဟူသော နာမ်နောက်ရှိ **ကြောင့်** ဝိဘတ်က ပြသည်။ သို့ဖြစ်၍ **ကြောင့်**သည် **အကြောင်းပြုဝိဘတ်**ဖြစ်သည်။

(ဇ ) **လက်ခံပြုဝိဘတ်**။ ။ လက်ခံသူဖြစ်ကြောင်းကိုပြသော ဝိဘတ်သည် **လက်ခံပြု ဝိဘတ်** ဖြစ်သည်။

မောင်မျိုးမြင့်သည် စာအုပ်ကို ဆရာ**အား** ပေးသည်။

ဤဝါကျ၌ မောင်မျိုးမြင့်ပေးသော စာအုပ်ကို လက်ခံသူမှာ **ဆရာ**ဖြစ်သည်။ ဆရာသည် စာအုပ်လက်ခံသူဖြစ်ကြောင်းကို **ဆရာ**ဟူသော နာမ်နောက်ရှိ **အား** ဝိဘတ်ကပြသည်။ ထို့ကြောင့် **အား**ဝိဘတ်သည် **လက်ခံသူ**ကိုပြသော **လက်ခံပြုဝိဘတ်** ဖြစ်သည်။

(ဈ) **နေရာပြုဝိဘတ်**။ ။ တည်ရှိရာနေရာ ဖြစ်ကြောင်းကို ပြသော ဝိဘတ်သည် **နေရာပြု ဝိဘတ်**ဖြစ်သည်။

မောင်မျိုးမြင့်၏နေအိမ်သည် ရန်ကုန်မြို့ **၌** ရှိသည်။

ဤဝါကျ၌ မောင်မျိုးမြင့်၏အိမ် တည်ရှိသောနေရာမှာ **ရန်ကုန်မြို့** ဖြစ်သည်။ ရန်ကုန်မြို့သည် မောင်မျိုးမြင့်၏အိမ် တည်ရှိသောနေရာဖြစ်ကြောင်းကို **ရန်ကုန်မြို့** ဟူသော နာမ်နောက်ရှိ **၌**ဝိဘတ်ကပြသည်။ ထို့ကြောင့် **၌** ဝိဘတ်သည် **နေရာပြုဝိဘတ်**ဖြစ်သည်။

(ည) **အချိန်ပြုဝိဘတ်**။ ။ အချိန်ကို ပြသော ဝိဘတ်သည် **အချိန်ပြုဝိဘတ်**ဖြစ်သည်။

သစ်ရွက်များသည် တပေါင်းလ**၌** ကြွေသည်။

ဤဝါကျ၌ သစ်ရွက်များ ကြွေချိန်မှာ **တပေါင်းလ** ဖြစ်သည်။ တပေါင်းလသည် သစ်ရွက်ကြွေချိန်ဖြစ်ကြောင်းကို **တပေါင်းလ**ဟူသော နာမ်နောက်ရှိ **၌** ဝိဘတ်က ပြသည်။ ထို့ကြောင့်**၌** ဝိဘတ်သည် **အချိန်ပြု**ဝိဘတ်ဖြစ်သည်။

(ဋ) **ပိုင်ဆိုင်ခြင်းပြုဝိဘတ်**။ ။ ပိုင်ဆိုင်ခြင်းကိုပြသော ဝိဘတ်သည် **ပိုင်ဆိုင်ခြင်းပြု ဝိဘတ်** ဖြစ်သည်။

ဤစက်ဘီးသည် မောင်မျိုးမြင့်**၏** စက်ဘီးဖြစ်သည်။

ဤဝါကျ၌ စက်ဘီးသည် မောင်မျိုးမြင့်ပိုင်ဆိုင်သော အရာဖြစ်သည်။ စက်ဘီးသည် မောင်မျိုးမြင့်ပိုင်ဆိုင်သောအရာဖြစ်ကြောင်းကို **မောင်မျိုးမြင့်**ဟူသော နာမ်နောက်ရှိ **၏** ဝိဘတ်ကပြသည်။ ထို့ကြောင့် **၏** ဝိဘတ်သည် **ပိုင်ဆိုင်ခြင်းပြုဝိဘတ်** ဖြစ်သည်။

**ကြိယာဝိဘတ်**

၃၈။ ကြိယာ၏နောက်၌တည်၍ ၎င်းကြိယာ၏ကာလနှင့်အမျိုးအစားကို ဝေဖန်ပိုင်းခြား ပြသော စကားလုံးကို **ကြိယာဝိဘတ်** ဟု ခေါ်သည်။

၃၉။ ကြိယာဝိဘတ် ၂ မျိုးရှိသည်။ ၎င်းတို့မှာ–

(က) ကာလပြကြိယာဝိဘတ်

(ခ) အမျိုးအစားပြကြိယာဝိဘတ်တို့ ဖြစ်ကြသည်။

(ကာလပြကြိယာဝိဘတ်ကို ဤအတွဲ ၁၊ အခန်း ၂ ၌ ဖော်ပြမည်။ အမျိုးအစားပြကြိယာဝိဘတ်ကိုမူအတွဲ ၁၊ အခန်း ၃ ၌ ဆက်လက်ဖော်ပြမည်။)

၄၀။ **ကာလပြကြိယာဝိဘတ်**။ ။ ကြိယာ၏ပြုခြင်း၊ ဖြစ်ခြင်း၊ ရှိခြင်းနှင့် စပ်ဆိုင်သည့် အချိန်ကိုဖော်ပြသော ဝိဘတ်ကို **ကာလပြကြိယာဝိဘတ်**ဟု ခေါ်သည်။

၄၁။ ကာလပြကြိယာဝိဘတ်ကို ၃ မျိုးခွဲသည်။ ၎င်းတို့မှာ–

(က) ပစ္စုပ္ပန်ကာလပြကြိယာဝိဘတ်

(ခ) အတိတ်ကာလပြကြိယာဝိဘတ်

(ဂ) အနာဂတ်ကာလပြကြိယာဝိဘတ်တို့ ဖြစ်ကြသည်။

၄၂။ (က) **ပစ္စုပ္ပန်ကာလပြကြိယာဝိဘတ်**။ ။ ကြိယာ၏ပြုဆဲ၊ ဖြစ်ဆဲ၊ ရှိဆဲကာလကို ဖော်ပြသောဝိဘတ်ကို **ပစ္စုပ္ပန်ကာလပြကြိယာဝိဘတ်**ဟု ခေါ်သည်။

**သာဓက**။ ။ သည်၊ ၏၊ ပြီ။

နွေရာသီရောက်**ပြီ**။

ဥသြတွန်သံများကို ကြားရ**သည်/၏**။

(ခ) **အတိတ်ကာလပြကြိယာဝိဘတ်**။ ။ ကြိယာ၏ပြုပြီး၊ ဖြစ်ပြီး၊ ရှိပြီးကာလကို ဖော်ပြသောဝိဘတ်ကို **အတိတ်ကာလပြကြိယာဝိဘတ်**ဟု ခေါ်သည်။

**သာဓက**။ ။ သည်၊ ၏၊ ပြီ။

ဝန်ကြီးပဒေသရာဇာသည် သံလျင်မြို့၌ ကွယ်လွန် **သည်/၏/ပြီ**။

(ဂ) **အနာဂတ်ကာလပြကြိယာဝိဘတ်။ ။** ကြိယာ၏ပြုလတ္တံ့၊ ဖြစ်လတ္တံ့၊ ရှိလတ္တံ့ ကာလကို ဖော်ပြသော ဝိဘတ်ကို **အနာဂတ် ကာလပြကြိယာဝိဘတ်** ဟု ခေါ် သည်။

**သာဓက**။ ။ မည်၊ လိမ့်မည်၊ အံ့၊ လတ္တံ့။

အများအကျိုးဆောင်လျှင် ကိုယ့်အကျိုးအောင်**မည်/ လိမ့်မည်/ အံ့/လတ္တံ့။**

## လေ့ကျင့်ခန်း

၁။ ဝိဘတ်ဆိုသည်မှာ အဘယ်နည်း။ ဝိဘတ် ၅ ခုရေးပါ။

၂။ ကတ္တားဝိဘတ်ဆိုသည်မှာ အဘယ်နည်း။ ကတ္တားဝိဘတ်များကိုရေးပါ။

၃။ ကံဝိဘတ်ဆိုသည်မှာ အဘယ်နည်း။ ကံဝိဘတ်ကိုရေးပါ။

၄။ လက်ခံပြဝိဘတ်ဆိုသည်မှာ အဘယ်နည်း။ လက်ခံပြဝိဘတ်ကို ရေးပါ။

၅။ အသုံးခံပြုဝိဘတ်ဆိုသည်မှာ အဘယ်နည်း။ အသုံးခံပြုဝိဘတ်ကို ရေးပါ။

၆။ ထွက်ခွာရာပြုဝိဘတ်ဆိုသည်မှာ အဘယ်နည်း။ ထွက်ခွာရာပြုဝိဘတ်များကို ရေးပါ။

၇။ ရှေးရှုရာပြုဝိဘတ်ဆိုသည်မှာ အဘယ်နည်း။ ရှေးရှုရာပြုဝိဘတ်ကို ရေးပါ။

၈။ နေရာပြုဝိဘတ်ဆိုသည်မှာ အဘယ်နည်း။ နေရာပြုဝိဘတ်များကို ရေးပါ။

၉။ အချိန်ပြုဝိဘတ်ဆိုသည်မှာ အဘယ်နည်း။ အချိန်ပြုဝိဘတ်များကို ရေးပါ။

၁၀။ ဝါကျနှင့်ယှဉ်တွဲဖော်ပြထားသည့် ဝိဘတ်များမှ သင့်လျော်သော ဝိဘတ်ကို ရွေး၍ကွက်လပ်တွင် ဖြည့်ပါ။

(က) ကျောင်းအုပ်ဆရာကြီး......မိန့်ခွန်းပြောသည်။ (က/မှ)

(ခ) ဆရာသည် ကျောင်းသားများ......ဆုံးမသည်။ (အား/ကို)

(ဂ) အစီအစဉ်တစ်အရ သဘာပတိကြီး......အဖွင့်မိန့်ခွန်း ပြောကြားရန် ပန်ကြားပါသည်။ (အား/က)

(ဃ) သူသည် မောင်ဘ......တုတ်ဖြင့် ရိုက်သည်။ (အား/ကို)

၁၁။ အောက်ပါ ဝိဘတ်တစ်ခုစီကိုအသုံးပြု၍ ဝါကျဖွဲ့ပါ။

မှ၊ က၊ အား၊ ကို၊ ဖြင့်၊ ၏၊ ၌၊ မှာ။

၁၂။ အောက်ပါဝါကျများရှိ မျဉ်းသားထားသော နာမ်ဝိဘတ်အသီးသီး၏ အမျိုးအမည်ကို ရေးပါ။

(က) မောင်လှသည်ကျောင်းသားဖြစ်သည်။

(ခ) မဝိုင်းသည်အိမ်မှ ကျောင်းသို့သွားသည်။

(ဂ) မောင်မြင့်က ခွေးကိုတုတ်ဖြင့်ရိုက်သည်။

(ဃ) တနင်္လာနေ့တွင် ကျောင်း၌ သန့်ရှင်းရေးလုပ်ကြမည်။

(င) ဤမေးခွန်းကို မဖြေတတ်လျှင် ဆရာအားမေးရန် ဝန်မလေးပါနှင့်။

၁၃။ အောက်ပါဝါကျများရှိ မျဉ်းသားထားသော ကြိယာဝိဘတ် အသီးသီး၏ အမျိုးအမည်ကို ရေးပါ။

(က) စင်ရော်ငှက်ငယ်များသည် လေ၌ ပျံဝဲနေကြသည်။

(ခ) သူမန္တလေးမှ မနေ့က ပြန်ရောက်ပြီ။

(ဂ) မနေ့က မိုးသည်းထန်စွာ ရွာ၏။

(ဃ) ကျောင်းသားအားလုံးက ဆရာမကို ချစ်ကြ၏။

(င) ပုပ္ပားတောင်သည် ရှေးအခါက မီးတောင်ဖြစ်ခဲ့ဖူးသည်။

(စ) အမေသည် သားကြီးဖို့ သရက်သီးဝယ်လာသည်။

(ဆ) ကျွန်တော်တို့အိမ်၌ လာမည့်တနင်္ဂနွေနေ့တွင် အလှူလုပ်မည်။

(ဇ) ဦးဖိုးထူးသည် ပထမကမ္ဘာစစ်အတွင်းက မန္တလေးမြို့၌ ကျောင်းအုပ်ကြီး ဖြစ်သည်။

(ဈ) ကျွန်မ၏အဘိုးသည် ယနေ့ အသက် ၈၀ ပြည့်ပြီ။

(ည) ကျွန်တော် မနက်ဖြန် ဆက်ဆက်လာပါမည်။

# သမ္ဗန္ဓ

**သမ္ဗန္ဓ**

၄၃။ ပုဒ်အချင်းချင်းကိုဖြစ်စေ၊ ဝါကျအချင်းချင်းကိုဖြစ်စေ၊ အဓိပ္ပာယ်အချင်းချင်းကိုဖြစ်စေ ဆက်စပ်ပေးသော စကားလုံးကို **သမ္ဗန္ဓ**ဟု ခေါ်သည်။

၄၄။ သမ္ဗန္ဓ ၃ မျိုးရှိသည်။ ၎င်းတို့မှာ–

(က) ပုဒ်ဆက်သမ္ဗန္ဓ

(ခ) ဝါကျဆက်သမ္ဗန္ဓ

(ဂ) အဓိပ္ပာယ်ဆက်သမ္ဗန္ဓတို့ ဖြစ်ကြသည်။

၄၅။ (က) **ပုဒ်ဆက်သမ္ဗန္ဓ**။ ။ ပုဒ်အချင်းချင်းဆက်စပ်ပေးသောစကားလုံးကို **ပုဒ်ဆက်သမ္ဗန္ဓ** ဟု ခေါ်သည်။

**သာဓက**။ ။ နှင့်၊ သို့မဟုတ်၊ ရော......ရော၊ ဖြစ်စေ ......ဖြစ်စေ။

(၁) မောင်ပု**နှင့်** မစုတို့သည် သူငယ်ချင်းများဖြစ်ကြသည်။
ဤဝါကျတွင် **မောင်ပု၊ မစု**တို့သည် နာမ်ပုဒ်များ ဖြစ်ကြသည်။ အဆိုပါ နာမ်ပုဒ် ၂ ခုကို **နှင့်**ဟူသော သမ္ဗန္ဓက ဆက်စပ်ပေးသည်။ ထို့ကြောင့် **နှင့်** သည် ပုဒ်အချင်းချင်း ဆက်စပ်ပေးသော **ပုဒ်ဆက် သမ္ဗန္ဓ**ဖြစ်သည်။

(၂) နှင်းဆီပန်း၊ **သို့မဟုတ်** စံပယ်ပန်းကို ဝယ်ခဲ့ပါ။
ဤဝါကျတွင် **နှင်းဆီပန်း၊ စံပယ်ပန်း**တို့သည် နာမ်ပုဒ်များဖြစ်ကြသည်။ အဆိုပါနာမ်ပုဒ် ၂ ခုကို **သို့မဟုတ်**ဟူသော သမ္ဗန္ဓက ဆက်စပ်ပေးသည်။ ထို့ကြောင့် **သို့မဟုတ်**သည် ပုဒ်အချင်းချင်းကို ဆက်စပ်ပေးသော **ပုဒ်ဆက်သမ္ဗန္ဓ**ဖြစ်သည်။

(၃) မင်း**ရော** ငါ**ရော** သွားကြမည်။
ဤဝါကျ၌ **မင်း၊ ငါ**တို့သည် နာမ်စားများ ဖြစ်ကြသည်။ အဆိုပါ နာမ်စား ၂ခုကို **ရော......ရော**ဟူသော စကားလုံးနှစ်ခုက ဆက်စပ်ပေးသည်။ ထို့ကြောင့် **ရော...... ရော**သည် ပုဒ်အချင်းချင်းကို ဆက်စပ်ပေးသော **ပုဒ်ဆက်သမ္ဗန္ဓ** ဖြစ်သည်။

(ခ) **ဝါကျဆက်သမ္ဗန္ဓ**။ ။ ဝါကျအချင်းချင်း ဆက်စပ်ပေးသော စကားလုံးကို **ဝါကျဆက်သမ္ဗန္ဓ**ဟု ခေါ်သည်။

**သာဓက**။ ။ သောကြောင့်၊ သောအခါ၊ သာမက......လည်း၊ သော်လည်း၊ ၍၊ ကတည်းက၊ လျှင်။

(၁) (ကက) မောင်ပုသည် စာကြိုးစားသည်။

(ခခ) မောင်ပုသည် စာမေးပွဲအောင်သည်။

(ဂဂ) မောင်ပုသည် စာကြိုးစား**သောကြောင့်** စာမေးပွဲအောင်သည်။

ပထမဝါကျနှင့် ဒုတိယဝါကျတို့သည် သီးခြားဝါကျများ ဖြစ်ကြသည်။ ထိုဝါကျ ၂ ခုကို **သောကြောင့်**ဟူသော သမ္ဗန္ဓဖြင့် ဆက်စပ်နိုင်သည်။ ထိုအခါ တတိယဝါကျဖြစ်လာသည်။ သို့ဖြစ်၍ **သောကြောင့်**သည် ဝါကျအချင်းချင်းကို ဆက်စပ်ပေးသော **ဝါကျဆက်သမ္ဗန္ဓ** ဖြစ်သည်။

(၂) (ကက) နွေရာသီ၌ ကျောင်းပိတ်သည်။
(ခခ) မောင်ပုသည် စက်ရုံ**၌**လုပ်အားပေးမည်။
(ဂဂ) နွေရာသီ၌ ကျောင်းပိတ်**သောအခါ** မောင်ပုသည် စက်ရုံ၌ လုပ်အားပေးမည်။

ပထမဝါကျနှင့် ဒုတိယဝါကျတို့သည် သီးခြားဝါကျများ ဖြစ်ကြသည်။ ထိုဝါကျ ၂ ခုကို **သောအခါ** ဟူသော သမ္ဗန္ဓဖြင့် ဆက်စပ်နိုင်သည်။ ထိုအခါ တတိယဝါကျဖြစ်လာသည်။ သို့ဖြစ်၍ **သောအခါ** သည် ဝါကျအချင်းချင်းကို ဆက်စပ်ပေးသော **ဝါကျဆက်သမ္ဗန္ဓ** ဖြစ်သည်။

(၃) (ကက) မောင်ပုသည် စာတော်သည်။
(ခခ) မောင်ပုသည် အားကစားတော်သည်။
(ဂဂ) မောင်ပုသည် စာတော်သည်**သာမက** အားကစား**လည်း** တော်သည်။

ပထမဝါကျနှင့် ဒုတိယဝါကျတို့သည် သီးခြားဝါကျများ ဖြစ်ကြသည်။ ထိုဝါကျ ၂ ခုကို **သာမက......လည်း** ဟူသော သမ္ဗန္ဓဖြင့် ဆက်စပ်နိုင်သည်။ ထိုအခါ တတိယဝါကျဖြစ်လာသည်။ သို့ဖြစ်၍ **သာမက......လည်း**သည် ဝါကျအချင်းချင်းကို ဆက်စပ်ပေးသော **ဝါကျဆက်သမ္ဗန္ဓ** ဖြစ်သည်။

(ဂ) **အဓိပ္ပာယ်ဆက်သမ္ဗန္ဓ**။ ။ အဓိပ္ပာယ်အချင်းချင်း ဆက်စပ်ပေးသော စကားလုံးကို **အဓိပ္ပာယ်ဆက်သမ္ဗန္ဓ**ဟု ခေါ်သည်။

**သာဓက**။ ။ထို့ကြောင့်၊ ထိုအခါ၊ ထို့ပြင်...လည်း၊ ထို့နောက်၊ သို့သော်လည်း။

(၁) (ကက) မောင်ပုသည် စာကြိုးစားသည်။
(ခခ) မောင်ပုသည် စာမေးပွဲအောင်သည်။
(ဂဂ) မောင်ပုသည် စာကြိုးစားသည်။ **ထို့ကြောင့်** မောင်ပုသည် စာမေးပွဲ အောင်သည်။

ပထမဝါကျနှင့် ဒုတိယဝါကျတို့သည် သီးခြားဝါကျများ ဖြစ်ကြသည်။ ထိုဝါကျ ၂ ခုကို **ထို့ကြောင့်**ဟူသော သမ္ဗန္ဓဖြင့် ဆက်စပ်နိုင်သည်။ ထိုအခါ သီးခြားရှိနေကြသော ဝါကျ ၂ ခုတို့သည် အဓိပ္ပာယ်အရ ဆက်သွယ်မှုရှိလာသည်။ သို့ဖြစ်၍ **ထို့ကြောင့်** သည် သီးခြားဝါကျတို့ကို အဓိပ္ပာယ်အရဆက်စပ်ပေးသော **အဓိပ္ပာယ်ဆက်သမ္ဗန္ဓ** ဖြစ်သည်။

(၂) (ကက) နွေရာသီ၌ ကျောင်းပိတ်သည်။
(ခခ) မောင်ပုသည် စက်ရုံ၌လုပ်အားပေးမည်။

(ဂဂ) နွေရာသီ၌ ကျောင်းပိတ်သည်။ **ထိုအခါ** မောင်ပုသည် စက်ရုံ၌ လုပ်အားပေးမည်။

ပထမဝါကျနှင့် ဒုတိယဝါကျတို့သည် သီးခြားဝါကျများ ဖြစ်ကြသည်။ ထိုဝါကျ ၂ ခုကို **ထိုအခါ** ဟူသော သမ္ဗန္ဓဖြင့် ဆက်စပ်နိုင်သည်။ ထိုအခါ သီးခြားရှိနေကြသော ဝါကျ ၂ ခုတို့သည် အဓိပ္ပာယ်အရ ဆက်သွယ်မှု ရှိလာသည်။ သို့ဖြစ်၍ **ထိုအခါ** သည် သီးခြားဝါကျများကို အဓိပ္ပာယ်အရ ဆက်စပ်ပေးသော **အဓိပ္ပာယ်ဆက်သမ္ဗန္ဓ** ဖြစ်သည်။

(၃) (ကက) မောင်ပုသည် စာတော်သည်။

(ခခ) မောင်ပုသည် အားကစားတော်သည်။

(ဂဂ) မောင်ပုသည် စာတော်သည်။ **ထို့ပြင်** အားကစားလည်း တော်သည်။

ပထမဝါကျနှင့် ဒုတိယဝါကျတို့သည် သီးခြားဝါကျများ ဖြစ်ကြသည်။ ထိုဝါကျ ၂ ခုကို **ထို့အပြင်......လည်း** ဟူသော သမ္ဗန္ဓဖြင့် ဆက်စပ်နိုင်သည်။ ထိုအခါ သီးခြားရှိနေကြသော ဝါကျ ၂ ခုတို့သည် အဓိပ္ပာယ်အရ ဆက်သွယ်မှု ရှိလာသည်။ သို့ဖြစ်၍ **ထို့အပြင် ......လည်း**သည် သီးခြား ဝါကျများကို အဓိပ္ပာယ်အရ ဆက်စပ်ပေးသော **အဓိပ္ပာယ်ဆက်သမ္ဗန္ဓ** ဖြစ်သည်။

## လေ့ကျင့်ခန်း

၁။ သမ္ဗန္ဓဆိုသည်မှာ အဘယ်နည်း။

၂။ ပုဒ်ဆက်သမ္ဗန္ဓဆိုသည်မှာ အဘယ်နည်း။ ပုဒ်ဆက်သမ္ဗန္ဓ ၃ ခုကို ရေးပါ။

၃။ ဝါကျဆက်သမ္ဗန္ဓဆိုသည်မှာ အဘယ်နည်း။ ဝါကျဆက်သမ္ဗန္ဓ ၃ ခုကို ရေးပါ။

၄။ အဓိပ္ပာယ်ဆက်သမ္ဗန္ဓဆိုသည်မှာ အဘယ်နည်း။ အဓိပ္ပာယ်ဆက်သမ္ဗန္ဓ ၃ ခုကိုရေးပါ။

၅။ အောက်ပါဝါကျများရှိ သမ္ဗန္ဓတို့၏ အမျိုးအမည်ကို ရေးပါ။

(က) ခင်ဗျားနှင့်ကျွန်တော် ယနေ့ညနေ တွေ့ရဦးမည်။

(ခ) သဖင်ပန်းဖြစ်စေ၊ စံပယ်ပန်းဖြစ်စေ ဝယ်ခဲ့ပါ။

(ဂ) မင်းရောငါရော အတူတူသွားကြမည်။

(ဃ) မိုးရွာလျှင် ရေချိုးမည်။

(င) မောင်ဇော်သည် စာတော်သည်။ ထို့ပြင် အားကစားလည်းတော်သည်။

(စ) မောင်အောင်သည် ဖျားနေသော်လည်း ကျောင်းတက်သည်။

(ဆ) မောင်ဖိုးတုတ်သည် အလွန်အစားကောင်းသောကြောင့် ဝဖြိုးနေသည်။

(ဇ) နံနက် သို့မဟုတ် ညနေရောက်အောင် ဆက်ဆက် လာခဲ့စေချင်ပါသည်။

(ဈ) ဦးဘက လက်သီးလက်မောင်းတန်း၍ ပြောလိုက်သည်။ ထိုအခါ ပရိသတ်က သြဘာပေးသည်။

(ည) မိုးကျသောအခါ လယ်သမားတို့သည် လယ်တောသို့ ဆင်းကြသည်။

၆။ အောက်ပါဝါကျများရှိ ကွပ်လပ်အသီးသီး၌ ဆီလျော်သော သမ္ဗန္ဓကို ဖြည့်ပါ။

(က) သုံး...သုံးပေါင်းလျှင် ခြောက်ရသည်။

(ခ) မိုးရွာ...သူလာနိုင်မည်မဟုတ်။

(ဂ) သူသည်ချမ်းသာ...မကျန်းမာပါ။

(ဃ) ဤအသီးသည် အနံ့...အရသာ...ကောင်းသည်။

(င) ကိတ်မုန့်...မုန့်ဟင်းခါး...စားမည်။

၇။ ယှဉ်တွဲဖော်ပြထားသော သမ္ဗန္ဓများမှ ဆီလျော်သော သမ္ဗန္ဓတစ်ခုကိုရွေး၍ ဝါကျအစုံကို ဆက်စပ်ရေးသားပါ။

(က) (၁) ကျွန်တော့်အစ်ကို နေကောင်းသည်။
(၂) ကျွန်တော့်အစ်မဖျားနေသည်။
(သော်လည်း၊ သို့မဟုတ်၊ သာမက... လည်း)

(ခ) (၁) သူသည် သရက်သီးကို ကြိုက်သည်။
(၂) သူသည် လိမ္မော်သီးကိုကြိုက်သည်။
(သာမက...လည်း၊ ထို့ကြောင့်၊ လျှင်)

(ဂ) (၁) ဆိတ်ကလေးများ မြက်စားနေကြသည်။
(၂) နွားကလေးများ မြက်စားနေကြသည်။
(သော်လည်း၊ ၍၊ သာမက...လည်း)

(ဃ) (၁) ကျွန်တော်အမြန်ပြေးသွားပါသည်။
(၂) ကျွန်တော်မီးရထားမမီလိုက်ပါ။ (သောကြောင့်၊ သော်လည်း၊ လျှင်)

(င) (၁) နွေဦးပေါက်ချိန် ဖြစ်ပါသည်။
(၂) သစ်ရွက်နုများ ထွက်စပြုနေပါပြီ။ (သာမက ...လည်း၊ ၍၊ နှင့်)

(စ) (၁) သူဈေးသို့ သွားသည်။
(၂) မိုးစဲသွားပါပြီ။ (သော်လည်း၊ သို့မဟုတ်၊ သောအခါ)

(ဆ) (၁) အမေအိမ်မှာရှိပါသည်။
(၂) အဖေအိမ်မှာရှိပါသည်။ (ရော...ရော၊ သော်လည်း၊ သို့သော်လည်း)

(ဇ) (၁) ရုပ်ရှင်လက်မှတ်ကုန်သွားပါလိမ့်မည်။
(၂) ကျွန်တော်တို့ ရုပ်ရှင်လက်မှတ်ကို ကြိုတင်ဝယ်ထားမှ ဖြစ်မည်။
(နှင့်၊ သို့မဟုတ်၊ ထို့ကြောင့်)

(ဈ) (၁) မောင်ဖော်သည် အိမ်ရှေ့တွင် ရှိမည်။
(၂) မောင်ဖော်သည် မီးဖိုထဲတွင်ရှိမည်။
(လျှင်၊ သောကြောင့်၊ ဖြစ်စေ... ဖြစ်စေ)

(ည) (၁) အမေ နံနက်စောစော ဈေးသွားသည်။
(၂) အဖေ အိပ်နေသည်။ (သောအခါ၊ နှင့်၊ ရော... ရော)

၈။ အောက်ပါ သမ္ဗန္ဓအသီးသီးကို ဝါကျတွင် သုံးပြပါ။

နှင့်၊ သို့ရာတွင်၊ သောအခါ။

# နာမ်ပစ္စည်း

**ပစ္စည်း**။ ။ နာမ်၊ နာမ်စား၊ နာမဝိသေသန၊ ကြိယာ၊ ကြိယာဝိသေသနတို့၏ အဓိပ္ပာယ်ကို ထူးခြားလေးနက်အောင် ကူညီထောက်ပံ့သောစကားလုံးသည် **ပစ္စည်း**ဖြစ်သည်။ ပစ္စည်း ၃ မျိုး ရှိသည်။ ၎င်းတို့မှာ–

(၁) နာမ်ပစ္စည်း

(၂) ကြိယာပစ္စည်း

(၃) ပုဒ်ပြောင်းပစ္စည်းတို့ ဖြစ်ကြသည်။

**နာမ်ပစ္စည်း**

၄၆။ နာမ်၊ နာမ်စားတို့၏အဓိပ္ပာယ်ကို ထူးခြားလေးနက်အောင် ကူညီထောက်ပံ့သည့် စကားလုံးကို **နာမ်ပစ္စည်း** ဟု ခေါ်သည်။

၄၇။ နာမ်ပစ္စည်းအမျိုးမျိုးရှိသည်။ အဆိုပါ နာမ်ပစ္စည်းအမျိုးမျိုးတွင် အောက်ပါနာမ်ပစ္စည်း ၃ မျိုး ပါဝင်သည်။ ၎င်းတို့မှာ–

(က) မျိုးပြပစ္စည်း

(ခ) လိင်ညွှန်းပစ္စည်း

(ဂ) ကိန်းညွှန်းပစ္စည်းတို့ဖြစ်ကြသည်။

၄၈။ (က) **မျိုးပြပစ္စည်း**။ ။ သက်ရှိသက်မဲ့တို့၏ ပုံသဏ္ဍာန်၊ အမျိုးအစားအလိုက် သင်္ချာပုဒ်များနှင့် တွဲ၍သုံးသောပစ္စည်းကို **မျိုးပြပစ္စည်းဟု** ခေါ်သည်။

**သာဓက**။ ။

| **နာမ်** | **သင်္ချာပုဒ်** | **မျိုးပြပစ္စည်း** |
|---|---|---|
| ငါး | တစ် | ကောင် |
| မုန့် | တစ် | ခု |
| စကား | တစ် | ခွန်း |
| စာ | တစ် | စောင် |
| ဘုရား | တစ် | ဆူ |
| လုံချည် | တစ် | ထည် |
| သစ် | တစ် | ပင် |
| ဘုန်းကြီး | တစ် | ပါး |
| လူ | တစ် | ယောက် |
| ဓား | တစ် | လက် |

(၁) **ကောင်** ။ ။ ပိုးမွှားတိရစ္ဆာန်များအတွက် သုံးသည်။

**သာဓက**။ ။ ပင့်ကူတစ်**ကောင်**၊ ခွေးတစ်**ကောင်**၊ ဆင်တစ်**ကောင်**၊ ငှက်တစ်**ကောင်**။

(၂) **ခု**။ ။အရာဝတ္ထုအချို့အတွက် သုံးသည်။

**သာဓက**။ ။ ခဲတံချွန်စက်တစ်**ခု**၊ ခဲဖျက်တစ်**ခု**၊ ပြက္ခဒိန်တစ်**ခု**။

(၃) **ခွန်း**။ ။ ပြောစကားအတွက် သုံးသည်။
**သာဓက**။ ။ စကားနှစ်**ခွန်း**၊ စကားငါး**ခွန်း**။

(၄) **စောင်** ။ ။ စာအုပ်၊ စာတမ်းများအတွက် သုံးသည်။
**သာဓက**။ ။ စာတစ်**စောင်**၊ ကျမ်းတစ်**စောင်**၊ ဓမ္မသတ် တစ်**စောင်**။

(၅) **ဆူ** ။ ။ ရှိခိုးပူဇော်ထိုက်သော၊ ရိုသေလေးစားထိုက်သော ပုဂ္ဂိုလ်၊ အရာဝတ္ထုတို့အတွက် သုံးသည်။
**သာဓက**။ ။ ဘုရားတစ်**ဆူ**၊ စေတီတစ်**ဆူ**၊ ကျမ်းတစ်**ဆူ**၊ ပုရပိုက်တစ်**ဆူ**။

(၆) **ထည်** ။ ။ အဝတ်အထည်တို့အတွက် သုံးသည်။
**သာဓက**။ ။ လုံချည်တစ်**ထည်**၊ တဘက်တစ်**ထည်**၊ စောင်တစ်**ထည်**။

(၇) **ပင်** ။ ။ သစ်ပင်စသည်တို့အတွက် သုံးသည်။
**သာဓက**။ ။ သစ်ပင်တစ်**ပင်**၊ ဝါးတစ်**ပင်**၊ သုံး**ပင်**အိမ်။

(၈) **ပါး** ။ ။ မွန်မြတ်သောအရာဝတ္ထု၊ ရိုသေလေးစားပူဇော် ထိုက် သော ပုဂ္ဂိုလ်နှင့် အထွေထွေအပြားပြား ရှိသော အရာဝတ္ထုတို့အတွက် သုံးသည်။
**သာဓက**။ ။ ရတနာသုံး**ပါး**၊ ရဟန်းတစ်**ပါး**၊ မြို့အင်္ဂါလေး**ပါး**၊ စမုန်မျိုးငါး**ပါး**။

(၉) **ယောက်** ။ ။ လူတို့အတွက် သုံးသည်။
**သာဓက**။ ။ လူနှစ်**ယောက်**၊ ယောက်ျားသုံး**ယောက်**၊ မိန်းကလေးဆယ်**ယောက်**။

(၁၀) **လက်** ။ ။ အရာဝတ္ထုအချို့အတွက် သုံးသည်။
**သာဓက**။ ။ ဓားတစ်**လက်**၊ ထီးတစ်**လက်**၊ သေနတ်နှစ်**လက်**။

(၁၁) **ဖုံ** ။ ။ များသောအားဖြင့် မြန်မာတိုင်းရင်းဆေးများအတွက် သုံးသည်။
**သာဓက**။ ။ ဆေးတစ်**ဖုံ**၊ လျက်ဆားတစ်**ဖုံ**။

(ခ) **လိင်ညွှန်းပစ္စည်း**။ ။ အဖိုအမသဘာဝကို ဖော်ပြသည့် ပစ္စည်းကို **လိင်ညွှန်းပစ္စည်း** ဟု ခေါ်သည်။

အချို့သောနာမ်များ၏ နောက်၌လည်းကောင်း၊ ရှေ့၌လည်းကောင်း လိင်ညွှန်းပစ္စည်းများကို ပေါင်းစပ်နိုင်သည်။ ထိုသို့ ပေါင်းစပ်နိုင်သော လိင်ညွှန်းပစ္စည်းတို့ကို လိုက်၍ အဆိုပါနာမ်တို့ကို "ပုလ္လိင်"ဟုလည်းကောင်း၊ "ဣတ္ထိလိင်" ဟုလည်းကောင်း ခွဲခြားသည်။

လိင်ညွှန်းပစ္စည်း ၂ မျိုး ရှိသည်။ ၎င်းတို့မှာ ပုလ္လိင်ညွှန်းပစ္စည်းနှင့် ဣတ္ထိလိင်ညွှန်းပစ္စည်းတို့ ဖြစ်ကြသည်။

(၁) **ပုလ္လိင်ညွှန်းပစ္စည်း**။ ။ အဖိုသဘာဝကို ဖော်ပြသော လိင်ညွှန်းပစ္စည်းကို **ပုလ္လိင်ညွှန်းပစ္စည်း**ဟု ခေါ်သည်။
**သာဓက**။ ။ သား၊ ထီး၊ ဖ၊ ဖို၊ မောင်၊ ကို၊ ဖိုး၊ ဦး။

(၂) **ဣတ္ထိလိင်ညွှန်းပစ္စည်း**။ ။ အမသဘာဝကို ဖော်ပြသော လိင်ညွှန်းပစ္စည်းကို **ဣတ္ထိလိင်ညွှန်း**ပစ္စည်းဟု ခေါ်သည်။

**သာဓက**။ ။ သူ၊ မ၊ မိ၊ မယ်၊ ဒေါ်။

**သား**နှင့်**သူ**။ ။ **သား**ဟူသော လိင်ညွှန်းပစ္စည်းသည် အဖိုသဘာဝကို ဖော်ပြသည်။

**သူ**ဟူသောလိင်ညွှန်းပစ္စည်းသည် အမသဘာဝကို ဖော်ပြသည်။

| **နာမ်** | **ပုလ္လိင်** | **ဣတ္ထိလိင်** |
|---|---|---|
| | **+ သား** | **+ သူ** |
| ကျောင်း | ကျောင်းသား | ကျောင်းသူ |
| တော | တောသား | တောသူ |
| ရွာ | ရွာသား | ရွာသူ |
| အညာ | အညာသား | အညာသူ |

**ထီး**နှင့်**မ**။ ။ **ထီး**ဟူသော လိင်ညွှန်းပစ္စည်းသည် အဖိုသဘာဝကို ဖော်ပြသည်။

**မ** ဟူသော လိင်ညွှန်းပစ္စည်းသည် အမသဘာဝကို ဖော်ပြသည်။

| **နာမ်** | **ပုလ္လိင်** | **ဣတ္ထိလိင်** |
|---|---|---|
| | **+ ထီး** | **+ မ** |
| နွား | နွားထီး | နွားမ |
| ခွေး | ခွေးထီး | ခွေးမ |
| မြင်း | မြင်းထီး | မြင်းမ |
| ကြောင် | ကြောင်ထီး | ကြောင်မ |

**ဖို**နှင့်**မ**။ ။ **ဖို** ဟူသော လိင်ညွှန်းပစ္စည်းသည် အဖိုသဘာဝကို ဖော်ပြသည်။

**မ** ဟူသောလိင်ညွှန်းပစ္စည်းသည် အမသဘာဝကို ဖော်ပြသည်။

| **နာမ်** | **ပုလ္လိင်** | **ဣတ္ထိလိင်** |
|---|---|---|
| | **+ ဖို** | **+ မ** |
| ဒရယ် | ဒရယ်ဖို | ဒရယ်မ |
| မြွေ | မြွေဖို | မြွေမ |
| ငန်း | ငန်းဖို | ငန်းမ |
| ဝတ်ဆံ | ဝတ်ဆံဖို | ဝတ်ဆံမ |
| ထန်း | ထန်းဖို | ထန်းမ |

**မ**။ ။ **မ** ဟူသော လိင်ညွှန်းပစ္စည်းသည် အချို့ပုလ္လိင် နာမ်တို့နှင့် ပေါင်းစပ်ပြီး အမသဘာဝကို ဖော်ပြသည်။

| **ပုလ္လိင် (နာမ်)** | **ဣတ္ထိလိင်** |
|---|---|
| | **+ မ** |
| တူ | တူမ |
| ညီ | ညီမ |
| ဆရာ | ဆရာမ |
| ဘုရင် | ဘုရင်မ |

**မောင်၊ ကို၊ ဖိုး၊ ဦး** နှင့် **မ၊ မိ၊ မယ်၊ ဒေါ်**

**မောင်၊ ကို၊ ဖိုး၊ ဦး** ဟူသော လိင်ညွှန်းပစ္စည်းတို့သည် အဖိုသဘာဝကို ဖော်ပြသည်။

**မ၊ မိ၊ မယ်၊ ဒေါ်** ဟူသောလိင်ညွှန်းပစ္စည်းတို့သည် အမသဘာဝကို ဖော်ပြသည်။

| **နာမ်** | **ပုလ္လိင်** | **ဣတ္ထိလိင်** |
|---|---|---|
| မြသိန်း | မောင်မြသိန်း | မမြသိန်း |
| တင်မြင့် | ကိုတင်မြင့် | မတင်မြင့် |
| အေးရွှေ | ဖိုးအေးရွှေ | မိအေးရွှေ |
| | | မယ်အေးရွှေ |
| မျိုးမြင့် | ဦးမျိုးမြင့် | ဒေါ်မျိုးမြင့် |

(ဂ) **ကိန်းညွှန်းပစ္စည်း။ ။** နာမ်၊ နာမ်စားတို့၏အရေအတွက် တစ်ခုထက် ပိုကြောင်းကို ညွှန်ပြသောပစ္စည်းကို **ကိန်းညွှန်းပစ္စည်း**ဟု ခေါ်သည်။

(၁) (ကက) လူကလေးကစားနေသည်။

(ခခ) လူကလေး**များ** ကစားနေကြသည်။

ပထမဝါကျရှိ **လူကလေး**သည် အရေအတွက်တစ်ခုသာ ရှိသော နာမ်ဖြစ်သည်။ ဒုတိယဝါကျရှိ **လူကလေးများ** သည် အရေအတွက် တစ်ခုထက်ပိုသောနာမ်ဖြစ်သည်။ အရေအတွက် တစ်ခုထက် ပိုကြောင်းကို **များ**ဟူသော စကားလုံးက ညွှန်ပြသည်။ ထို့ကြောင့် **များ**သည် နာမ်ပုဒ်အရေအတွက် တစ်ခုထက်ပိုကြောင်းကို ညွှန်ပြသော **ကိန်းညွှန်းပစ္စည်း**ဖြစ်သည်။

(၂) (ကက) သူသည် လိမ္မာသည်။

(ခခ) သူ**တို့**သည် လိမ္မာကြသည်။

ပထမဝါကျရှိ **သူ** သည် အရေအတွက် တစ်ခုသာရှိသော နာမ်စား ဖြစ်သည်။ ဒုတိယဝါကျရှိ **သူတို့**သည် အရေအတွက် တစ်ခု ထက်ပိုသော နာမ်စားဖြစ်သည်။ အရေအတွက်တစ်ခုထက် ပိုကြောင်း ကို **တို့**ဟူသော စကားလုံးက ညွှန်ပြသည်။ ထို့ကြောင့် **တို့** သည် နာမ်စားအရေအတွက် တစ်ခုထက် ပိုကြောင်းကို ညွှန်ပြသော **ကိန်းညွှန်းပစ္စည်း**ဖြစ်သည်။

၄၉။ (က) **များ**။ ။ တစ်ခုထက်ပိုသော အရေအတွက်ကို ဖော်ပြရာ၌ သုံးသည်။

**သာဓက**။ ။ (၁) အမှည့်လွန်သော သရက်သီး၊ ပိန္နဲသီး၊ သဘော်သီး**များ**ကို မစားပါနှင့်။

(၂) ဝမ်းနှုံးစာ**များ**ကို မစားပါနှင့်။

(၃) သက်ကြီးရွယ်အိုနှင့် ကလေးသူငယ်**များ**ကို စောင့်ရှောက်ပါ။

(၄) အားနည်းသူ**များ**ကို ကူညီစောင့်ရှောက်ပါ။

(ခ) **တို့**။ ။ (၁) တစ်ခုထက်ပိုသောအရေအတွက်ကို ဖော်ပြရာ၌ သုံးသည်။

**သာဓက**။ ။ (ကက) အမှည့်လွန်သော သရက်သီး၊ ပိန္နဲသီး၊ သဘော်သီး**တို့**ကို မစားပါနှင့်။

(ခခ) ဝမ်းနှုံးစာ**တို့**ကို မစားပါနှင့်။

(ဂဂ) သက်ကြီးရွယ်အိုနှင့် ကလေးသူငယ်**တို့**ကို စောင့်ရှောက်ပါ။

(ဃဃ) အားနည်းသူ**တို့**ကို ကူညီစောင့်ရှောက်ပါ။

(၂) တစ်ခုထက်ပိုသော အရေအတွက်ကို ကိန်းဂဏန်းဖြင့် အတိ အကျဖော်ပြရာ၌ ရံဖန်ရံခါသုံးလေ့ရှိသည်။

**သာဓက**။ ။ (ကက) ကျောင်းသားသူငယ် ၅၀၀ **တို့**သည် စက်ရုံ၌ လုပ်အားပေးကြသည်။

(ခခ) လူရည်ချွန်ကျောင်းသား ၂၀၀**တို့**သည် ငပလီ အပန်းဖြေစခန်းသို့ ထွက်ခွာသွားကြသည်။

(ဂဂ) ငါးဘာသာဂုဏ်ထူးရသော ကျောင်းသား ငါးယောက် **တို့**ကို ကျောင်းအုပ် ဆရာကြီးက ဆုချီးမြှင့်သည်။

(ဃဃ) ထိုသူနှစ်ယောက်**တို့**တွင် မည်သူက အစ်ကိုကြီး ဖြစ်သနည်း။

(ငင) တပ်မတော်သား ငါးရာ**တို့**သည် လယ်ယာ ဦးကြီး များနှင့်အတူ ရွှေဝါမြေ စစ်ဆင်ရေး၌ ပါဝင်ဆင်နွှဲကြသည်။

(၃) ပုဂ္ဂလနာမ်စားများ၏ အများကိန်းကို ဖော်ပြရာ၌ သုံးသည်။

**သာဓက**။ ။ (ကက) ကျွန်ုပ်**တို့**၏ လက်ဦးဆရာကား မိဘ နှစ်ပါး တည်း။

(ခခ) ငါ**တို့**သည် အနာဂတ်၏သားကောင်း ရတနာ များ ဖြစ်ကြရမည်။

(ဂဂ) မင်း**တို့**တာဝန်ကို မလစ်ဟင်းပါစေနှင့်။

(ဃဃ) သူ**တို့**ကဲ့သို့ လူရည်ချွန် လူရည်မွန်များ ဖြစ်အောင် ကြိုးစားသင့်သည်။

(ငင) ကျွန်မ**တို့** မောင်နှမ လေးယောက်စလုံး လုပ်အားပေးကြပါမည်။

## လေ့ကျင့်ခန်းများ

၁။ နာမ်ပစ္စည်းဆိုသည်မှာ အဘယ်နည်း။

၂။ မျိုးပြပစ္စည်းဆိုသည်မှာ အဘယ်နည်း။ မျိုးပြပစ္စည်း ၅ ခုကို ရေးပါ။

၃။ လိင်ညွှန်းပစ္စည်းဆိုသည်မှာ အဘယ်နည်း။ လိင်ညွှန်းပစ္စည်း ၅ ခုကို ရေးပါ။

၄။ ကိန်းညွှန်းပစ္စည်းဆိုသည်မှာ အဘယ်နည်း။ ကိန်းညွှန်းပစ္စည်း ၅ ခုကို ရေးပါ။

၅။ အောက်ပါကွက်လပ်အသီးသီး၌ ဆီလျော်သော နာမ်ပစ္စည်းကို ဖြည့်ပါ။

| | | | |
|---|---|---|---|
| (က) | အိုးတစ် ... | (စ) | ကျောင်းသားကျောင်း... |
| (ခ) | ဖျာတစ် ... | (ဆ) | နွား...နွားမ |
| (ဂ) | လှံတစ် ... | (ဇ) | ရွာသူရွာ... |
| (ဃ) | လူတစ် ... | (ဈ) | ဦးဘထွားနှင့်ဇနီး...သူဇာ |
| (င) | ခွေးတစ် ... | (ည) | အမှည့်လွန်သောအသီး...ကို မစားပါနှင့်။ |

၆။ မျဉ်းသားထားသော နာမ်ပစ္စည်းအသီးသီး၏ အမျိုးအမည်ကို ရေးပါ။

(က) စကားတစ်ခွန်း
(ခ) အုန်းသီးတစ်ခိုင်
(ဂ) စေတီသုံးဆူ
(ဃ) ကျောင်းသား ကျောင်းသူ
(င) ကြောင်ထီးနှင့်ကြောင်မ
(စ) မြစ်များ၊ ချောင်းများ
(ဆ) မောင်သိန်းနှင့် မဝင်း
(ဇ) မယ်အေးနှင့်မီရွှေ
(ဈ) မင်းတို့၊ ငါတို့
(ည) ထန်းဖို၊ ထန်းမ

၇။ ယှဉ်တွဲဖော်ပြထားသော နာမ်ပစ္စည်းများမှ ဆီလျော်သော နာမ်ပစ္စည်းများကိုရွေး၍ ကွက်လပ်တွင်ဖြည့်ပါ။

(က) ကျွန်တော်ခဲတံတစ်...ကို ဈေးက ဝယ်ခဲ့ပါသည်။ (ချောင်း၊ခု)
(ခ) ကျွန်ုပ်...သည် မြန်မာနိုင်ငံနှင့် တိုင်းရင်းသားလုပ်သားပြည်သူတို့အပေါ် သစ္စာရှိပါမည်။ (များ၊တို့)
(ဂ) မောင်ရေခဲကြောင့် ကုလားထိုင်တစ်...ကျိုးသွားသည်။ (ချောင်း၊ လုံး)
(ဃ) သူငယ်ချင်းက ကျွန်တော့်အား စာအုပ်တစ်...ကို လက်ဆောင်ပေးပါသည်။ (အုပ်၊ ခု)
(င) ထန်းပင်တွင် ထန်းမ ရှိသကဲ့သို့ ထန်း...လည်း ရှိပါသည်။ (ထီး၊ ဖို)

# အာမေဍိတ်

**အာမေဍိတ်**

၅၀။ ထိတ်လန့်ခြင်း၊ ဝမ်းသာခြင်း၊ အံ့သြခြင်း စသည့် တစ်စုံတစ်ခုသောအကြောင်းကြောင့် ပြင်းပြင်းထန်ထန် စိတ်လှုပ်ရှားကာ နှုတ်မှ ရုတ်တရက် ထွက်ပေါ်လာသောအသံကို **အာမေဍိတ်** ဟု ခေါ်သည်။

**သာဓက**။ ။ (၁) "အမယ်လေး...မြွေကြီး၊ မြွေကြီး"
"သူခိုး...သူခိုး"
ထိုအသံတို့သည် ထိတ်လန့်ကြောက်ရွံ့သဖြင့် နှုတ်မှ ရုတ်တရက်ထွက်ပေါ်လာသော အာမေဍိတ်များဖြစ်ကြသည်။

(၂) "နိုင်ပြီဟေ့ နိုင်ပြီ"
"ကောင်းကွာ...သိပ်ကောင်း"
ထိုအသံတို့သည် တစ်စုံတစ်ရာကို နှစ်သက်ဝမ်းမြောက်သဖြင့် နှုတ်မှရုတ်တရက် ထွက်ပေါ်လာသော အာမေဍိတ်များ ဖြစ်ကြသည်။

(၃) "အံ့ရော...ရောမကြီးပဲ"
"ကြည့်ကြည့်...မိုးပေါ်တက်သွားပြီ"
ထိုအသံတို့သည် တစ်စုံတစ်ရာကို တွေ့မြင်အံ့သြသဖြင့် နှုတ်မှ ရုတ်တရက် ထွက်ပေါ်လာသော အာမေဍိတ်များ ဖြစ်ကြသည်။

(၄) "ဟဲ့ဟဲ့...လဲမယ်၊ လဲမယ်"
"ကားလာတယ်...ရပ်၊ ရပ်"
ထိုအသံတို့သည် တစ်စုံတစ်ယောက် အတွက် စိုးရိမ်ကြောင့်ကြသဖြင့် နှုတ်မှ ရုတ်တရက် ထွက်ပေါ်လာသော အာမေဍိတ်များဖြစ်ကြသည်။

(၅) "တယ်...ငါလုပ်လိုက်ရ"
"လိုက်ဟ...လိုက်ဟ၊ ရိုက်...ရိုက်"
ထိုအသံတို့သည် တစ်စုံတစ်ယောက်ကို စိတ်ဆိုးသဖြင့် နှုတ်မှ ရုတ်တရက် ထွက်ပေါ်လာသော အာမေဍိတ်များ ဖြစ်ကြသည်။

(၆) "အား...ငရုတ်သီး စပ်လိုက်တာ"
"ဟင်...တယ်ညှီတာကိုး"
ထိုအသံတို့သည် တစ်စုံတစ်ရာကို မနှစ်သက်သဖြင့် နှုတ်မှ ရုတ်တရက် ထွက်ပေါ်လာသော အာမေဍိတ်များ ဖြစ်ကြသည်။

(၇) "ပေးစမ်း...ပေးစမ်း"
"မြန်မြန်...မြန်မြန်"
ထိုအသံတို့သည် အလျင်စလို ပြုမူပြောဆိုသောအခါ နှုတ်မှ ရုတ်တရက် ထွက်ပေါ်လာသော အာမေဍိတ်များ ဖြစ်ကြသည်။

(၈) "အော်...ဖြစ်မှဖြစ်ရလေ"
"ဟယ်...ငါ့ဖောင်တိန်လေး ကျိုးသွားပြီ"
ထိုအသံတို့သည် တစ်စုံတစ်ယောက်၊ တစ်စုံတစ်ခုအတွက် ဝမ်းနည်းသဖြင့် နှုတ်မှရုတ်တရက် ထွက်ပေါ်လာသော အာမေဍိတ်များဖြစ်ကြသည်။

## လေ့ကျင့်ခန်း

၁။ အောက်ပါအာမေဍိတ်တို့သည် မည်သို့သော စိတ်လှုပ်ရှားမှုကြောင့် ဖြစ်ပေါ်လာသနည်း။

(က) ဟယ်...သနားပါတယ်။
(ခ) ဟာ...ပိုင်တာပဲ။
(ဂ) ဟင်း...သင်းတော့လား၊ လာပေ့စေဦး။
(ဃ) အမယ်လေး...ကယ်ကြပါဗျို့။
(င) အလို...ဘာသံပါလိမ့်။
(စ) မီး...မီး...။
(ဆ) အောင်ပြီ...အောင်ပြီ။
(ဇ) ခါးပိုက်နှိုက်ဟေ့...ခါးပိုက်နှိုက်...ဖမ်း...ဖမ်း။
(ဈ) ဟိုက်...ဖောင်တိန်ပါသွားပြီ။
(ည) မြန်မြန်လာ...မြန်မြန်လာ...ရထားထွက်နေပြီ။

၂။ အောက်ပါကွက်လပ်တို့ကို ဆီလျော်အောင်ဖြည့်ပါ။

(က) အား...။
(ခ) ဟာ...။
(ဂ) ဟော...။
(ဃ) ဟေ့ဟေ့...။
(င) တယ်...။
(စ) ...သူ သေရှာပြီကိုး။
(ဆ) ...သတိထား၊ သတိထား။
(ဇ) ...လိုက်ဟ၊ လိုက်ဟ။
(ဈ) ...ဟုတ်ရဲ့လား။
(ည) ...ဟိုမှာ တွေ့ပြီ။

# စကားလုံး၊ ပုဒ်၊ ပုဒ်စု

**စကားလုံး**

၅၁။ အနက်အဓိပ္ပာယ်ကို ဖော်ပြနိုင်သော စကားအစိတ်အပိုင်း အသီးသီးကို **စကားလုံး** ဟု ခေါ်သည်။

၅၂။ စကားလုံး ၂ မျိုးရှိသည်။ ၎င်းတို့မှာ–

(က) သီးခြားစကားလုံး

(ခ) အကူစကားလုံးတို့ ဖြစ်ကြသည်။

၅၃။ (က) **သီးခြားစကားလုံး**။ ။ အခြားစကားလုံးတစ်လုံးကို အမှီမပြုဘဲ မိမိဘာသာ အနက်အဓိပ္ပာယ်ကို ဖော်ဆောင်နိုင်သော စကားလုံးကို **သီးခြားစကားလုံး** ဟု ခေါ်သည်။

**သာဓက**။ ။ သွား၊ လာ၊ နီ၊ ဖြူ၊ ဈေး၊ ကျောင်း၊ ကူညီ၊ စောင့်ထိန်း၊ စာအုပ်၊ ကျောက်ခဲ၊ ကျောက်သင်ပုန်း၊ ကြက်ဟင်းခါးသီး။

(ခ) **အကူစကားလုံး**။ ။ အခြားစကားလုံးတစ်လုံး၏ အနက်အဓိပ္ပာယ်ကို ကူညီဖော်ဆောင်နိုင်သော စကားလုံးကို **အကူစကားလုံး**ဟု ခေါ်သည်။

**သာဓက**။ ။ သို့၊ မှ၊ က၊ ကို၊ အား၊ သဖြင့်၊ သည်၊ ၏၊ သော်လည်း။

**ပုဒ်**

၅၄။ သီးခြားစကားလုံးတို့ကိုလည်းကောင်း၊ သီးခြားစကားလုံးနှင့် အကူစကားလုံးတို့ကို တွဲစပ်ထားသောစကားလုံးတို့ကိုလည်းကောင်း **ပုဒ်**ဟု ခေါ်သည်။

**သာဓက**။ ။ သွား၊ လာ၊ နီ၊ ဖြူ၊ ဈေး၊ ကျောင်း၊ ကူညီ၊ စောင့်ထိန်း၊ ကျောက်ခဲ၊ ကျောက်သင်ပုန်း၊ ကြက်ဟင်းခါးသီး၊ အကောင်း၊ ကောင်းမှု၊ ရှိသေစွာ၊ တရိုတသေ၊ စားစရာ၊ အမြန်၊ ခံယူချက်၊ ကျန်းမာရေး၊ အဆုံးအဖြတ်၊ ဆရာသည်၊ ဆရာကို၊ ဆရာအား၊ သွားသည်၊ သွားမည်၊ သွား၏။

၅၅။ ပုဒ်ကို ၄ မျိုးခွဲသည်။ ၎င်းတို့မှာ–

(က) ပုဒ်ရိုး

(ခ) ပေါင်းစပ်ပုဒ်

(ဂ) ပစ္စည်းရောပုဒ်

(ဃ) ဝိဘတ်သွယ်ပုဒ်တို့ဖြစ်ကြသည်။

၅၆။ (က) **ပုဒ်ရိုး**။ ။ ဝိဘတ်၊ ပစ္စည်း တစ်ခုခုမရောဘဲ အနက်အဓိပ္ပာယ်တစ်ခုကို ဖော်ပြနိုင်၍ သီးခြားရပ်တည်နိုင်သော စကားလုံးကို **ပုဒ်ရိုး**ဟု ခေါ်သည်။

**သာဓက**။ ။ အိမ်၊ စကား၊ သနား၊ ကဲ့ရဲ့၊ လိမ္မာ၊ ခမ်းနား။

(ခ) **ပေါင်းစပ်ပုဒ်**။ ။ ဝိဘတ်၊ ပစ္စည်း၊ သမ္ဗန္ဓတစ်ခုခုကို ကြား၌မခံဘဲ သီးခြားစကားလုံး ၂ လုံး၊ ၃ လုံး စသည်တို့ကို ပေါင်းစပ်ဖွဲ့စည်းထားသည့် ပုဒ်ကို **ပေါင်းစပ်ပုဒ်** ဟု ခေါ်သည်။

**သာဓက**။ ။ မီးရထား (မီး+ရထား) ကုန်တင်ကား (ကုန်+ တင်+ကား)၊ ခုတ်ထစ် (ခုတ်+ထစ်)၊ စားသောက် (စား+သောက်)၊ ထူးချွန် (ထူး+ချွန်)၊ ဖြူစင် (ဖြူ+စင်)။

(ဂ) **ပစ္စည်းရောပုဒ်**။ ။ သီးခြားစကားလုံးတစ်လုံးကို အကူစကားလုံးတစ်လုံးနှင့် ရောနှောခြင်းဖြင့် အနက်အဓိပ္ပာယ်တစ်ခု ထွက်လာသောပုဒ်ကို **ပစ္စည်းရောပုဒ်** ဟု ခေါ်သည်။

**သာဓက**။ ။ အကောင်း (အ+ကောင်း)၊ ကောင်းမှု (ကောင်း+မှု)၊ ရှိသေစွာ (ရှိသေ+စွာ)၊ တရိုတသေ (တ+ရို+တ+သေ)၊ စားစရာ (စား+စရာ)။

(ဃ) **ဝိဘတ်သွယ်ပုဒ်**။ ။ ဝိဘတ်တစ်ခုခုနှင့် ဆက်သွယ်ထားသောပုဒ်ကို **ဝိဘတ်သွယ်ပုဒ်** ဟု ခေါ်သည်။

**သာဓက**။ ။ ဆရာသည် (ဆရာ+သည်)၊ မနေ့က (မနေ့+က)၊ ကားဖြင့် (ကား+ဖြင့်)၊ လာ၏ (လာ+၏)။

**ပုဒ်စု**

၅၇။ ပုဒ် ၂ ပုဒ်၊ ၃ ပုဒ် စသည်တို့၏အကြား၌ ဝိဘတ်၊ ပစ္စည်း၊ သမ္ဗန္ဓတစ်ခုခုကို ထားလျက်ဖြစ်စေ၊ ပုဒ် ၂ ပုဒ်၊ ၃ ပုဒ် စသည်တို့၏ နောက်၌ သမ္ဗန္ဓ ၂ ခု၊ ၃ ခု စသည်တို့ကို ထားလျက်ဖြစ်စေ ဆက်ထားသောပုဒ်ကို **ပုဒ်စု**ဟု ခေါ်သည်။

၅၈။ ပုဒ်စုကို ၃ မျိုးခွဲသည်။ ၎င်းတို့မှာ–

(က) ဝိဘတ်ဆက်ပုဒ်စု

(ခ) ပစ္စည်းဆက်ပုဒ်စု

(ဂ) သမ္ဗန္ဓဆက်ပုဒ်စုတို့ ဖြစ်ကြသည်။

၅၉။ (က) **ဝိဘတ်ဆက်ပုဒ်စု**။ ။ နာမ်နှင့်နာမ်တို့ကိုဖြစ်စေ၊ နာမ်နှင့်နာမ်စားတို့ကို ဖြစ်စေ ဝိဘတ်ဖြင့်ဆက်ထားသောပုဒ်စုကို **ဝိဘတ်ဆက်ပုဒ်စု** ဟု ခေါ်သည်။

**သာဓက**။ ။ ဦးဘ၏သား (ဦးဘ+၏+သား)၊ မန္တလေးက ညှော်သည် (မန္တလေး + က+ ညှော်သည်)။

(ခ) **ပစ္စည်းဆက်ပုဒ်စု**။ ။ နာမဝိသေသနနှင့် နာမ်တို့ကိုဖြစ်စေ၊ ကြိယာနှင့် နာမ်တို့ကိုဖြစ်စေ၊ နာမ်နှင့်နာမ်စားတို့ကို ဖြစ်စေပစ္စည်းဖြင့် ဆက်ထားသော ပုဒ်စုကို **ပစ္စည်းဆက်ပုဒ်စု** ဟု ခေါ်သည်။

**သာဓက**။ ။ လိမ္မာသောမောင်ဘ (လိမ္မာ+ သော+ မောင်ဘ)၊ လာမည့်ရက် (လာ+မည့်+ရက်)၊ သူလိုလူ (သူ+လို+ လူ)။

(ဂ) **သမ္ဗန္ဓဆက်ပုဒ်စု**။ ။ နာမ်နှင့်နာမ်တို့ကို ဖြစ်စေ၊ နာမ်နှင့်နာမ်စားတို့ကို ဖြစ်စေ၊ ကြိယာနှင့်နာမ်တို့ကိုဖြစ်စေ သမ္ဗန္ဓဖြင့်ဆက်ထားသော ပုဒ်စုကို **သမ္ဗန္ဓဆက်ပုဒ်စု**ဟု ခေါ်သည်။

**သာဓက**။ ။ မောင်ဘနှင့်မောင်လှ (မောင်ဘ+နှင့်+မောင်လှ)၊ မောင်ဘ ဖြစ်စေ ကျွန်တော်ဖြစ်စေ (မောင်ဘ+ဖြစ်စေ+ ကျွန်တော်+ ဖြစ်စေ)၊ ချိုးဖို့ရေ (ချိုး+ ဖို့+ ရေ)။

# ဝါကျ

**ဝါကျ**

၆၀။ ဆိုလိုသည့်အဓိပ္ပာယ်ရောက်အောင် စနစ်တကျ စီစဉ်ထားသော ပုဒ်အစုအပေါင်းကို **ဝါကျ**ဟု ခေါ်သည်။ ဝါကျတစ်ခုတွင် အနည်းဆုံး ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခု ပါဝင်သည်။

**ဝါကျရိုး**

၆၁။ ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခု ပါဝင်ဖွဲ့စည်းထားသော ဝါကျသည် **ဝါကျရိုး** ဖြစ်သည်။

၆၂။ အနည်းဆုံး ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခုပါဝင်သော ဝါကျကို အခြေခံလျက် သင့်လျော်သောပုဒ်တို့ကို ဖြည့်စွက်ပြီးလျှင် ဝါကျရိုးအမျိုးမျိုးဖွဲ့နိုင်သည်။ အောက်ပါ ဝါကျရိုးဖွဲ့နည်း အမျိုးမျိုးတွင် ဖြည့်စွက်သော ပုဒ်များကို စာလုံးမည်းဖြင့် ပြထားသည်။

**ဝါကျရိုးဖွဲ့နည်းအမျိုးမျိုး**

၆၃။ (က) ကတ္တားပုဒ် + ကြိယာပုဒ်
သူ + ပြန်လာသည်။
ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခုပါဝင်သော ဝါကျရိုးဖြစ်သည်။ **သူ**သည် ပြုသူဖြစ်ကြောင်းကို ပြသော **ကတ္တားပုဒ်** ဖြစ်သည်။ **ပြန်လာသည်** သည် ကတ္တား၏ ပြုခြင်းကို ပြသော **ကြိယာပုဒ်** ဖြစ်သည်။

(ခ) ကတ္တားပုဒ် + **ကတ္တားအဖြည့်ပုဒ်** + ကြိယာပုဒ်
မောင်ဘသည် + ကျောင်းသား + ဖြစ်သည်။
ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခုပါဝင်သော ဝါကျရိုး၌ **ကျောင်းသား** ဟူသော ပုဒ်တစ်ခုကို ဖြည့်စွက် ဖွဲ့စည်းထားသည်။ ထိုပုဒ်သည် ကတ္တားပုဒ်ဖြစ် သော **မောင်ဘ** မည်သူဖြစ်ကြောင်းကို ဖြည့်စွက်ဖော်ပြသည်။ ထို့ကြောင့် **ကျောင်းသား**သည် **ကတ္တားအဖြည့်ပုဒ်** ဖြစ်သည်။

(ဂ) ကတ္တားပုဒ် + **ကံပုဒ်** + ကြိယာပုဒ်
မောင်မောင်သည် + မိဘကို + ကူညီသည်။
ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခု ပါဝင်သော ဝါကျရိုး၌ **မိဘကို** ဟူသော ပုဒ်တစ်ခုကို ဖြည့်စွက် ဖွဲ့စည်းထားသည်။
**မိဘကို**၌ ပါဝင်သော **ကို** ဝိဘတ်သည် မောင်မောင်၏ အကူအညီပေးခြင်းကို ခံရသော သူတို့မှာ မိဘများ ဖြစ်ကြောင်းကို ပြသည်။ ထို့ကြောင့် **မိဘကို** သည် **ကံပုဒ်**ဖြစ်သည်။

(ဃ) ကတ္တားပုဒ် + **ကံပုဒ်** + **ကံအဖြည့်ပုဒ်** + ကြိယာပုဒ်
မောင်မောင်သည် + ရွှေကို + လက်ကောက် + လုပ်သည်။
ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခုပါဝင်သော ဝါကျရိုး၌ **ရွှေကို**နှင့် **လက်ကောက်** ဟူသော ပုဒ် ၂ ခုကို ဖြည့်စွက်ဖွဲ့စည်းထားသည်။
**ရွှေကို** ၌ ပါဝင်သော **ကို** ဝိဘတ်သည် မောင်မောင်၏ ပြုလုပ်ခြင်းခံရသော အရာမှာ **ရွှေ** ဖြစ်ကြောင်းကို ပြသည်။ ထို့ကြောင့် **ရွှေကို** သည် **ကံပုဒ်**ဖြစ်သည်။ ကံပုဒ်ဖြစ်သော **ရွှေကို** မည်သည့်အရာ ပြုလုပ်ကြောင်း **လက်ကောက်** ဟူသော ပုဒ်က ဖြည့်စွက်ဖော်ပြသည်။ ထို့ကြောင့် **လက်ကောက်**သည် **ကံအဖြည့်ပုဒ်** ဖြစ်သည်။

(င) ကတ္တားပုဒ် + **ထွက်ခွာရာပြပုဒ်** + ကြိယာပုဒ်
မောင်မောင် + ကျောင်းမှ + ပြန်လာသည်။
ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခုပါဝင်သော ဝါကျရိုး၌ **ကျောင်းမှ** ဟူသော ပုဒ်တစ်ခုကို ဖြည့်စွက် ဖွဲ့စည်းထားသည်။
**ကျောင်းမှ** ၌ ပါဝင်သော **မှ** ဝိဘတ်သည်မောင်မောင် ထွက်ခွာရာနေရာမှာ **ကျောင်း**ဖြစ်ကြောင်းကို ပြသည်။ ထို့ကြောင့် **ကျောင်းမှ**သည် **ထွက်ခွာရာပြပုဒ်** ဖြစ်သည်။

(စ) ကတ္တားပုဒ် + **ရှေးရှုရာပြပုဒ်** + ကြိယာပုဒ်
မောင်မောင်သည် + အိမ်သို့ + ပြန်လာသည်။
ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခုပါဝင်သော ဝါကျရိုး၌ **အိမ်သို့** ဟူသော ပုဒ်တစ်ခုကို ဖြည့်စွက် ဖွဲ့စည်းထားသည်။
**အိမ်သို့** ၌ ပါဝင်သော **သို့** ဝိဘတ်သည်မောင်မောင် ရှေးရှုရာနေရာမှာ **အိမ်** ဖြစ်ကြောင်းကို ပြသည်။ ထို့ကြောင့် **အိမ်သို့**သည် **ရှေးရှုရာပြပုဒ်**ဖြစ်သည်။

(ဆ) ကတ္တားပုဒ် + **ဆိုက်ရောက်ရာပြပုဒ်** + ကြိယာပုဒ်
တောင်တက်သမားတို့သည် + တောင်ထိပ်အထိ + တက်ကြသည်။
ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခု ပါဝင်သော ဝါကျရိုး၌ **တောင်ထိပ်အထိ** ဟူသော **ဆိုက်ရောက်ရာပြပုဒ်**ကို ဖြည့်စွက်ဖွဲ့စည်းထားသည်။
**တောင်ထိပ်အထိ**၌ ပါဝင်သော **အထိ** ဝိဘတ်သည် တောင်တက်သမားတို့ ရောက်ရှိရာနေရာမှာ **တောင်ထိပ်**ဖြစ်ကြောင်းကို ပြသည်။ ထို့ကြောင့် **တောင်ထိပ်အထိ**သည် **ဆိုက်ရောက်ရာပြပုဒ်**ဖြစ်သည်။

(ဇ) ကတ္တားပုဒ် + **ကံပုဒ်** + **အသုံးခံပြပုဒ်** + ကြိယာပုဒ်
မောင်မောင်သည် + ဆရာကို + စာအုပ်ဖြင့် + ကန်တော့သည်။
ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခုပါဝင်သော ဝါကျရိုး၌ **ဆရာကို**နှင့် **စာအုပ်ဖြင့်** ဟူသော ပုဒ် ၂ ခု ကို ဖြည့်စွက် ဖွဲ့စည်းထားသည်။

**ဆရာကို** ၌ ပါဝင်သော **ကို** ဝိဘတ်သည်မောင်မောင်၏ကန်တော့ခြင်း ခံရသူမှာ **ဆရာ**ဖြစ်ကြောင်းကို ပြသည်။

**စာအုပ်ဖြင့်**၌ ပါဝင်သော **ဖြင့်** ဝိဘတ်သည် မောင်မောင် ကန်တော့ရာ၌ အသုံး ပြုသောပစ္စည်းမှာ **စာအုပ်**ဖြစ်ကြောင်းကို ပြသည်။

ထို့ကြောင့် **ဆရာကို** သည် **ကံပုဒ်**ဖြစ်၍ **စာအုပ်ဖြင့်**သည် **အသုံးခံပြပုဒ်** ဖြစ်သည်။

(ဈ) ကတ္တားပုဒ် + **အကြောင်းပြပုဒ်** + ကြိယာပုဒ်

စပါးပင်တို့သည် + ပိုးကြောင့် + ပျက်ကုန်၏။

ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခုပါဝင်သော ဝါကျရိုး၌ **ပိုးကြောင့်** ဟူသော **အကြောင်းပြပုဒ်** ကို ဖြည့်စွက် ဖွဲ့စည်းထားသည်။

**ပိုးကြောင့်**၌ ပါဝင်သော**ကြောင့်** ဝိဘတ်သည် စပါးပင်တို့ ပျက်ရသည့် အကြောင်းရင်းမှာ **ပိုး** ဖြစ်ကြောင်း ပြသည်။ ထို့ကြောင့် **ပိုးကြောင့်**သည် **အကြောင်းပြပုဒ်**ဖြစ်သည်။

(ည) ကတ္တားပုဒ် + **ကံပုဒ် + လက်ခံပြပုဒ်** + ကြိယာပုဒ်

မောင်မောင်သည် + စာအုပ်ကို + ဆရာအား + ပေးသည်။

ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခုပါဝင်သော ဝါကျရိုး၌ **စာအုပ်ကို**နှင့် **ဆရာအား** ဟူသော ပုဒ် ၂ ခု ကို ဖြည့်စွက် ဖွဲ့စည်းထားသည်။

**စာအုပ်ကို**၌ ပါဝင်သော**ကို** ဝိဘတ်သည်မောင်မောင်၏ပေးခြင်းကို ခံရသော အရာမှာ **စာအုပ်**ဖြစ်ကြောင်းကို ပြသည်။

**ဆရာအား**၌ ပါဝင်သော **အား** ဝိဘတ်သည် စာအုပ်ကို လက်ခံသူမှာ **ဆရာ** ဖြစ်ကြောင်းကို ပြသည်။

ထို့ကြောင့် **စာအုပ်ကို** သည် **ကံပုဒ်**ဖြစ်၍ **ဆရာအား**သည် **လက်ခံပြပုဒ်** ဖြစ်သည်။

(ဋ) ကတ္တားပုဒ် + **နေရာပြပုဒ်** + ကြိယာပုဒ်

ငါးသည် + ရေ၌ + ပျော်၏။

ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခုပါဝင်သော ဝါကျရိုး၌ **ရေ၌** ဟူသော ပုဒ်တစ်ခုကို ဖြည့်စွက် ဖွဲ့စည်းထားသည်။

**ရေ၌** ပါဝင်သော **၌** ဝိဘတ်သည် **ငါး** ပျော်ရာနေရာမှာ **ရေ** ဖြစ်ကြောင်းကို ပြသည်။ ထို့ကြောင့် **ရေ၌**သည် **နေရာပြပုဒ်** ဖြစ်သည်။

(ဌ) ကတ္တားပုဒ် + **အချိန်ပြပုဒ်** + ကြိယာပုဒ်

သစ်ရွက်တို့သည် + တပေါင်းလ၌ + ကြွေသည်။

ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခုပါဝင်သော ဝါကျရိုးတွင် **တပေါင်းလ၌** ဟူသော ပုဒ်တစ်ခုကို ဖြည့်စွက်ဖွဲ့စည်းထားသည်။

**တပေါင်းလ၌** တွင် ပါဝင်သော **၌** ဝိဘတ်သည် သစ်ရွက်တို့ကြွေသော အချိန်မှာ **တပေါင်းလ** ဖြစ်ကြောင်းကို ပြသည်။ ထို့ကြောင့် **တပေါင်းလ၌** သည် **အချိန်ပြပုဒ်** ဖြစ်သည်။

(ဍ) ကတ္တားပုဒ် + **ပိုင်ဆိုင်ခြင်းပြပုဒ်** + **ကတ္တားအဖြည့်ပုဒ်** + ကြိယာပုဒ်
ဤစာအုပ်သည် + မောင်ဘ၏ + စာအုပ် + ဖြစ်သည်။
ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခုပါဝင်သော ဝါကျရိုး၌ **မောင်ဘ၏** ဟူသော ပုဒ်နှင့် **စာအုပ်**ဟူသော ပုဒ် ၂ ခုကို ဖြည့်စွက်ဖွဲ့စည်းထားသည်။
**မောင်ဘ၏**၌ ပါဝင်သော **၏** ဝိဘတ်သည် **စာအုပ်** ကို ပိုင်ဆိုင်သူမှာ **မောင်ဘ** ဖြစ်ကြောင်းကို ပြသည်။ ထို့ကြောင့် **မောင်ဘ၏** သည် **ပိုင်ဆိုင်ခြင်းပြပုဒ်** ဖြစ်သည်။
**မောင်ဘ**ပိုင်ဆိုင်သော ပစ္စည်းမှာ **စာအုပ်**ဖြစ်ကြောင်း ကို **စာအုပ်**ဟူသော ပုဒ်က ဖြည့်စွက်ပြသည်။ ထို့ကြောင့် **စာအုပ်**သည် **ကတ္တားအဖြည့်ပုဒ်** ဖြစ်သည်။

(ဎ) ကတ္တားပုဒ် + **ကံပုဒ်** + **ထွက်ခွာရာပြပုဒ်** + ကြိယာပုဒ်
အမေသည် + မောင်မောင်ကို + ကျောင်းမှ + ခေါ်လာသည်။
ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခု ပါဝင်သော ဝါကျရိုး၌ **မောင်မောင်ကို**နှင့် **ကျောင်းမှ** ဟူသော ပုဒ် ၂ ခု ကို ဖြည့်စွက်ဖွဲ့စည်းထားသည်။
**မောင်မောင်ကို** ၌ ပါဝင်သော**ကို** ဝိဘတ်သည် အခေါ်ခံရသူမှာ **မောင်မောင်** ဖြစ်ကြောင်းကို ပြသည်။
**ကျောင်းမှ** ၌ ပါဝင်သော **မှ** ဝိဘတ်သည် မောင်မောင် ထွက်ခွာလာရာနေရာမှာ **ကျောင်း**ဖြစ်ကြောင်းကို ပြသည်။
ထို့ကြောင့် **မောင်မောင်ကို**သည် **ကံပုဒ်**ဖြစ်၍ **ကျောင်းမှ** သည် **ထွက်ခွာရာပြပုဒ်** ဖြစ်သည်။

(ဏ) ကတ္တားပုဒ် + **ကံပုဒ်** + **ရွေးရွှေ့ရာပြပုဒ်** + ကြိယာပုဒ်
သူသည် + စာအုပ်ကို + အိမ်သို့ + ယူသွားသည်။
ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခုပါဝင်သော ဝါကျရိုး၌ **စာအုပ်ကို** နှင့် **အိမ်သို့** ဟူသော ပုဒ် ၂ ခု ကို ဖြည့်စွက် ဖွဲ့စည်းထားသည်။
**စာအုပ်ကို** ၌ ပါဝင်သော **ကို** ဝိဘတ်သည် ယူသွားခြင်း ခံရသောအရာမှာ **စာအုပ်**ဖြစ်ကြောင်းကို ပြသည်။
**အိမ်သို့** ၌ ပါဝင်သော **သို့** ဝိဘတ်သည် မောင်မောင် ရွေးရွှေ့ရာနေရာမှာ **အိမ်** ဖြစ်ကြောင်းကို ပြသည်။
ထို့ကြောင့် **စာအုပ်ကို**သည် **ကံပုဒ်** ဖြစ်၍ **အိမ်သို့** သည် **ရွေးရွှေ့ရာပြပုဒ်**ဖြစ်သည်။

(တ) ကတ္တားပုဒ် + **ထွက်ခွာရာပြပုဒ်** + **ရွေးရွှေ့ရာပြပုဒ်** + ကြိယာပုဒ်
မောင်ဘသည် + ကျောင်းမှ + အိမ်သို့ + ပြန်လာသည်။
ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခုပါဝင်သော ဝါကျရိုး၌ **ကျောင်းမှ** နှင့် **အိမ်သို့** ဟူသော ပုဒ် ၂ ခုကို ဖြည့်စွက်ဖွဲ့စည်းထားသည်။
**ကျောင်းမှ** ၌ ပါဝင်သော **မှ** ဝိဘတ်သည် မောင်မောင် ထွက်ခွာသော နေရာမှာ **ကျောင်း**ဖြစ်ကြောင်းကို ပြသည်။

**အိမ်သို့** ၌ ပါဝင်သော **သို့** သည် မောင်မောင် ရွေးရှုရာနေရာမှာ **အိမ်** ဖြစ်ကြောင်းကို ပြသည်။
ထို့ကြောင့် **ကျောင်းမှ** သည် **ထွက်ခွာရာပြပုဒ်** ဖြစ်၍ **အိမ်သို့** သည် **ရွေးရှုရာပြပုဒ်** ဖြစ်သည်။

(ထ) ကတ္တားပုဒ် + **ကံပုဒ်** + **နေရာပြပုဒ်** + ကြိယာပုဒ်
ဆရာသည် + မောင်ဘကို + အတန်းထဲ၌ + ချီးကျူးသည်။
ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခုပါဝင်သော ဝါကျရိုး၌ **မောင်ဘကို**နှင့် **အတန်းထဲ၌** ဟူသော ပုဒ် ၂ ခုကို ဖြည့်စွက်ဖွဲ့စည်းထားသည်။
**မောင်ဘကို** ၌ ပါဝင်သော **ကို** ဝိဘတ်သည် ဆရာ၏ချီးကျူးခြင်းခံရသူမှာ **မောင်ဘ**ဖြစ်ကြောင်း ကို ပြသည်။
**အတန်းထဲ၌** တွင် ပါဝင်သော **၌**ဝိဘတ်သည် မောင်ဘကို ဆရာချီးကျူးသော နေရာမှာ **အတန်းထဲ၌** ဖြစ်ကြောင်းကို ပြသည်။
ထို့ကြောင့် **မောင်ဘကို** သည် **ကံပုဒ်** ဖြစ်၍ **အတန်းထဲ၌** သည် **နေရာပြပုဒ်** ဖြစ်သည်။

(ဒ) ကတ္တားပုဒ် + **ကံပုဒ်** + **အချိန်ပြပုဒ်** + ကြိယာပုဒ်
သူသည် + ညစာကို + ၅ နာရီ၌ + စားသည်။
ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခုပါဝင်သော ဝါကျရိုး၌ **ညစာကို**နှင့် **၅ နာရီ၌** ဟူသော ပုဒ် ၂ ခုကို ဖြည့်စွက် ဖွဲ့စည်းထားသည်။
**ညစာကို** ၌ ပါဝင်သော **ကို** ဝိဘတ်သည် သူစားသော အရာမှာ **ညစာ** ဖြစ်ကြောင်းကို ပြသည်။
**၅ နာရီ၌**တွင် ပါဝင်သော **၌** ဝိဘတ်သည် သူစားသောအချိန်ကို ပြသည်။
ထို့ကြောင့် **ညစာကို**သည် **ကံပုဒ်** ဖြစ်၍ **၅ နာရီ၌**သည် **အချိန်ပြပုဒ်** ဖြစ်သည်။

(ဓ) ကတ္တားပုဒ် + **ထွက်ခွာရာပြပုဒ်** + **ရွေးရှုရာပြပုဒ်** + **အချိန်ပြပုဒ်** + ကြိယာပုဒ်
မောင်ဘသည် + ကျောင်းမှ + အိမ်သို့ + ညနေက + ပြန်လာသည်။
ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခုပါဝင်သော ဝါကျရိုး၌ **ကျောင်းမှ၊ အိမ်သို့၊ ညနေက** ဟူသော ပုဒ် ၃ ခုကို ဖြည့်စွက်ဖွဲ့စည်းထားသည်။
**ကျောင်းမှ** ၌ ပါဝင်သော **မှ** ဝိဘတ်သည် မောင်ဘ ထွက်ခွာရာနေရာကို ပြသည်။
**အိမ်သို့** ၌ ပါဝင်သော **သို့** ဝိဘတ်သည် မောင်ဘ ရွေးရှုရာနေရာကို ပြသည်။
**ညနေက** ၌ ပါဝင်သော **က** ဝိဘတ်သည် မောင်ဘပြန်လာသည့်အချိန်ကိုပြသည်။
ထို့ကြောင့် **ကျောင်းမှ**သည် **ထွက်ခွာရာပြပုဒ်** ဖြစ်၍ **အိမ်သို့** သည် **ရွေးရှုရာပြပုဒ်** ဖြစ်သည်။ **ညနေက** မှာမူ **အချိန်ပြပုဒ်** ဖြစ်သည်။

(န) ကတ္တားပုဒ် + **ကံပုဒ်** + **နေရာပြပုဒ်** + **အချိန်ပြပုဒ်** + ကြိယာပုဒ်
တရားသူကြီးသည် + ခိုးမှုကို+ တရားရုံး၌ + နံနက်က + စစ်ဆေးသည်။

ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခုပါဝင်သော ဝါကျရိုး၌ **ခိုးမှုကို၊ တရားရုံး၌** နှင့်၊ **နံနက်က** ဟူသော ပုဒ် ၃ ခုကို ဖြည့်စွက်ဖွဲ့စည်းထားသည်။

**ခိုးမှုကို**၌ ပါဝင်သော **ကို** ဝိဘတ်သည် တရားသူကြီး၏ စစ်ဆေးခြင်းခံရသော အရာမှာ **ခိုးမှု** ဖြစ်ကြောင်းကို ပြသည်။

**တရားရုံး၌**တွင် ပါဝင်သော **၌** ဝိဘတ်သည် ခိုးမှုကို စစ်ဆေးသောနေရာမှာ **တရားရုံး** ဖြစ်ကြောင်းကို ပြသည်။

**နံနက်က** ၌ပါဝင်သော **က**ဝိဘတ်သည် တရားသူကြီး အမှုစစ်ဆေးသော အချိန်ကို ပြသည်။

ထို့ကြောင့် **ခိုးမှုကို** သည် **ကံပုဒ်**ဖြစ်၍ **တရားရုံး၌** သည် **နေရာပြပုဒ်** ဖြစ်ပြီး **နံနက်က**သည် **အချိန်ပြပုဒ်** ဖြစ်သည်။

**ဝါကျရိုးဖွဲ့နည်းအမျိုးမျိုး**

| | | | | | | |
|---|---|---|---|---|---|---|
| ၁။ | ကတ္တားပုဒ် | + | ကြိယာပုဒ် | | | |
| | သူ | + | ပြန်လာသည်။ | | | |
| ၂။ | ကတ္တားပုဒ် | + | **ကတ္တားအဖြည့်ပုဒ်** | + | ကြိယာပုဒ် | |
| | မောင်ဘသည် | + | ကျောင်းသား | + | ဖြစ်သည်။ | |
| ၃။ | ကတ္တားပုဒ် | + | **ကံပုဒ်** | + | ကြိယာပုဒ် | |
| | မောင်ဘသည် | + | မိဘကို | + | ကူညီသည်။ | |
| ၄။ | ကတ္တားပုဒ် | + | **ကံပုဒ် + ကံအဖြည့်ပုဒ်** | + | ကြိယာပုဒ် | |
| | မောင်ဘသည် | + | ရွှေကို + လက်ကောက် | + | လုပ်သည်။ | |
| ၅။ | ကတ္တားပုဒ် | + | **ထွက်ခွာရာပြပုဒ်** | + | ကြိယာပုဒ် | |
| | မောင်မောင် | + | ကျောင်းမှ | + | ပြန်လာသည်။ | |
| ၆။ | ကတ္တားပုဒ် | + | **ရှေးရှုရာပြပုဒ်** | + | ကြိယာပုဒ် | |
| | မောင်မောင်သည် | + | အိမ်သို့ | + | ပြန်လာသည်။ | |
| ၇။ | ကတ္တားပုဒ် | + | **ဆိုက်ရောက်ရာပြပုဒ်** | + | ကြိယာပုဒ် | |
| | တောင်တက်သမားတို့သည် | + | တောင်ထိပ်အထိ | + | တက်ကြသည်။ | |
| ၈။ | ကတ္တားပုဒ် | + | **ကံပုဒ် + အသုံးခံပြပုဒ်** | + | ကြိယာပုဒ် | |
| | မောင်မောင်သည် | + | ဆရာကို + စာအုပ်ဖြင့် | + | ကန်တော့သည်။ | |
| ၉။ | ကတ္တားပုဒ် | + | **အကြောင်းပြပုဒ်** | + | ကြိယာပုဒ် | |
| | စပါးပင်တို့သည် | + | ပိုးကြောင့် | + | ပျက်ကုန်၏။ | |
| ၁၀။ | ကတ္တားပုဒ် | + | **ကံပုဒ် + လက်ခံပြပုဒ်** | + | ကြိယာပုဒ် | |
| | မောင်မောင်သည် | + | စာအုပ်ကို + ဆရာအား | + | ပေးသည်။ | |

၁၁။ ကတ္တားပုဒ် + **နေရာပြပုဒ်** + ကြိယာပုဒ်
ငါးသည် + ရေ၌ + ပျော်၏။

၁၂။ ကတ္တားပုဒ် + **အချိန်ပြပုဒ်** + ကြိယာပုဒ်
သစ်ရွက်တို့သည် + တပေါင်းလ၌ + ကြွေသည်။

၁၃။ ကတ္တားပုဒ် + **ပိုင်ဆိုင်ခြင်းပြပုဒ် + ကတ္တားအဖြည့်ပုဒ် +**ကြိယာပုဒ်
ဤစာအုပ်သည် + မောင်ဘ၏ + စာအုပ် + ဖြစ်သည်။

၁၄။ ကတ္တားပုဒ် + **ကံပုဒ် + ထွက်ခွာရာပြပုဒ်** + ကြိယာပုဒ်
အမေသည် + မောင်မောင်ကို + ကျောင်းမှ + ခေါ်လာသည်။

၁၅။ ကတ္တားပုဒ် + **ကံပုဒ် + ရွေ့ရှုရာပြပုဒ်** + ကြိယာပုဒ်
သူသည် + စာအုပ်ကို + အိမ်သို့ + ယူသွားသည်။

၁၆။ ကတ္တားပုဒ် + **ထွက်ခွာရာပြပုဒ် + ရွေ့ရှုရာပြပုဒ် +** ကြိယာပုဒ်
မောင်ဘသည် + ကျောင်းမှ + အိမ်သို့ + ပြန်လာသည်။

၁၇။ ကတ္တားပုဒ် + **ကံပုဒ် + နေရာပြပုဒ်** + ကြိယာပုဒ်
ဆရာသည် + မောင်ဘကို + အတန်းထဲ၌ + ချီးကျူးသည်။

၁၈။ ကတ္တားပုဒ် + **ကံပုဒ် + အချိန်ပြပုဒ်** + ကြိယာပုဒ်
သူသည် + ညစာကို + ၅ နာရီ၌ + စားသည်။

၁၉။ ကတ္တားပုဒ် + **ထွက်ခွာရာပြပုဒ် + ရွေ့ရှုရာပြပုဒ် + အချိန်ပြပုဒ် +** ကြိယာပုဒ်
မောင်ဘသည် + ကျောင်းမှ + အိမ်သို့ + ညနေက + ပြန်လာသည်။

၂၀။ ကတ္တားပုဒ် + **ကံပုဒ် + နေရာပြပုဒ် + အချိန်ပြပုဒ် +** ကြိယာပုဒ်
တရားသူကြီးသည် + ခိုးမှုကို + တရားရုံး၌ + နံနက်က + စစ်ဆေးသည်။

## လေ့ကျင့်ခန်း

၁။ ကွက်လပ်အသီးသီး၌ **ကတ္တားအဖြည့်ပုဒ်ကို** ဖြည့်ပါ။

(က) ဤအပင်သည်...ဖြစ်သည်။

(ခ) ဤအသီးသည်...ဖြစ်သည်။

(ဂ) ဦးဘဖြူသည်...ဖြစ်သည်။

(ဃ) မောင်မောင်သည်...ဖြစ်သည်။

(င) ဤကျောင်းသည်...ဖြစ်သည်။

၂။ ကွက်လပ်အသီးသီး၌ **ထွက်ခွာရာပြပုဒ်ကို** ဖြည့်ပါ။

(က) ကလေးသည်...လိမ့်ကျသည်။

(ခ) သပြေသီးများသည်...ကြွေကျသည်။

(ဂ) စာရေးကြီးဦးနီသည်...ပြန်လာသည်။

(ဃ) အညာဆန်သင်္ဘောသည်...ခွာသည်။

(င) မုတ်သုံလေသည်...တိုက်သည်။

၃။ ကွက်လပ်အသီးသီး၌ **ရွေးရှုရာပြပုဒ်ကို** ဖြည့်ပါ။

(က) အလုပ်သမားများသည်...လာကြသည်။

(ခ) ကျောင်းသားကျောင်းသူများသည်...သွားကြသည်။

(ဂ) ကျွန်မတို့သည်...ပြန်လာသည်။

(ဃ) အမေသည်...သွားသည်။

(င) အဖေသည်...သွားသည်။

၄။ ကွက်လပ်အသီးသီး၌ **နေရာပြပုဒ်ကို** ဖြည့်ပါ။

(က) ကလေးတို့သည်...ကစားနေကြသည်။

(ခ) ဆားသည်...ပျော်၏။

(ဂ) ကျွဲတို့သည်...လူးကြသည်။

(ဃ) ကြာသည်...ပေါက်သည်။

(င) အလုပ်သမားတို့သည်...ပျော်ပိုက်ကြသည်။

၅။ ကွက်လပ်အသီးသီး၌ **အချိန်ပြပုဒ်ကို** ဖြည့်ပါ။

(က) အမြန်ရထားသည်...ဆိုက်သည်။

(ခ) ကျွန်ုပ်တို့သည်...ရေကစားကြမည်။

(ဂ) ကျောင်းသားကျောင်းသူတို့သည်...လုပ်အားပေးကြသည်။

(ဃ) ဧရာဝတီမြစ်သည်...ရေလျှံတတ်သည်။

(င) ရေတွင်းများသည်...ရေခန်းတတ်ကြသည်။

၆။ အောက်ပါဝါကျများရှိကွက်လပ်တို့၌ **ထွက်ခွာရာပြပုဒ်**နှင့် **ရွေးရှုရာပြပုဒ်**တို့ကိုဖြည့်ပါ။

(က) ကလေးသည်...၊...၊...လိမ့်ကျသည်။

(ခ) သပြေသီးများသည်...၊...၊...ကြွေကျသည်။

(ဂ) စာရေးကြီးဦးနီသည်...၊...၊...ပြန်လာသည်။

(ဃ) မောင်ဇော်သည်...၊...၊...သွားသည်။

(င) မပိုင်းသည်...၊...၊...လမ်းလျှောက်သွားသည်။

၇။ အောက်ပါဝါကျများရှိကွက်လပ်တို့၌ **ထွက်ခွာရာပြပုဒ်၊ ရွေးရှုရာပြပုဒ်**နှင့် **အချိန်ပြပုဒ်** တို့ကို ဖြည့်ပါ။

(က) ဆရာကြီးဦးဘမောင်သည်...၊...၊...သွားသည်။

(ခ) ဆရာဝန်ကြီးဦးအေးသည်...၊...၊...ပြန်သည်။

(ဂ) အောင်တေဇသဘော်သည် ...၊ ...၊ ...ထွက်မည်။

(ဃ) အဆန်ရထားသည် ...၊ ...၊ ...ရောက်သည်။

(င) ကျွန်မတို့သည် ...၊ ...၊ ...သွားမည်။

၈။ ကွက်လပ်အသီးသီး၌ **ကံပုဒ်ကို** ဖြည့်ပါ။

(က) မအေးသည်...ကန်တော့သည်။

(ခ) ဆရာကြီးသည်...ဆုံးမသည်။

(ဂ) အောင်နက်သည်...ချီလာသည်။

(ဃ) မောင်ဇော်သည်...ဝယ်သည်။

(င) ကျွန်မသည်...တွေ့ချင်သည်။

၉။ ကွက်လပ်အသီးသီး၌ **လက်ခံပြုပုဒ်ကို** ဖြည့်ပါ။

(က) ဆရာမသည် သင်္ချာပုစ္ဆာတစ်ခုကို...တွက်ပြသည်။

(ခ) မောင်ပုသည် အမဲရိုးကို...ကျွေးသည်။

(ဂ) ဆရာကြီးသည် ပြည်ထောင်စုနေ့အကြောင်းကို ...ပြောပြ သည်။

(ဃ) မောင်ရေခဲသည် လေက်မပုံပြင်ကို ...ဖတ်ပြသည်။

(င) ဆရာဝန်သည် ဆေးကို...ပေးသည်။

၁၀။ အောက်ပါဝါကျများရှိ ကွက်လပ်တို့၌ **ကံပုဒ်**နှင့် **အသုံးခံပြုပုဒ်** တို့ကို ဖြည့်ပါ။

(က) ကျွန်ုပ်တို့သည်...၊ ...ဖြတ်ကူးကြသည်။

(ခ) မအေးသည်...၊ ...ပက်သည်။

(ဂ) မောင်ပုသည်...၊ ...ရိုက်သည်။

(ဃ) ဦးမြသည်...၊ ...သယ်သည်။

(င) ရေလုပ်သားကြီးသည်...၊ ...ထိုးသည်။

၁၁။ အောက်ပါ ဝါကျများရှိ ကွက်လပ်တို့၌ **ကံပုဒ်**နှင့် **ကံအဖြည့်ပုဒ်**တို့ကို ဖြည့်ပါ။

(က) ဘကြီးဖြိုးသည်...၊ ...ထုသည်။

(ခ) ပန်းထိမ်ဆရာသည်...၊ ...လုပ်သည်။

(ဂ) မောင်မောင်သည်...၊ ...လုပ်သည်။

(ဃ) အမေသည်...၊ ...ချက်သည်။

(င) အတန်းသားများက...၊ ...မြှောက်သည်။

၁၂။ ကွက်လပ်အသီးသီး၌ **ထွက်ခွာရာပြပုဒ်ကို** ဖြည့်ပါ။

(က) မောင်မောင်သည် စာအုပ်ကို ... ငှားလာသည်။

(ခ) အမေသည် ငါးကို...ဝယ်လာသည်။

(ဂ) အောင်နက်သည် အမဲရိုးကို ...ချီလာသည်။

(ဃ) မောင်ဇော်သည် ထမင်းဘူးကို...ယူခဲ့သည်။

(င) မဝိုင်းသည် ငွေတစ်ဆယ်ကို ...ချေးသည်။

၁၃။ ကွက်လပ်အသီးသီး၌ **ရွေးရှုရာပြပုဒ်ကို** ဖြည့်ပါ။

(က) အောင်နက်သည် အမဲရိုးကို...ချီလာသည်။

(ခ) အဖေသည် ဧည့်သည်များကို...လိုက်ပို့သည်။

(ဂ) ကြောင်မကြီးသည် ကြောင်ကလေးများကို ...ချီလာသည်။

(ဃ) မောင်ဇော်သည် ထမင်းဘူးကို...ယူလာသည်။

(င) မဝိုင်းသည် မစန်းကို ...ခေါ်သွားသည်။

၁၄။ ကွက်လပ်အသီးသီး၌ **နေရာပြပုဒ်ကို** ဖြည့်ပါ။

(က) အဖေသည် သရက်ပင်ကို...စိုက်သည်။

(ခ) ကျွန်ုပ်တို့သည် အသုံးလုံးပိုစတာကြီးကို...စိုက်ထူသည်။

(ဂ) သူသည် ရေချမ်းစင်တစ်ခုကို...ဆောက်သည်။

(ဃ) ဦးဘသည် ပိုက်ဆံအိတ်ကို...ထားသည်။

(င) ကျွန်တော်သည် သူ့ကို ...တွေ့လိုက်ရသည်။

၁၅။ ကွက်လပ်အသီးသီး၌ **အချိန်ပြပုဒ်ကို** ဖြည့်ပါ။

(က) လယ်သမားတို့သည် စပါးနှံများကို...ရိတ်ကြသည်။

(ခ) မောင်စုသည် မိဘနှစ်ပါးကို ...ကူညီသည်။

(ဂ) ကျွန်ုပ်တို့သည် သက်ကြီးဝါကြီးများကို...ကန်တော့ကြသည်။

(ဃ) ကျွန်တော်တို့သည်...မီးထွန်းကြသည်။

(င) မောင်ရေခဲသည်...ပဉ္စမတန်းအောင်ပြီးပြီ။

၁၆။ အောက်ပါ ဝါကျများရှိ ကွက်လပ်တို့၌ **နေရာပြပုဒ်**နှင့် **အချိန်ပြပုဒ်**တို့ကို ဖြည့်ပါ။

(က) အဖေသည် သရက်ပင်ကို...၊...စိုက်သည်။

(ခ) ကျွန်ုပ်တို့သည် အသုံးလုံးပိုစတာကြီးကို ...၊...စိုက်ထူကြသည်။

(ဂ) အောင်နက်သည် အမဲရိုးကို...၊...စားနေသည်။

(ဃ) ကျွန်တော်နှင့် မောင်ရေခဲတို့သည်...၊...တွေ့ဆုံရန် ချိန်းထားသည်။

(င) မလှသည်...၊ ...ရှိသည်။

# ပုဒ်ဖြတ်ပုဒ်ရပ်သင်္ကေတများ

**ပုဒ်ဖြတ်ပုဒ်ရပ်သင်္ကေတများ**

၆၄။ မြန်မာစာရေးသားရာ၌ အဓိပ္ပာယ်ရှင်းလင်းစေရန် ပုဒ်ကလေး၊ ပုဒ်မ၊ ဝိုက်ကွင်း စသော သင်္ကေတများကို အသုံးပြု၍ ရေးရသည်။ ထိုသင်္ကေတများကို**ပုဒ်ဖြတ်ပုဒ်ရပ်သင်္ကေတများ**ဟု ခေါ်သည်။

**ပုဒ်ကလေး ၊**

၆၅။(က) **လည်းကောင်း၊ ဖြစ်စေ**တို့ကို တစ်ခုမက သုံးသောအခါ **လည်းကောင်း၊ ဖြစ်စေ** တို့၏နောက်၌ ပုဒ်ကလေးကို သုံးသည်။ သို့ရာတွင် နောက်ဆုံးဖြစ်သော **လည်းကောင်း**နှင့် **ဖြစ်စေ**တို့၏နောက်၌မူ ပုဒ်ကလေးကို မသုံးပေ။

**သာဓက** ။ ။

– ပင်လယ်ကမ်းစပ်၌**လည်းကောင်း၊** သစ်ပင်ပေါ်များရာ အရပ်ဒေသ၌ **လည်းကောင်း၊** ကွင်းပြင်များ၌ **လည်းကောင်း** လေကောင်းလေသန့်ကို ရရှိနိုင်သည်။

– ဖခင်က**ဖြစ်စေ၊** မိခင်က**ဖြစ်စေ၊** အုပ်ထိန်းသူတစ်ဦးဦးက **ဖြစ်စေ** လက်မှတ် ရေးထိုးရမည်။

( ခ ) **သို့မဟုတ်၏** ရှေ့တွင် ပုဒ်ကလေးကို သုံးသည်။

**သာဓက**။ ။

– သက်ဆိုင်ရာပြည်နယ်၊ **သို့မဟုတ်**တိုင်းကိုယ်စားလှယ် များပါဝင်ဖွဲ့စည်းရမည်။

– မြို့နယ်များကို ပြည်နယ်၊ **သို့မဟုတ်**တိုင်းအဖြစ်စုစည်း၍ ပြည်နယ်၊ **သို့မဟုတ်** တိုင်းပြည်သူ့ကောင်စီများ ဖွဲ့စည်းရမည်။

( ဂ ) ဝါကျတစ်ခုတွင် ကြိယာပုဒ်များကို ဆက်၍ရေးလျှင် နောက်ဆုံးကြိယာပုဒ်မှတစ်ပါး ရှေ့ကြိယာပုဒ်များ၏နောက်၌ ပုဒ်ကလေးကိုသုံးသည်။

**သာဓက** ။ ။

– တပို့တွဲလအခါတွင် မြန်မာနိုင်ငံအရပ်ရပ်ရှိ တိုင်းရင်းသားတို့သည် ကောက်ညှင်း ထမနဲထိုး၍ လှူကြ၊ တန်းကြ၊ ကျွေးကြ၊ မွေးကြရိုးဖြစ်ပါသည်။

(ဃ) စာပိုဒ်ခွဲများ၏ အဆုံး၌ နောက်ဆုံးစာပိုဒ်ခွဲမှတစ်ပါး ရှေ့စာပိုဒ်ခွဲများ နောက်တွင် ပုဒ်ကလေးကို သုံးသည်။ (ပုဒ်ကလေးကို မသုံးဘဲလည်း ရေးသည်။)

**သာဓက** ။ ။

– ကျောက်အမျိုးအစားများကို အဓိကအားဖြင့် အောက်ပါအတိုင်း ၃ မျိုး ခွဲခြား ထားနိုင်သည်–

(က) မီးသင့်ကျောက်၊

( ခ ) အနည်ကျကျောက်၊

( ဂ ) အသွင်ပြောင်းကျောက်။

- ထိုတောင်များမှာ (က) လွှာတွန့်တောင်၊ (ခ)လွှာပြတ်တောင်၊ (ဂ) မြေကျန်တောင်၊ (ဃ) မီးတောင်များ ဖြစ်ကြသည်။

**ပုဒ်မ ။**

၆၆။(က) စာအုပ်များတွင် စာပိုဒ်နံပါတ်များ နောက်၌ ပုဒ်မကို သုံးသည်။

**သာဓက**။ ။

- ၁၈၆။ ပြည်သူ့လွှတ်တော်သည် ပြည်သူ့ကိုယ်စားလှယ်များ ရွေးချယ်တင်မြှောက်ခြင်းနှင့်စပ်လျဉ်းသည့်လိုအပ်သော ဥပဒေများကို ပြဋ္ဌာန်းရမည်။
- ၃။ ကွမ်းသီးပင်သည် ပူနွေးစွတ်စိုသော ဥတုတွင် ဖြစ်ထွန်း၏။ ကွမ်းသီးသည် မြန်မာတိုင်းရင်းသားယဉ်ကျေးမှု တစ်ရပ်အနေဖြင့် စားသုံးလေ့ရှိသော ကွမ်းယာတွင် အရေးကြီးသော အဖက်ပစ္စည်းတစ်ခုဖြစ်၍ မြန်မာနိုင်ငံတွင် မရှိမဖြစ်လိုအပ်သော အသီးတစ်မျိုးဖြစ်၏။

(ခ) စာပိုဒ်ခွဲများကို ဒေါင်လိုက် ဖော်ပြရာ၌ နောက်ဆုံး စာပိုဒ်ခွဲနောက်တွင် ပုဒ်မကို သုံးသည်။ (ပုဒ်မကို **မသုံး** ဘဲလည်း ရေးသည်။)

**သာဓက** ။ ။

- ကျောက်အမျိုးအစားများကို အဓိကအားဖြင့် အောက်ပါအတိုင်း ၃ မျိုး ခွဲခြားထားနိုင်သည်–

(က) မီးသင့်ကျောက်၊
(ခ) အနည်ကျကျောက်၊
(ဂ) အသွင်ပြောင်းကျောက်။

**ဝိုက်ကွင်း ( )**

၆၇။(က) စာပိုဒ်ခွဲအမှတ်စဉ်ကို ပြသည့်ကိန်းဂဏန်း၊ အက္ခရာတို့ကို ဝိုက်ကွင်းဖြင့် ပြသည်။

**သာဓက** ။ ။

- ပြည်ထောင်စုမြန်မာနိုင်ငံ၏ မြေမျက်နှာပြင်ကို အကြမ်းအားဖြင့် သုံးပိုင်းပိုင်းခြားနိုင်သည်။
  ယင်းတို့မှာ–
  (က) အနောက်ဘက်တောင်တန်းဒေသ၊
  (ခ) အလယ်ပိုင်းမြစ်ဝှမ်းဒေသ၊
  (ဂ) အရှေ့ဘက်ကုန်းမြင့်ဒေသတို့ဖြစ်ကြသည်။
- မြန်မာနိုင်ငံတွင် ရေနံကို ပေါင်းခံချက်လုပ်ခြင်းဖြင့် အောက်ပါပစ္စည်းများကို ရရှိသည်–
  (က) လေယာဉ်ဆီ
  (ခ) ဓာတ်ဆီ
  (ဂ) ရေနံဆီအဖြူနှင့်အနီ
  (ဃ) ဒီဇယ်ဆီ

( င )  ချောဆီ

( စ )  မီးထိုးဆီ

(ဆ)  အိမ်သုတ်ရေနံချေး

( ဇ )  ဖယောင်းအဖြူ

( ခ ) အဓိပ္ပာယ်တူကြောင်းကို အခြားတစ်မျိုးဖြင့် ပြရာ၌ ဝိုက်ကွင်းကို သုံးသည်။

**သာဓက** ။ ။

- ဇွဲမာန်ကီလိုမီတာ (မိုင်–၆၀)
- မေးခိုင်ရောဂါကာကွယ်ဆေး (အေ–တီ–အက်စ်)
- ၁၃၄၄–ခု၊ နယုန်လပြည့်ကျော်၊ ၆–ရက် (၁၉၈၂–ခု၊ ဇွန်လ၊ ၁၂–ရက်)
- ဟံသာဝတီ (ပဲခူး)
- တစ်ပေါင် (၂၇ ^၁/၂ ကျပ်သား)

( ဂ ) အမှာစာတွင် လက်မှတ်ရေးထိုးရာ၌ လက်မှတ်ရေးထိုးသူ၏အမည်ကို ဝိုက်ကွင်းဖြင့် ပြသည်။

**သာဓက**။ ။

(မြင့်ထွန်း)

ညွှန်ကြားရေးမှူး

(ဃ) ကိုယ်စားလက်မှတ်ရေးထိုးရာ၌ ကိုယ်စားလက်မှတ် ရေးထိုးသူ၏ အမည်နှင့်ရာထူးကို ကိုယ်စားပြုရာဌာန အကြီးအကဲ၏ ရာထူးအောက်၌ ဝိုက်ကွင်းဖြင့်ပြသည်။

**သာဓက** ။ ။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)

အဆင့်မြင့်ပညာဦးစီးဌာန

(ဦးဝင်းမောင်၊ ညွှန်ကြားရေးမှူး)

**အောက်မျဉ်း**

၆၈။(က) ခေါင်းစဉ်ကြီး၊ စာပိုဒ်ခေါင်းစဉ် စသည်တို့ကို အောက်မျဉ်း သားရသည်။

**သာဓက** ။ ။ **<u>ဝိဘတ်</u>**

**<u>ဝိဘတ်</u>**

၃၃။ ဝိဘတ်သည် နာမ်၊ နာမ်စားတို့၏နောက်၌ တည်၍ ၎င်းတို့သည် ကတ္တားဖြစ်သည် ကံဖြစ်သည် စသည်ကိုလည်းကောင်း၊ ကြိယာ၏နောက်၌တည်၍ ၎င်းကြိယာ၏ ကာလနှင့်အမျိုးအစားကိုလည်းကောင်း ဝေဖန်ပိုင်းခြားပြသည်။

( ခ ) **<u>မှတ်ချက်၊</u>** **<u>မှတ်ရန်</u>** စသော သတိပြုရန်လိုသည့် စကားလုံးများ အောက်တွင် မျဉ်းသားရသည်။

**သာဓက** ။ ။

**မှတ်ချက်**။ ။ ဖြစ်လေ့ဖြစ်ထ၊ ပြုလေ့ပြုထရှိသော အဖြစ်အပျက်များနှင့် ဖြစ်မြဲသဘာဝတရားများကို ဖော်ပြရာ၌ ပစ္စုပ္ပန်ဝိဘတ်ကို အသုံးပြုကြသည်။

**မှတ်ရန်**။ ။ အရေအတွက်ကို **ကိန်း**ဟု ခေါ်သည်။ အရေအတွက် တစ်ခုသာ ရှိသော နာမ်သည် **ကေဝုစ်ကိန်း** ဖြစ်သည်။

**မျဉ်းတို –**

၆၉။(က) အက္ခရာနှင့်ဂဏန်းများကို ခွဲခြားရာ၌ မျဉ်းတိုကိုသုံးသည်။ (မျဉ်းတိုကိုမသုံးဘဲ နေရာချဲ၍လည်း ရေးသည်။)

**သာဓက**။ ။

– ၁၉၄၈–ခု၊ ဇန်နဝါရီလ၊ ၄–ရက်

(ခ) ပုဒ်နှစ်ပုဒ်ကို ပေါင်းစပ်ဖော်ပြရာ၌ မျဉ်းတိုကို သုံးသည်။

**သာဓက**။ ။

– မန္တလေး–ရန်ကုန် အမြန်ရထား
– အင်္ဂလိပ်–မြန်မာအဘိဓာန်

(ဂ) စာမျက်နှာနံပါတ်၊ ခုနှစ်သက္ကရာဇ် စသည်တို့ကို တစ်ဆက်တည်းဖြစ်ကြောင်း ပြရာ၌ အစကိန်းဂဏန်းနှင့် အဆုံးကိန်းဂဏန်းတို့ကြားတွင် မျဉ်းတိုကို သုံးသည်။

**သာဓက**။ ။

– စာမျက်နှာ ၂၅–၅၅
– ပထမအင်းဝခေတ် (၇၂၆–၈၈၈)

(ဃ) အမှတ်စဉ် မတပ်ဘဲ အစဉ်လိုက် ထက်အောက် တစ်ညီတည်း ရေးသောစာကြောင်း၊ ဝါကျ၊ စာပိုဒ်တို့၏ ရှေ့တွင် မျဉ်းတိုကို သုံးသည်။

**သာဓက** ။ ။

– မေးခိုင်ရောဂါကာကွယ်ဆေး (အေ–တီ–အက်စ်)
– ဟံသာဝတီ (ပဲခူး)
– သက်ရှိသက်မဲ့၊ ဒြပ်ရှိဒြပ်မဲ့တို့၏ အမည်ဟူသမျှကို နာမ်ဟု ခေါ်သည်။
– နာမ်၏အစားသုံးသောပုဒ်ကို နာမ်စားဟု ခေါ်သည်။
– နာမဝိသေသန ၄ မျိုးအကြောင်းကို အကျဉ်းဖော်ပြသည်။ နာမဝိသေသန အဆင့်ခွဲခြားခြင်းကို ရှင်းပြသည်။
– ဝါကျဆက်သမ္ဗန္ဓနှင့် အဓိပ္ပာယ်ဆက်သမ္ဗန္ဓတို့ကို အကျဉ်းဖော်ပြသည်။ စကားလုံးတစ်ခုသည် ဝါကျအတွင်း အသုံးကိုလိုက်၍ ဝါကျဆက်သမ္ဗန္ဓနှင့် နာမ်ဝိဘတ် ဖြစ်နိုင်ပုံကို ဖော်ပြသည်။

**မျဉ်းစောင်း** **/**

၇၀။ တစ်ခုမဟုတ်တစ်ခု ဖြစ်ကြောင်းကို ပြရာ၌ မျဉ်းစောင်းကို သုံးသည်။

**သာဓက**။ ။

- နိုင်ငံခြားသား/နိုင်ငံသား
- သက်ရှိ/ကွယ်လွန်
- ဇနီး/ခင်ပွန်း၏သားချင်းများ
- ကျား/မ

**မျဉ်းရှည်** ———

၇၁။ ကွက်လပ်ဖြည့်မေးခွန်းမေးရာ၌ မျဉ်းရှည်ကို သုံးသည်။ (.........ကိုလည်းသုံးသည်။)

**သာဓက**။ ။

- အောက်ပါကွက်လပ်အသီးသီး၌ ဆီလျော်သော ကြိယာကို ဖြည့်ပါ။
  (၁) ဆင်သွားရာလမ်း______ သည်။
  (၂) သံချေးသည် သံကို_____ သည်၊
  (၃) ချိုသာသောစကားကို လူတိုင်း______သည်။

**စာချန်မှတ် (ပေယျာလ).........**

၇၂။(က) ကောက်နုတ်ချက်၊ ကိုးကားချက် စသည်တို့ကို ရေးသားဖော်ပြရာ၌ ချန်ထားသည့် စကားများကို စာချန်မှတ်ဖြင့် ပြသည်။

**သာဓက**။ ။

"လူကလေးရဲ့ ချော့စရာ။ ။ မိတ္တီလာ ကန်တော်အောက်က၊ ဖားကောက်ခဲ့ပါ။ ------------ ဖားကောင်ကသေး" ဟူသော ကဗျာသည် မြန်မာ့ရိုးရာ သားချော့ကဗျာတစ်ပုဒ် ဖြစ်သည်။

( ခ ) ပိဋကတ်စာပေ၌ စာချန်မှတ် (ပေယျာလ)ကို။ ပ။ သို့မဟုတ်။ **လ**။ အက္ခရာဖြင့် ပြသည်။

**သာဓက** ။ ။

- ဟေတုပစ္စယော။ ပ။ အဝိဂတပစ္စယောတိ။
- က္လတိပိသောဘဂဝါ။ လ။ ဗုဒ္ဓေါဘဂဝါတိ။

# အတွဲ ၁၊ အခန်း ၃

## သရ ၂ မျိုး

**သရ ၂ မျိုး**

၁။ ရွတ်ဆိုရသော အချိန်ကာလကိုလိုက်၍ အခြေခံသရ ၁၁ လုံးကို ၂ မျိုးခွဲသည်။ ၎င်းတို့မှာ–

(က) ရဿသရ (သံတိုသရ)

( ခ) ဒီဃသရ (သံရှည်သရ)တို့ ဖြစ်ကြသည်။

၂။(က) **ရဿသရ**(သံတိုသရ)။ ။ ရွတ်ဆိုသောအခါ မျက်စိတစ်မှိတ်၊ လက်ဖျစ်တစ်တွက်၊ လျှပ်တစ်ပြက်ကာလကြာသောသရကို **ရဿသရ**(သံတိုသရ) ဟုခေါ်သည်။ ရဿသရ ၃ လုံးရှိသည်။ ၎င်းတို့မှာ–

(၁) အ

(၂) ဣ

(၃) ဥ တို့ ဖြစ်ကြသည်။

(ထိုသရများကို ရွတ်ဆိုသောအခါ မျက်စိတစ်မှိတ်ကာလဖြစ်စေ၊ လက်ဖျစ်တစ်တွက်ကာလဖြစ်စေ၊ လျှပ်တစ်ပြက်ကာလဖြစ်စေ ကြာသည်။ ထို့ကြောင့် ၎င်းတို့ကို **ရဿသရ** (သံတိုသရ) ဟု ခေါ်သည်။)

(ခ) **ဒီဃသရ** (သံရှည်သရ)။ ။ ရွတ်ဆိုသောအခါ မျက်စိနှစ်မှိတ်၊ လက်ဖျစ်နှစ်တွက်၊ လျှပ်နှစ်ပြက်ကာလကြာသော သရကို ဒီဃသရ (သံရှည်သရ) ဟု ခေါ်သည်။ ဒီဃသရ ၈ လုံးရှိသည်။ ၎င်းတို့မှာ–

(၁) အာ

(၂) ဤ

(၃) ဦ

(၄) ဧ

(၅) အဲ

(၆) ဩ

(၇) ဪ

(၈) အို တို့ ဖြစ်ကြသည်။

(၎င်းတို့ကို ရွတ်ဆိုသောအခါ မျက်စိနှစ်မှိတ် ကာလဖြစ်စေ၊ လက်ဖျစ် နှစ်တွက်ကာလ ဖြစ်စေ၊ လျှပ်နှစ်ပြက်ကာလဖြစ်စေ ကြာသည်။ ထို့ကြောင့် ၎င်းတို့ကို **ဒီဃသရ** (သံရှည်သရ) ဟုခေါ်သည်။)

# သံပြောင်းပြသင်္ကေတ

## သံပြောင်းပြသင်္ကေတ

၃။ သံရှည်၊ သံတို၊ သံလေးဖြစ်ကြောင်းပြသော သင်္ကေတကို **သံပြောင်းပြသင်္ကေတ** ဟုခေါ်သည်။ မြန်မာစာရေးသားရာ၌ သံပြောင်းပြသင်္ကေတ ၃ မျိုးကို အသုံးပြုသည်။ ၎င်းတို့မှာ–

(က) သေးသေးတင် (ံ)

(ခ) အောက်မြစ် (့)

(ဂ) ဝစ္စနှစ်လုံးပေါက် (–း)တို့ ဖြစ်ကြသည်။

၄။(က) **သေးသေးတင်**(ံ)။ ။ သရအက္ခရာ၊ ဗျည်းအက္ခရာတို့အပေါ်တွင်ရှိသော အစက်အပြောက် သင်္ကေတကို **သေးသေးတင်** ဟုခေါ်သည်။ ထိုသင်္ကေတချည်းသက်သက် အသံထွက်အောင် မရွတ်ဆိုနိုင်ချေ။ သံတိုသရ (အ၊ အိ၊ အု) တို့နှင့်တွဲ၍ ရွတ်ဆိုမှသာ "အံ၊ အိံ၊ အုံ" ဟူ၍ အသံထွက်လာသည်။

ဖော်ပြပါ သံတိုသရ (အ၊ အိ၊ အု) တို့ကို သံရှည် သရများအဖြစ် အသံပြောင်းလိုလျှင် သံပြောင်းပြသင်္ကေတ (ံ)နှင့် တွဲရသည်။

| **သာဓက။ ။ သံတိုသရ** | **+** | **သံပြောင်းပြ သင်္ကေတ** | **=** | **သံရှည်သရ** |
|---|---|---|---|---|
| အ | + | ံ | = | အံ (ကံ၊ ခံ၊ စံ စသည်) |
| အိ | + | ံ | = | အိံ (**တာဝတိံ** ကဲ့သို့သော ပါဠိ စကားလုံးများကို ရေးရာ၌ အသုံးပြုသည်။) |
| အု | + | ံ | = | အုံ (ကုံ၊ ခုံ၊ စုံ စသည်) |

(ခ) **အောက်မြစ်**(့)။ ။ သရအက္ခရာ၊ ဗျည်းအက္ခရာတို့၏ အောက်တွင် ရှိသော အစက်အပြောက်သင်္ကေတကို **အောက်မြစ်**ဟုခေါ်သည်။ ထိုသင်္ကေတ ချည်းသက်သက် အသံထွက်အောင် ရွတ်ဆို၍မရချေ။ (၁) သံရှည်သရ (အေ၊ အဲ၊ အော၊ အူ)၊ (၂) သံရှည်အသတ် (–င်၊ –ဉ်၊ –ည်၊ –န်၊ –မ်)တို့နှင့် တွဲ၍ ရွတ်ဆိုမှသာ "အေ့၊ အဲ့၊ အော့၊ အဉ့်၊ အည့်" စသည့် အသံများ ထွက်လာသည်။

ဖော်ပြပါ သံရှည်သရ၊ သံရှည်အသတ်တို့ကို သံတိုသရများအဖြစ် အသံ ပြောင်း လိုလျှင် သံပြောင်းပြ သင်္ကေတ အောက်မြစ်(့)နှင့် တွဲရသည်။

**သာဓက။** ။

| | | | | | |
|---|---|---|---|---|---|
| (၁) | **သံရှည်သရ** | **+** | **သံပြောင်းပြ သင်္ကေတ** | **=** | **သံတိုသရ** |
| | အေ | + | ့ | = | အေ့ (စေ့၊ မေ့၊ တေ့ စသည်) |
| | အဲ | + | ့ | = | အဲ့ (ကဲ့၊ ခဲ့၊ တဲ့ စသည်) |
| | အော | + | ့ | = | အော့ (ကော့၊ ဆော့၊ တော့ စသည်) |
| | အူ | + | ့ | = | အူ့ (လူ့၊ သူ့ စသည်) |

| | | | | | |
|---|---|---|---|---|---|
| (၂) | **သံရှည်အသတ်** | **+** | **သံပြောင်းပြ သင်္ကေတ** | **=** | **သံတိုသရ** |
| | အင် | + | ့ | = | အင့် (ဆင့်၊ တင့်၊ နင့် စသည်) |
| | အဉ် | + | ့ | = | အဉ့် (စဉ့်၊ ညဉ့် စသည်) |
| | အည် | + | ့ | = | အည့် (သည့်၊ မည့် စသည်) |
| | အန် | + | ့ | = | အန့် (ကန့်၊ စန့်၊ တန့် စသည်) |

(၃) အောက်မြစ်(့)သည် **ပိုင်ဆိုင်ခြင်းပြသင်္ကေတ**လည်းဖြစ်သည်။

**သာဓက။** ။

(ကက) – **လူ၏** သဘောကို သိရန်ခက်သည်။

– **လူ့**သဘောကို သိရန်ခက်သည်။

(ခ ခ) – **သူ၏**ရွာသို့ ပြန်သွားသည်။

– **သူ့**ရွာသို့ ပြန်သွားသည်။

(ဂ ဂ) – **ကျွန်တော်၏**စာအုပ်ကို ပြန်ပေးပါ။

– **ကျွန်တော့်**စာအုပ်ကို ပြန်ပေးပါ။

(ဂ) **ဝစ္စနှစ်လုံးပေါက် (–း)။** ။ သရအက္ခရာ၊ ဗျည်းအက္ခရာတို့၏ ရှေ့၌ ရှိသော အစက်အပြောက် သင်္ကေတ ၂ ခုကို **ဝစ္စနှစ်လုံးပေါက်**ဟု ခေါ်သည်။ ဝစ္စနှစ်လုံးပေါက် သင်္ကေတ(–း)ချည်းသက်သက် အသံထွက်အောင် မရွတ်ဆိုနိုင်ချေ။ (၁) သံရှည်သရ (အာ၊ အီ၊ အူ၊ အေ၊ အို) နှင့် (၂) သံရှည်အသတ် (–င်၊ –ဉ်၊ –ည်၊ –န်၊ –မ်)တို့နှင့်တွဲ၍ ရွတ်ဆိုမှသာ အသံထွက်လာသည်။

ဖော်ပြပါ သံရှည်သရများနှင့် သံရှည်အသတ်ပါသောသရများကို အသံလေးများအဖြစ် အသံပြောင်းလိုလျှင် သံပြောင်းပြသင်္ကေတ ဝစ္စနှစ်လုံးပေါက်(–း)နှင့် တွဲရသည်။

**သာဓက။ ။**

| | | | | | |
|---|---|---|---|---|---|
| (၁) | **သံရှည်သရ** | **+** | **သံပြောင်းပြ သင်္ကေတ** | **=** | **သရသံလေး** |
| | အာ | + | –း | = | အား (စား၊ ဆား၊ တား စသည်) |
| | အီ | + | –း | = | အီး (စီး၊ ဆီး၊ တီး စသည်) |
| | အူ | + | –း | = | အူး (စူး၊ ဆူး၊ တူး စသည်) |
| | အေ | + | –း | = | အေး (စေး၊ ဆေး၊ တေး စသည်) |
| | အို | + | –း | = | အိုး (စိုး၊ ဆိုး၊ တိုး စသည်) |

| | | | | | |
|---|---|---|---|---|---|
| (၂) | **သံရှည်အသတ်** | **+** | **သံပြောင်းပြ သင်္ကေတ** | **=** | **သရသံလေး** |
| | အင် | + | –း | = | အင်း (ကင်း၊ ခင်း၊ စင်း စသည်) |
| | အဉ် | + | –း | = | အဉ်း (စဉ်း၊ ယဉ်း စသည်) |
| | အည် | + | –း | = | အည်း (စည်း၊ ဆည်း၊ တည်း စသည်) |
| | အန် | + | –း | = | အန်း (စန်း၊ ဆန်း၊ တန်း စသည်) |
| | အမ် | + | –း | = | အမ်း (စမ်း၊ နမ်း၊ ဖမ်း စသည်) |

# နာမ်

**နာမ်**

၅။ သက်ရှိသက်မဲ့၊ ဒြပ်ရှိဒြပ်မဲ့တို့၏ အမည်ဟူသမျှကို **နာမ်**ဟု ခေါ်သည်။

**သာဓက**။ ။ မောင်လှ၊ ကျောင်းသား၊ စာအုပ်၊ ကျောင်းကား၊ မေတ္တာ၊ သတ္တိ၊ ကျန်းမာခြင်း၊ အချစ်၊ အမုန်း၊ ခွန်အား။

၆။ နာမ်ကို–

(က) အနက်အဓိပ္ပာယ်အရ ၄ မျိုး

(ခ) ဖွဲ့စည်းတည်ဆောက်ပုံအရ ၄ မျိုး ခွဲသည်။

(ဤအခန်း၌ အနက်အဓိပ္ပာယ်အရ နာမ် ၄မျိုး အကြောင်းကိုသာ ဖော်ပြမည်။ ဖွဲ့စည်းတည်ဆောက် ပုံအရ နာမ် ၄ မျိုးအကြောင်းကိုမူ အတွဲ ၁၊ အခန်း ၄ ၌ ဆက်လက်ဖော်ပြမည်။)

၇။ နာမ်သည် အနက်အဓိပ္ပာယ်အရ ၄ မျိုးရှိသည်။ ၎င်းတို့မှာ–

(က) တစ်ဦးဆိုင်နာမ်

(ခ) အများဆိုင်နာမ်

(ဂ) စိတ္တဇနာမ်

(ဃ) အစုပြနာမ်တို့ ဖြစ်ကြသည်။

၈။(က) **တစ်ဦးဆိုင်နာမ်**။ ။ တစ်ဦး၊ တစ်ယောက်၊ တစ်ခုအတွက် သီးခြားမှည့်ခေါ်ထား သော အမည်ကို **တစ်ဦးဆိုင်နာမ်** ဟုခေါ်သည်။

**သာဓက**။ ။ ရွှေတိဂုံ၊ ဆူးလေ၊ ဗိုလ်တထောင်၊ ကျိုက်ထီးရိုး။
ဧရာဝတီ၊ ချင်းတွင်း၊ သံလွင်၊ စစ်တောင်း။
ရန်ကုန်၊ မန္တလေး၊ မြစ်ကြီးနား၊ ထားဝယ်၊ ကျောက်ဖြူ။
မောင်မောင်၊ ဇော်ဇော်၊ တင်တင်၊ ခင်ခင်၊ ဘုတ်ဆုံ။

(၁) **ရွှေတိဂုံ၊ ဆူးလေ၊ ဗိုလ်တထောင်၊ ကျိုက်ထီးရိုး**တို့သည် မြန်မာပြည်၌ အမြောက်အမြားတည်ရှိနေကြသော ဘုရားစေတီများအနက် ဘုရားအချို့၏ သီးခြားအမည်များဖြစ်ကြသည်။

**ရွှေတိဂုံ** ဟူသောအမည်မှာ သိင်္ဂုတ္တရကုန်းပေါ်၌ ဥက္ကလာပမင်း တည်ထား ခဲ့သော စေတီကြီးကိုသာရည်ညွှန်းပြီး သီးခြားမှည့်ခေါ်ထားသောအမည် ဖြစ်သည်။ **ရွှေတိဂုံ** ဟူသော အမည်သည် အခြားဘုရားစေတီများနှင့် လုံးဝမသက်ဆိုင်ပေ။ ထို့ကြောင့် **ရွှေတိဂုံ**သည် **တစ်ဦးဆိုင်နာမ်**ဖြစ်သည်။

(ထိုနည်းအတူ **ဆူးလေ၊ ဗိုလ်တထောင်၊ ကျိုက်ထီးရိုး**တို့သည်လည်း ဘုရားစေတီတစ်ဆူချင်း၏ သီးခြားမှည့်ခေါ်ထားသော အမည်များ ဖြစ်ခြင်း ကြောင့် **တစ်ဦးဆိုင်နာမ်**များ ဖြစ်ကြသည်။)

(၂) **ဧရာဝတီ၊ ချင်းတွင်း၊ သံလွင်၊ စစ်တောင်း** တို့သည် မြန်မာပြည်၌ အမြောက်အမြားရှိသော မြစ်များအနက် မြစ်အချို့၏ သီးခြားအမည်များ ဖြစ်ကြသည်။

**ဧရာဝတီ**ဟူသောအမည်မှာ မြန်မာပြည်မြောက်ပိုင်းတွင် မေခနှင့် မေလိခ တို့ပေါင်းဆုံရာအရပ်မှ တောင်ဘက်သို့စီးဆင်းလာပြီး ဘင်္ဂလားပင်လယ်ထဲသို့ စီးဝင်သော မြစ်ကြီးကိုသာရည်ညွှန်းပြီး သီးခြားမှည့်ခေါ်ထားသော အမည် ဖြစ်သည်။ **ဧရာဝတီ**ဟူသော အမည်သည် အခြားမြစ်များနှင့် လုံးဝမသက်ဆိုင်ပေ။ ထို့ကြောင့် **ဧရာဝတီ**သည် **တစ်ဦးဆိုင်နမ်** ဖြစ်သည်။

(ထိုနည်းအတူ **ချင်းတွင်း၊ သံလွင်၊ စစ်တောင်း** တို့သည်လည်း မြစ်တစ်ခုချင်း ၏ သီးခြားမှည့်ခေါ်ထားသောအမည်များ ဖြစ်ခြင်းကြောင့် **တစ်ဦးဆိုင်နာမ်**များ ဖြစ်ကြသည်။)

(၃) **ရန်ကုန်၊ မန္တလေး၊ မြစ်ကြီးနား၊ ထားဝယ်၊ ကျောက်ဖြူ** တို့သည် မြန်မာပြည်၌ အမြောက်အမြားရှိနေကြသောမြို့များအနက် မြို့အချို့၏ အမည်များ ဖြစ်ကြသည်။

**ရန်ကုန်** ဟူသောအမည်မှာ လှိုင်မြစ်နှင့်ပုဇွန်တောင်ချောင်း၊ ပဲခူးချောင်းတို့ ဆုံရာအရပ်တွင် တည်ရှိသော ဆိပ်ကမ်းမြို့ကြီးကိုသာ ရည်ညွှန်းပြီး သီးခြား မှည့်ခေါ်ထားသောအမည်ဖြစ်သည်။ **ရန်ကုန်** ဟူသော အမည်သည် အခြားမြို့များ နှင့် လုံးဝမသက်ဆိုင်ပေ။ ထို့ကြောင့် **ရန်ကုန်** သည် **တစ်ဦးဆိုင်နာမ်**ဖြစ်သည်။

(ထိုနည်းအတူ **မန္တလေး၊ မြစ်ကြီးနား၊ ထားဝယ်၊ ကျောက်ဖြူ** တို့သည် လည်း မြို့တစ်မြို့ချင်း၏ သီးခြားမှည့်ခေါ်ထားသောအမည်များ ဖြစ်ခြင်းကြောင့် **တစ်ဦးဆိုင်နာမ်**များ ဖြစ်ကြသည်။)

(၄) **မောင်မောင်၊ ဇော်ဇော်၊ တင်တင်၊ ခင်ခင်၊ ဘုတ်ဆုံ** တို့သည်လည်း လူအမြောက်အမြားအနက် လူအချို့၏အမည်များ ဖြစ်ကြသည်။

**မောင်မောင်** ဟူသောအမည်မှာ သူ၏မိဘနှစ်ပါးက သူတို့၏သားကိုသာ ရည်ညွှန်းပြီး သီးခြားမှည့်ခေါ်ထားသောအမည်ဖြစ်သည်။ **မောင်မောင်** ဟူသော အမည်သည် အခြားမိဘများက ပေါက်ဖွားလာသော သားများနှင့် လုံးဝ မသက်ဆိုင်ပေ။ ထို့ကြောင့် **မောင်မောင်**သည် **တစ်ဦးဆိုင်နာမ်** ဖြစ်သည်။

(ထိုနည်းအတူ **ဇော်ဇော်၊ တင်တင်၊ ခင်ခင်၊ ဘုတ်ဆုံ** တို့သည်လည်း တစ်ဦးချင်း၏ သီးခြားမှည့်ခေါ်ထားသောအမည်များ ဖြစ်ခြင်းကြောင့် **တစ်ဦးဆိုင် နာမ်**များ ဖြစ်ကြသည်။)

(ခ) **အများဆိုင်နာမ်**။ ။ အများနှင့်ဆိုင်သော ပုဂ္ဂိုလ်၊ သတ္တဝါ၊ အရာဝတ္ထုတို့၏ အမည်ကို **အများဆိုင်နာမ်** ဟု ခေါ်သည်။

**သာဓက**။ ။ မြို့၊ ရွာ၊ အိမ်၊ ကျောင်း၊ မြစ်၊ ချောင်း၊ လူ၊ တိရစ္ဆာန်။

(၁) **မြို့** ဟူသော နာမ်သည် မြို့တစ်မြို့တည်းနှင့်သာ သက်ဆိုင်သည်မဟုတ်၊ ရှိရှိသမျှ မြို့အားလုံးနှင့်သက်ဆိုင်သည်။ ထို့ကြောင့် **မြို့**သည် **အများဆိုင်နာမ်** ဖြစ်သည်။

(၂) **ရွာ**ဟူသောနာမ်သည် ရွာတစ်ရွာတည်းနှင့်သာ သက်ဆိုင်သည်မဟုတ်၊ ရှိရှိသမျှ ရွာအားလုံးနှင့်သက်ဆိုင်သည်။ ထို့ကြောင့် **ရွာ**သည်လည်း **အများဆိုင်နာမ်** ဖြစ်သည်။

(ထိုနည်းအတူ **အိမ်၊ ကျောင်း၊ မြစ်၊ ချောင်း၊ လူ၊ တိရစ္ဆာန်** တို့သည်လည်း အများနှင့်ဆိုင်သော **အများဆိုင်နာမ်**များ ဖြစ်ကြသည်။)

(ဂ) **စိတ္တဇနာမ်**။ ။ ဒြပ်မရှိ၊ ကိုင်တွယ်စမ်းသပ်၍မရ၊ မြင်လည်းမမြင်နိုင်၊ စိတ်ဖြင့်သာ တွေးတောသိနိုင်သော နာမ်ကို **စိတ္တဇနာမ်** ဟု ခေါ်သည်။

**သာဓက**။ ။ မေတ္တာ၊ စေတနာ၊ ကံ၊ ဉာဏ်၊ ဝီရိယ၊ ဖွဲ့၊ သတ္တိ၊ သီလ၊ သမာဓိ၊ ပညာ၊ စည်းလုံးညီညွတ်ရေး၊ အဆိုး၊ အကောင်း၊ အချစ်၊ အမုန်း။

**မေတ္တာ** ဟူသော နာမ်သည် အကောင်အထည် ဒြပ်သဏ္ဌာန် အထင်အရှားမရှိ၊ ကိုင်တွယ်စမ်းသပ်၍လည်းမရနိုင်၊ မျက်စိဖြင့်ကြည့်၍လည်း မမြင်နိုင်။ သို့ရာတွင် မေတ္တာ၏ သဘောကို စိတ်ဖြင့်တွေးတော သိရှိနိုင်သည်။ ဤသို့ စိတ်ဖြင့်သာ တွေးတောသိနိုင်သောကြောင့် **မေတ္တာ** သည် **စိတ္တဇနာမ်** ဖြစ်သည်။

(ထိုနည်းအတူ **စေတနာ၊ ကံ၊ ဉာဏ်၊ ဝီရိယ၊ ဖွဲ့၊ သတ္တိ** အစရှိသော နာမ်တို့သည်လည်း အကောင်အထည် ဒြပ်သဏ္ဌာန် အထင်အရှားမရှိ၊ ကိုင်တွယ်စမ်းသပ်၍လည်း မရနိုင်၊ မျက်စိဖြင့်ကြည့်၍လည်းမမြင်နိုင်။ သို့ရာတွင် ၎င်းတို့၏သဘောကို စိတ်ဖြင့် တွေးတောသိရှိနိုင်သည်။ ထို့ကြောင့် ၎င်းတို့သည် **စိတ္တဇနာမ်**များ ဖြစ်ကြသည်။)

(ဃ) **အစုပြနာမ်**။ ။ အစုအပေါင်း၊ အသင်းအဖွဲ့ကို ဖော်ပြသောနာမ်ကို **အစုပြနာမ်** ဟု ခေါ်သည်။

**သာဓက**။ ။ လူထု၊ စစ်တပ်၊ အိမ်ထောင်စု၊ ပါတီ၊ အသင်း၊ အစည်းအရုံး၊ ကော်မတီ၊ ကျွဲအုပ်၊ နွားအုပ်။

(၁) **လူထု** ဟူသော နာမ်သည် လူတစ်ဦးတစ်ယောက်တည်းကို မဆိုလိုပေ။ လူအများပါဝင်သော အစုအပေါင်းကို ဆိုလိုသည်။

(၂) **စစ်တပ်**ဟူသော နာမ်သည် စစ်သားတစ်ယောက်တည်းကို မဆိုလိုပေ။ စစ်သား အများအပြားပါဝင်သော အစုအပေါင်းကို ဆိုလိုသည်။

(၃) **အိမ်ထောင်စု** ဟူသော နာမ်သည် မိခင်တစ်ယောက်တည်းကိုသာ ဆိုလိုသည် မဟုတ်။ မိခင်၊ ဖခင်၊ သားသမီး စသည့် အိမ်သားစုအားလုံးကိုဆိုလိုသည်။

(၄) ထို့ကြောင့် **လူထု၊ စစ်တပ်၊ အိမ်ထောင်စု**တို့သည် **အစုပြနာမ်**များ ဖြစ်ကြသည်။

(၅) ထိုနည်းအတူ **ပါတီ၊ အသင်း၊ အစည်းအရုံး၊ ကော်မတီ** ဟူသော နာမ် တို့သည်လည်း အစုအပေါင်းကိုပြသော **အစုပြနာမ်**များ ဖြစ်ကြသည်။

(၆) **ကျွဲအုပ်၊ နွားအုပ်** ဟူသော နာမ်များသည်လည်း ကျွဲ တစ်ကောင်တည်း၊ နွား တစ်ကောင်တည်းကို ဆိုလိုသည်မဟုတ်ပေ။ ကျွဲအများ စုပေါင်းပါဝင်သော အစုအပေါင်းကို **ကျွဲအုပ်** ဟုခေါ်၍ နွားအများ စုပေါင်းပါဝင်သော အစုအပေါင်း ကို **နွားအုပ်**ဟုခေါ်သည်။ ဤကဲ့သို့ အစုအပေါင်းနှင့်သက်ဆိုင်သောကြောင့် **ကျွဲအုပ်၊ နွားအုပ်**တို့သည် **အစုပြနာမ်**များ ဖြစ်ကြသည်။

# လေ့ကျင့်ခန်း

၁။ အောက်ပါ ဝါကျများရှိ မျဉ်းသားထားသော နာမ်အသီးသီး၏ အမျိုးအမည်ကိုရေးပါ။

(က) စလေဦးပုည သည် ထင်ရှားသော စာဆိုတစ်ဦးဖြစ်သည်။

(ခ) ရေခမအင်ပါယာကြီး ပျက်သွားပြီးနောက် မြို့ကြီးများ တိမ်ကော ပျောက်ကွယ်ခဲ့၏။

(ဂ) ကျောက်အမျိုးအစားကို သုံးမျိုးခွဲထားသည်။

(ဃ) မြေစေးသည် ဖိအားကြောင့် အသွင်ပြောင်းပြီးလျှင် သင်ပုန်းကျောက် ဖြစ်လာသည်။

(င) မြန်မာနိုင်ငံရှိ ရှမ်းပြည်နယ်ဒေသသည် ကုန်းပြင်မြင့် ဖြစ်သည်။

(စ) ရေနံသည် မြေလွှာအတွင်း၌အောင်းနေသော သဘာဝ ဒြပ်နှောတစ်မျိုး ဖြစ်သည်။

(ဆ) သရက်မြို့ ဘီလပ်မြေစက်ရုံတွင် ခဲတတ်ငွေ့ကို လောင်စာအဖြစ်သုံးသည်။

(ဇ) ပန်းပွင့်များသည် ပုံအမျိုးမျိုး၊ အရွယ်အမျိုးမျိုး၊ အရောင်အမျိုးမျိုး ကွဲပြားကြသည်။

(ဈ) ကြက်သွန်ဖြူသည် ဆေးဖက်ဝင်သော အပင်တစ်မျိုး ဖြစ်သည်။

(ည) ဗညားဒလသည် ဝန်ကြီးဖြစ်သည့်ပြင် ဗိုလ်မှူးလည်း ဖြစ်သည်။

၂။ အောက်ပါနာမ်တို့ကို အနက်အဓိပ္ပာယ်အရ အမျိုးအစားတူရာအလိုက် အစုခွဲပြပါ။

ဗိုလ်ချုပ်အောင်ဆန်း၊ တောင်ကလပ်၊ မီးတောင်၊ လတ္တီတွဒ်၊ ကျောက်၊ ရာသီဥတု၊ သမုဒ္ဒရာ၊ သမုဒ္ဒရာရေစီးကြောင်း၊ အသင်း၊ နိုင်ငံရေး၊ လူမှုရေး၊ စီးပွားရေး၊ အစည်းအရုံး၊ ရေနံမြေ၊ မဟာဗန္ဓုလ၊ ရေနံချောင်းရေနံမြေ၊ ခဲတတ်ငွေ့၊ လေမုန်တိုင်း၊ ဟိုက်ဒရိုဂျင်၊ ဖိအား။

၃။ ပေးထားသော ဝါကျများရှိ မျဉ်းသားထားသော နာမ်များသည် တစ်ဦးဆိုင်နာမ် ဖြစ်လျှင် အမှန်(✓) ပြ၍ မဖြစ်လျှင် အမှား (☐) ပြပါ။

(က) မုတ်သုံရာသီဥတု ရရှိရာ ဒေသများကို အတိအကျ သတ်မှတ်၍ မရနိုင်ပေ။
( ) ( )

(ခ) အာရှတိုက်ရှိ တိဗက်ကုန်းပြင်မြင့်သည် တောင်တန်းများဖြင့် အနားသတ်လျက် ရှိသည်။
( ) ( )

(ဂ) ဂျပန်ပြည်တွင် ပန်းအိုးစိုက် ပြုပြင်နည်းများကို မိန်းကလေးများ အထူးတလည် သင်ကြားကြသည်။ ( ) ( )

(ဃ) ဆားသည် ရေတွင် ပျော်ဝင်နိုင်သည်။ ( ) ( )

(င) အောက်စီဂျင်သည် ဟိုက်ဒရိုဂျင်နှင့်ပေါင်းစပ်လျက် ရေထဲ၌ပါဝင်သည်။ ( ) ( )

(စ) မိုးပြဲရေကာတာသည် ကယားပြည်နယ်တွင် ရှိသည်။ ( ) ( )

(ဆ) ကျွန်ုပ်တို့သည် တိုင်းပြည်နှင့်လူမျိုးအပေါ်တွင် သစ္စာရှိကြရမည်။ ( ) ( )

(ဇ) အပင်များသည် သင့်လျော်သော ရေမြေ ရာသီဥတုကို မရလျှင် ကောင်းစွာ မဖြစ်ထွန်းချေ။ ( ) ( )

(ဈ) တိရစ္ဆာန်တို့တွင် သဘာဝရန်သူရှိသော်လည်း ၎င်းတို့၏ မျိုးရိုး မတိမ်ကောစေရန် ကာကွယ်သောနည်းများရှိသည်။ ( ) ( )

၄။ ပေးထားသော ဝါကျများရှိ မျဉ်းသားထားသောနာမ်များသည် အများဆိုင်နာမ် ဖြစ်လျှင် (✓)ပြ၍ မဖြစ်လျှင် ( ☐ )ပြပါ။

(က) ကျွန်းသည် မုတ်သုံသစ်တောဥ် ပေါက်သည်။ ( ) ( )

(ခ) မုန်တိုင်းများကြောင့် ကမ္ဘာအရပ်ရပ်တွင်အသေအပျောက်များခဲ့ပါသည်။( ) ( )

(ဂ) တပ်မတော်သည် ပြည်သူ့အတွက်ဖြစ်သည်။ ( ) ( )

(ဃ) လေဖိအားကိုတိုင်းတာ၍ မိုးလေဝသအခြေအနေကို ခန့်မှန်းနိုင်သည်။( ) ( )

(င) အပူနှင့် အလင်းစွမ်းအင်သည် လူ၊ တိရစ္ဆာန်နှင့်အပင်များ အသက်ရှင်ရေး အတွက် အရေးအကြီးဆုံးသော စွမ်းအင် ဖြစ်သည်။ ( ) ( )

၅။ ပေးထားသော ဝါကျများရှိ မျဉ်းသားထားသောနာမ်များသည် စိတ္တဇနာမ်များဖြစ်လျှင် အမှန်(✓) ပြ၍ မဖြစ်လျှင် အမှား(☐) ပြပါ။

(က) ထင်း၊ ရေနံဆီ၊ မီးသွေးတို့ မီးလောင်ခြင်းမှ ရရှိသော အပူစွမ်းအင်ကို ထမင်းဟင်း ချက်ပြုတ်ရာ၌ အသုံးပြုရသည်။ ( ) ( )

(ခ) လေဖိအားနည်းရာအရပ်များသို့ ပတ်ဝန်းကျင်မှ လေများ ဝင်ရောက် တိုက်ခတ်သည်။ ( ) ( )

(ဂ) ပန်းမျိုးစပ်ခြင်းသည် လူတို့၏အကူအညီဖြင့် ဝတ်မှုန်ကူးခြင်းပင် ဖြစ်သည်။ ( ) ( )

(ဃ) ဟိုက်ဒရိုဂျင်ဓာတ်မှာ အရောင်၊ အနံ့၊ အရသာ မရှိချေ။ ( ) ( )

(င) ကြိုးစားခြင်းသည် အောင်မြင်ခြင်း၏ လမ်းစဖြစ်သည်။ ( ) ( )

၆။ ပေးထားသော ဝါကျများရှိ အစုပြနာမ်များကို မျဉ်းသားပြပါ။

(က) ဦးမြသည် အသင်းကို စတင်တည်ထောင်သူဖြစ်သည်။

(ခ) အဖွဲ့ဝင်ငါးဦးပါဝင်သော အလုပ်အမှုဆောင်ကော်မတီကို ယနေ့ ဖွဲ့စည်းလိုက်သည်။

(ဂ) တပ်မတော်သည် နိုင်ငံတော်၏အသက်အိုးအိမ်စည်းစိမ်တို့ကို ကာကွယ်ပေးသည်။

(ဃ) ကျွန်တော်တို့အတန်းတွင် မြန်မာသဒ္ဒါကို သင်ကြားလျက် ရှိပါသည်။

(င) နွေရာသီကျောင်းပိတ်လျှင် ကျွန်တော်တို့မိသားစု ဘုရားဖူးသွားကြပါမည်။

၇။ ကွက်လပ်အသီးသီး၌ သက်ဆိုင်ရာ နာမ်အမျိုးအမည်ကို ဖြည့်ပါ။

(က) တစ်ဦး၊ တစ်ယောက်၊ တစ်ခုအတွက် သီးခြားမှည့်ခေါ်ထားသော အမည်ကို ............ဟု ခေါ်သည်။

(ခ) အများနှင့်ဆိုင်သော ပုဂ္ဂိုလ်၊ သတ္တဝါ၊ အရာဝတ္ထုတို့၏အမည်ကို ............ ဟု ခေါ်သည်။

(ဂ) ဒြပ်မရှိ၊ ကိုင်တွယ်စမ်းသပ်၍မရ၊ မြင်လည်းမမြင်နိုင်၊ စိတ်ဖြင့်သာ တွေးတော သိနိုင်သော နာမ်ကို ............ ဟု ခေါ်သည်။

(ဃ) အစုအပေါင်း၊ အသင်းအဖွဲ့ကို ဖော်ပြသော နာမ်ကို ..............ဟုခေါ်သည်။

# နာမ်စား

**နာမ်စား**

၉။ နာမ်၏ အစားသုံးသော ပုဒ်ကို **နာမ်စား**ဟု ခေါ်သည်။

**သာဓက**။ ။ ငါ၊ ကျွန်တော်၊ ကျွန်မ၊ ကျွန်ုပ်၊ ကျုပ်၊ သင်၊ မင်း၊ ခင်ဗျား၊ ရှင်၊ နင်၊ ညည်း၊ သူ၊ သင်း၊ ဤ၊ သည်၊ ထို၊ ၎င်း၊ အဘယ်၊ ဘယ်၊ အချို့၊ အားလုံး။

၁၀။ နာမ်စား ၄ မျိုးရှိသည်။ ၎င်းတို့မှာ–

(က) ပုဂ္ဂလနာမ်စား

(ခ) အညွှန်းနာမ်စား

(ဂ) အမေးနာမ်စား

(ဃ) သင်္ချာနာမ်စားတို့ ဖြစ်ကြသည်။

(အဆိုပါ နာမ်စား ၄ မျိုးအနက် **အညွှန်းနာမ်စားနှင့် အမေးနာမ်စား**တို့ကို အတွဲ ၁၊ အခန်း ၄ ၌လည်းကောင်း၊ **သင်္ချာနာမ်စား**ကို အတွဲ ၂၊ အခန်း ၅ ၌လည်းကောင်း ဖော်ပြမည်။ ဤအတွဲ ၁၊ အခန်း ၃ ၌မူ **ပုဂ္ဂလနာမ်စား** ကိုသာ ဖော်ပြမည်။)

၁၁။ **ပုဂ္ဂလနာမ်စား**။ ။ ပုဂ္ဂိုလ်၏ အစားသုံးသော နာမ်စားကို **ပုဂ္ဂလနာမ်စား** ဟု ခေါ်သည်။ ပုဂ္ဂလနာမ်စား ၃ မျိုးရှိသည်။ ၎င်းတို့မှာ–

(က) ပြောသူနာမ်စား

(ခ) ကြားနာသူနာမ်စား

(ဂ) အပြောခံနာမ်စား တို့ ဖြစ်ကြသည်။

၁၂။(က) **ပြောသူနာမ်စား**

(၁) ပြောသူနာမ်၏ အစားသုံးသောပုဒ်ကို **ပြောသူနာမ်စား**ဟု ခေါ်သည်။

**သာဓက**။ ။ ငါ၊ ကျွန်တော်၊ ကျွန်မ၊ ကျွန်ုပ်၊ ကျုပ်၊ ကိုယ်၊ တပည့်တော်၊ တပည့်တော်မ။

"**ငါ** ဂုဏ်ထူးရအောင် ကြိုးစားမယ်"ဟု **မောင်မောင်**က ပြောသည်။

(ဤဝါကျ၌ **ငါ** သည် **မောင်မောင်** ဟူသော နာမ်၏ အစားသုံးသော နာမ်စား ဖြစ်သည်။ **မောင်မောင်** သည် ပြောသူနာမ်ဖြစ်သည်။ ထို့ကြောင့် **ငါ**သည် **ပြောသူနာမ်စား** ဖြစ်သည်။

ထိုနည်းအတူ **ကျွန်တော်၊ ကျွန်ုပ်၊ ကျုပ်၊ ကိုယ်၊ တပည့်တော်၊ တပည့်တော်မ** တို့သည် ပြောသူနာမ်၏အစားသုံးသော **ပြောသူနာမ်စား**များ ဖြစ်ကြသည်။)

(၂) ပြောသူနှင့် ကြားနာသူတို့၏ အသက်အရွယ်၊ အဆင့်အတန်း၊ ခင်မင်ရင်းနှီးမှု စသည့် အခြေအနေတို့ကို လိုက်၍ ပြောသူနာမ်စား အမျိုးမျိုးကွဲပြားသည်။

**သာဓက**။ ။

(ကက) "**ငါ** တို့ ရုပ်ရှင်သွားကြည့်ရအောင်"ဟု ခင်ခင်က ပြောသည်။

(ခခ) "**ကျွန်တော်** ကြီးလာလျှင် ဆရာဝန်ကြီးလုပ်မည်" ဟု မောင်ရေခဲက ပြောသည်။

(ဂဂ) "**ကျွန်မ** ကြီးလာလျှင် ကျောင်းဆရာမကြီးလုပ်မည်" ဟု မဝိုင်းက ပြောသည်။

(ဃဃ) "ဤအမှုကို **ကျွန်ုပ်** စီရင်ချက်ချမည်"ဟု တရားသူကြီးက ပြောသည်။

(ငင ) "**ကျုပ်**တို့ ရွာကို လာလည်ပါဦး" ဟု မကျည်းတန်က ဖိတ်ခေါ်သည်။

(စစ ) "**ကိုယ်** နက်ဖြန် မောင်ရင်တို့အိမ်ကို လာခဲ့ဦးမယ်"ဟု ဖိုးအေးက ပြောသည်။

(ဆဆ) "**တပည့်တော်** ပြန်ပါရစေဦးဘုရား" ဟု ဆရာတော်အား ဒကာကြီး ဦးတင်က ခွင့်ပန်သည်။

(ဇဇ ) "**တပည့်တော်မ**၏အိမ်ကို မနက်ဖြန် အရုဏ်ဆွမ်းဘုဉ်းပေးရန် ကြွပါဘုရား"ဟု ဒကာမကြီး ဒေါ်မေက လျှောက်သည်။

(ခ) **ကြားနာသူနာမ်စား**

(၁) ကြားနာသူနာမ်၏အစားသုံးသောပုဒ်ကို **ကြားနာသူနာမ်စား** ဟု ခေါ်သည်။
**သာဓက**။ ။ မင်း၊ ခင်ဗျား၊ ရှင်၊ နင်၊ သင်၊ ညည်း။
ပြောသူသည် ကြားနာသူကို တိုက်ရိုက်ရည်ညွှန်းပြောသောအခါ ကြားနာသူ၏အမည်ကို သုံးမည့်အစား နာမ်စားကို သုံး၍ပြောသည်။ ထိုနာမ်စား သည် ကြားနာသူ၏ အမည်အစားသုံးသောကြောင့် **ကြားနာသူနာမ်စား** ဖြစ်သည်။
"**မင်း**ကို အထူးအဆန်းတစ်ခု ပြောရဦးမယ်"ဟု မောင်ဇော်ကို မောင်ရေခဲ က ပြောသည်။
(ဤဝါကျ၌ **မောင်ဇော်** သည် **ကြားနာသူနာမ်** ဖြစ်သည်။ **မင်း** သည် **မောင်ဇော်** ဟူသော ကြားနာသူနာမ်၏အစားသုံးသော နာမ်စား ဖြစ်သည်။ ထို့ကြောင့် **မင်း**သည် **ကြားနာသူနာမ်စား** ဖြစ်သည်။
ထိုနည်းအတူ **ခင်ဗျား၊ ရှင်၊ နင်၊ သင်၊ ညည်း** တို့သည်လည်း ကြားနာသူနာမ်၏အစားသုံးသော **ကြားနာသူနာမ်စား**များ ဖြစ်ကြသည်။)

(၂) ပြောသူနှင့်ကြားနာသူတို့၏ အသက်အရွယ်၊ အဆင့်အတန်း၊ ခင်မင်ရင်းနှီးမှု စသည့် အခြေအနေတို့ကိုလိုက်၍ ကြားနာသူနာမ်စား အမျိုးမျိုး ကွဲပြားသည်။
**သာဓက**။ ။

(ကက) "**ခင်ဗျား**အတွေးအခေါ် အလွန်ကောင်းပါပေသည်" ဟု **ဦးဖြူ** ကို ဦးဘထွန်းက ချီးမွမ်းသည်။

(ခခ) "**ရှင်** ပြန်လာသည်အထိ စောင့်နေပါမည်"ဟု မဖြူက **မောင်နီ**ကို ပြောသည်။

(ဂဂ) "**နင်** ကျောင်းမှန်မှန် တက်ဖို့ကောင်းသည်"ဟု မဝိုင်းက **မောင်ရေခဲ**ကို သတိပေးသည်။

(ဃဃ) "**သင်**၏ကျေးဇူးကို မမေ့ပါ"ဟု ကြွက်ကလေးက **ခြင်္သေ့မင်း**ကို ပြောသည်။

(ငင) "**ညည်း**ကို မတွေ့ရသည်မှာ ကြာပြီ"ဟု မစံပယ်က **မနီ**ကို ပြောသည်။

(ဂ) **အပြောခံနာမ်စား**

(၁) အပြောခံနာမ်၏အစား သုံးသောပုဒ်ကို **အပြောခံနာမ်စား**ဟု ခေါ်သည်။

**သာဓက**။ ။ သူ၊ သင်း၊ ယင်း၊ ၎င်း။

ပြောသူနှင့် ကြားနာသူတို့၏အကြား၌ အပြောခံပုဂ္ဂိုလ်တစ်ဦး ရှိတတ်သည်။ ထိုအပြောခံပုဂ္ဂိုလ်သည် အပြောခံနာမ်ဖြစ်သည်။ အဆိုပါ အပြောခံနာမ်၏ အစားသုံးသော နာမ်စားသည် **အပြောခံနာမ်စား** ဖြစ်သည်။

"မောင်ဇော်ကို မနေ့က မတွေ့ဘူး။ **သူ** နေမကောင်းဘူးထင်ပါရဲ့" ဟု မောင်ရေချဲကို မဝိုင်းက ပြောသည်။

(ဤဝါကျ၌ ပြောသူသည် မဝိုင်းဖြစ်၍ ကြားနာသူသည် မောင်ရေချဲ ဖြစ်သည်။ မဝိုင်းနှင့်မောင်ရေချဲတို့သည် **မောင်ဇော်**၏အကြောင်းကို ပြောနေခြင်း ဖြစ်သောကြောင့် **မောင်ဇော်**သည် **အပြောခံနာမ်**ဖြစ်သည်။ ထို့ကြောင့် **သူ** သည် အပြောခံနာမ် **မောင်ဇော်**၏အစားသုံးသော **အပြောခံနာမ်စား** ဖြစ်သည်။)

(၂) ထိုနည်းအတူ **သင်း၊ ယင်း၊ ၎င်း** တို့သည်လည်း အပြောခံနာမ်၏အစား သုံးသော **အပြောခံနာမ်စား**များ ဖြစ်ကြသည်။

**သာဓက**။ ။

(ကက) မောင်ညိုသည် အလွန်မိုက်ရိုင်းသည်။
**သင်း**ကို သတိထားဟု မောင်အေးအား ဒေါ်မြက ပြောသည်။

(ခခ) မြမြသည် သူတစ်ပါးကို ကူညီလေ့ရှိသည်။
**၎င်း**ကို လူတိုင်းက ချင်မင်ကြသည်။

(ဂဂ) မောင်ရွှေသည် ဖျားနေသည်။
**ယင်း**ကို ဆရာဝန်က ဆေးထိုးပေးသည်။

# လေ့ကျင့်ခန်း

၁။ ကွက်လပ်များကိုဖြည့်ပါ။

(က) နာမ်၏ အစားသုံးသော ပုဒ်ကို ................. ဟု ခေါ်သည်။

(ခ) ပုဂ္ဂိုလ်၏ အစားသုံးသော ပုဒ်ကို ................. ဟု ခေါ်သည်။

(ဂ) ပြောသူနာမ်၏ အစားသုံးသော ပုဒ်ကို ................. ဟု ခေါ်သည်။

(ဃ) ကြားနာသူ နာမ်၏အစားသုံးသော ပုဒ်ကို .............. ဟု ခေါ်သည်။

(င) အပြောခံ နာမ်၏အစားသုံးသော ပုဒ်ကို .............. ဟု ခေါ်သည်။

၂။ ပေးထားသော နာမ်စားတို့သည် မည်သည့်နာမ်စားများ ဖြစ်သည်ကို ဖော်ပြပါ။

(က) ငါ

(ခ) ကျုပ်

(ဂ) ရှင်

(ဃ) သူ

(င) မင်း

(စ) တပည့်တော်

(ဆ) ခင်ဗျား

(ဇ) သင်း

(ဈ) ကျွန်တော်

၃။ အောက်ပါနာမ်စားတို့ကို အမျိုးတူရာအလိုက် အစုခွဲပြပါ။

နင်၊ ကျုပ်၊ သူ၊ မင်း၊ ကိုယ်၊ ရှင်၊ ကျွန်တော်၊ ကျွန်မ၊ ခင်ဗျား၊ ကျွန်ုပ်၊ သင်း၊ တပည့်တော်၊ အရှင်ဘုရား။

၄။ ယှဉ်တွဲဖော်ပြထားသော ပုဂ္ဂလနာမ်စားတို့မှ ဆီလျော်ရာကိုရွေး၍ ကွက်လပ်တွင် ဖြည့်ပါ။

(က) .........သည် ကျွန်တော်၏ သူငယ်ချင်းဖြစ်ပါသည်။ (သူ၊ မင်း)

(ခ) ကျွန်တော်ပြောသည့်အတိုင်း .........လုပ်သင့်သည်။ (ရှင်၊ ခင်ဗျား)

(ဂ) .........အကြောင်းကို လုံးဝမကြားလိုပါ။ (ကျုပ်၊ သင်း)

(ဃ) အရှင်ဘုရားအား .........မေးလျှောက်လိုပါသည်။ (သူ၊ တပည့်တော်)

(င) .........မလာသည့်အကြောင်းရင်းကို မလှက ကျွန်မအား ပြောပြသည်။ (ကျွန်တော်၊ သူ)

၅။ အောက်ပါစာပိုဒ်ရှိ မျဉ်းသားထားသော နာမ်စားတို့သည် (က) မည်သည့်နာမ်စား ဖြစ်သည် (ခ) မည်သည့်နာမ်၏အစား သုံးထားသည်ကို ဖော်ပြပါ။

ကုလားဖြူမြင်းတပ်လည်း သတင်းရလျှင်ရချင်း တံခွန်တိုင်ရွာသို့ အပြင်းလိုက်ခဲ့သည်။ ငှင်း[၁] တို့သည် ရွာသို့ရောက်သောအခါ မင်းကြီးရွှေလရောင်ကို မတွေ့ရ၍ သူ[၂] သွားရာအရပ်သို့ မြင်းခြေရာခံ၍လိုက်သည်။ လေးတိုင်စင်ရွာနားအရောက်တွင် မင်းကြီး ရွှေလရောင် နားနေခိုက်နှင့် ကြုံတွေ့၍ပစ်ခတ်ရာ မင်းကြီးစီးသောမြင်းကို သေနတ်မှန်၍ ငှင်း[၃] သည် ဗုန်းဗုန်းလဲကျလေတော့သည်။ မင်းကြီး၏ပေါင်ကိုလည်း ကျည်ဆန်ထိမှန်သဖြင့် နေရာမှမထနိုင်တော့ချေ။ အင်္ဂလိပ်စစ်ဗိုလ်က "မောင်မင်း[၄] ကို ကျုပ်[၅] ဆေးကုပေးမယ်၊

မောင်မင်းသာ ကျုပ်[၆] တို့သစ္စာကို ခံပါ''ဟု ပြောသည်။ ထိုအခါ ငါ[၇] ဟာ ဗမာ၊ ငါဟာ တိုင်းပြည်နှင့်လူမျိုးအပေါ် ဘယ်တော့မှ သစ္စာမဖောက်ဘူး၊ မင်း[၈] တို့ နယ်ချဲ့တွေအောက် နေရတာထက် သေရတာက မြတ်သေးတယ်။ မင်း[၉] တို့သစ္စာကို မခံဘူး၊ ငါ့[၁၀] ကို ခုချက်ချင်း သတ်ချင်သတ်နိုင်တယ်''ဟု မင်းကြီးရွှေလရောင်က ရဲဝံ့စွာ ပြန်ပြောသည်။

**နမူနာ။** ။

| **နာမ်စား** | **နာမ်စားအမျိုးအစား** | **အစားသုံးခံရသောနာမ်** |
|---|---|---|
| ၎င်း[၁] | အပြောခံနာမ်စား | ကုလားဖြူမြင်းတပ် |

၆။ အောက်ပါဝါကျများရှိ မျဉ်းသားထားသော နာမ်စားများ မှားလျှင် မှန်အောင် ပြင်ရေးပါ။

(က) မောင်ချမ်းသာနှင့်မောင်အေးသည် သူငယ်ချင်းများ ဖြစ်ကြသည်။ သူတို့သည် ကျောင်းမှန်မှန်တက်သည်။

(ခ) ''ရှင် ကျောင်းသွားတော့မည်''ဟု မဝိုင်းကပြောသည်။

(ဂ) ''မင်းတို့ ရုပ်ရှင်သွားရအောင်''ဟု ရွှေစင်က မောင်သောင်းဒန်ကို ပြော သည်။

(ဃ) ''ကျွန်တော်၏ မောင်လေးသည် အလွန်စာကြိုးစားသူ ဖြစ်ပါသည်။ ကျွန်ုပ်သည် လူကြီးမိဘစကားကို နားထောင်သူလည်း ဖြစ်ပါသည်''ဟု မိနိုင်က ပြောသည်။

(င) ''ရှင်တို့ရွာမှာ အိမ်ခြေ ဘယ်လောက်ရှိသလဲ''ဟု ဘကြီးဖြိုးက ဖိုးသာအောင် ကို မေးသည်။

(စ) ''ညည်းကို ငါလာတွေ့ဦးမယ်''ဟု အေးအေးက သင်းသင်းကို ပြောသည်။

(ဆ) ''မင်းတို့ စာမေးပွဲအောင်ချင်ရင် စာကြိုးစားကြ''ဟု ဆရာကြီးက ကျောင်းသား များကို ဆုံးမသည်။

(ဇ) သင်သည် မိဘစကားကို နားမထောင်သော သားမိုက်ဖြစ်ချေပြီ။

(ဈ) ''သင်းကိုတော့ ဆုံးမရဦးမယ်''ဟု ဆရာကြီးကပြောသည်။

# ကြိယာ

**ကြိယာ**

၁၃။ ပြုခြင်းကိုဖြစ်စေ၊ ဖြစ်ခြင်းကိုဖြစ်စေ၊ ရှိခြင်းကိုဖြစ်စေ ဖော်ပြသောပုဒ်ကို **ကြိယာ** ဟု ခေါ်သည်။

**သာဓက**။ ။ပြေး၊ ရိုက်၊ ခွဲ၊ ချက်၊ ကွဲ၊ ကျက်၊ က၊ စား၊ ကစား၊ ဆင်း၊ ဆင်းရဲ၊ သနား၊ ကဲ့ရဲ့၊ ရှိသေ။

၁၄။ ကြိယာကို–

(က) အနက်အဓိပ္ပာယ်အရ ၃ မျိုး

(ခ) ဖွဲ့စည်းတည်ဆောက်ပုံအရ ၃ မျိုး ခွဲသည်။

(အနက်အဓိပ္ပာယ်အရ ကြိယာ ၃ မျိုးအကြောင်းကို အတွဲ ၁၊ အခန်း ၂ ၌ ဖော်ပြခဲ့ပြီ။ ဤအတွဲ ၁၊ အခန်း ၃၌ ဖွဲ့စည်းတည်ဆောက်ပုံအရ ကြိယာ ၃ မျိုးအကြောင်းကို ဖော်ပြမည်။)

၁၅။ ဖွဲ့စည်းတည်ဆောက်ပုံအရ ကြိယာ ၃ မျိုးရှိသည်။ ၎င်းတို့မှာ–

(က) ပင်ကိုကြိယာ

(ခ) ဂုဏ်ရည်ပြကြိယာ

(ဂ) ပေါင်းစပ်ကြိယာတို့ ဖြစ်ကြသည်။

၁၆။ **ပင်ကိုကြိယာ**။ ။ မြန်မာသဒ္ဒါနည်းဖြင့် ခွဲစိတ်၍လည်း မရ၊ ပေါင်းစပ်ဖွဲ့စည်းထားခြင်းလည်းမဟုတ်၊ မူလအတိုင်းဖြစ်သော ပြုခြင်း၊ ဖြစ်ခြင်း၊ ရှိခြင်းကိုပြသော ကြိယာကို **ပင်ကိုကြိယာ**ဟု ခေါ်သည်။

**သာဓက**။ ။ က၊ စား၊ ကစား၊ ဆင်း၊ သနား၊ ကဲ့ရဲ့၊ ရှိသေ၊ ရှိ၊ ဖြစ်။

(က) စကားလုံးတစ်လုံး၊ သို့မဟုတ် ပုဒ်တစ်ခုကို ခွဲစိတ်လိုက်လျှင် ထိုစကားလုံး၏ မူလအနက်အဓိပ္ပာယ် ပျက်သွားသည်ကို "ခွဲစိတ်၍မရ"ဟု ဆိုလိုခြင်းဖြစ်သည်။

(ခ) **စား၊ ဆင်း၊ ရှိ၊ ဖြစ်** အစရှိသည်တို့သည် ခွဲစိတ်၍လည်း မရ၊ ပေါင်းစပ်ဖွဲ့စည်းထားခြင်းလည်း မဟုတ်သော **ပင်ကိုကြိယာများ** ဖြစ်ကြသည်။

(ဂ) **ကစား** ဟူသော ကြိယာသည်လည်း ခွဲစိတ်၍မရသော၊ ပေါင်းစပ်ဖွဲ့စည်းထားခြင်းလည်း မဟုတ်သော **ပင်ကိုကြိယာ** ဖြစ်သည်။ **ကစား**၏ ဆိုလိုရင်းအနက်တစ်ခုမှာ "ကျည်းသား၊ ခုံညင်းဒိုး၊ ဘောလုံး စသည်တို့ဖြင့် ကိုယ်လက်လှုပ်ရှား မြူးထူးပျော်ပါးသည်"ဟူ၍ ဖြစ်သည်။

(ဃ) **ကစား**ကို ခွဲစိတ်လိုက်လျှင် **က** နှင့် **စား** ဟူသော အစိတ်အပိုင်း နှစ်ခုကို ရမည်။ သို့ရာတွင် **က** သည်လည်းကောင်း၊ **စား** သည်လည်းကောင်း **ကစား**၏ဆိုလိုရင်းအနက်ကို မပေးနိုင်ချေ။ ခွဲစိတ်ခြင်းဖြင့် မူလအဓိပ္ပာယ်မှာ ပျက်သွားသည်။ ထို့ကြောင့် **ကစား**သည် ခွဲစိတ်၍ မရသော **ပင်ကိုကြိယာ**ဖြစ်သည်။

(င) ထို့ပြင် **ကွာခြား၊ ခုတ်ထစ်၊ ရောင်းဝယ်၊ စွန့်ကြဲ** စသည်တို့ကဲ့သို့ ပုဒ်အချင်းချင်း ပေါင်းစပ်ဖွဲ့စည်းထားသည့် ပေါင်းစပ်ပုဒ်လည်း မဟုတ်သောကြောင့် **ကစား** သည် **ပင်ကိုကြိယာ** ဖြစ်သည်။

(ထိုနည်းအတူ **သနား၊ ကဲ့ရဲ့၊ ရိုသေ** တို့သည်လည်း ခွဲစိတ်၍လည်းမရ၊ ပေါင်းစပ် ဖွဲ့စည်းထားခြင်းလည်း မဟုတ်သော **ပင်ကိုကြိယာ**များ ဖြစ်ကြသည်။)

၁၇။ **ဂုဏ်ရည်ပြကြိယာ**။ ။ ဂုဏ်အရည်အချင်းပြပုဒ်များ၏နောက်၌ ကြိယာဝိဘတ်ကို ဆက်ခြင်းဖြင့် ဖြစ်လာသော ကြိယာကို **ဂုဏ်ရည်ပြကြိယာ**ဟု ခေါ်သည်။

**သာဓက** ။ ။

| **ဂုဏ်အရည်အချင်းပြပုဒ်** | **+** | **ကြိယာဝိဘတ်** | **=** | **ဂုဏ်ရည်ပြကြိယာ** |
|---|---|---|---|---|
| ပျင်း | + | ၏ | = | ပျင်း၏ |
| ချို | + | သည် | = | ချိုသည် |
| လှ | + | သည် | = | လှသည် |
| မတ်စောက် | + | ၏ | = | မတ်စောက်၏ |
| သာယာ | + | သည် | = | သာယာသည် |

(**ပျင်း၊ ချို၊ လှ၊ မတ်စောက်၊ သာယာ** တို့သည် ဂုဏ်အရည်အချင်းပြပုဒ်များ ဖြစ်ကြသည်။ ၎င်းတို့၏နောက်၌ ကြိယာဝိဘတ်များဖြစ်သော **သည်၊ ၏** တို့ကို ဆက်လိုက်သောအခါ **ပျင်းသည်/၏၊ ချိုသည်/၏၊ လှသည်/၏၊ မတ်စောက်သည်/၏၊ သာယာသည်/၏** စသော ဂုဏ်ရည်ပြကြိယာများ ဖြစ်လာကြသည်။)

## ဂုဏ်ရည်ပြကြိယာအချို့

| **ဂုဏ်အရည်အချင်းပြပုဒ်** | **+** | **ကြိယာဝိဘတ်** | **=** | **ဂုဏ်ရည်ပြကြိယာ** |
|---|---|---|---|---|
| ပူ | + | သည်/၏ | = | ပူ သည်<br>ပူ၏ |
| အေး | + | သည်/၏ | = | အေးသည်<br>အေး၏ |
| နီ | + | သည်/၏ | = | နီသည်<br>နီ၏ |
| ထင်ရှား | + | သည်/၏ | = | ထင်ရှားသည်<br>ထင်ရှား၏ |
| လှပ | + | သည်/၏ | = | လှပသည်<br>လှပ၏ |
| စိမ်းလန်း | + | သည်/၏ | = | စိမ်းလန်းသည်<br>စိမ်းလန်း၏ |
| ခမ်းနား | + | သည်/၏ | = | ခမ်းနားသည်<br>ခမ်းနား၏ |
| ချွန်ထက် | + | သည်/၏ | = | ချွန်ထက်သည်<br>ချွန်ထက်၏ |

| | | | | |
|---|---|---|---|---|
| မှောင်မိုက် | + | သည်/၏ | = | မှောင်မိုက်သည် |
| | | မှောင်မိုက်၏ | | |
| ရဲရင့် | + | သည်/၏ | = | ရဲရင့်သည် |
| | | ရဲရင့်၏ | | |

၁၈။ **ပေါင်းစပ်ကြိယာ**။ ။ ပုဒ်တို့ကိုပေါင်းစပ်ပြီးနောက် ကြိယာဝိဘတ်ဆက်ထားသော ကြိယာကို **ပေါင်းစပ်ကြိယာ**ဟု ခေါ်သည်။

**သာဓက**။ ။ စားသောက်သည်/၏
ခုတ်ထစ်သည်/၏
ဆေးခြယ်သည်/၏
ရေကူးသည်/၏
ကောင်းမြတ်သည်/၏
ကြီးကျယ်သည်/၏
စိတ်တိုသည်/၏
အားငယ်သည်/၏

၁၉။ ဤသို့ပေါင်းစပ်ရာတွင် ပေါင်းစပ်ပါဝင်သော ဝါစင်္ဂတို့ကိုလိုက်၍ အောက်ပါအတိုင်း ခွဲခြားလေ့လာနိုင်သည်။

(က) ကြိယာ + ကြိယာ
(ခ) နာမ် + ကြိယာ
(ဂ) နာမဝိသေသန + နာမဝိသေသန
(ဃ) နာမဝိသေသန + ကြိယာ

၂၀။(က) **ကြိယာ+ကြိယာ**။ ။ ကြိယာပုဒ်တစ်ခုနှင့် အခြားကြိယာပုဒ်တစ်ခုတို့ကို ပေါင်းစပ်ပြီးနောက် ကြိယာဝိဘတ်ဆက်လိုက်ခြင်းဖြင့် **ပေါင်းစပ်ကြိယာ** ဖြစ်လာသည်။

**သာဓက**။ ။

| **ကြိယာ** | **+** | **ကြိယာ** | **+** | **ကြိယာဝိဘတ်** | **=** | **ပေါင်းစပ်ကြိယာ** |
|---|---|---|---|---|---|---|
| ပြော | + | ဆို | + | သည်/၏ | = | ပြောဆိုသည်<br>ပြောဆို၏ |
| ခုတ် | + | ထစ် | + | သည်/၏ | = | ခုတ်ထစ်သည်<br>ခုတ်ထစ်၏ |
| စား | + | သောက် | + | သည်/၏ | = | စားသောက်သည်<br>စားသောက်၏ |
| ရောင်း | + | ဝယ် | + | သည်/၏ | = | ရောင်းဝယ်သည်<br>ရောင်းဝယ်၏ |
| ဟော | + | ပြော | + | သည်/၏ | = | ဟောပြောသည်<br>ဟောပြော၏ |

(ခ) **နာမ်+ကြိယာ**။ ။ နာမ်ပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခုကို ပေါင်းစပ်ပြီးနောက် ကြိယာဝိဘတ်ဆက်လိုက်ခြင်းဖြင့် **ပေါင်းစပ်ကြိယာ** ဖြစ်လာသည်။

**သာဓက**။ ။

| **နာမ်** | + | **ကြိယာ** | + | **ကြိယာဝိဘတ်** | = | **ပေါင်းစပ်ကြိယာ** |
|---|---|---|---|---|---|---|
| ဆေး | + | ခြယ် | + | သည်/၏ | = | ဆေးခြယ်သည်<br>ဆေးခြယ်၏ |
| ကျောက် | + | ထိုး | + | သည်/၏ | = | ကျောက်ထိုးသည်<br>ကျောက်ထိုး၏ |
| ရေ | + | ကူး | + | သည်/၏ | = | ရေကူးသည်<br>ရေကူး၏ |
| အပြစ် | + | ပေး | + | သည်/၏ | = | အပြစ်ပေးသည်<br>အပြစ်ပေး၏ |

(ဂ) **နာမဝိသေသန+နာမဝိသေသန** = နာမဝိသေသနပုဒ် တစ်ခုနှင့် အခြား နာမဝိသေသနပုဒ် တစ်ခုကို ပေါင်းစပ်ပြီးနောက် ကြိယာဝိဘတ်ဆက်ခြင်းဖြင့် **ပေါင်းစပ်ကြိယာ** ဖြစ်လာသည်။

**သာဓက**။ ။

| **နာမဝိသေသန** | + | **နာမဝိသေသန** | + | **ကြိယာဝိဘတ်** | = | **ပေါင်းစပ်ကြိယာ** |
|---|---|---|---|---|---|---|
| ကောင်း | + | မြတ် | + | သည်/၏ | = | ကောင်းမြတ်သည်<br>ကောင်းမြတ်၏ |
| လျင် | + | မြန် | + | သည်/၏ | = | လျင်မြန်သည်<br>လျင်မြန်၏ |
| ကြီး | + | ကျယ် | + | သည်/၏ | = | ကြီးကျယ်သည်<br>ကြီးကျယ်၏ |
| ဆိုး | + | ယုတ် | + | သည်/၏ | = | ဆိုးယုတ်သည်<br>ဆိုးယုတ်၏ |
| မည်း | + | မှောင် | + | သည်/၏ | = | မည်းမှောင်သည်<br>မည်းမှောင်၏ |

(ဃ) **နာမဝိသေသန+ကြိယာ** = နာမဝိသေသနပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခုကို ပေါင်းစပ်ပြီးနောက် ကြိယာဝိဘတ်ဆက်ခြင်းဖြင့် **ပေါင်းစပ်ကြိယာ** ဖြစ်လာ သည်။

**သာဓက**။ ။

| **နာမဝိသေသန** | + | **ကြိယာ** | + | **ကြိယာဝိဘတ်** | = | **ပေါင်းစပ်ကြိယာ** |
|---|---|---|---|---|---|---|
| နိမ့် | + | ကျ | + | သည်/၏ | = | နိမ့်ကျသည်/<br>နိမ့်ကျ၏ |
| မြင့် | + | တက် | + | သည်/၏ | = | မြင့်တက်သည်/<br>မြင့်တက်၏ |

# လေ့ကျင့်ခန်း

၁။ ပေးထားသောဝါကျများရှိ မျဉ်းသားထားသော ကြိယာတို့သည် ဖွဲ့စည်းတည်ဆောက်ပုံ အရ မည်သည့်ကြိယာဖြစ်သည်ကို ဖော်ပြပါ။

(က) နေသည် ချစ်ချစ်တောက် ပူသည်။

(ခ) ဦးဖြိုးသာသည် ဆင်းရဲသော်လည်း စိတ်ချမ်းသာသည်။

(ဂ) လ သာသည်။

(ဃ) ဥသြငှက်တွန်သံသည် သာယာ၏။

(င) မောင်ကျော်သည် ဆရာမိဘကို ရိုသေသည်။

(စ) ကစားချိန်၌ ကစား၍ စာဖတ်ချိန်၌ စာဖတ်ပါ။

(ဆ) ဤအဆောက်အအုံသည် အလွန် ခမ်းနားသည်။

(ဇ) အမေသည် သားငယ်ကို ပွေ့ပိုက်ထားသည်။

(ဈ) ကျွန်တော့်မမက ဈေးသွား၍ မေမေက ထမင်းချက်ပါသည်။

(ည) မောင်မောင်၏မိဘများသည် ပစ္စည်းဥစ္စာ ပြည့်စုံကြသည်။

၂။ အောက်ပါကြိယာများကို ဖွဲ့စည်းတည်ဆောက်ပုံအရ အမျိုးအစားခွဲပြီး အမျိုးတူရာအလိုက် အစု ခွဲပြပါ။

လွတ်လပ်(သည်)၊ နီ(သည်)၊ ပြိုင်(သည်)၊ ခမ်းနား(သည်)၊ အုပ်ချုပ်(သည်)၊ ညီညွတ်(သည်)၊ ကျော်စော(သည်)၊ ဟောပြော(သည်)၊ စုပေါင်း(သည်)၊ ဆန်းကြယ်(သည်)၊ ရေကူး (သည်)၊ လျင်မြန်(သည်)၊ စိတ်တို(သည်)၊ ပြောဆို(သည်)၊ ရောင်းဝယ်(သည်)၊ ပြုပြင်(သည်)၊ ကြည့်ရှု(သည်)၊ နေး(သည်)။

၃။ ပေးထားသော ပေါင်းစပ်ကြိယာများ၌ ပါဝင်သည့် ဝါစင်္ဂတို့ကို ဖော်ပြပါ။

လွဲချော်၊ လောဘကြီး၊ ကြီးကျယ်၊ နိမ့်မြင့်၊ လုံးထွေး၊ ပျော်ရွှင်၊ ပေါင်းစပ်၊ ခေါ်တွင်၊ စိမ်းလန်း၊ နိမ့်ကျ။

**နမူနာ**။ ။ စိုက်ပျိုး = စိုက် (ကြိယာ) + ပျိုး(ကြိယာ)

၄။ ကွက်လပ်များ၌ သက်ဆိုင်ရာ ကြိယာအမည်တို့ကို ဖြည့်ပါ။

(က) ပြုခြင်းကိုဖြစ်စေ၊ ဖြစ်ခြင်းကိုဖြစ်စေ၊ ရှိခြင်းကိုဖြစ်စေ ပြသောပုဒ်ကို .............. ဟု ခေါ်သည်။

(ခ) မြန်မာသဒ္ဒါနည်းဖြင့် ခွဲစိတ်၍လည်းမရ၊ ပေါင်းစပ်ဖွဲ့စည်းထားခြင်းလည်း မဟုတ်၊ နဂိုမူလအတိုင်းဖြစ်သော ပြုခြင်း၊ ဖြစ်ခြင်း၊ ရှိခြင်းကိုပြသောကြိယာကို ............... ဟု ခေါ်သည်။

(ဂ) ဂုဏ်အရည်အချင်းပြပုဒ်များ၏နောက်၌ ကြိယာဝိဘတ်ကိုဆက်ခြင်းဖြင့် ဖြစ်လာသော ကြိယာကို .............. ဟု ခေါ်သည်။

(ဃ) ပုဒ်တို့ကို ပေါင်းစပ်ပြီးနောက် ကြိယာဝိဘတ်ဆက်ထားသော ကြိယာကို .................. ဟု ခေါ်သည်။

# နာမဝိသေသန

**နာမဝိသေသန**

၂၁။ နာမ်ကို အထူးပြုသော ပုဒ်ကို **နာမဝိသေသန** ဟု ခေါ်သည်။

**သာဓက**။ ။ ကောင်းသော၊ ဆိုးသော၊ ရိုင်းသော၊ လိမ္မာသော၊ ကောင်းမြတ်သော၊ သန့်ရှင်းသော၊ ယဉ်ကျေးသိမ်မွေ့သော။

၂၂။ နာမဝိသေသနတို့ကို

(က) အနက်အဓိပ္ပာယ်အရ ၄ မျိုး

(ခ) ဖွဲ့စည်းတည်ဆောက်ပုံအရ ၂ မျိုးခွဲသည်။

၂၃။ **အနက်အဓိပ္ပာယ်အရ နာမဝိသေသန**။ ။ နာမဝိသေသနသည် အနက်အဓိပ္ပာယ်အရ ၄ မျိုး ရှိသည်။ ၎င်းတို့မှာ–

(က) ဂုဏ်ရည်ပြနာမဝိသေသန

(ခ) အညွှန်းနာမဝိသေသန

(ဂ) သင်္ချာနာမဝိသေသန

(ဃ) အမေးနာမဝိသေသနတို့ ဖြစ်ကြသည်။

(ထိုနာမဝိသေသန ၄ မျိုးအကြောင်းကို အတွဲ ၁၊ အခန်း ၂ ၌ အကျဉ်းမျှ ဖော်ပြခဲ့ပြီ။ ဤအတွဲ ၁၊ အခန်း ၃ ၌မူ ဖော်ပြပါနာမဝိသေသန ၄ မျိုးအနက်မှ **ဂုဏ်ရည်ပြနာမဝိသေသန**အကြောင်းနှင့် **ဖွဲ့စည်းတည်ဆောက်ပုံအရ နာမဝိသေသန ၂ မျိုး** အကြောင်းကို အကျယ်ဖော်ပြမည်။)

၂၄။ **ဂုဏ်ရည်ပြနာမဝိသေသန**။ ။ နာမ်၏ဂုဏ်အရည်အချင်းကိုပြ၍ ယင်းနာမ်ကို အထူးပြုသည့်ပုဒ်ကို **ဂုဏ်ရည်ပြနာမဝိသေသန** ဟု ခေါ်သည်။

**သာဓက**။ ။ မွန်မြတ်သော၊ စည်ကားသည့်၊ ထူးချွန်မည့်၊ (ခွေး)လိမ္မာ။

(က) သွေးလှူခြင်းသည် **မွန်မြတ်သောဒါန** ဖြစ်သည်။
ဤဝါကျ၌ **မွန်မြတ်သော**သည် **မွန်မြတ်** ဟူသော ဂုဏ်အရည်အချင်းပြ ပုဒ်နောက်က **သော** ပစ္စည်းကိုဆက်၍ **ဒါန** ဟူသော နာမ်၏ဂုဏ်အရည်အချင်းကို ပြသည့် **ဂုဏ်ရည်ပြနာမဝိသေသန** ဖြစ်သည်။

(ခ) ရန်ကုန်မြို့သည် လူနေ**စည်ကားသည့် မြို့တော်** ဖြစ်သည်။
ဤဝါကျ၌ **စည်ကားသည့်** သည် **စည်ကား** ဟူသော ဂုဏ်အရည်အချင်းပြပုဒ်နောက်က **သည့်**ပစ္စည်းကိုဆက်၍ **မြို့တော်** ဟူသော နာမ်၏ ဂုဏ်အရည်အချင်းကိုပြသည့် **ဂုဏ်ရည်ပြနာမဝိသေသန** ဖြစ်သည်။

(ဂ) မစံပယ်သည် **ထူးချွန်မည့် ကျောင်းသူ**တစ်ဦး ဖြစ်သည်။
ဤဝါကျ၌ **ထူးချွန်မည့်**သည် **ထူးချွန်** ဟူသော ဂုဏ်အရည်အချင်းပြပုဒ်နောက်က **မည့်** ပစ္စည်းကိုဆက်၍ **ကျောင်းသူ**ဟူသော နာမ်၏ ဂုဏ်အရည်အချင်းကိုပြသည့် **ဂုဏ်ရည်ပြနာမဝိသေသန** ဖြစ်သည်။

(ဃ) အောင်နက်သည် **ခွေးလိမ္မာ** ဖြစ်သည်။
ဤဝါကျ၌ **လိမ္မာ**ဟူသော ဂုဏ်အရည်အချင်းပြပုဒ်သည် **ခွေး**ဟူသော

နာမ်၏အရည်အချင်းကိုပြ၍ ယင်း **ခွေး**ကိုအထူးပြုသည့် **ဂုဏ်ရည်ပြနာမဝိသေသန** ဖြစ်သည်။

၂၅။ ဂုဏ်ရည်ပြနာမဝိသေသနတို့သည် နာမ်ကိုအထူးပြုရာ၌ နည်း ၂ နည်းဖြင့် အထူးပြုလေ့ရှိသည်။ ၎င်းတို့မှာ–

(က) **သော၊ သည့်၊ မည့်** ပစ္စည်းတို့ကို ဂုဏ်ရည်ပြပုဒ်နောက်က ဆက်၍ နောက်က နာမ်ပုဒ်ကို အထူးပြုခြင်း၊

(ခ) နာမ်ပုဒ်နှင့် တိုက်ရိုက်ပေါင်းစပ်၍ ရှေ့ကနာမ်ပုဒ်ကို အထူးပြုခြင်းတို့ ဖြစ်သည်။

၂၆။(က) ပစ္စည်းဆက်၍ နောက်ကနာမ်ပုဒ်ကို အထူးပြုပုံ

| **ဂုဏ်ရည်ပြနာမဝိသေသန** | **နာမ်** |
|---|---|
| မွန်မြတ်သော | ဒါန |
| ထူးဆန်းသော | ပုံပြင် |
| သပ္ပာယ်သည့် | စေတီ |
| ရဲရင့်သည့် | စစ်သူကြီး |
| ထူးချွန်မည့် | ကျောင်းသား |
| ကျော်ကြားမည့် | စာအုပ် |

(ခ) နာမ်ပုဒ်နှင့်တိုက်ရိုက်ပေါင်းစပ်၍ ရှေ့ကနာမ်ပုဒ်ကိုအထူးပြုပုံ

| **နာမ်** | **ဂုဏ်ရည်ပြနာမဝိသေသန** |
|---|---|
| ဆရာ | ကောင်း |
| လူ | ဆိုး |
| ခွေး | လိမ္မာ |
| ဓား | ရှည် |
| ရေ | အေး |
| ဆင် | ရိုင်း |

၂၇။ **ဖွဲ့စည်းတည်ဆောက်ပုံအရ နာမဝိသေသန**။ ။ နာမဝိသေသနသည် ဖွဲ့စည်းတည်ဆောက်ပုံအရ ၂မျိုးရှိသည်။ ၎င်းတို့မှာ–

(က) ပင်ကိုနာမဝိသေသန

(ခ) ပေါင်းစပ်နာမဝိသေသနတို့ ဖြစ်ကြသည်။

၂၈။(က) **ပင်ကိုနာမဝိသေသန**။ ။ မြန်မာသဒ္ဒါနည်းဖြင့် ခွဲစိတ်၍လည်းမရ၊ ပေါင်းစပ်ဖွဲ့စည်းထားခြင်းလည်းမဟုတ်၊ နဂိုမူလအတိုင်းဖြစ်သော နာမဝိသေသနကို **ပင်ကိုနာမဝိသေသန** ဟုခေါ်သည်။

**သာဓက**။ ။ ကောင်းသော၊ မြင့်သော၊ အေးသော၊ ချိုသော၊ ဝသော၊ ခမ်းနားသော၊ လိမ္မာသော၊ ယဉ်ကျေးသော၊ ဝပြောသော။

စကားလုံးတစ်လုံး၊ သို့မဟုတ် ပုဒ်တစ်ခုကို ခွဲစိတ်လိုက်လျှင် ထိုစကားလုံး၏ မူလရှိရင်း အနက်အဓိပ္ပာယ် ပျက်သွားသည်ကို "ခွဲစိတ်၍မရ"ဟု ဆိုလိုခြင်း ဖြစ်သည်။

သာဓကအားဖြင့် **ကောင်း၊ မြင့်၊ အေး** စသည်တို့သည် ခွဲ စိတ်၍လည်းမရ၊ ပေါင်းစပ်ထားခြင်းလည်းမဟုတ်သော **ပင်ကိုနာမဝိသေသန**များ ဖြစ်ကြသည်။

**ခမ်းနား**ဟူသော နာမဝိသေသနသည်လည်း ခွဲစိတ်၍မရသော၊ ပေါင်းစပ်ဖွဲ့စည်းထားခြင်းလည်းမဟုတ်သော **ပင်ကိုနာမဝိသေသန** ဖြစ်သည်။ **ခမ်းနား**၏ ဆိုလိုရင်းအနက်မှာ "ကြီးကျယ်ထည်ဝါသော" ဟူ၍ဖြစ်သည်။ **ခမ်းနား**ကို ခွဲလိုက်လျှင် **ခမ်း**နှင့် **နား**ဟူသော အစိတ်အပိုင်းနှစ်ခုကို ရမည်။ သို့ရာတွင် **ခမ်း**သည်လည်းကောင်း၊ **နား**သည်လည်းကောင်း **ခမ်းနား**၏ ဆိုလိုရင်းအနက်ကို မပေးနိုင်ချေ။

ဤသို့ ခွဲစိတ်ခြင်းဖြင့် ဆိုလိုရင်းအနက်အဓိပ္ပာယ်မှာ ပျက်သွားသည်။ ထို့ကြောင့် **ခမ်းနား**သည် ထပ်မံခွဲစိတ်မရသော **ပင်ကိုနာမဝိသေသန** ဖြစ်သည်။

ထိုနည်းအတူ **လိမ္မာသော၊ ယဉ်ကျေးသော၊ ဝပြောသော** စသည်တို့သည် ခွဲစိတ်၍လည်းမရ၊ ပေါင်းစပ်ထားခြင်းလည်းမဟုတ်၊ နဂိုမူလအတိုင်း ဖြစ်သော **ပင်ကိုနာမဝိသေသန**များ ဖြစ်ကြသည်။

(ခ) **ပေါင်းစပ်နာမဝိသေသန**။ ။ နာမဝိသေသနတစ်ခု အနည်းဆုံးပါဝင်လျက် နာမ်တစ်ခုနှင့်ဖြစ်စေ၊ နာမဝိသေသနတစ်ခုနှင့်ဖြစ်စေ ပေါင်းစပ်ဖွဲ့စည်းထားသော နာမဝိသေသနကို **ပေါင်းစပ်နာမဝိသေသန**ဟုခေါ်သည်။

**သာဓက**။ ။ ရုပ်ဖြောင့်၊ ပါးစပ်ဖွာ၊ မျက်စိမွဲ၊ မျက်နှာပွင့်၊ သတ္တိပြောင်၊ ညှံ့ဖျင်း၊ ကျယ်ပြန့်၊ သေးသွယ်။

(၁)

| | | | | |
|---|---|---|---|---|
| **နာမ်** | **+** | **နာမဝိသေသန** | **=** | **ပေါင်းစပ်နာမဝိသေသန** |
| ရုပ် | + | ဖြောင့် | = | ရုပ်ဖြောင့် |
| ပါးစပ် | + | ဖွာ | = | ပါးစပ်ဖွာ |
| မျက်စိ | + | မွဲ | = | မျက်စိမွဲ |
| မျက်နှာ | + | ပွင့် | = | မျက်နှာပွင့် |
| သတ္တိ | + | ပြောင် | = | သတ္တိပြောင် |
| စိတ် | + | တို | = | စိတ်တို |
| အား | + | ငယ် | = | အားငယ် |

(၂)

| | | | | |
|---|---|---|---|---|
| **နာမဝိသေသန** | **+** | **နာမဝိသေသန** | **=** | **ပေါင်းစပ်နာမဝိသေသန** |
| ညှံ့ | + | ဖျင်း | = | ညှံ့ဖျင်း |
| ကျယ် | + | ပြန့် | = | ကျယ်ပြန့် |
| သေး | + | သွယ် | = | သေးသွယ် |
| မိုက် | + | ရိုင်း | = | မိုက်ရိုင်း |
| ကြီး | + | လေး | = | ကြီးလေး |
| ဖြောင့် | + | မတ် | = | ဖြောင့်မတ် |
| တည် | + | ငြိမ် | = | တည်ငြိမ် |

## လေ့ကျင့်ခန်း

၁။ နာမဝိသေသနဆိုသည်မှာ အဘယ်နည်း။

၂။ ကွက်လပ်များကိုဖြည့်ပါ။

(က) နာမ်ကိုအထူးပြုသောပုဒ်ကို.........ဟုခေါ်သည်။

(ခ) နာမ်၏အရည်အချင်းကို ပြသောပုဒ်ကို.........ဟု ခေါ်သည်။

(ဂ) မွန်မြတ်သော၊ စည်ကားသည့်၊ ထူးချွန်မည့် တို့သည် .........များဖြစ်ကြသည်။

(ဃ) ..................တို့သည် နာမ်၏ဂုဏ်အရည်အချင်းကိုပြသော ဂုဏ်ရည်ပြ နာမဝိသေသများ ဖြစ်ကြသည်။

(င) ဖွဲ့စည်းတည်ဆောက်ပုံအရ နာမဝိသေသနကို ၂ မျိုးခွဲသည်။ တစ်မျိုးမှာ ......... ဖြစ်၍ ကျန်တစ်မျိုးမှာ .........ဖြစ်သည်။

(စ) မြန်မာသဒ္ဒါနည်းဖြင့် ခွဲစိတ်၍လည်းမရ၊ ပေါင်းစပ်ဖွဲ့စည်းထားခြင်းလည်း မဟုတ်၊ နဂိုမူလအတိုင်းဖြစ်သော နာမဝိသေသနကို .........ဟု ခေါ်သည်။

(ဆ) နာမဝိသေသနတစ်ခု အနည်းဆုံးပါဝင်လျက် နာမ်တစ်ခုနှင့်ဖြစ်စေ၊ နာမဝိသေသန တစ်ခုနှင့်ဖြစ်စေ ပေါင်းစပ်ဖွဲ့စည်းထားသော နာမဝိသေသနကို.........ဟု ခေါ်သည်။

(ဇ) ပါးစပ်ဖွာ၊ မျက်နှာပွင့်၊ သတ္တိပြောင်တို့သည် .........နာမဝိသေသနများ ဖြစ်ကြသည်။

(ဈ) ညှံ့ဖျင်း၊ ဖြောင့်မတ်၊ မိုက်ရိုင်းတို့သည် .........နာမဝိသေသနများ ဖြစ်ကြသည်။

၃။ ဂုဏ်ရည်ပြနာမဝိသေသနပါရှိသော ဝါကျများကို ဂုဏ်ရည်ပြကြိယာပါရှိသော ဝါကျများ ဖြစ်အောင် ပြင်ရေးပါ။

**နမူနာ။** ။ ရွာဝန်းကျင်၌ **စိမ်းလန်းသော** လယ်ကွင်းများရှိသည်။

(ဂုဏ်ရည်ပြနာမဝိသေသန)

ရွာဝန်းကျင်၌ရှိသော လယ်ကွင်းများသည် **စိမ်းလန်းသည်။**

(ဂုဏ်ရည်ပြကြိယာ)

(က) မိဖြူသည် ယဉ်ကျေးသိမ်မွေ့သော မိန်းကလေးဖြစ်သည်။

(ခ) ရာဇဓိရာဇ် အရေးတော်ပုံကျမ်းသည် ထင်ရှားသောကျမ်းဖြစ်သည်။

(ဂ) မဝိုင်းသည် မိဘဆရာကို ရိုသေသော မိန်းကလေးဖြစ်သည်။

(ဃ) မဟာဗန္ဓုလသည် ရဲရင့်သော စစ်သူကြီးဖြစ်သည်။

(င) ကြက်ဆူဆီသည် ပျစ်ချွဲသော အရည်တစ်မျိုးဖြစ်သည်။

(စ) မောင်ဖော်သည် အားကစား၌ ထူးချွန်သော လူငယ်တစ်ဦးဖြစ်သည်။

(ဆ) သွေးလှူခြင်းသည် မွန်မြတ်သောဒါနဖြစ်သည်။

(ဇ) ရွှေတိဂုံသည် အလွန်သပ္ပာယ်သော စေတီဖြစ်သည်။

(ဈ) လကွယ်ညသည် မှောင်မိုက်သောညဖြစ်သည်။

(ည) မွန်ဝန်ကြီး ဗညားဒလသည် စစ်ရေးစစ်ရာ၌ ကျွမ်းကျင်သော စစ်သူကြီး ဖြစ်သည်။

၄။ ပေးထားသော ဂုဏ်ရည်ပြပုဒ်အသီးသီးကို ဂုဏ်ရည်ပြနာမဝိသေသနအဖြစ် ဝါကျတစ်ခုစီ၌ သုံးပြပါ။

မြန်၊ သွက်လက်၊ ကြီးကျယ်၊ နီ၊ ဝါ၊ စိမ်း၊ တောက်ပ၊ မြင့်မား၊ နိမ့်ကျ၊ ရှင်လန်း။

# ကြိယာဝိသေသန

**ကြိယာဝိသေသန**

၂၉။ ကြိယာကို အထူးပြုသောပုဒ်ကို **ကြိယာဝိသေသန** ဟုခေါ်သည်။ အနက်အဓိပ္ပာယ်အရ ကြိယာဝိသေသန ၅မျိုးရှိသည်။ ၎င်းတို့မှာ–

(က) အချိန်ပြကြိယာဝိသေသန
(ခ) အမူအရာပြကြိယာဝိသေသန
(ဂ) အခြေအနေပြကြိယာဝိသေသန
(ဃ) ပမာဏပြကြိယာဝိသေသန
(င) အမေးကြိယာဝိသေသနတို့ ဖြစ်ကြသည်။

(အဆိုပါ ကြိယာဝိသေသန ၅မျိုးအကြောင်းကို အတွဲ ၁၊ အခန်း ၂၌ အကျဉ်းမျှ ဖော်ပြခဲ့ပြီ။ အခြေအနေပြကြိယာဝိသေသန၊ ပမာဏပြကြိယာဝိသေသန၊ အမေးကြိယာဝိသေသနတို့အကြောင်းကို အတွဲ ၁၊ အခန်း ၄ ၌ ဆက်လက်ဖော်ပြမည်။ ဤအတွဲ ၁၊ အခန်း ၃ ၌မူ **အချိန်ပြကြိယာဝိသေသန**နှင့် **အမူအရာပြကြိယာဝိသေသန**တို့အကြောင်းကို ဖော်ပြမည်။)

၃၀။ **အချိန်ပြကြိယာဝိသေသန**။ ။အချိန်ကာလကိုပြခြင်းဖြင့် ကြိယာကို အထူးပြုသောပုဒ်ကို **အချိန်ပြကြိယာဝိသေသန** ဟု ခေါ်သည်။

**သာဓက**။ ။ယခင်က၊ ယနေ့၊ ယခု၊ နက်ဖြန်၊ နောက်နောင်၊ မကြာမီ၊ ချက်ချင်း၊ ခဏချင်း၊ ရုတ်တရက်၊ အစဉ်၊ အမြဲ၊ မပြတ်။

(က) အဖေသည် မန္တလေးသို့ **နက်ဖြန်** သွားမည်။

(ဤဝါကျ၌ အဖေသည် မန္တလေးသို့ မည်သည့်အချိန်တွင် သွားမည်ကို **နက်ဖြန်** ဟူသောပုဒ်က ပြသည်။ **နက်ဖြန်** ဟူသောပုဒ်သည် အဖေ မန္တလေး သွားမည့်အချိန်ကို ဖော်ပြခြင်းဖြင့် **သွား** ဟူသော ကြိယာကို အထူးပြုသည်။ ထို့ကြောင့် **နက်ဖြန်**သည် **အချိန်ပြကြိယာဝိသေသန** ဖြစ်သည်။)

(ခ) **ယခင်က** ဆိုခဲ့သည့်အတိုင်း သဘောတူကြသည်။
(ဂ) မန္တလေးအမြန်ရထားသည် **မကြာမီ** ဆိုက်မည်။
(ဃ) မိမိ၏ အလုပ်တာဝန်ကို **အစဉ်** ရှိသေလေးစားပါ။
(င) ဤကိစ္စကို **ယခု**ပင် ဆောင်ရွက်လိုက်ပါ။
(စ) မီးလောင်လျှင် မီးသတ်ကို **ချက်ချင်း** အကြောင်းကြားပါ။

(**ယခင်က၊ ယခု၊ မကြာမီ၊ ချက်ချင်း၊ အစဉ်** စသော အချိန်ပြကြိယာဝိသေသန တို့၏အသုံးကိုလည်း အထက်ပါဝါကျများတွင် လေ့လာနိုင်သည်။)

၃၁။ **အမူအရာပြကြိယာဝိသေသန**။ ။ ဆောင်ရွက်ပုံအမူအရာကိုပြခြင်းဖြင့် ကြိယာကို အထူးပြုသောပုဒ်ကို **အမူအရာပြကြိယာဝိသေသန** ဟုခေါ်သည်။

**သာဓက**။ ။ ဒယိမ်းဒယိုင်၊ ယုယုယယ၊ တီတီတာတာ၊ ညီညီညာညာ၊ ချိုသာစွာ၊ အလျင်အမြန်၊ ကချော်ကချွတ်၊ တမြို့မြို့၊ တရိတသေ။

(က) အဘိုးအိုသည် **ဒယိမ်းဒယိုင်** လျှောက်လာသည်။
(ဤဝါကျ၌ အဘိုးအို မည်သို့လမ်းလျှောက်လာသည်ကို **ဒယိမ်းဒယိုင်** ဟူသောပုဒ်ကပြသည်။ **ဒယိမ်းဒယိုင်** ဟူသောပုဒ်သည် အဘိုးအို လမ်းလျှောက်ပုံ အမူအရာကိုပြခြင်းဖြင့် **လျှောက်**ဟူသော ကြိယာကို အထူးပြုသည်။ ထို့ကြောင့် **ဒယိမ်းဒယိုင်**သည် **အမူအရာပြကြိယာဝိသေသန**ဖြစ်သည်။)

(ခ) မိခင်သည် သားငယ်ကို **ယုယုယယ** ထွေးပိုက်သည်။

(ဂ) နိုင်ငံတော်အလံကို **ညီညီညာညာ** အလေးပြုကြသည်။

(ဃ) လူချစ်လူခင်များလိုလျှင် စကားကို **ချိုသာစွာ** ပြောပါ။

(င) ဘကြီးဖြိုးသည် ကွမ်းကို **တမြုံ့မြုံ့** ဝါးနေသည်။
(**ယုယုယယ၊ ညီညီညာညာ၊ ချိုသာစွာ၊ တမြုံ့မြုံ့** စသော အမူအရာပြကြိယာဝိသေသနတို့၏ အသုံးကိုလည်း အထက်ပါဝါကျများတွင် လေ့လာနိုင်သည်။)

## လေ့ကျင့်ခန်း

၁။ ကြိယာဝိသေသသနဆိုသည်မှာ အဘယ်နည်း။

၂။ အချိန်ပြကြိယာဝိသေသနဆိုသည်မှာ အဘယ်နည်း။ အချိန်ပြကြိယာဝိသေသန ၅ ခုကို ဖော်ပြ၍ ဝါကျတစ်ခုစီ၌ သုံးပြပါ။

၃။ အမူအရာပြကြိယာဝိသေသနဆိုသည်မှာ အဘယ်နည်း။ အမူအရာပြကြိယာဝိသေသန ၅ခု ကို ဖော်ပြ၍ ဝါကျတစ်ခုစီ၌သုံးပြပါ။

၄။ ကွက်လပ်အသီးသီး၌ သက်ဆိုင်ရာ ကြိယာဝိသေသနအမည်ကို ဖြည့်ပါ။

(က) အချိန်ကာလကိုပြခြင်းဖြင့် ကြိယာကိုအထူးပြုသောပုဒ်ကို .........ဟု ခေါ်သည်။

(ခ) ဆောင်ရွက်ပုံ အမူအရာကိုပြခြင်းဖြင့် ကြိယာကိုအထူးပြုသောပုဒ်ကို .........ဟု ခေါ်သည်။

(ဂ) နေ့နေ့၊ လျင်မြန်စွာ၊ ကသောကမျောတို့သည် ............ ကြိယာဝိသေသန များ ဖြစ်ကြသည်။

(ဃ) နက်ဖြန်၊ ယနေ့၊ ယခု၊ မကြာမီတို့သည်............ ကြိယာဝိသေသနများ ဖြစ်ကြသည်။

၅။ အောက်ပါဝါကျများရှိ မျဉ်းသားထားသော ကြိယာဝိသေသနအသီးသီး၏ အမျိုးအမည်ကို ရေးပါ။

(က) နိုင်ငံတော်အလံကို ညီညီညာညာ အလေးပြုကြသည်။

(ခ) တပေါင်းလ၌ သစ်ရွက်များသည် တဖြုတ်ဖြုတ် ကြွေကျသည်။

(ဂ) စင်ရော်ငှက်ငယ်များသည် လေတွင် ဝဲကာဝိုက်ကာ ပျံဝဲနေကြသည်။

(ဃ) လူတို့သည် အစာအာဟာရများကို နေ့စဉ် မှီဝဲရ၏။

(င) မိဘဆရာသမားတို့၏ ဂုဏ်ကျေးဇူးကို အခါမလပ် သတိရသင့်သည်။

(စ) မောင်ကျော်သည် အိပ်ရာမဝင်မီ မိဘနှစ်ပါးကို အမြဲ ကန်တော့သည်။

(ဆ) သံကြိုးစာရသောကြောင့် မောင်မောင်သည် မန္တလေးသို့ ရုတ်တရက် ပြန်သွားသည်။

(ဇ) ကလေးတို့သည် ပျော်ရွှင်စွာ ကစားနေကြသည်။

(ဈ) မိမိအလုပ်တာဝန်ကို ထာဝစဉ် လေးစားပါ။

(ည) မြို့နေလူထုက အလံတော်ကို သောင်းသောင်းဖြဖြ ကြိုဆိုသည်။

# ဝိဘတ်

**ဝိဘတ်**

၃၂။ နာမ်၊ နာမ်စားတို့၏နောက်၌ တည်၍ ၎င်းတို့သည် ကတ္တားဖြစ်သည် ကံဖြစ်သည် စသည်ကိုလည်းကောင်း၊ ကြိယာ၏နောက်၌တည်၍ ၎င်းကြိယာ၏ကာလနှင့် အမျိုးအစားကို လည်းကောင်း ဝေဖန်ပိုင်းခြားပြသော စကားလုံးကို **ဝိဘတ်** ဟုခေါ်သည်။

၃၃။ ဝိဘတ် ၂ မျိုးရှိသည်။ ၎င်းတို့မှာ–

(က) နာမ်ဝိဘတ်

(ခ) ကြိယာဝိဘတ်တို့ ဖြစ်ကြသည်။

၃၄။ **နာမ်ဝိဘတ်**။ ။ နာမ်၊ နာမ်စားတို့၏နောက်၌ တည်၍ ၎င်းတို့သည် ကတ္တားဖြစ်သည် ကံဖြစ်သည်စသည် ဝေဖန်ပိုင်းခြားပြသော စကားလုံးကို **နာမ်ဝိဘတ်**ဟုခေါ်သည်။

၃၅။ နာမ်ဝိဘတ်ကို အနက်အဓိပ္ပာယ်အရ ၁၇မျိုး ခွဲသည်။

| | | |
|---|---|---|
| (က) | ကတ္တားဝိဘတ် | – သည်၊ က၊ မှာ။ |
| (ခ) | ကံဝိဘတ် | – ကို။ |
| (ဂ) | ထွက်ခွာရာပြဝိဘတ် | – မှ၊ က။ |
| (ဃ) | ရှေးရှုရာပြဝိဘတ် | – သို့။ |
| (င) | ဆိုက်ရောက်ရာပြဝိဘတ် | – သို့၊ ထိ၊ အထိ၊ ထိအောင်၊ တိုင်အောင်။ |
| (စ) | အသုံးခံပြဝိဘတ် | – ဖြင့်၊ နှင့်။ |
| (ဆ) | အကြောင်းပြဝိဘတ် | – ကြောင့်၊ ဖြင့်။ |
| (ဇ) | လက်ခံပြဝိဘတ် | – အား။ |
| (ဈ) | နေရာပြဝိဘတ် | – ၌၊ မှာ၊ တွင်၊ ဝယ်၊ က။ |
| (ည) | အချိန်ပြဝိဘတ် | – ၌၊ မှာ၊ တွင်၊ ဝယ်၊ က။ |
| (ဋ) | ပိုင်ဆိုင်ခြင်းပြဝိဘတ် | – ၏။ |
| (ဌ) | လိုက်လျောပြဝိဘတ် | – အလိုက်၊ အရ၊ အတိုင်း၊ အလျောက်၊ အားလျော်စွာ၊ နှင့်အညီ၊ နှင့်အမျှ။ |
| (ဍ) | ယှဉ်တွဲပြဝိဘတ် | – နှင့်၊ နှင့်အတူ၊ နှင့်တကွ။ |
| (ဎ) | ခွဲထုတ်ရာပြဝိဘတ် | – တွင်၊ အနက်၊ အထဲမှ၊ အထဲမှာ။ |
| (ဏ) | ရည်စူးချက်ပြဝိဘတ် | – ငှာ၊ အလို့ငှာ၊ ဖို့၊ အဖို့၊ အတွက်။ |
| (တ) | နေရာဆက်တိုက်ပြဝိဘတ် | – တိုင်တိုင်၊ တိုင်အောင်။ |
| (ထ) | အချိန်ဆက်တိုက်ပြဝိဘတ် | – တိုင်တိုင်၊ တိုင်အောင်၊ ပတ်လုံး၊ လုံးလုံး။ |

(အဆိုပါ နာမ်ဝိဘတ် ၁၇ မျိုးတို့အနက် နာမ်ဝိဘတ် အမှတ်စဉ် က မှ ဋ အထိကို အတွဲ ၁၊ အခန်း ၂ ၌ ဖော်ပြခဲ့ပြီ။ ကျန်သောနာမ်ဝိဘတ်များကိုမူ ဤအတွဲ ၁၊ အခန်း ၃ ၌ ဆက်လက်ဖော်ပြမည်။)

၃၆။ (ဌ) **လိုက်လျောပြဝိဘတ်**။ ။ အဖြစ်အပျက်၊ သဘောတရား၊ လူပုဂ္ဂိုလ်၊ ပမာဏ တို့နှင့် ဆန့်ကျင်ခြင်းမရှိဘဲ လိုက်လျောညီညွတ်ခြင်းရှိသည်ကို ပြသော ဝိဘတ်ကို **လိုက်လျောပြဝိဘတ်**ဟု ခေါ်သည်။

**သာဓက**။ ။

တောင်သူဦးကြီးများသည် သီးနှံမျိုးစုံကို ရာသီ**အလိုက်** စိုက်ပျိုးကြသည်။

ဤဝါကျ၌ တောင်သူဦးကြီးများ သီးနှံမျိုးစုံကို မည်သို့စိုက်ပျိုးကြောင်း ဖော်ပြ ထားသည်။ တောင်သူဦးကြီးများသည် သီးနှံမျိုးစုံကို အချိန်ရာသီနှင့် လိုက်လျော အောင် စိုက်ပျိုးကြောင်းကို **ရာသီ** ဟူသော နာမ်နောက်ရှိ **အလိုက်** ဝိဘတ်က ပြသည်။ ထို့ကြောင့် **အလိုက်**သည် **လိုက်လျောပြဝိဘတ်** ဖြစ်သည်။

(ဍ) **ယှဉ်တွဲပြဝိဘတ်**။ ။ ယှဉ်တွဲခြင်း၊ ပေါင်းစည်းခြင်းကို ပြသော ဝိဘတ်ကို **ယှဉ်တွဲပြဝိဘတ်**ဟု ခေါ်သည်။

**သာဓက**။ ။

ပြည်သူ့တပ်မတော်သားများသည် လယ်ယာဦးကြီးများ **နှင့်အတူ** ရွှေဝါမြေ စစ်ဆင်ရေး၌ ပါဝင်ဆင်နွှဲကြသည်။

ဤဝါကျ၌ ပြည်သူ့တပ်မတော်သားများသည် ပြည်သူတို့နှင့်အတူ ရွှေဝါမြေ စစ်ဆင်ရေးတွင် ပါဝင်ဆင်နွှဲကြောင်း ဖော်ပြထားသည်။ လယ်ယာဦးကြီးများနှင့် အတူ ပါဝင်ဆင်နွှဲကြသူများမှာ ပြည်သူ့တပ်မတော်သားများဖြစ်ကြောင်းကို **လယ်ယာ ဦးကြီးများ**ဟူသော နာမ်နောက်ရှိ **နှင့်အတူ**ဝိဘတ်က ယှဉ်တွဲဖော်ပြသည်။ ထို့ကြောင့် **နှင့်အတူ**သည် **ယှဉ်တွဲပြဝိဘတ်** ဖြစ်သည်။

(ပ) **ခွဲထုတ်ရာပြဝိဘတ်**။ ။ အစုအပေါင်းမှ တစ်စုံတစ်ရာ၊ တစ်စုံတစ်ခု၊ တစ်စုံ တစ်ယောက် စသည် တစ်စိတ်တစ်ဒေသကို ခွဲထုတ်ပြသောဝိဘတ်ကို **ခွဲထုတ်ရာပြ ဝိဘတ်** ဟုခေါ်သည်။

**သာဓက**။ ။

ရေသတ္တဝါများ**အနက်** ဝေလငါးသည် အကြီးဆုံးဖြစ်၏။

ဤဝါကျ၌ အကြီးဆုံးရေသတ္တဝါသည် ဝေလငါး ဖြစ်ကြောင်း ဖော်ပြထားသည်။ ဝေလငါးသည် ရေသတ္တဝါများအနက် အကြီးဆုံးဖြစ်ကြောင်းကို **ရေသတ္တဝါများ** ဟူသော နာမ်နောက်ရှိ **အနက်** ဟူသော ဝိဘတ်ကပြသည်။ ထို့ကြောင့် **အနက်** သည် **ခွဲထုတ်ရာပြဝိဘတ်** ဖြစ်သည်။

(ဏ) **ရည်စူးချက်ပြဝိဘတ်**။ ။ တစ်စုံတစ်ဦး၊ တစ်စုံတစ်ရာကို ရည်စူးကြောင်း ဖော်ပြသော ဝိဘတ်ကို **ရည်စူးချက်ပြဝိဘတ်**ဟု ခေါ်သည်။

**သာဓက**။ ။

တပ်မတော်သားတို့သည် **နိုင်ငံအတွက်** အသက်ကို ပေးလှူထားသူများ ဖြစ်ကြသည်။

ဤဝါကျ၌ တပ်မတော်သားတို့သည် မည်သူ့အတွက် ရည်စူး၍ အသက်ပေးလှူ ထားသူများ ဖြစ်ကြောင်းကို ဖော်ပြထားသည်။ တပ်မတော်သားတို့သည် နိုင်ငံ အတွက် အသက်ပေးလှူထားကြသူများဖြစ်ကြောင်းကို **နိုင်ငံ**ဟူသော နာမ် နောက်ရှိ

**အတွက်** ဝိဘတ်က ရည်စူးဖော်ပြသည်။ ထို့ကြောင့် **အတွက်**သည် **ရည်စူးချက်ပြ ဝိဘတ်** ဖြစ်သည်။

(တ) **နေရာဆက်တိုက်ပြဝိဘတ်**။ ။ နေရာအဆက်မပြတ်ပြခြင်းကို ပြသော ဝိဘတ်ကို **နေရာဆက်တိုက်ပြဝိဘတ်** ဟု ခေါ်သည်။

**သာဓက**။ ။

လူငယ်များသည် ရွာလယ်မှ ရွာဦးကျောင်း **တိုင်အောင်** လမ်းဖို့ လုပ်အားပေးကြသည်။

ဤဝါကျ၌ လူငယ်များသည် မည်သည့်နေရာမှ မည်သည့်နေရာထိ ဆက်တိုက် လမ်းဖို့လုပ်အားပေးကြကြောင်းကို ဖော်ပြထားသည်။ လူငယ်များသည် ရွာလယ်မှ ရွာဦးကျောင်းအထိ ဆက်တိုက် လမ်းဖို့လုပ်အားပေးကြကြောင်းကို **ရွာဦးကျောင်း** ဟူသော နာမ်နောက်ရှိ **တိုင်အောင်** ဝိဘတ်ကပြသည်။ ထို့ကြောင့် **တိုင်အောင်**သည် **နေရာဆက်တိုက်ပြဝိဘတ်** ဖြစ်သည်။

(ထ) **အချိန်ဆက်တိုက်ပြဝိဘတ်**။ ။ အချိန် အဆက်မပြတ် ဖြစ်ခြင်းကို ပြသော ဝိဘတ်ကို **အချိန်ဆက်တိုက်ပြဝိဘတ်**ဟု ခေါ်သည်။

**သာဓက**။ ။

ဆရာတော်ဦးဝိစာရသည် နယ်ချဲ့ကို ရက်ပေါင်း ၂၁၀**တိုင်တိုင်** အစာငတ်ခံ ဆန္ဒပြခဲ့သည်။

ဤဝါကျ၌ ဆရာတော်ဦးဝိစာရသည် ရက်ပေါင်းမည်မျှကြာအောင် အစာငတ်ခံ ဆန္ဒပြကြောင်းကို ဖော်ပြထားသည်။ ဆရာတော်သည် ရက်ပေါင်း ၂၁၀တိုင်တိုင် အဆက်မပြတ် အစာငတ်ခံဆန္ဒပြကြောင်းကို **ရက်ပေါင်း ၂၁၀**ဟူသော နာမ်နောက်ရှိ **တိုင်တိုင်** ဝိဘတ်က ပြသည်။ ထို့ကြောင့် **တိုင်တိုင်**သည် **အချိန်ဆက်တိုက်ပြဝိဘတ်** ဖြစ်သည်။

၃၇။ **ကြိယာဝိဘတ်**။ ။ ကြိယာ၏နောက်၌တည်၍ ၎င်းကြိယာ၏ကာလနှင့်အမျိုးအစားကို ဝေဖန်ပိုင်းခြားပြသောစကားလုံးကို **ကြိယာဝိဘတ်**ဟု ခေါ်သည်။

၃၈။ ကြိယာဝိဘတ် ၂မျိုးရှိသည်။ ၎င်းတို့မှာ–

(က) ကာလပြကြိယာဝိဘတ်

(ခ) အမျိုးအစားပြကြိယာဝိဘတ်တို့ ဖြစ်ကြသည်။

(ကာလပြကြိယာဝိဘတ်ကို အတွဲ ၁၊ အခန်း ၂ ၌ ဖော်ပြခဲ့ပြီးဖြစ်သည်။ အမျိုးအစားပြကြိယာဝိဘတ်ကိုမူ ဤအတွဲ ၁၊ အခန်း ၃ ၌ ဆက်လက်ဖော်ပြမည်။)

၃၉။ **အမျိုးအစားပြကြိယာဝိဘတ်**။ ။ ကြိယာ၏အမျိုးအစားကိုဖော်ပြသော ဝိဘတ်ကို အမျိုးအစားပြကြိယာဝိဘတ်ဟုခေါ်သည်။ အမျိုးအစားပြကြိယာဝိဘတ်ကို ၄ မျိုးခွဲသည်။ ၎င်းတို့မှာ–

(က) စေခိုင်းဝိဘတ်။ ။ စေ့။

(ခ) ညွှန်ကြားဝိဘတ်။ ။ စို့၊ ရအောင်။

(ဂ) ဆန္ဒညွှန်ဝိဘတ်။ ။ ပါစေ၊ ပါရစေ။

(ဃ) အမိန့်ချဝိဘတ်။ ။ စေ–တို့ ဖြစ်ကြသည်။

၄၀။ (က) **စေခိုင်းဝိဘတ်**။ ။ စေခိုင်းခြင်းကိုပြသည့်ဝိဘတ်ကို **စေခိုင်းဝိဘတ်**ဟု ခေါ်သည်။

**သာဓက**။ ။

- ဆရာ့စကားကို နားထောင်**လော့**။
- ညီညွတ်ကြ**လော့**။

(ခ) **ညှိနှိုင်းဝိဘတ်**။ ။ ဆောင်ရွက်သူအချင်းချင်း ညှိနှိုင်းခြင်းကိုပြသည့် ဝိဘတ်ကို **ညှိနှိုင်းဝိဘတ်**ဟုခေါ်သည်။

**သာဓက**။ ။

- အိမ်ပြန်**စို့**။
- ကျောင်းပိတ်ရက်မှာ လုပ်အားပေး**ရအောင်**။

(ဂ) **ဆန္ဒညွှန်ဝိဘတ်**။ ။ ခွင့်တောင်းခြင်း၊ ဆုတောင်းမေတ္တာပို့သခြင်း၊ ကျိန်ဆဲခြင်း စသော အလိုဆန္ဒတို့ကို ဖော်ပြသည့်ဝိဘတ်ကို **ဆန္ဒညွှန်ဝိဘတ်** ဟုခေါ်သည်။

**သာဓက**။ ။

- အိမ်ပြန်**ပါရစေ**။
- ကျန်းမာ**ပါစေ**။
- ဘေးတွေ့**ပါစေ**။

(ဃ) **အမိန့်ချဝိဘတ်**။ ။ အမိန့်ပေးခြင်းကိုဖော်ပြသည့် ဝိဘတ်ကို **အမိန့်ချဝိဘတ်** ဟု ခေါ်သည်။

**သာဓက**။ ။

- ဤအမှုမှ တရားသေ လွှတ်**စေ**။

## လေ့ကျင့်ခန်း

၁။ ဝိဘတ်၏ အဓိပ္ပာယ်ကို ရေးပါ။

၂။ နာမ်ဝိဘတ်ဆိုသည်မှာ အဘယ်နည်း။

၃။ ကြိယာဝိဘတ်ဆိုသည်မှာ အဘယ်နည်း။

၄။ အနက်အဓိပ္ပာယ်ကို အခြေခံ၍ နာမ်ဝိဘတ်ကို အမျိုးမည်မျှ ခွဲထားသနည်း။ ၎င်းတို့အနက် ၅ မျိုး၏အမည်ကို ရေးပါ။

၅။ ကြိယာဝိဘတ်ကို အမျိုးမည်မျှ ခွဲထားသနည်း။ ရေတွက်ပြပါ။

၆။ ကွက်လပ်အသီးသီး၌ သက်ဆိုင်ရာ ဝိဘတ်အမည်ကို ဖြည့်ပါ။

(က) ပြုသူ၊ ဖြစ်သူ၊ ရှိသူဖြစ်ကြောင်းကို ပြသောဝိဘတ်သည် ...... ဝိဘတ် ဖြစ်သည်။

(ခ) အပြုခံရသူ၊ အပြုခံရသည့်အရာ ဖြစ်ကြောင်းကို ပြသောဝိဘတ်သည် ......... ဝိဘတ်ဖြစ်သည်။

(ဂ) ရှေးရှုရာနေရာ ဖြစ်ကြောင်းကိုပြသောဝိဘတ်သည် ............... ဝိဘတ် ဖြစ်သည်။

(ဃ) အသုံးပြုခြင်းခံရသောအရာ ဖြစ်ကြောင်းကိုပြသောဝိဘတ်သည် ...... ဝိဘတ် ဖြစ်သည်။

(င) လက်ခံသူဖြစ်ကြောင်းကိုပြသောဝိဘတ်သည် ......... ဝိဘတ်ဖြစ်သည်။

(စ) ထွက်ခွာရာနေရာ ဖြစ်ကြောင်းကိုပြသောဝိဘတ်သည် ............... ဝိဘတ် ဖြစ်သည်။

(ဆ) ပိုင်ဆိုင်ခြင်းကိုပြသောဝိဘတ်သည် ............... ဝိဘတ်ဖြစ်သည်။

(ဇ) တည်ရှိရာနေရာ ဖြစ်ကြောင်းကိုပြသောဝိဘတ်သည် ............... ဝိဘတ် ဖြစ်သည်။

(ဈ) အချိန်ကိုပြသော ဝိဘတ်သည် ............... ဝိဘတ် ဖြစ်သည်။

(ည) စေခိုင်းခြင်းကိုပြသည့် ဝိဘတ်သည် ............... ဝိဘတ်ဖြစ်သည်။

(ဋ) ဆောင်ရွက်သူအချင်းချင်း ညှိနှိုင်းခြင်းကိုပြသည့် ဝိဘတ်သည် ............... ဝိဘတ်ဖြစ်သည်။

(ဌ) ခွင့်တောင်းခြင်း၊ ဆုတောင်းမေတ္တာပို့သခြင်း၊ ကျိန်ဆဲခြင်းစသော အလိုဆန္ဒကို ဖော်ပြသည့်ဝိဘတ်သည် ............... ဝိဘတ်ဖြစ်သည်။

(ဍ) အမိန့်ပေးခြင်းကိုဖော်ပြသည့်ဝိဘတ်သည် ............ ဝိဘတ်ဖြစ်သည်။

၇။ အောက်ပါကွက်လပ်အသီးသီးတွင် ဆီလျော်သောဝိဘတ်ကိုဖြည့်၍ ထိုဝိဘတ်များ၏အမည်ကို ဝိုက်ကွင်းတွင်ရေးပါ။

(က) ကျောင်းသားအားလုံး ...... ဆရာ ဆရာမတို့ကို လေးစားသည်။ ( )

(ခ) မောင်ထင်ကျော် ...... လူရည်ချွန်တစ်ဦးဖြစ်သည်။( )

(ဂ) ဆရာမိဘ ...... ရှိသေပါ။ ( )

(ဃ) အမျိုး၊ ဘာသာ၊ စာပေ၊ ယဉ်ကျေးမှုတို့ ...... ချစ်မြတ်နိုးသင့်သည်။( )

(င) ဧရာဝတီမြစ်သည် မြောက်ဘက်...... တောင်ဘက်... စီးဆင်းသည်။ ( )

(စ) အလုပ်သမားများသည် အလုပ်ခွင် ......... ဝင်ကြသည်။ ( )

(ဆ) ကြီးမဲ့ကြေးနန်း ......... သတင်းပို့သည်။ ( )

(ဇ) ဆရာ ရန်ကုန် ......... ပြန်ရောက်ပြီ။ ( )

(ဈ) ယမန်နေ့ ......... မိုးသည်းထန်စွာရွာသည်။ ( )

(ည) အလိမ္မာ စာ ......... ရှိသည်။ ( )

(ဋ) ဆရာမိဘများ...... မေတ္တာသည် အတိုင်းမသိကြီးမားသည်။ ( )

(ဌ) သစ်ရွက်များသည် တပေါင်းလ ......... ကြွေသည်။ ( )

(ဍ) ကြက်တွန်သံကို အရုဏ်ဦး ......... ကြားရသည်။ ( )

(ပ) စင်ရော်ငှက်ငယ်များသည် လေ ......... ပျံဝဲနေကြသည်။ ( )

(ဏ) လူငယ်များသည် လုပ်အားပေးပွဲ ......... ပါဝင်ကြသည်။ ( )

(တ) ပြည်ထောင်စုသားအချင်းချင်း သွေးစည်းညီညွတ်ကြ......... ။ ( )

(ထ) မိုးချုပ်ပြီ၊ အိမ်ပြန် ......... ။ ( )

(ဒ) ဤကမ္ဘာကြီး ငြိမ်းချမ်း ......... ။ ( )

၈။ အောက်ပါကွက်လပ်အသီးသီးတွင် ဆီလျော်သောဝိဘတ်ကိုဖြည့်၍ ထိုဝိဘတ်၏အမည်ကို ဝိုက်ကွင်းတွင်ရေးပါ။

(က) လေသည် အပူရှိန် ......... ပေါ့ပါးလာပြီး အထက် .........တက်သည်။ ( ) ( )

(ခ) သင့် ......... မီးမလောင်ပါစေနှင့်။ ( )

(ဂ) ဘကြီးဖြိုးသည် နှလုံးရောဂါ ......... အနိစ္စရောက်သည်။ ( )

(ဃ) လူ့သဘာဝ ......... ချမ်းသာခြင်းဒဏ်ကို ခံနိုင်ခဲသည်။ ( )

(င) ကတိ ......... ဆက်ဆက် စောင့်နေပါမည်။ ( )

(စ) ပန်းမျိုးစုံတို့သည် ရာသီ ......... ဖူးပွင့်ကြသည်။ ( )

(ဆ) သာလွန်မင်းတရားကြီးသည် မင်းကျင့်တရား ......... တိုင်းပြည်ကို အုပ်ချုပ်သည်။ ( )

(ဇ) လူတို့သည် နေ့စဉ် ...... အစာအာဟာရများကို မှီဝဲစားသုံးလျက် ရှိကြသည်။ ( )

(ဈ) မြန်မာ့ယဉ်ကျေးမှု ......... ဝတ်စားဆင်ယင်သင့်သည်။ ( )

(ည) ကပွဲအစီအစဉ်ကို အကြောင်း ......... ပြင်လိုက်သည်။ ( )

(ဋ) ရေနံကို ကျောက်မီးသွေး......အနည်ကျကျောက်များ၌တွေ့ရသည်။( )

(ဌ) ဒီရေ ......... ဗေဒါများ မျောပါလာသည်။ ( )

(ဍ) ကျောက်မျက်ရတနာတို့......... စိန်သည် အမာဆုံးဖြစ်သည်။ ( )

(ပ) မွေးချင်းငါးယောက်...... မောင်သံချောင်းသည် အလိမ္မာဆုံးဖြစ်သည်။ ( )

(ဏ) ကျန်းမာရေး ...... သန့်ရှင်းသော အစားအစာများကို နေ့စဉ် စားသုံးသင့်သည်။ ( )

(တ) ရွာသားတို့သည် သောက်ရေ ...... ရွာလယ်ကန်ကို တူးဖော်ကြသည်။ ( )

(ထ) အမေသည် သားကြီး ......... သရက်သီး ဝယ်လာသည်။ ( )

(ဒ) မြစ်ကြီးနားမှ ရေးမြို့ ......... ရထားဖြင့်သွားနိုင်သည်။ ( )

(ဓ) မောင်လှသည် ည ၁၁ နာရီ ......... စာဖတ်လေ့ရှိသည်။ ( )

# သမ္ဗန္ဓ

**သမ္ဗန္ဓ**

၄၁။ ပုဒ်အချင်းချင်းကိုဖြစ်စေ၊ ဝါကျအချင်းချင်းကိုဖြစ်စေ၊ အဓိပ္ပာယ်အချင်းချင်းကို ဖြစ်စေ ဆက်စပ်ပေးသော စကားလုံးကို **သမ္ဗန္ဓ**ဟု ခေါ်သည်။

၄၂။ သမ္ဗန္ဓ ၃မျိုးရှိသည်။ ၎င်းတို့မှာ–

(က) ပုဒ်ဆက်သမ္ဗန္ဓ

(ခ) ဝါကျဆက်သမ္ဗန္ဓ

(ဂ) အဓိပ္ပာယ်ဆက် သမ္ဗန္ဓတို့ ဖြစ်ကြသည်။

(ဤအတွဲ ၁၊ အခန်း ၃ တွင် ပုဒ်ဆက်သမ္ဗန္ဓအကြောင်းကို ဖော်ပြမည်။ ကျန်ရှိသော **ဝါကျဆက်သမ္ဗန္ဓ**နှင့် **အဓိပ္ပာယ်ဆက်သမ္ဗန္ဓ** အကြောင်းကိုမူ အတွဲ ၁၊ အခန်း၄ ၌ ဆက်လက်ဖော်ပြမည်။)

၄၃။ **ပုဒ်ဆက်သမ္ဗန္ဓ**။ ။ ပုဒ်အချင်းချင်း ဆက်စပ်ပေးသော သမ္ဗန္ဓကို **ပုဒ်ဆက်သမ္ဗန္ဓ**ဟု ခေါ်သည်။

**သာဓက**။ ။ နှင့်၊ လည်းကောင်း...လည်းကောင်း၊ ရော ...ပါ၊ ရော...ရော၊ သို့မဟုတ်၊ ဖြစ်စေ...ဖြစ်စေ၊ ဖြစ်ဖြစ်...ဖြစ်ဖြစ်၊ သော်လည်းကောင်း... သော်လည်းကောင်း၊ မှတစ်ပါး။

(က) **နှင့်**။ ။ ပေါင်းစည်းခြင်းအနက်ဖြင့် ပုဒ်အချင်းချင်းကို ဆက်စပ်သည်။

(၁) မိဘ **နှင့်** ဆရာကို ရိုသေပါ။

ဤဝါကျ၌ **မိဘ၊ ဆရာ** ဟူသော နာမ်ပုဒ် နှစ်ပုဒ်ကို **နှင့်** ဖြင့် ဆက်ထားသည်။ ထိုသို့ဆက်ခြင်းဖြင့် ရိုသေခြင်းကို ခံထိုက်သူများမှာ **မိဘ** နှင့် **ဆရာ** တို့ဖြစ်ကြောင်းကို **နှင့်** က ပေါင်းစည်းပြသည်။ ဤသို့ ပေါင်းစည်းခြင်းဖြင့် ပုဒ်အချင်းချင်းကို ဆက်ပေးသောကြောင့် **နှင့်** သည် **ပုဒ်ဆက်သမ္ဗန္ဓ** ဖြစ်သည်။

(၂) မောင်ဘ**နှင့်**ကျွန်တော် နွေရာသီကျောင်းပိတ်ရက်များ၌ လုပ်အား ပေးခဲ့ကြသည်။

ဤဝါကျ၌ **မောင်ဘ**ဟူသော နာမ်ပုဒ်နှင့် **ကျွန်တော်**ဟူသော နာမ်စားပုဒ်တို့ကို **နှင့်** ဖြင့် ဆက်ထားသည်။ ထိုသို့ ဆက်ခြင်းဖြင့် **မောင်ဘ** နှင့် **ကျွန်တော်**တို့သည် နွေရာသီကျောင်းပိတ်ရက်များ၌ အတူတကွ လုပ်အားပေးခဲ့ကြသူများဖြစ်ကြောင်းကို **နှင့်** က ပေါင်းစည်း ပြသည်။ ဤသို့ ပေါင်းစည်းခြင်းအနက်ဖြင့် ပုဒ်အချင်းချင်းကို ဆက် ပေးသောကြောင့် **နှင့်** သည် **ပုဒ်ဆက်သမ္ဗန္ဓ** ဖြစ်သည်။

(၃) မောင်ဘသည်**လည်းကောင်း**၊ မောင်မြသည်**လည်းကောင်း** လူတော် လူကောင်းများ ဖြစ်ကြသည်။

ဤဝါကျ၌ **မောင်ဘ၊ မောင်မြ** ဟူသော နာမ်ပုဒ်နှစ်ခုကို**လည်းကောင်း** ............ **လည်းကောင်း** ဖြင့် ဆက်ထားသည်။ ထိုသို့ ဆက်ခြင်းဖြင့်

မောင်ဘနှင့်မောင်မြတို့ နှစ်ယောက်စလုံးသည် လူတော်လူကောင်းများဖြစ်ကြောင်းကို **လည်းကောင်း**............**လည်းကောင်း**က ပေါင်းစည်းပြသည်။ ဤသို့ ပေါင်းစည်းခြင်းဖြင့် ပုဒ်အချင်းချင်းကို ဆက်ပေးသောကြောင့် **လည်းကောင်း** ............**လည်းကောင်း** သည် **ပုဒ်ဆက်သမ္ဗန္ဓ** ဖြစ်သည်။

(ခ) **သို့မဟုတ်**။ ။ တစ်ခုမဟုတ်တစ်ခု အနက်ဖြင့် ပုဒ်အချင်းချင်းကို ဆက်စပ်သည်။

(၁) စက်ရုံ၊ **သို့မဟုတ်** စာကြည့်တိုက်၌ လုပ်အားပေးကြမည်။

ဤဝါကျ၌ **စက်ရုံ၊ စာကြည့်တိုက်** ဟူသော နာမ်ပုဒ်နှစ်ခုကို **သို့မဟုတ်**ဖြင့် ဆက်ထားသည်။ ထိုသို့ဆက်ခြင်းဖြင့် လုပ်အားပေးရမည့်နေရာမှာ **စက်ရုံ** နှင့် **စာကြည့်တိုက်** နှစ်ခုတွင် တစ်ခုခုဖြစ်ကြောင်းကို **သို့မဟုတ်** က ပြသည်။ ဤသို့ ရွေးချယ်ခြင်းအနက်ဖြင့် ပုဒ်အချင်းချင်းကို ဆက်ပေးသောကြောင့် **သို့မဟုတ်** သည် **ပုဒ်ဆက်သမ္ဗန္ဓ** ဖြစ်သည်။

(၂) မင်း၊ **သို့မဟုတ်** ငါ သွားရမည်။

ဤဝါကျ၌ **မင်း၊ ငါ** ဟူသော နာမ်စားပုဒ်နှစ်ခုကို **သို့မဟုတ်** ဖြင့် ဆက်ထားသည်။ ထိုသို့ ဆက်ခြင်းဖြင့် သွားရမည့်သူမှာ **မင်း** နှင့် **ငါ** နှစ်ဦးတွင် တစ်ဦးဦးဖြစ်ကြောင်းကို **သို့မဟုတ်** က ရွေးချယ်ပြသည်။ ဤသို့ ရွေးချယ်ခြင်းအနက်ဖြင့် ပုဒ်အချင်းချင်းကို ဆက်ပေးသောကြောင့် **သို့မဟုတ်** သည် **ပုဒ်ဆက်သမ္ဗန္ဓ** ဖြစ်သည်။

(ဂ) **ဖြစ်စေ**......**ဖြစ်စေ**။ ကန့်သတ်မဲ့အနက်ဖြင့် ပုဒ် အချင်းချင်းကို ဆက်စပ်သည်။

(၁) စံပယ်ပန်း **ဖြစ်စေ**၊ နှင်းဆီပန်း**ဖြစ်စေ** ဝယ်လာပါ။

ဤဝါကျ၌ **စံပယ်ပန်း၊ နှင်းဆီပန်း** ဟူသော နာမ်ပုဒ်နှစ်ခုကို **ဖြစ်စေ ......ဖြစ်စေ**ဖြင့် ဆက်ထားသည်။ ထိုသို့ဆက်ခြင်းဖြင့် ပန်းနှစ်မျိုးတွင် မည်သည့်ပန်းကိုသာ ဝယ်ရမည်ဟု မကန့်သတ်ဘဲ နှစ်သက်ရာပန်းတစ်ခုခု ဝယ်နိုင်ကြောင်းကို **ဖြစ်စေ ......ဖြစ်စေ**က ပြသည်။ ဤသို့ ကန့်သတ်မဲ့အနက်ဖြင့် ပုဒ်အချင်းချင်းကို ဆက်ပေးသောကြောင့် **ဖြစ်စေ......ဖြစ်စေ**သည် **ပုဒ်ဆက်သမ္ဗန္ဓ**ဖြစ်သည်။

(၂) ခင်ဗျား**ဖြစ်စေ**၊ ကျွန်တော်**ဖြစ်စေ** တာဝန်ယူရမည်။

ဤဝါကျ၌ **ခင်ဗျား၊ ကျွန်တော်** ဟူသော နာမ်စားပုဒ်နှစ်ခုကို **ဖြစ်စေ...... ဖြစ်စေ**ဖြင့် ဆက်ထားသည်။ ထိုသို့ဆက်ခြင်းဖြင့် တာဝန်ယူရမည့်ပုဂ္ဂိုလ်မှာ မည်သူ ဖြစ်သည်ဟု မကန့်သတ်ဘဲ နှစ်ဦးတွင် တစ်ဦးဦးဖြစ်ကြောင်း **ဖြစ်စေ...... ဖြစ်စေ** ကပြသည်။ ဤသို့ ကန့်သတ်မဲ့အနက်ဖြင့် ပုဒ်အချင်းချင်းကို ဆက်ပေးသောကြောင့် **ဖြစ်စေ......ဖြစ်စေ** သည် ပုဒ်ဆက်သမ္ဗန္ဓဖြစ်သည်။

(ဃ) **မှတစ်ပါး**။ ။ ကန့်သတ်ခြင်းအနက်ဖြင့် ပုဒ်အချင်းချင်းကို ဆက်စပ်သည်။

(၁) အဖေ**မှတစ်ပါး** အိမ်သားအားလုံး ဘုရားဖူးသွားကြသည်။

ဤဝါကျ၌ **အဖေ**၊ **အိမ်သား** ဟူသော နာမ်ပုဒ်နှစ်ခုကို **မှတစ်ပါး** ဖြင့် ဆက်ထားသည်။ ထိုသို့ဆက်ခြင်းဖြင့် ဘုရားဖူးသွားကြသော အိမ်သားတို့တွင် **အဖေ** တစ်ဦးတည်း မပါဝင်ကြောင်းကို **မှတစ်ပါး** က ကန့်သတ်ပြသည်။ ဤသို့ ကန့်သတ်ခြင်းအနက်ဖြင့် ပုဒ်အချင်းချင်းကို ဆက်ပေးသောကြောင့် **မှတစ်ပါး**သည် **ပုဒ်ဆက်သမ္ဗန္ဓ** ဖြစ်သည်။

(၂) ကျွန်တော်**မှတစ်ပါး** သူငယ်ချင်းအားလုံး ဂုဏ်ထူးနှင့် အောင်မြင်ကြသည်။

ဤဝါကျ၌ **ကျွန်တော်** ဟူသော နာမ်စားပုဒ်နှင့် **သူငယ်ချင်း** ဟူသော နာမ်စားပုဒ်နှစ်ခုကို **မှတစ်ပါး**ဖြင့်ဆက်ထားသည်။ ထိုသို့ ဆက်ခြင်းဖြင့် ဂုဏ်ထူးရကြသော **သူငယ်ချင်း**တို့တွင် **ကျွန်တော်** တစ်ဦးတည်း မပါဝင်ကြောင်းကို **မှတစ်ပါး**က ကန့်သတ်ပြသည်။ ဤသို့ ကန့်သတ်ခြင်းအနက်ဖြင့် ပုဒ်အချင်းချင်းကို ဆက်ပေးသော ကြောင့် **မှတစ်ပါး**သည် **ပုဒ်ဆက်သမ္ဗန္ဓ** ဖြစ်သည်။

## လေ့ကျင့်ခန်း

၁။ သမ္ဗန္ဓဆိုသည်မှာ အဘယ်နည်း။

၂။ ပုဒ်ဆက်သမ္ဗန္ဓဆိုသည်မှာ အဘယ်နည်း။ ပုဒ်ဆက်သမ္ဗန္ဓ ၅ခုကို ဖော်ပြပြီး ယင်းတို့ကို ဝါကျတစ်ခုစီ၌ သုံးပြပါ။

၃။ ကွက်လပ်များကိုဖြည့်ပါ။

(က) ပုဒ်အချင်းချင်းကိုဖြစ်စေ၊ ဝါကျအချင်းချင်းကိုဖြစ်စေ၊ အဓိပ္ပာယ်အချင်းချင်းကို ဖြစ်စေ ဆက်စပ်ပေးသော စကားလုံးကို ...............ဟု ခေါ်သည်။

(ခ) ပုဒ်အချင်းချင်း ဆက်စပ်ပေးသောစကားလုံးကို ............... ဟု ခေါ်သည်။

(ဂ) "မိဘနှင့်ဆရာကို ရိုသေပါ" ဟူသော ဝါကျရှိ မိဘသည် ............... ဖြစ်၍ နှင့်သည် ............... ဖြစ်သည်။

(ဃ) "မင်းဖြစ်စေ၊ ငါဖြစ်စေ အောင်မြင်အောင် လုပ်ရမည်" ဟူသော ဝါကျ၌ ............... သည် သမ္ဗန္ဓဖြစ်သည်။

၄။ ပေးထားသောဝါကျများ၌ သမ္ဗန္ဓများပါရှိလျှင် မျဉ်းသားပြပါ။

(က) ရွှေစင်နှင့်မေဇင်တို့သည် ညီအစ်မများ ဖြစ်ကြသည်။

(ခ) ဇာတ်ပွဲကို တောရောမြို့ပါ ကြိုက်နှစ်သက်ကြသည်။

(ဂ) ခင်ဗျားကို ကျွန်တော် ယုံကြည်ပါသည်။

(ဃ) မြန်မာစာ၊ သို့မဟုတ် ပထဝီဝင်ဘာသာ၌ ဂုဏ်ထူးရမည်ဟု ကျွန်တော် ထင်ပါသည်။

(င) မောင်မောင်ဖြစ်ဖြစ်၊ ကျွန်တော်ဖြစ်ဖြစ် ဆက်ဆက်လာခဲ့ပါမည်။

(စ) ကျွန်တော် ရှေ့ကသွားနှင့်မည်။

(ဆ) အပြောကောင်းသောသူကို "စကားတောင်စား"ဟု ခေါ်ကြသည်။

(ဇ) ကျွန်တော်မှတစ်ပါး အိမ်သားအားလုံး ရုပ်ရှင်သွားကြသည်။

(ဈ) နှင်းဆီပင်သော်လည်းကောင်း၊ စံပယ်ပင်သော်လည်းကောင်း စိုက်မည်။

(ည) သူ ဂုဏ်ထူးရမည်ကို ကျွန်တော်သိပါသည်။

၅။ အောက်ပါဝါကျများ၌ မျဉ်းသားထားသော သမ္ဗန္ဓများသည် မည်သည့်အနက်ဖြင့် ပုဒ်အချင်းချင်းကို ဆက်စပ်ပေးသနည်း။

(က) ထမင်းနှင့်ဟင်းကို မျှမျှတတစားပါ။

(ခ) လူမိုက်နှင့်ငွေ အတူမနေ။

(ဂ) စက်ရုံ၊ သို့မဟုတ် စာကြည့်တိုက်၌ လုပ်အားပေးကြမည်။

(ဃ) အမေ၊ သို့မဟုတ် အဖေ လာစေချင်ပါသည်။

(င) ကြက်သားဟင်းဖြစ်စေ၊ ငါးဟင်းဖြစ်စေ ချက်နိုင်ပါသည်။

(စ) ညီမလေးမှတစ်ပါး ကျွန်တော်တို့အားလုံး သွားကြပါမည်။

(ဆ) ခဲတံဖြစ်ဖြစ်၊ ဖောင်တိန်ဖြစ်ဖြစ် ပေးပါ။

(ဇ) အဖေနှင့်အမေတို့ ဘုရားဖူးသွားကြသည်။

(ဈ) ကျောင်းသားများရော၊ ကျောင်းသားမိဘများပါ စုပေါင်း လုပ်အားပေးကြသည်။

(ည) မောင်စိန်သည်လည်းကောင်း၊ မောင်သော်သည်လည်းကောင်း စာမေးပွဲ အောင်သည်။

(ဋ) ယနေ့သော်လည်းကောင်း၊ နက်ဖြန်သော်လည်းကောင်း လာခဲ့ပါမည်။

# နာမ်ပစ္စည်း

**ပစ္စည်း**။ ။ နာမ်၊ နာမ်စား၊ နာမဝိသေသန၊ ကြိယာ၊ ကြိယာဝိသေသနတို့၏ အဓိပ္ပာယ်ကို ထူးခြားလေးနက်အောင် ကူညီထောက်ပံ့သော စကားလုံးသည် **ပစ္စည်း** ဖြစ်သည်။ ပစ္စည်း ၃ မျိုးရှိသည်။ ၎င်းတို့မှာ–

(၁) နာမ်ပစ္စည်း

(၂) ကြိယာပစ္စည်း

(၃) ပုဒ်ပြောင်းပစ္စည်းတို့ ဖြစ်ကြသည်။

၄၄။ **နာမ်ပစ္စည်း**။ ။ နာမ်၊ နာမ်စားတို့၏ အဓိပ္ပာယ်ကို ထူးခြားလေးနက်အောင် ကူညီထောက်ပံ့သောပစ္စည်းကို **နာမ်ပစ္စည်း**ဟု ခေါ်သည်။

(နာမ်ပစ္စည်း ၉ မျိုးရှိသည်။ ၎င်းတို့အနက် **မျိုးပြပစ္စည်း၊ လိင်ညွှန်းပစ္စည်း**နှင့် **ကိန်းညွှန်းပစ္စည်း**တို့ အကြောင်းကို အတွဲ ၁၊ အခန်း၂ ၌ ဖော်ပြခဲ့ပြီ။ ဤအတွဲ ၁၊ အခန်း ၃၊ နာမ်ပစ္စည်းအခန်း၌ ကျန်သော နာမ်ပစ္စည်းများအနက်မှ **သင်္ချာပစ္စည်း** အကြောင်းကို ဆက်လက်ဖော်ပြမည်။)

၄၅။ **သင်္ချာပစ္စည်း**။ ။ သင်္ချာပစ္စည်း ၄ မျိုးရှိသည်။ ၎င်းတို့မှာ–

(က) သင်္ချာလေးနက်ပစ္စည်း

(ခ) ပမာဏပြပစ္စည်း

(ဂ) အကြိမ်ပြပစ္စည်း

(ဃ) အစဉ်ပြပစ္စည်း တို့ ဖြစ်ကြသည်။

၄၆။(က) **သင်္ချာလေးနက်ပစ္စည်း**။ ။ အရေအတွက်ကို အတိအကျပြခြင်းဖြင့် လေးနက်စေသော ပစ္စည်းကို **သင်္ချာလေးနက်ပစ္စည်း** ဟု ခေါ်သည်။

**သာဓက**။ ။ တိတိ၊ ကျ၊ စီ၊ ကျစီ၊ လုံး၊ စလုံး၊ တည်း၊ လျှင်။

(၁) **တိတိ**။ ။ အပိုအလိုမရှိ၊ အတိအကျဖြစ်ကြောင်းကိုပြသည်။

**သာဓက**။ ။ (កក) အမေသည် ငါးခြောက်တစ်ပိဿာ**တိတိ** ဝယ်လာသည်။

(ခခ) မန္တလေးအမြန်ရထားသည် ညနေ ၆ နာရီ**တိတိ**တွင် ဆိုက်သည်။

(ဂဂ) ဤကြိုးသည် ၃၅တောင်**တိတိ** ရှည်၏။

(၂) **ကျ၊ စီ၊ ကျစီ**။ ။ အညီအမျှ ခွဲဝေခြင်းကို ပြသည်။

**သာဓက**။ ။ (កក) အဘိုးက ကျွန်တော်တို့ကို တစ်ယောက် တစ်ကျပ်**ကျ** မုန့်ဖိုးပေးသည်။

(ခခ) သမဝါယမဆိုင်က တစ်အိမ်ထောင်လျှင် သကြားတစ်ပိဿာ **စီ** ရောင်းသည်။

(ဂဂ) လူတစ်ယောက်လျှင် ရုပ်ရှင်လက်မှတ် ၂ စောင် **ကျစီ** ရောင်းမည်။

(၃) **လုံး၊ စလုံး**။ ။ တစုတလုံးတည်းရှိကြောင်း၊ ဖြစ်ကြောင်းကို ပြသည်။

**သာဓက**။ ။ (ကက) တစ်အိမ်သား**လုံး** ရုပ်ရှင်သို့ သွားကြသည်။

(ခခ) နှစ်ယောက်**စလုံး** စာမေးပွဲကို ဂုဏ်ထူးနှင့် အောင်ကြသည်။

(၄) **တည်း**။ ။ အရေအတွက်နည်းကြောင်း၊ ပိုင်းခြားကန့်သတ်ကြောင်းကို ပြသည်။

**သာဓက**။ ။ (ကက) အဖေက မုန့်ဖိုးတစ်ကျပ်**တည်း** ပေးသည်။

(ခ ခ) တစ်တန်းလုံး၌ သူတစ်ယောက်**တည်း** စာမေးပွဲ ကျသည်။

(၅) **လျှင်**။ ။ အချိုးနှုန်းကို ပြသည်။

**သာဓက**။ ။ (ကက) သူသည် ကားကို တစ်နာရီ**လျှင်** မိုင် ၂၀နှုန်းဖြင့် မောင်းသည်။

(ခ ခ) အင်္ကျီစ တစ်ကိုက်**လျှင်** ၁၅ကျပ် ပေးရသည်။

(ခ) **ပမာဏပြပစ္စည်း**။ ။အရေအတွက်ကို ခန့်မှန်းပြခြင်းဖြင့် လေးနက်စေသော ပစ္စည်းကို **ပမာဏပြပစ္စည်း**ဟု ခေါ်သည်။

**သာဓက**။ ။ ကျော်၊ ခန့်၊ လောက်။

(၁) **ကျော်**။ ။ ဖော်ပြထားသော အရေအတွက်သည် အနည်းငယ် ပိုလွန်ကြောင်းကို ပြသည်။

**သာဓက**။ ။ (ကက) ဤအတန်း၌ ကျောင်းသား လေးဆယ်**ကျော်** ရှိသည်။

(ခ ခ) ဤရေကန်သည် အတောင် ၂၀**ကျော်** နက်သည်။

(၂) **ခန့်၊ လောက်**။ ။အတိအကျ မဟုတ်သော ခန့်မှန်းခြေအရေအတွက် ကို ပြသည်။

**သာဓက**။ ။ (ကက) ကျွန်တော်တို့အိမ်သည် ကျောင်းနှင့် မိုင်ဝက်**ခန့်** ဝေးသည်။

( ခခ ) ဤအခန်းသည် လူငါးရာ **ခန့်** ဆံ့သည်။

(ဂဂ) ဤသေတ္တာကို လူ ၄ယောက်**လောက်** မ ရမည်။

(ဃဃ) ကြက်သား ငါးဆယ်သား**လောက်** ဝယ်ခဲ့ပါ။

(ဂ) **အကြိမ်ပြပစ္စည်း**။ ။ အရေအတွက်၊ အကြိမ်အခါကိုပြသော ပစ္စည်းကို **အကြိမ်ပြပစ္စည်း**ဟု ခေါ်သည်။

**သာဓက**။ ။ ကြိမ်၊ ခါ၊ ခေါက်။

**ကြိမ်၊ ခါ၊ ခေါက်**။ ။ အရေအတွက်၊ အကြိမ်အခါကိုပြသည်။

**သာဓက**။ ။ (၁) ဤဆေးကို တစ်နေ့ ၃ **ကြိမ်** သောက်ပါ။

(၂) တစ်**ခါ** ထပ်ပြောပါဦး။

(၃) ကျွန်တော်တို့ရွာသို့ တစ်**ခေါက်** လာလည်ပါဦး။

(ဃ) **အစဉ်ပြပစ္စည်း**။ ။ အစဉ်ကိုပြသော ပစ္စည်းကို **အစဉ်ပြပစ္စည်း**ဟု ခေါ်သည်။

**သာဓက**။ ။ မြောက်

**သာဓက**။ ။ (၁) လမ်းထိပ်က ဝင်လာလျှင် ၃ အိမ်**မြောက်**အိမ်မှာ ကျွန်တော်တို့အိမ် ဖြစ်သည်။

(၂) ဒုတိယ**မြောက်** သားရတနာကို ဖွားမြင်သည်။

## လေ့ကျင့်ခန်း

၁။ ပစ္စည်း၏အဓိပ္ပာယ်ကို ရေးပါ။

၂။ နာမ်ပစ္စည်းဆိုသည်မှာ အဘယ်နည်း။

၃။ ကွက်လပ်များကိုဖြည့်ပါ။

(က) သက်ရှိသက်မဲ့တို့၏ ပုံသဏ္ဌာန် အမျိုးအစားအလိုက် သင်္ချာပုဒ်များနှင့် တွဲ၍ သုံးသော စကားလုံးကို ............ ပစ္စည်းဟု ခေါ်သည်။

(ခ) အဖို၊ အမ သဘာဝကို ဖော်ပြသည့် စကားလုံးကို ......... ပစ္စည်းဟု ခေါ်သည်။

(ဂ) အဖိုသဘာဝကို ဖော်ပြသည့် စကားလုံးကို ............ ပစ္စည်းဟုခေါ်သည်။

(ဃ) အမသဘာဝကို ဖော်ပြသည့် စကားလုံးကို ............ ပစ္စည်းဟုခေါ်သည်။

(င) နာမ်၊ နာမ်စားတို့၏ အရေအတွက် တစ်ခုထက်ပိုကြောင်းကို ညွှန်ပြသော စကားလုံးကို ............ ပစ္စည်းဟုခေါ်သည်။

(စ) **ကောင်၊ ခု၊ ယောက်** တို့သည် ............ ပစ္စည်း ဖြစ်သည်။

(ဆ) **မောင်၊ ကို၊ ဦး** တို့သည် ............ ပစ္စည်းဖြစ်သည်။

(ဇ) **မ၊ မိ၊ မယ်၊ ဒေါ်၊ သူ** တို့သည် ............ ပစ္စည်းဖြစ်သည်။

(ဈ) **များ၊ တို့** သည် ............ ပစ္စည်းဖြစ်သည်။

(ည) ............ ၊ ............ ၊ ............ ၊ ............ တို့သည် အပို အလို မရှိ၊ အတိအကျ ဖြစ်ကြောင်းကိုပြသော ............ ပစ္စည်း ဖြစ်သည်။

(ဋ) ............ ၊ ............ ၊ ............ တို့သည် ဖော်ပြထားသော အရေအတွက်ထက် အနည်းငယ် ပိုလွန်ကြောင်းကိုပြသည့် ............ ပစ္စည်း ဖြစ်သည်။

(ဌ) ............ ၊ ............ ၊ ............ တို့သည် အရေအတွက်၊ အကြိမ်အခါ ကို ပြသော ............ ပစ္စည်းဖြစ်သည်။

(ဍ) ............ သည် အစဉ်ကိုပြသော ............ ပစ္စည်းဖြစ်သည်။

၄။ အောက်ပါကွက်လပ်အသီးသီးတွင် ဆီလျော်သော နာမ်ပစ္စည်းကို ဖြည့်ပါ။

(က) အစည်းအဝေးကို ၉နာရီ ............ တွင် စတင်ကျင်းပသည်။

(ခ) ကျောင်းသား ၂၅ယောက် ............ စာမေးပွဲအောင်ကြသည်။

(ဂ) အဖေက သားတို့ကို စာအုပ် တစ်ယောက်တစ်အုပ် ............ ဆုပေးသည်။

(ဃ) လူ ၅ ယောက်လျှင် ဆပ်ပြာ ၁၂ တောင့် ............ သမဝါယမဆိုင်က ရောင်းသည်။

(င) သားသမီး ၃ ယောက် ............ ဘွဲ့ရကြပြီ။

(စ) သူသည် ကြက်သားဟင်း တစ်ပန်းကန် ............ ကို စားပစ်လိုက်သည်။

(ဆ) တစ်ရပ်ကွက် ............ သန့်ရှင်းရေးလုပ်ကြသည်။

(ဇ) သူသည် စာမေးပွဲ၌ တစ်ဘာသာ ............ ဂုဏ်ထူးရသည်။

(ဈ) သီတင်းကျွတ်တွင် ကျောင်းနှစ်ရက် ............ ပိတ်မည်။

(ည) ကျွန်တော်၏အဘိုးမှာ အသက် ၇၀ ............ ရှိပြီ။

(ဋ) သူ့အရပ်သည် ငါးပေ ............ ရှိသည်။

(ဌ) ဤငါးကြင်းကြီးသည် ငါးပိဿာ ............ စီးသည်။

(ဍ) ဤလှည်းပေါ်တွင် လူ ၄ ယောက် ......... စီးနိုင်သည်။

(ဎ) သူ့ကို စောင့်ရသည်မှာ ၂ နာရီ ............ ရှိပြီ။

(ဏ) ဤစာပိုဒ်ကို ၃ ............ ဖတ်ပြပါ။

(တ) ဦးသုံး ............ ချသည်။

(ထ) ထိုင်နေသော ပုဂ္ဂိုလ်များတွင် ယာဘက်မှ သုံးယောက် ............ သည် ကျောင်းအုပ်ဆရာကြီးဖြစ်သည်။

# ဝါကျ

**ဝါကျ**

၄၇။ ဆိုလိုသည့်အဓိပ္ပာယ်ရောက်အောင် စနစ်တကျ စီစဉ်ထားသော ပုဒ်အစုအပေါင်းသည် **ဝါကျ**ဖြစ်သည်။ ဝါကျတစ်ခုတွင် အနည်းဆုံး ကတ္တားတစ်ခုနှင့် ကြိယာတစ်ခု ပါဝင်သည်။

**ဝါကျရိုး**

၄၈။ ကတ္တားတစ်ခုနှင့် ကြိယာတစ်ခုသာ ပါဝင်သော ဝါကျသည် **ဝါကျရိုး** ဖြစ်သည်။ (ကတ္တားတစ်ခုနှင့် ကြိယာတစ်ခုသာ ပါဝင်သော ဝါကျရိုးတို့တွင် သင့်လျော်သောပုဒ်တို့ကို ဖြည့်စွက်၍ ဝါကျရိုးအမျိုးမျိုး ဖွဲ့နိုင်ပုံကို အတွဲ ၁၊ အခန်း ၂ ၌ ဖော်ပြခဲ့ပြီ။ ဤအတွဲ ၁၊ အခန်း ၃ ၌လည်း ဆက်လက်ဖော်ပြမည်။)

**ဝါကျရိုးဖွဲ့နည်းအမျိုးမျိုး**

၄၉။(က) ကတ္တား + **လိုက်လျောပြပုဒ်** + ကြိယာ

ပန်းတို့သည် + ရာသီအလိုက် + ဖူးပွင့်ကြသည်။

ကတ္တားတစ်ခုနှင့် ကြိယာတစ်ခုသာ ပါဝင်သော ဝါကျရိုး၌ **ရာသီအလိုက်** ဟူသော **လိုက်လျောပြပုဒ်**ကို ဖြည့်စွက်ဖွဲ့စည်းထားသည်။ ဤသို့ ဖြည့်စွက်ဖွဲ့စည်းခြင်းဖြင့် ပန်းတို့သည် ရာသီနှင့်မဆန့်ကျင်ဘဲ သူ့ရာသီနှင့်သူ လိုက်လျောညီညွတ်စွာ ဖူးပွင့်ကြကြောင်းကို **ရာသီအလိုက်** ဟူသောပုဒ်က ပြသည်။

**ရာသီအလိုက်** ဟူသော **လိုက်လျောပြပုဒ်** ၌ ရာသီဟူသော **နာမ်** နှင့် **အလိုက်** ဟူသော **လိုက်လျောပြဝိဘတ်**တို့ ပါဝင်သည်။

(ခ) ကတ္တား + **ယှဉ်တွဲပြပုဒ်** + ကြိယာ

မောင်စုသည် + ဖခင်နှင့်အတူ + ပြန်လာသည်။

ကတ္တားတစ်ခုနှင့် ကြိယာတစ်ခုသာ ပါဝင်သော ဝါကျရိုး၌ **ဖခင်နှင့်အတူ** ဟူသော **ယှဉ်တွဲပြပုဒ်**ကို ဖြည့်စွက်ဖွဲ့စည်းထားသည်။ ဤသို့ဖြည့်စွက်ဖွဲ့စည်းခြင်းဖြင့် မောင်စုသည် မည်သူနှင့် ပြန်လာကြောင်းကို **ဖခင်နှင့်အတူ** ဟူသောပုဒ်က ပြသည်။

**ဖခင်နှင့်အတူ** ဟူသော **ယှဉ်တွဲပြပုဒ်**၌ **ဖခင်** ဟူသော **နာမ်** နှင့် **နှင့်အတူ** ဟူသော **ယှဉ်တွဲပြဝိဘတ်** တို့ ပါဝင်သည်။

(ဂ) ကတ္တား + **ခွဲထုတ်ရာပြပုဒ်** + **ကတ္တားအဖြည့်ပုဒ်** + ကြိယာ

ဆန်စပါး + မြန်မာ့ထွက်ကုန် + အဓိကထွက်ကုန် + ဖြစ်သည်။
သည် များအနက်

ကတ္တားတစ်ခုနှင့် ကြိယာတစ်ခုသာ ပါဝင်သော ဝါကျရိုး၌ **မြန်မာ့ထွက်ကုန်များအနက်** ဟူသော **ခွဲထုတ်ရာပြပုဒ်** နှင့် **အဓိကထွက်ကုန်** ဟူသော **ကတ္တားအဖြည့်ပုဒ်** တို့ကို ဖြည့်စွက်ဖွဲ့စည်းထားသည်။ ဤသို့ ဖြည့်စွက်ဖွဲ့စည်းခြင်းဖြင့် ဆန်စပါးသည် မည်သို့သော ထွက်ကုန်ပစ္စည်းမျိုးဖြစ်သည်ကို **မြန်မာ့ထွက်ကုန်များအနက်**နှင့် **အဓိကထွက်ကုန်** ဟူသော ပုဒ်တို့က ပြသည်။

**မြန်မာ့ထွက်ကုန်များအနက်** ဟူသော ခွဲထုတ်ရာပြပုဒ်၌ **မြန်မာ့ထွက်ကုန်များ** ဟူသော **နာမ်** နှင့် **အနက်** ဟူသော **ခွဲထုတ်ရာပြဝိဘတ်** တို့ ပါဝင်သည်။

**အဓိကထွက်ကုန်** ဟူသော **ကတ္တားအဖြည့်ပုဒ်** ၌မူ **ကတ္တားအဖြည့်ဝိဘတ်** မပါဝင်ပေ။

(ဃ) ကတ္တား + **ရည်စူးချက်ပြပုဒ်** + **ကံပုဒ်** + ကြိယာ

တပ်မတော်သား + နိုင်ငံအတွက် + အသက်ကို + ပေးလှူ

တို့သည် ကြသည်။

ကတ္တားတစ်ခုနှင့် ကြိယာတစ်ခုသာ ပါဝင်သော ဝါကျရိုး၌ **နိုင်ငံအတွက်**ဟူသော **ရည်စူးချက်ပြပုဒ်**နှင့် **အသက်ကို** ဟူသော **ကံပုဒ်**တို့ကို ဖြည့်စွက်ဖွဲ့စည်းထားသည်။ ဤသို့ ဖြည့်စွက်ဖွဲ့စည်းခြင်းဖြင့် တပ်မတော်သားတို့၏ နိုင်ငံချစ်စိတ်ကို **နိုင်ငံအတွက်** နှင့် **အသက်ကို** ဟူသော ပုဒ်တို့က ပြသည်။

**နိုင်ငံအတွက်** ၌ **နိုင်ငံ** ဟူသော **နာမ်** နှင့် **အတွက်** ဟူသော **ရည်စူးချက်ပြဝိဘတ်** တို့ ပါဝင်သည်။

**အသက်ကို** ၌ **အသက်** ဟူသော **နာမ်** နှင့် **ကို** ဟူသော **ကံဝိဘတ်** တို့ ပါဝင်သည်။

(င) ကတ္တား + **အချိန်ဆက်တိုက်ပြပုဒ်** + ကြိယာ

လူနာသည် + ငါးရက်တိုင်တိုင် + မေ့မြောနေသည်။

ကတ္တားတစ်ခုနှင့် ကြိယာတစ်ခုသာ ပါဝင်သော ဝါကျရိုး၌ **ငါးရက်တိုင်တိုင်** ဟူသော **အချိန်ဆက်တိုက်ပြပုဒ်** ကို ဖြည့်စွက်ဖွဲ့စည်းထားသည်။ ဤသို့ ဖြည့်စွက် ဖွဲ့စည်းခြင်းဖြင့် လူနာ တစ်ဆက်တည်း အချိန်မည်မျှကြာအောင် မေ့မြောနေသည်ကို **ငါးရက်တိုင်တိုင်** ဟူသော ပုဒ်ကပြသည်။

**ငါးရက်တိုင်တိုင်** ဟူသော **အချိန်ဆက်တိုက်ပြပုဒ်** ၌ **ငါးရက်** ဟူသော **နာမ်**နှင့် **တိုင်တိုင်** ဟူသော **အချိန်ဆက်တိုက်ပြဝိဘတ်**တို့ ပါဝင်သည်။

**ဝါကျရှိုးဖွဲ့နည်းအမျိုးမျိုး**

| | | | | | | | | |
|---|---|---|---|---|---|---|---|---|
| ၁။ | ကတ္တား | + | **လိုက်လျောပြပုဒ်** | + | ကြိယာ | | | |
| | ပန်းတို့သည် | + | ရာသီအလိုက် | + | ဖူးပွင့်ကြသည်။ | | | |
| ၂။ | ကတ္တား | + | **ယှဉ်တွဲပြပုဒ်** | + | ကြိယာ | | | |
| | မောင်စုသည် | + | ဖခင်နှင့်အတူ | + | ပြန်လာသည်။ | | | |
| ၃။ | ကတ္တား | + | **ခွဲထုတ်ရာပြပုဒ်** | + | **ကတ္တားအဖြည့်ပုဒ်** | + | ကြိယာ | |
| | ဆန်စပါးသည် | + | မြန်မာ့ထွက်ကုန်များအနက် | + | အဓိကထွက်ကုန် | + | ဖြစ်သည်။ | |
| ၄။ | ကတ္တား | + | **ရည်စူးချက်ပြပုဒ်** | + | **ကံပုဒ်** | + | ကြိယာ | |
| | တပ်မတော်သားတို့သည် | + | နိုင်ငံအတွက် | + | အသက်ကို | + | ပေးလှူကြသည်။ | |
| ၅။ | ကတ္တား | + | **အချိန်ဆက်တိုက်ပြပုဒ်** | + | ကြိယာ | | | |
| | လူနာသည် | + | ငါးရက်တိုင်တိုင် | + | မေ့မြောနေသည်။ | | | |

## လေ့ကျင့်ခန်း

၁။ ဝါကျဆိုသည်မှာ အဘယ်နည်း။

၂။ ဝါကျရိုးဆိုသည်မှာ အဘယ်နည်း။ သင်လေ့လာသင်ကြားပြီးသော ဝါကျရှိုးဖွဲ့နည်းအမျိုးမျိုးအနက်မှ ဝါကျရှိုးဖွဲ့နည်း ၅မျိုးကို သာဓကဝါကျနှင့်တကွ ရေးပြပါ။

၃။ အောက်ပါဝါကျများ၌ မျဉ်းသားထားသော ပုဒ်များ၏အမည်ကို ဖော်ပြပါ။

(က) ဤပန်းသည် အင်ကြင်းပန်း ဖြစ်သည်။

(ခ) မန္တလေး–ရန်ကုန် အမြန်ရထားသည် ရန်ကုန်ဘူတာသို့ ညနေ ၆ နာရီခွဲတွင် ဆိုက်မည်။

(ဂ) ဆရာကြီးသည် အာဇာနည်နေ့အကြောင်းကို ကျောင်းသားများအား ဟောပြောသည်။

(ဃ) အတန်းသားများက မောင်တင်ကို အတန်းခေါင်းဆောင် မြှောက်သည်။

(င) အောင်နက်သည် အမဲရိုးကို စျေးမှ ချီလာသည်။

(စ) ကျွန်ုပ်တို့သည် မီးသတိပေးပိုစတာကြီးကို လမ်းထိပ်၌ စိုက်ထူကြသည်။

၄။ အောက်ပါဝါကျများရှိ ကွက်လပ်တို့၌ နာမ်ဝိဘတ်ဆက်ထားသောပုဒ်တို့ကိုဖြည့်ပါ။

(က) ရွာသူရွာသားများ၏ .............. ရွာလမ်းမကြီး ဖောက်ပြီးသွားပြီ။

(ခ) မဟာဇနကသည် .............. ထီးနန်းကို ရ၏။

(ဂ) သူသည် ............... စီးပွားဖြစ်သွားသည်။

(ဃ) သူ့ကို ............... အရေးယူရမည်။

(င) လယ်ယာဦးကြီးတို့သည် သီးနှံများကို ............... စိုက်ပျိုးကြ၏။

(စ) မိမိပြုသော ကောင်းမှု ............... ကောင်းကျိုး ခံစားကြရသည်။

(ဆ) သူသည် ပေးထားသော ............... လုပ်လေ့ရှိသည်။

(ဇ) ပွဲကြည့်ပရိသတ်သည် ............... ပြည့်နေသည်။

(ဈ) မိဘတို့၏ ............... ထိမ်းမြားမင်္ဂလာပွဲကို ကျင်းပပေးသည်။

(ည) ငှက်ပျောသီးသည် ............... ဖြစ်စေသည်။

(ဋ) မိဘတိုင်းသည် သားသမီးကို ............... ချစ်ကြသည်။

(ဌ) မင်းကြီးသည် တိုင်းပြည်ကို ............... အုပ်ချုပ်သည်။

(ဍ) ဉာဏ်ပုဂ္ဂိုလ်ကြီးသည် နာယကဂုဏ် ............... ပြည့်စုံ၏။

(ဎ) ဗေဒါပင်များသည် ............... မျောပါလာသည်။

(ဏ) သူသည် ............... အကြီးဆုံးဖြစ်သည်။

(တ) ............... ဘိန်းမုန့်ကို အကြိုက်ဆုံးဖြစ်သည်။

(ထ) လမ်းလျှောက်ခြင်းသည် ............... ကောင်းသော ကိုယ်လက်လှုပ်ရှားနည်း တစ်မျိုး ဖြစ်သည်။

(ဒ) အမေသည် ............... မာလကာသီးများ ဝယ်လာသည်။

(ဓ) အဖေသည် ဧည့်သည်များကို ............... လိုက်ပို့သည်။

(န) ဗုဒ္ဓသည် ............... ဒုက္ကရစရိယာ ကျင့်ခဲ့သည်။

(ပ) ပြည်ထောင်စုနေ့ပြပွဲကို ကျိုက္ကဆံကွင်း၌ ............... ကျင်းပသည်။

# ပုဒ်ဖြတ်ပုဒ်ရပ်သင်္ကေတများ

**ပုဒ်ဖြတ်ပုဒ်ရပ်သင်္ကေတများ**

၅၀။ မြန်မာစာရေးသားရာ၌ အဓိပ္ပာယ်ရှင်းလင်းစေရန် ပုဒ်ကလေး၊ ပုဒ်မ၊ ဝိုက်ကွင်း စသော သင်္ကေတများကို အသုံးပြု၍ ရေးရသည်။ ထိုသင်္ကေတများကို **ပုဒ်ဖြတ်ပုဒ်ရပ်သင်္ကေတများ** ဟု ခေါ်သည်။

**ပုဒ်မကြီး** ။ ။

၅၁။(က) ရုံးစာရေးရာ၌ **အကြောင်းအရာ၊ ရည်ညွှန်းချက်၊ မှတ်ချက်** တို့၏နောက်၌ ပုဒ်မကြီး (ပုဒ်မ ၂-ခု)ကို သုံးသည်။

**သာဓက**။ ။

- အကြောင်းအရာ။ ။ ၃ လပတ် အစီရင်ခံစာပေးပို့ခြင်း။
- ရည်ညွှန်းချက်။ ။ ၅၅၉/မစဖ(ဖ)၁-၄/၈၁။
- မှတ်ချက်။ ။ တစ်ဦးဆိုင်နာမ်ကို ကေဝဝိနောမ်ဟု ရှေးကခေါ်ကြသည်။

(ခ) စာပိုဒ် **ဘေးခေါင်းစဉ်**နောက်တွင် ပုဒ်မကြီး (ပုဒ်မ ၂-ခု)ကို သုံးသည်။

**သာဓက**။ ။

- နှမ်း။ ။ နှမ်းသည် ပူ၍ခြောက်သွေ့သော ရာသီဥတုကိုကြိုက်သည်။ သဲဆန်သော မြေတွင်လည်းကောင်း၊ နုန်းတင်မြေတွင်လည်းကောင်း၊ နုန်း၊ စနယ်မြေတွင် လည်းကောင်း ရှင်သန်သည်။

**ဝိုက်ကွင်း ( )**

၅၂။(က) ရှိရင်းစာသားနှင့် ဆက်နွယ်သော အကြောင်းအရာ တစ်ရပ်ရပ်ကို ရေးသားသော **စကားချပ်**ကို ဝိုက်ကွင်းဖြင့် ပြသည်။

**သာဓက**။ ။

- ကုမုဒြာ-န/ ကုမုတ်ဒရာ/ အပွင့်ဖြူသော ကြာတစ်မျိုး။
  (ညအခါ လရောင်ခံ၍ ပွင့်သည်ဟု ဆိုကြသည်။)
- အလံ-န/ အလန်/ အရောင်ပုံစံ အမျိုးမျိုးရှိ၍ တိုင်၊ တုတ်တံ စသည်တွင် လွှင့်ထူရသော အဝတ်၊ သို့မဟုတ် စက္ကူဖြင့်ပြုလုပ်ထားသည့်အရာ။ (တိုင်းပြည်၊ ဘုရင်၊ လူမျိုး၊ အဖွဲ့အစည်းတစ်ခုခုကို ကိုယ်စားပြုသော၊ ကိစ္စတစ်ခုခုကို ရည်ညွှန်းသော အထိမ်းအမှတ်လက္ခဏာအဖြစ်သုံးသည်။)

(ခ) **အဆင့်၊ အမှတ်၊ အပိုဒ်** စသော စကားလုံးတို့၏နောက်ရှိ အစဉ်ပြကိန်းဂဏန်းများကို ဝိုက်ကွင်းဖြင့်ပြသည်။

**သာဓက**။ ။

- ဘာသာရပ်အားလုံးတွင် အဆင့် (၄) ရသူများသာ လျှောက်ထားနိုင်သည်။
- အမှတ် (၃) အစိုးရအလယ်တန်းကျောင်း။

– စာပိုဒ်အမှတ် (၅) တွင် ဖော်ပြထားသည်။

**မျဉ်းစောင်း /**

၅၃။ **အမိန့်ကြော်ငြာစာ၊ ကြော်ငြာစာ၊ စာအမှတ်** အမှတ်စဉ်တို့ကို ဖော်ပြရာ၌ မျဉ်းစောင်းကို သုံးသည်။

**သာဓက**။ ။

– ပြည်ထောင်စုဆိုရှယ်လစ်သမ္မတမြန်မာနိုင်ငံတော်
နိုင်ငံတော်ကောင်စီ
အမိန့်ကြော်ငြာစာ
အမှတ် ၁/၈၂

– ဝန်ထမ်းရွေးချယ်လေ့ကျင့်ရေးအဖွဲ့
ခြောက်ထပ်ရုံး၊ ကမ်းနားလမ်း၊ ရန်ကုန်မြို့
ကြော်ငြာစာအမှတ် ၁/၈၂

– စာအမှတ်–၅၇၉/မစဖ (ဝန်ထမ်း) ၂–၁၈/၈၂

**မျဉ်းရှည်**

၅၄။ စာပိုဒ်ခွဲရှိ **ယင်းတို့မှာ၊ ၎င်းတို့မှာ** စသည်တို့၏ နောက်တွင်လည်းကောင်း၊ စာပိုဒ်ခွဲကို ညွှန်းသော စာပိုဒ်ကြီး၏နောက်တွင်လည်းကောင်း မျဉ်းရှည်ကိုသုံးသည်။

**သာဓက**။ ။

– လူတို့ နေ့စဉ်စားသုံးသည့်အစာထဲတွင် အာဟာရဓာတ် ၆ မျိုး ပါရှိသည်။ ယင်းတို့မှာ —

၁။ အသားဓာတ်(ပရိုတိန်း)

၂။ အဆီဓာတ်

၃။ ကစီဓာတ် (ကာဘိုဟိုက်ဒရိတ်)

၄။ ဗီတာမင်

၅။ သတ္တုဓာတ်

၆။ ရေ တို့ ဖြစ်ကြသည်။

– ကျောက်အမျိုးအစားများကို အဓိကအားဖြင့် အောက်ပါအတိုင်း ၃မျိုး ခွဲခြားထား နိုင်သည်။ ယင်းတို့မှာ —

(က) မီးသင့်ကျောက်၊

(ခ) အနည်ကျကျောက်၊

(ဂ) အသွင်ပြောင်းကျောက်။

**မျက်တောင်ဖွင့် မျက်တောင်ပိတ်   “    ”**

၅၅။(က) **ကောက်နုတ်ချက်၊ ကိုးကားချက်၊ ဆိုရိုးစကား** စသည်တို့ကိုဖော်ပြရာ၌ မျက်တောင်ဖွင့် မျက်တောင်ပိတ်ကို သုံးသည်။

**သာဓက။   ။**

– “ကမ္ဘာမြေကြီးတွင် နေ့စဉ်လိုလို တစ်နေရာရာ၌ ငလျင်လှုပ်သည်” ဟု သိပ္ပံပညာရှင်တို့က အခိုင်အမာယုံကြည်သည်။

– “မျက်ခမ်းစပ်ရောဂါသည် ကူးစက်တတ်သည်၊ မျက်တောင် စူးတတ်သည်၊ မျက်စိကွယ်နိုင်သည်။ ကြိုတင်ကာကွယ်ကုသပါက မျက်စိမကွယ်ပါ” ဟူသော ပိုစတာကြော်ငြာဖြင့် ပညာပေးထားသည်ကို တွေ့ရသည်။

– “ပညာဟူသည် မြတ်ရွှေအိုး၊ ဥစ္စာဟူသည် မျက်လှည့်မျိုး”ဟု ဆိုရိုးစကား ရှိသည်။

(ခ) ပြောသူ၏စကားကို ပြောသည့်အတိုင်း တိုက်ရိုက်ဖော်ပြရာ၌ မျက်တောင်ဖွင့် မျက်တောင်ပိတ်ကို သုံးသည်။

**သာဓက။   ။**

– “မြန်မာစာရေးရာမှာ အဓိပ္ပာယ်ရှင်းလင်းအောင် ပုဒ်ဖြတ် ပုဒ်ရပ်တွေကို သူ့နေရာနှင့်သူ မှန်မှန်ကန်ကန် သုံးတတ်ဖို့လိုတယ်”ဟု ဆရာက တပည့်များကို ပြောသည်။

# အခန်း ၁၊ အတွဲ ၄

# ဗျည်းအက္ခရာ ၄ မျိုး

**ဗျည်းအက္ခရာ ၄ မျိုး**

၁။ ဗျည်းအက္ခရာတို့၏ ပင်ကိုအသံ ပြင်းမှု၊ မပြင်းမှု၊ လျော့မှု၊ တင်းမှုကိုအခြေခံ၍ ဗျည်းအက္ခရာတို့ကို ၄မျိုးခွဲသည်။ ၎င်းတို့မှာ–

(က) ဃောသအက္ခရာ (သံပြင်းအက္ခရာ)

( ခ ) အဃောသအက္ခရာ (သံညင်းအက္ခရာ)

( ဂ ) ဓနိတအက္ခရာ (သံတင်းအက္ခရာ)

(ဃ) သိထိလအက္ခရာ (သံလျော့အက္ခရာ) တို့ဖြစ်ကြသည်။

၂။(က) **ဃောသအက္ခရာ** (သံပြင်းအက္ခရာ)။ ။ ယင်း ၄ မျိုးတွင် ပင်ကိုအားဖြင့် ပြင်းသောအသံ (သံပြင်း)ရှိသော အက္ခရာကို **ဃောသအက္ခရာ**ဟု ခေါ်သည်။ ဃောသအက္ခရာ အလုံး ၂၀ ရှိသည်။ ၎င်းတို့မှာ–

(၁) တတိယအက္ခရာ ၅ လုံး (ဂ၊ ဇ၊ ဍ၊ ဒ၊ ဗ)

(၂) စတုတ္ထအက္ခရာ ၅ လုံး (ဃ၊ ဈ၊ ဎ၊ ဓ၊ ဘ)

(၃) ပဉ္စမအက္ခရာ ၅ လုံး (င၊ ည၊ ဏ၊ န၊ မ)

(၄) အဝဂ်အက္ခရာ ၅ လုံး (ယ၊ ရ၊ လ၊ ဝ၊ ဠ) တို့ ဖြစ်ကြသည်။

(ထိုဗျည်းအက္ခရာ အလုံး ၂၀ တို့၌ ပင်ကိုအားဖြင့် ပြင်းသောအသံ (သံပြင်း) အသီးသီးရှိကြသောကြောင့် ရွတ်ဆိုသောအခါ အသံပြင်းပြင်း ထွက်ကုန်၏။ ထို့ကြောင့် ထိုဗျည်းအက္ခရာအလုံး ၂၀ တို့ကို **ဃောသအက္ခရာ** ဟု ခေါ်သည်။

**မှတ်ချက်**။ ။ ရှေးဟောင်းသဒ္ဒါကျမ်းတို့၌မူ "ဟ" ကို ဃောသ(သံပြင်းအက္ခရာ)တွင် ထည့်သွင်းရေတွက်၍ ဃောသအက္ခရာ ၂၁ လုံးဟုပြသည်။

(ခ) **အဃောသအက္ခရာ** (သံညင်းအက္ခရာ)။ ။ ပင်ကိုအားဖြင့် မပြင်းသော အသံ(သံညင်း) ရှိသော အက္ခရာကို **အဃောသအက္ခရာ** ဟု ခေါ်သည်။

အဃောသအက္ခရာ ၁၂ လုံးရှိသည်။ ၎င်းတို့မှာ–

(၁) ပထမအက္ခရာ ၅ လုံး (က၊ စ၊ ဋ၊ တ၊ ပ)

(၂) ဒုတိယအက္ခရာ ၅ လုံး (ခ၊ ဆ၊ ဌ၊ ထ၊ ဖ)

(၃) အဝဂ်အက္ခရာ ၂ လုံး (သ၊ ဟ) တို့ဖြစ်ကြသည်။

(ထိုဗျည်းအက္ခရာ ၁၂ လုံးတို့၌ ပင်ကိုအားဖြင့် မပြင်းသော အသံ(သံညင်း)ရှိကြသဖြင့် ရွတ်ဆိုသောအခါ အသံညင်းညင်း ထွက်ကုန်၏။ ထို့ကြောင့် ထိုဗျည်းအက္ခရာ ၁၂ လုံးတို့ကို **အဃောသအက္ခရာ** ဟုခေါ်သည်။)

**မှတ်ချက်**။ ။ မြန်မာတို့ နေ့စဉ်ပြောဆိုကြရာ၌ "ဟ" အပါအဝင် သံညင်းအက္ခရာ ၁၂လုံးကို နေရာဌာနလိုက်၍ သံညင်းဖြင့်လည်းကောင်း၊ သံပြင်းဖြင့်လည်းကောင်း ရွတ်ဆိုကြသည်။ ယင်းသို့ သံညင်း၊ သံပြင်း ရွတ်ဆိုနိုင်သော အက္ခရာ ၁၂ လုံးကို မြန်မာဘာသာ၌ သံညင်းအက္ခရာဟူ၍ ယေဘုယျနည်းအားဖြင့် ခေါ်ဆိုသည်။ ရှေးဟောင်းသဒ္ဒါကျမ်းတို့၌မူ "ဟ"ကို ဃောသ(သံပြင်းအက္ခရာ)တွင် ထည့်သွင်းရေတွက်၍ အဃောသ အက္ခရာ ၁၁ လုံးဟု ပြသည်။

(ဂ) **ဓနိတအက္ခရာ** (သံတင်းအက္ခရာ)။ ။ အင်အားစိုက်ထုတ်၍ အသံတင်းတင်းရွတ်ဆိုအပ်သော အက္ခရာကို **ဓနိတအက္ခရာ**ဟုခေါ်သည်။ ဓနိတအက္ခရာ ၅လုံးရှိသည်။ ၎င်းတို့မှာ–

ဒုတိယအက္ခရာ ၅ လုံး (ခ၊ ဆ၊ ဌ၊ ထ၊ ဖ) တို့ဖြစ်ကြသည်။

(ထိုအက္ခရာ ၅ လုံးကို ရွတ်ဆိုသောအခါ အင်အားစိုက်ထုတ် ၍ ရွတ်ဆိုရ၏။ ထို့ကြောင့် ထိုအက္ခရာ ၅ လုံးကို **ဓနိတအက္ခရာ** ဟုခေါ်သည်။)

(ဃ) **သိထိလအက္ခရာ** (သံလျော့အက္ခရာ)။ ။ အင်အားများများ မစိုက်ထုတ်ဘဲ အသံလျော့လျော့ ရွတ်ဆိုအပ်သော အက္ခရာကို **သိထိလအက္ခရာ**ဟုခေါ်သည်။ သိထိလအက္ခရာ ၁၅ လုံး ရှိသည်။ ၎င်းတို့မှာ–

(၁) ပထမအက္ခရာ ၅ လုံး (က၊ စ၊ ဋ၊ တ၊ ပ)

(၂) တတိယအက္ခရာ ၅ လုံး (ဂ၊ ဇ၊ ဍ၊ ဒ၊ ဗ)

(၃) စတုတ္ထအက္ခရာ ၅ လုံး (ဃ၊ ဈ၊ ဎ၊ ဓ၊ ဘ) တို့ ဖြစ်ကြသည်။

(ထိုအက္ခရာ ၁၅ လုံးကို ရွတ်ဆိုသောအခါ အင်အားများများ စိုက်ထုတ်ခြင်းမပြုဘဲ လျော့လျော့ရွတ်ဆိုရ၏။ ထို့ကြောင့် ထိုအက္ခရာ ၁၅လုံးကို **သိထိလအက္ခရာ** ဟု ခေါ်သည်။)

**မှတ်ချက်** ။ ။ "ဃ၊ ဈ၊ ဎ၊ ဓ၊ ဘ" အက္ခရာတို့သည် ပါဠိ ဘာသာ၌ သံတင်း(ဓနိတ) များ ဖြစ်သော်လည်း မြန်မာတို့က "ဂ၊ ဇ၊ ဍ၊ ဒ၊ ဗ" တို့နှင့်အတူ သံလျော့အနေ ထား၍ ရွတ်ဖတ်ပြောဆိုသဖြင့် သံလျော့အက္ခရာများအဖြစ်ခံခဲ့ပြသည်။ ဗုဒ္ဓဘာသာ မြန်မာယဉ်ကျေးမှုအရ ရှင်ပြုရဟန်းခံသာသနာကိစ္စများတွင်ကား ထို "ဃ၊ ဈ၊ ဎ၊ ဓ၊ ဘ"တို့ကို သံတင်း (ဓနိတအက္ခရာ)များအဖြစ် အသံတင်းတင်းမာမာဖြစ်အောင် ရွတ်ဆိုကြသည်။

**ဝဂ်ဗျည်းများ၏ အဃောသ၊ ဃောသ၊ သိထိလ၊ ဓနိတ ပုံပြဇယား**

| အဃောသ(သံညင်း) | | ဃောသ(သံပြင်း) | | |
|---|---|---|---|---|
| သိထိလ (သံလျော့) | ဓနိတ (သံတင်း) | သိထိလ (သံလျော့) | သိထိလ (သံလျော့) | သိထိလ (သံလျော့) |
| က | ခ | ဂ | ဃ | င |
| စ | ဆ | ဇ | ဈ | ည |
| ဋ | ဌ | ဍ | ဎ | ဏ |
| တ | ထ | ဒ | ဓ | န |
| ပ | ဖ | ဗ | ဘ | မ |

**အဝဂ်ဗျည်းများ၏ အဃောသ၊ ဃောသ ပုံပြဇယား**

| ဃောသ (သံပြင်း) | | | | | အဃောသ (သံညင်း) | |
|---|---|---|---|---|---|---|
| ယ | ရ | လ | ဝ | ဠ | သ | ဟ |

**မှတ်ချက်။** ။ အဝဂ်ဗျည်းများမှာ ဌာန်မတူသောကြောင့် သိထိလ၊ ဓနိတ ခွဲခြားရန်မလို။

# နာမ်

**နာမ်**

၃။ သက်ရှိသက်မဲ့၊ ဒြပ်ရှိဒြပ်မဲ့တို့၏ အမည်ဟူသမျှကို **နာမ်** ဟုခေါ်သည်။

**သာဓက**။ ။ မောင်လှ၊ ကျောင်းသား၊ လူ၊ တိရစ္ဆာန်၊ သတ္တိ၊ အချစ်၊ အမုန်း၊ ခွန်အား။

၄။ နာမ်ကို–

(က) အနက်အဓိပ္ပာယ်အရ ၄မျိုး

(ခ) ဖွဲ့စည်းတည်ဆောက်ပုံအရ ၄မျိုး ခွဲသည်။

(အနက်အဓိပ္ပာယ်အရ နာမ် ၄မျိုးအကြောင်းကို အတွဲ ၁၊ အခန်း ၃ ၌ ဖော်ပြခဲ့ပြီ။ ဤအတွဲ ၁၊ အခန်း ၄ ၌ ဖွဲ့စည်းတည်ဆောက်ပုံအရ နာမ် ၄မျိုး အကြောင်းကို ဆက်လက်ဖော်ပြမည်။)

၅။ နာမ်သည် ဖွဲ့စည်းတည်ဆောက်ပုံအရ ၄မျိုးရှိသည်။ ၎င်းတို့မှာ–

(က) ပင်ကိုနာမ်

(ခ) ဂုဏ်ရည်ပြနာမ်

(ဂ) ကြိယာနာမ်

(ဃ) ပေါင်းစပ်နာမ်တို့ ဖြစ်ကြသည်။

၆။(က) **ပင်ကိုနာမ်**။ ။ မြန်မာသဒ္ဒါနည်းဖြင့် ခွဲ စိတ်၍လည်း မရ၊ ပေါင်းစပ်ဖွဲ့စည်းထားခြင်းလည်း မဟုတ်၊ မူလအတိုင်းဖြစ်သော နာမ်ကို **ပင်ကိုနာမ်** ဟုခေါ်သည်။

**သာဓက**။ ။ လူ၊ သား၊ ငါး၊ နေ၊ စပါး၊ သတင်း၊ ကြက်သွန်၊ ထမင်း၊ ပညာ၊ ကရုဏာ၊ သညာ၊ ဒုက္ခ၊ ဒရိုင်ဘာ၊ ဒါရိုက်တာ။

(စကားလုံးတစ်လုံး၊ သို့မဟုတ် ပုဒ်တစ်ခုကို ခွဲစိတ်လိုက်လျှင် ထိုစကားလုံး၏ မူလ အနက်အဓိပ္ပာယ် ပျက်သွားသည်ကို "ခွဲစိတ်၍မရ"ဟု ဆိုလိုခြင်းဖြစ်သည်။)

(၁) **လူ၊ ငါး၊ နေ** အစရှိသည်တို့သည် ခွဲစိတ်၍လည်းမရ၊ ပေါင်းစပ်ဖွဲ့စည်းထား ခြင်းလည်း မဟုတ်သော **ပင်ကိုနာမ်**များ ဖြစ်ကြသည်။

**စပါး** ဟူသောနာမ်သည် ခွဲစိတ်၍လည်းမရ၊ ပေါင်းစပ် ဖွဲ့စည်းထားခြင်းလည်း မဟုတ်သော နာမ်ဖြစ်သည်။ **စပါး**၏ ဆိုလိုရင်းအနက်မှာ "ပူအိုက်စွတ်စိုသော အရပ်တို့တွင် ဆန်အလို့ငှာစိုက်ပျိုးရသော ကောက်ပင်" ဖြစ်သည်။

**စပါး**ကို ခွဲစိတ်လိုက်လျှင် **စ** နှင့် **ပါး** ဟူသော အစိတ်အပိုင်း ၂ ခုကို ရမည်။ သို့ရာတွင် **စ** သည်လည်းကောင်း၊ **ပါး** သည်လည်းကောင်း **စပါး၏** ဆိုလိုရင်း အနက်ကို မပေးနိုင်ချေ။ ခွဲစိတ်ခြင်းဖြင့် မူလအဓိပ္ပာယ်မှာ ပျက်သွားသည်။ ထို့ကြောင့် **စပါး**သည် ခွဲစိတ်မရသောနာမ်ဖြစ်သည်။

ထို့ပြင် **ရေအိုး၊ ရေကန်၊ အိုးစည်** စသည်တို့ကဲ့သို့ ပုဒ်အချင်းချင်း ပေါင်းစပ်ဖွဲ့စည်းထားသည့် ပေါင်းစပ်ပုဒ်လည်း မဟုတ်သောကြောင့် **စပါး**သည် **ပင်ကိုနာမ်** ဖြစ်သည်။

(ထိုနည်းအတူ **သတင်း၊ ကြက်သွန်၊ ထမင်း**ဟူသောနာမ်တို့သည်လည်း ခွဲစိတ်၍လည်းမရ၊ ပေါင်းစပ်ဖွဲ့စည်းထားခြင်းလည်း မဟုတ်သော **ပင်ကိုနာမ်** များဖြစ်ကြသည်။)

(၂) **ပညာ၊ ကရုဏာ၊ သညာ၊ ဒုက္ခ** အစရှိသော နာမ်ပုဒ်တို့မှာမူ မြန်မာဘာသာစကားတို့တွင် အသုံးတွင်ကျယ် နေပြီဖြစ်သည့် ပါဠိစကားလုံးများ ဖြစ်ကြသည်။ ထို စကားလုံးများကို ပါဠိဘာသာစကားတွင် ခွဲခြမ်း စိတ်ဖြာနိုင်မည်ဖြစ်သော်လည်း မြန်မာသဒ္ဒါနည်းအားဖြင့် ခွဲခြမ်းစိတ်ဖြာ၍ မရနိုင်ခြင်းကြောင့် ၎င်းတို့သည်လည်း **ပင်ကိုနာမ်**များပင်ဖြစ်ကြသည်။

(ထိုနည်းအတူ **ဒရိုင်ဘာ၊ ဒါရိုက်တာ** အစရှိသော နာမ်များသည် အင်္ဂလိပ်ဘာသာစကားမှ တိုက်ရိုက်မွေးစားထားသောစကားလုံးများ ဖြစ်ကြသည်။ ၎င်းတို့ကို အင်္ဂလိပ်ဘာသာစကား၌ ခွဲခြမ်းစိတ်ဖြာနိုင်မည် ဖြစ်သော်လည်း မြန်မာဘာသာစကားတွင် **ဒရိုင်ဘာ၊ ဒါရိုက်တာ** စသည်ဖြင့် အသုံးတွင်ကျယ်နေပြီး မြန်မာသဒ္ဒါနည်းအားဖြင့် ခွဲခြမ်းစိတ်ဖြာ၍ မရနိုင်သဖြင့် ၎င်းတို့သည်လည်း **ပင်ကိုနာမ်** များပင်ဖြစ်ကြသည်။)

(ခ) **ဂုဏ်ရည်ပြနာမ်**။ ။ ဂုဏ်အရည်အချင်းပြပုဒ်များ၏ ရှေ့၌ ဖြစ်စေ၊ နောက်၌ဖြစ်စေ ပစ္စည်းဆက်၍ဖြစ်လာသောနာမ်ကို **ဂုဏ်ရည်ပြနာမ်**ဟု ခေါ်သည်။

**သာဓက**။ ။ အကောင်း၊ ကောင်းမှု၊ ကောင်းခြင်း၊ အလှ၊ လှခြင်း၊ အပျော်၊ ပျော်စရာ။

(**ကောင်း၊ လှ၊ ပျော်**တို့သည် ဂုဏ်အရည်အချင်းပြပုဒ်များဖြစ်ကြသည်။ ၎င်းတို့၏ရှေ့၌ဖြစ်စေ၊ နောက်၌ဖြစ်စေ **အ၊ မှု၊ ခြင်း၊ ရာ၊ ဖွယ်** စသော ပစ္စည်းတို့ကို ဆက်လိုက်သောအခါ **အကောင်း၊ ကောင်းမှု၊ ကောင်းခြင်း၊ အလှ၊ လှခြင်း၊ အပျော်၊ ပျော်စရာ**ဟူသော ဂုဏ်ရည်ပြနာမ်များ ဖြစ်လာကြသည်။)

(၁) **ဂုဏ်အရည်အချင်းပြပုဒ်များ၏ရှေ့၌ ပစ္စည်းဆက်၍ဖြစ်လာသော ဂုဏ်ရည်ပြနာမ်များ**

**သာဓက**။ ။

| **ရှေ့ဆက်ပစ္စည်း** | **+** | **ဂုဏ်ရည်ပြပုဒ်** | **=** | **ဂုဏ်ရည်ပြနာမ်** |
|---|---|---|---|---|
| အ | + | ဆိုး | = | အဆိုး |
| အ | + | ကောင်း | = | အကောင်း |
| အ | + | နီ | = | အနီ |
| အ | + | ဖြူ | = | အဖြူ |
| အ | + | အေး | = | အအေး |
| အ | + | ပူ | = | အပူ |

(၂) **ဂုဏ်အရည်အချင်းပြပုဒ်များ၏နောက်၌ ပစ္စည်းဆက်၍ ဖြစ်လာသော ဂုဏ်ရည်ပြနာမ်များ**

**သာဓက**။ ။

| **ဂုဏ်ရည်ပြပုဒ်** | **+** | **နောက်ဆက်ပစ္စည်း** | **=** | **ဂုဏ်ရည်ပြနာမ်** |
|---|---|---|---|---|
| ကောင်း | + | မှု | = | ကောင်းမှု |
| သာယာ | + | မှု | = | သာယာမှု |
| ထူးခြား | + | ချက် | = | ထူးခြားချက် |
| ထင်ရှား | + | ခြင်း | = | ထင်ရှားခြင်း |
| ကျော်ကြား | + | ခြင်း | = | ကျော်ကြားခြင်း |
| ရဲရင့် | + | ခြင်း | = | ရဲရင့်ခြင်း |

(ဂ) **ကြိယာနာမ်**။ ။ကြိယာပုဒ်၏ရှေ့၌ဖြစ်စေ၊ နောက်၌ဖြစ်စေ ပစ္စည်းဆက်၍ ဖြစ်လာသောနာမ်ကို **ကြိယာနာမ်**ဟု ခေါ်သည်။

**သာဓက** ။ ။ အစား၊ စားဖွယ်၊ လုပ်ဆောင်ချက်၊ ကူညီမှု၊ နေစရာ။

(**စား၊ လုပ်ဆောင်၊ ကူညီ၊ နေ** တို့သည် ကြိယာပုဒ်များဖြစ်ကြသည်။ ၎င်းတို့၏ ရှေ့၌ဖြစ်စေ၊ နောက်၌ဖြစ်စေ **အ၊ ဖွယ်၊ ချက်၊ မှု၊ ခြင်း၊ စရာ** စသော ပစ္စည်း တို့ကို ဆက်လိုက်သောအခါ **အစား၊ စားဖွယ်၊ လုပ်ဆောင်ချက်၊ ကူညီမှု၊ နေစရာ** ဟူသော ကြိယာနာမ်များ ဖြစ်လာကြသည်။)

(၁) **ကြိယာ၏ရှေ့၌ ပစ္စည်းဆက်၍ဖြစ်လာသော ကြိယာနာမ်များ**

**သာဓက**။ ။

| **ရှေ့ဆက်ပစ္စည်း** | **+** | **ကြိယာ** | **=** | **ကြိယာနာမ်** |
|---|---|---|---|---|
| အ | + | စား | = | အစား |
| အ | + | သွား | = | အသွား |
| အ | + | ပြော | = | အပြော |
| အ | + | မြင် | = | အမြင် |

(၂) **ကြိယာ၏နောက်၌ ပစ္စည်းဆက်၍ဖြစ်လာသော ကြိယာနာမ်များ**

**သာဓက** ။ ။

| **ကြိယာ** | **+** | **နောက်ဆက်ပစ္စည်း** | **=** | **ကြိယာနာမ်** |
|---|---|---|---|---|
| ကဲ့ရဲ့ | + | ဖွယ် | = | ကဲ့ရဲ့ဖွယ် |
| ပြန်ကြား | + | ချက် | = | ပြန်ကြားချက် |
| တီထွင် | + | မှု | = | တီထွင်မှု |
| ခွင့်ပြု | + | ခြင်း | = | ခွင့်ပြုခြင်း |
| ပေး | + | စရာ | = | ပေးစရာ |

(ဃ) **ပေါင်းစပ်နာမ်**။ ။ ဝိဘတ်၊ ပစ္စည်း၊ သမ္ဗန္ဓတို့ကို ကြား၌မခံဘဲ နာမ်၊ ကြိယာ၊ နာမ်စား၊ နာမဝိသေသန၊ ကြိယာဝိသေသနတို့ကို ထိုက်သည့်အားလျော်စွာ ပူးတွဲထားသောနာမ်ကို **ပေါင်းစပ်နာမ်**ဟု ခေါ်သည်။

**သာဓက** ။ ။ ရေအိုး၊ အိမ်ဟောင်း၊ မီးခြစ်၊ လက်ပတ်နာရီ၊ ပေါက်တူး၊ သောက်ရေ။

၇။ ဤသို့ပေါင်းစပ်ရာတွင် ပါဝင်ပေါင်းစပ်သော ဝါစင်္ဂကိုလိုက်၍ အောက်ပါအတိုင်း အမျိုးမျိုး ခွဲခြားလေ့လာနိုင်သည်။

(က) နာမ် + နာမ်
(ခ) နာမ် + နာမဝိသေသန
(ဂ) နာမ် + နာမဝိသေသန + နာမ်
(ဃ) နာမ် + နာမ် + နာမဝိသေသန
(င) နာမ် + ကြိယာ
(စ) နာမ် + နာမ် + ကြိယာ
(ဆ) နာမ် + ကြိယာ + နာမ်
(ဇ) ကြိယာ + ကြိယာ
(ဈ) ကြိယာ + နာမ်

၈။(က) **နာမ်+နာမ်**။ ။ နာမ်ပုဒ်တစ်ခုနှင့် အခြားနာမ်ပုဒ်တစ်ခုကို ပေါင်းစပ်လိုက်ခြင်းဖြင့် ပေါင်းစပ်နာမ် ဖြစ်လာသည်။

| | | | | | | |
|---|---|---|---|---|---|---|
| **သာဓက**။ | ။ | **နာမ်** | **+** | **နာမ်** | **=** | **ပေါင်းစပ်နာမ်** |
| | | ရေ | + | အိုး | = | ရေအိုး |
| | | ရေ | + | ခွက် | = | ရေခွက် |
| | | မီး | + | ရထား | = | မီးရထား |
| | | ပင်လယ် | + | ငါး | = | ပင်လယ်ငါး |

(ခ) **နာမ်+နာမဝိသေသန**။ ။ နာမ်ပုဒ်တစ်ခုနှင့် နာမဝိသေသနပုဒ်တစ်ခုကို ပေါင်းစပ်လိုက်ခြင်းဖြင့် ပေါင်းစပ်နာမ် ဖြစ်လာသည်။

| | | | | | | |
|---|---|---|---|---|---|---|
| **သာဓက**။ | ။ | **နာမ်** | **+** | **နာမဝိသေသန** | **=** | **ပေါင်းစပ်နာမ်** |
| | | မီး | + | ပူ | = | မီးပူ |
| | | ရေ | + | နွေး | = | ရေနွေး |
| | | အိမ် | + | ဟောင်း | = | အိမ်ဟောင်း |
| | | တိုက် | + | သစ် | = | တိုက်သစ် |

(ဂ) **နာမ်+နာမဝိသေသန+နာမ်**။ ။ နာမ်ပုဒ်တစ်ခု၊ နာမဝိသေသနပုဒ်တစ်ခုနှင့် နာမ်ပုဒ်တစ်ခုတို့ကို အစဉ်အတိုင်း ပေါင်းစပ်လိုက်ခြင်းဖြင့် ပေါင်းစပ်နာမ် ဖြစ်လာသည်။

| | | | | | | | | |
|---|---|---|---|---|---|---|---|---|
| **သာဓက**။ | ။ | **နာမ်** | **+** | **နာမဝိသေသန** | **+** | **နာမ်** | **=** | **ပေါင်းစပ်နာမ်** |
| | | ရေ | + | နွေး | + | အိုး | = | ရေနွေးအိုး |
| | | ရေ | + | ပူ | + | စမ်း | = | ရေပူစမ်း |
| | | ခြေ | + | လျင် | + | တပ် | = | ခြေလျင်တပ် |

(ဃ) **နာမ်+နာမ်+နာမဝိသေသန**။ ။ နာမ်ပုဒ်နှစ်ခုနှင့် နာမဝိသေသနပုဒ်တစ်ခုကို အစဉ်အတိုင်း ပေါင်းစပ်လိုက်ခြင်းဖြင့် ပေါင်းစပ်နာမ် ဖြစ်လာသည်။

**သာဓက** ။ ။

| **နာမ်** | + | **နာမ်** | + | **နာမဝိသေသန** | = | **ပေါင်းစပ်နာမ်** |
|---|---|---|---|---|---|---|
| ပင်လယ် | + | ရေ | + | တိမ် | = | ပင်လယ်ရေတိမ် |
| ပင်လယ် | + | ရေ | + | ငန် | = | ပင်လယ်ရေငန် |

(င) **နာမ် + ကြိယာ**။ ။ နာမ်ပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခုကို အစဉ်အတိုင်း ပေါင်းစပ်လိုက်ခြင်းဖြင့် ပေါင်းစပ်နာမ် ဖြစ်လာသည်။

**သာဓက** ။ ။

| **နာမ်** | + | **ကြိယာ** | = | **ပေါင်းစပ်နာမ်** |
|---|---|---|---|---|
| ခါး | + | ပတ် | = | ခါးပတ် |
| ငါး | + | ကြော် | = | ငါးကြော် |
| ပဲ | + | လှော် | = | ပဲလှော် |

(စ) **နာမ်+နာမ်+ကြိယာ**။ ။ နာမ်ပုဒ်နှစ်ခုနှင့် ကြိယာပုဒ်တစ်ခုကို ပေါင်းစပ်လိုက်ခြင်းဖြင့် ပေါင်းစပ်နာမ် ဖြစ်လာသည်။

**သာဓက**။ ။

| **နာမ်** | + | **နာမ်** | + | **ကြိယာ** | = | **ပေါင်းစပ်နာမ်** |
|---|---|---|---|---|---|---|
| စိန် | + | ရင် | + | ထိုး | = | စိန်ရင်ထိုး |
| မြ | + | လည် | + | ဆွဲ | = | မြလည်ဆွဲ |
| ရွှေ | + | လက် | + | စွပ် | = | ရွှေလက်စွပ် |

(ဆ) **နာမ်+ကြိယာ+နာမ်**။ ။ နာမ်ပုဒ်တစ်ခု၊ ကြိယာပုဒ်တစ်ခုနှင့် နာမ်ပုဒ်တစ်ခုတို့ကို အစဉ်အတိုင်း ပေါင်းစပ်လိုက်ခြင်းဖြင့် ပေါင်းစပ်နာမ်ဖြစ်လာသည်။

**သာဓက**။ ။

| **နာမ်** | + | **ကြိယာ** | + | **နာမ်** | = | **ပေါင်းစပ်နာမ်** |
|---|---|---|---|---|---|---|
| တိုက် | + | ခံ | + | အိမ် | = | တိုက်ခံအိမ် |
| ပျဉ် | + | ထောင် | + | အိမ် | = | ပျဉ်ထောင်အိမ် |
| လက် | + | ပတ် | + | နာရီ | = | လက်ပတ်နာရီ |
| ခြေ | + | သုတ် | + | ပုဆိုး | = | ခြေသုတ်ပုဆိုး |

(ဇ) **ကြိယာ+ကြိယာ**။ ။ ကြိယာပုဒ်နှစ်ခုကို ပေါင်းစပ်လိုက်ခြင်းဖြင့် ပေါင်းစပ်နာမ် ဖြစ်လာသည်။

**သာဓက**။ ။

| **ကြိယာ** | + | **ကြိယာ** | = | **ပေါင်းစပ်နာမ်** |
|---|---|---|---|---|
| ပေါက် | + | တူး | = | ပေါက်တူး |
| ထွေး | + | ခံ | = | ထွေးခံ |
| အုပ် | + | ဆောင်း | = | အုပ်ဆောင်း |

(ဈ) **ကြိယာ + နာမ်**။ ။ ကြိယာပုဒ်တစ်ခုနှင့် နာမ်ပုဒ်တစ်ခုကို ပေါင်းစပ်လိုက်ခြင်းဖြင့် ပေါင်းစပ်နာမ်ဖြစ်လာသည်။

**သာဓက**။ ။

| **ကြိယာ** | + | **နာမ်** | = | **ပေါင်းစပ်နာမ်** |
|---|---|---|---|---|
| သောက် | + | ရေ | = | သောက်ရေ |

| | | | | |
|---|---|---|---|---|
| ပြုတ် | + | ဆန် | = | ပြုတ်ဆန် |
| လှော် | + | အိမ် | = | လှော်အိမ် |
| လျက် | + | ဆား | = | လျက်ဆား |
| ကြိတ် | + | ဆုံ | = | ကြိတ်ဆုံ |

## လေ့ကျင့်ခန်း

၁။ အောက်ပါဝါကျများရှိ မျဉ်းသားထားသော နာမ်တို့သည် ဖွဲ့စည်းတည်ဆောက်ပုံအရ မည်သည့်နာမ်ဖြစ်သည်ကို ဖော်ပြပါ။

(က) ယနေ့နံနက်ကြားရသော သတင်းသည် မင်္ဂလာရှိပါပေသည်။

(ခ) စပါးသည် မြန်မာနိုင်ငံ၏ အဓိကထွက်ကုန်တစ်ခု ဖြစ်သည်။

(ဂ) အဆိုး၊ အကောင်းကို ခွဲခွဲခြားခြား သိတတ်ပါစေ။

(ဃ) လုပ်ဆောင်ဖွယ်များကို ပြီးစီးအောင် ကြိုးစားဆောင်ရွက်သင့်သည်။

(င) ရာသီဥတုကိုလိုက်၍ အနေအထိုင်၊ အစားအသောက်ကို ဆင်ခြင်ရမည်။

(စ) မန္တလေးသို့ အမြန်ရထားဖြင့်သွားမည်။

(ဆ) သတ္တမတန်းစာမေးပွဲ၌ ထူးချွန်စွာအောင်သော မောင်မောင်အား လက်ပတ်နာရီ တစ်လုံး ဆုချသည်။

(ဇ) စည်းလုံးခြင်းသည် ခွန်အားဖြစ်သည်။

(ဈ) ပညာကို ငယ်စဉ်ကပင် ကြိုးစားဆည်းပူးကြရမည်။

(ည) သမပိုင်းဒေသသီးနှံများအနက် လက်ဖက်၊ လိမ္မော်တို့သည် ထင်ရှားသော သီးနှံများ ဖြစ်ကြသည်။

၂။ အောက်ပါနာမ်တို့ကို ဖွဲ့စည်းတည်ဆောက်ပုံအရ အမျိုးအစားခွဲပြီး အမျိုးတူရာအလိုက် အစုခွဲပြပါ။

ကောင်းကင်၊ လှခြင်း၊ ပျော်စရာ၊ လောဘ၊ ဒါရိုက်တာ၊ ဒုက္ခ၊ အောက်ဆီဂျင်၊ သောက်ရေအိုး၊ အမြန်ရထား၊ မြလည်ဆွဲ၊ မီးသွေး၊ ကျောက်မီးသွေး၊ ချစ်ခြင်း၊ မုန်းခြင်း၊ ပညာ၊ ဒေါသ၊ ပျို့မျှစ်ခြင်း၊ အိုမင်းခြင်း၊ ဆောင်ရွက်ချက်၊ သာယာရေး၊ စည်းလုံးရေး၊ ညီညွတ်မှု၊ ရဲရင့်ခြင်း၊ ကျော်ကြားခြင်း၊ ခံစားမှု။

၃။ မျဉ်းသားထားသော နာမ်များသည် ပင်ကိုနာမ်များဖြစ်လျှင် အမှန် (✓) ပြ၍ မဖြစ်လျှင် အမှား (✕) ပြပါ။

(က) အနေအထိုင် အစားအသောက်ကို ဆင်ခြင်ခြင်းသည် ကျန်းမာခြင်း၏ အကြောင်းရင်းဖြစ်သည်။ (   ) (   )

(ခ) လူတိုင်း သန့်ရှင်းသောလေကို အမြဲရှူရှိုက်ရန် လိုသည်။ (   ) (   )

(ဂ) မြန်မာပြည်တွင် သစ်အမျိုးမျိုး ရှိသည့်အနက် ကျွန်းသစ်သည် အဖိုးအတန်ဆုံး ဖြစ်သည်။ ( ) ( )

(ဃ) ထမင်းအသက် ခုနစ်ရက် ရေအသက် တစ်မနက်ဟု ဆိုရိုးရှိသည်။( ) ( )

(င) ဒရိုင်ဘာဟူသောနာမ်သည် အင်္ဂလိပ်ဘာသာစကားမှ တိုက်ရိုက်မွေးစားထားသော စကားလုံးဖြစ်သည်။ ( ) ( )

(စ) ကောင်းမှုပြုလျှင် ကောင်းကျိုးကို ခံစားရသည်။ ( ) ( )

(ဆ) ချိပ်ကို ချိပ်ပိုးများမှ ရသည်။ ( ) ( )

(ဇ) နိုက်ထရိုဂျင်သည် မီးလောင်ခြင်းကို အားပေးသော ဓာတ်မဟုတ်ချေ။( ) ( )

(ဈ) "ပညာရွှေအိုး၊ လူမခိုး"ဟု ရှေးလူကြီးများ ဆိုကြသည်။ ( ) ( )

၄။ မျဉ်းသားထားသော နာမ်များသည် ဂုဏ်ရည်ပြနာမ်များ ဖြစ်လျှင် အမှန် (✓) ပြ၍ မဖြစ်လျှင် အမှား (✕) ပြပါ။

(က) အချို့က သဘာဝအလှကိုသာ မက်မောသည်။ ( )

(ခ) ဤဆေး၏ထူးခြားချက်မှာ ပန်းနာရင်ကျပ်ရောဂါကို အမြစ်ပြတ်စေခြင်း ဖြစ်ပါသည်။ ( )

(ဂ) ထိုစေတီသည် ရွာသားများ၏ ကောင်းမှုဖြစ်သည်။ ( )

(ဃ) နေရောင်ခြည်သည် လူ၊ တိရစ္ဆာန်နှင့် သစ်ပင်များအတွက် အလွန် အသုံးဝင်သည်။ ( )

(င) သန့်ရှင်းရေးသည် ထိုကျောင်းရှိ ကျောင်းသူကျောင်းသားတို့၏တာဝန် ဖြစ်သည်။ ( )

(စ) မောင်မောင်သည် အပြောကောင်းသော ကျောင်းသားတစ်ယောက်ဖြစ်သည်။( )

(ဆ) သောက်ရေအိုးကို နေ့စဉ်ဆေး၍ ရေသစ်လဲသင့်သည်။ ( )

(ဇ) ရန်ကုန်မြို့သည် ပင်လယ်ဆိပ်ကမ်းမြို့ကြီး ဖြစ်၏။ ( )

(ဈ) ပင်လယ်နှင့်နီးသောဒေသများ၌ အပူအအေး မျှတသည်။ ( )

၅။ ပေးထားသောနာမ်များမှ **ကြိယာနာမ်**တို့ကို ရွေး၍ မျဉ်းသားပြပါ။

| | | | |
|---|---|---|---|
| (က) | သာယာခြင်း | (ဋ) | ရဲရင့်ခြင်း |
| (ခ) | တိုးတက်ခြင်း | (ဌ) | အားစိုက်ခြင်း |
| (ဂ) | ဆိုးသွမ်းမှု | (ဍ) | ရေးသားချက် |
| (ဃ) | စားစရာ | (ဎ) | ထူးခြားမှု |
| (င) | မြင့်မြတ်ခြင်း | (ဏ) | တိုးတက်ရေး |
| (စ) | အနေအထိုင် | (တ) | ဆိုလိုချက် |
| (ဆ) | သွားလာရေး | (ထ) | မီးခြစ် |
| (ဇ) | ကြိုးစားမှု | (ဒ) | လုပ်ဆောင်ဖွယ် |
| (ဈ) | အောင်မြင်ခြင်း | (ဓ) | ပေါက်တူး |
| (ည) | အဖြူ | (န) | စိတ်ကူး |

၆။ ပေးထားသော ပေါင်းစပ်နာမ်တို့ကို ဝါစင်္ဂခွဲပြပါ။

**နမူနာ။** ။ မီးရထား= မီး(နာမ်) + ရထား(နာမ်)

(က) ခြေလျင်တပ် (စ) ပဲလှော်

(ခ) တိုက်သစ် (ဆ) ခြေသုတ်ပုဆိုး

(ဂ) ရေခွက် (ဇ) ကြော်ချက်

(ဃ) ပင်လယ်ရေငန် (ဈ) လှောင်အိမ်

(င) ခါးပတ် (ည) ပြုတ်ဆန်

၇။ ပေးထားသော နာမ်အမည်များမှ သင့်လျော်ရာနာမ်အမည်များကို ရွေး၍ ကွက်လပ်တွင် ဖြည့်ပါ။

(က) မြန်မာသဒ္ဒါနည်းဖြင့် ခွဲစိတ်၍လည်းမရ၊ ပေါင်းစပ်ဖွဲ့စည်းထားခြင်းလည်း မဟုတ်၊ မူလအတိုင်းဖြစ်သော နာမ်ကို --- ဟု ခေါ်သည်။
(ပင်ကိုနာမ်၊ ဂုဏ်ရည်ပြနာမ်၊ ပေါင်းစပ်နာမ်)

(ခ) ဂုဏ်အရည်အချင်းပြပုဒ်များ၏ ရှေ့၌ဖြစ်စေ၊ နောက်၌ဖြစ်စေ ပစ္စည်းဆက်၍ ဖြစ်လာသောနာမ်ကို --- ဟုခေါ်သည်။
(ပင်ကိုနာမ်၊ ကြိယာနာမ်၊ ဂုဏ်ရည်ပြနာမ်)

(ဂ) ကြိယာပုဒ်၏ ရှေ့၌ဖြစ်စေ၊ နောက်၌ဖြစ်စေ၊ ရှေ့နှင့်ကြား၌ဖြစ်စေ၊ ကြားနှင့် နောက်၌ဖြစ်စေ ပစ္စည်းဆက်၍ ဖြစ်လာသောနာမ်ကို --- ဟု ခေါ်သည်။
(ကြိယာနာမ်၊ ပင်ကိုနာမ်၊ ဂုဏ်ရည်ပြနာမ်)

(ဃ) ဝိဘတ်၊ ပစ္စည်း၊ သမ္ဗန္ဓတို့ကို ကြား၌မခံဘဲ နာမ်၊ ကြိယာ၊ နာမ်စား၊ နာမဝိသေသန၊ ကြိယာဝိသေသနတို့ကို ထိုက်သည့်အားလျော်စွာ ပူးတွဲထားသော နာမ်ကို --- ဟုခေါ်သည်။
(ဂုဏ်ရည်ပြနာမ်၊ ပေါင်းစပ်နာမ်၊ ပင်ကိုနာမ်)

# နာမ်စား

**နာမ်စား**

၉။ နာမ်၏အစားသုံးသော ပုဒ်ကို **နာမ်စား**ဟု ခေါ်သည်။

**သာဓက**။ ။ ငါ၊ ကျွန်တော်၊ ကျွန်မ၊ ကျွန်ုပ်၊ ကျုပ်၊ သင်၊ မင်း၊ ခင်ဗျား၊ ရှင်၊ နင်၊ ညည်း၊ သူ၊ သင်း၊ ဤ၊ သည်၊ ထို၊ ၎င်း၊ ယင်း၊ အဘယ်၊ ဘယ်၊ အချို့၊ အားလုံး။

၁၀။ နာမ်စား ၄ မျိုးရှိသည်။ ၎င်းတို့မှာ–

(က) ပုဂ္ဂလနာမ်စား

(ခ) အညွှန်းနာမ်စား

(ဂ) အမေးနာမ်စား

(ဃ) သင်္ချာနာမ်စားတို့ဖြစ်ကြသည်။

(အဆိုပါနာမ်စား ၄ မျိုးအနက် **ပုဂ္ဂလနာမ်စား**အကြောင်းကို အတွဲ ၁၊ အခန်း ၃ ၌ ဖော်ပြခဲ့ပြီ။ ဤအတွဲ ၁၊ အခန်း ၄ ၌ **အညွှန်းနာမ်စားနှင့် အမေးနာမ်စား**အကြောင်းတို့ကို ဖော်ပြမည်။ **သင်္ချာနမ်စား**အကြောင်းကိုမူ အတွဲ ၂၊ အခန်း ၅တွင် ဆက်လက်ဖော်ပြမည်။)

၁၁။ **အညွှန်းနာမ်စား**။ ။ နာမ်ပုဒ်တစ်ခုကို ညွှန်ပြသည့် နာမ်စားကို **အညွှန်းနာမ်စား**ဟု ခေါ်သည်။

**သာဓက**။ ။ ဤ၊ သည်၊ ထို၊ ၎င်း၊ ယင်း။

(က) (၁) "ပညာရွှေအိုး၊ လူမခိုး" ဟူသော **စကား**ရှိသည်။

(၂) **ဤ**ကား ရှေးပညာရှိတို့၏ အဆိုအမိန့်တည်း။

(အထက်ဖော်ပြပါ ဝါကျ ၂ ခုတွင် ဒုတိယဝါကျရှိ **ဤ** သည် ပထမဝါကျရှိ **စကား**ဟူသော နာမ်၏အစားသုံးသော နာမ်စားဖြစ်သည်။ ထို့ကြောင့် **ဤ** သည် **အညွှန်းနာမ်စား** ဖြစ်သည်။)

(ခ) (၁) မြက်ခင်းပေါ်မှာထိုင်ပါ။

(၂) **သည်**မှာထိုင်ပါ။

(ဂ) (၁) သူတို့အိမ်မှာ မနေပါနှင့်။

(၂) **သည်**မှာနေပါ။

(ဃ) (၁) ရွှေတိဂုံဘုရားသို့ သွားကြမည်။

(၂) **ထို**မှတစ်ဆင့် တိရစ္ဆာန်ဥယျာဉ်သို့ သွားကြမည်။

(င) (၁) မဟာမြိုင်တော၌ ကျားရဲပေါ၏။

(၂) **ထို**သို့သွားလိုလျှင် သတိဝီရိယရှိပါ။

(စ) (၁) မောင်မောင်အေးသည် စာတော်၏။

(၂) **၎င်း**ထက် မောင်မောင်ထွေးက ပိုတော်၏။

(ဆ) (၁) ခွေးရူးတစ်ကောင် ပြေးလာသည်။

(၂) **၎င်း**ကို လူအများက ရိုက်သတ်လိုက်ကြသည်။

(ဇ) (၁) လေးနှစ်စီမံကိန်းကို ရေးဆွဲပြီးပြီ။

(၂) **ယင်း**ကို ဆက်လက်အကောင်အထည်ဖော်ကြရမည်။

(ဈ) (၁) လူတိုင်း လက်ကိုင်ပြုသင့်သော တရားတစ်ပါးသည်ရှိ၏။

(၂) **ယင်း**ကား ကိုယ်ချင်းစာတရားပင်ဖြစ်သည်။

(**သည်၊ ထို၊ ၎င်း၊ ယင်း** တို့သည်လည်း နာမ်ပုဒ်တစ်ခုကို ညွှန်ပြသော အညွှန်းနာမ်စားများ ဖြစ်ကြသည်ကို အထက်ပါဝါကျများတွင် လေ့လာနိုင်သည်။)

၁၂။ **အမေးနာမ်စား**။ ။ အမေးသဘောဖြင့် နာမ်ပုဒ်၏အစားသုံးသော နာမ်စားကို **အမေးနာမ်စား**ဟု ခေါ်သည်။

**သာဓက**။ ။ ဘယ်၊ အဘယ်၊ မည်သူ၊ ဘယ်သူ။

(က) ဆရာ **ဘယ်**မှာနေပါသနည်း။

(ဤဝါကျ၌ **ဘယ်**သည် အမေးသဘောဖြင့် ဆရာနေထိုင်ရာ အရပ်ဒေသ (နာမ်)၏အစားသုံးသော နာမ်စားဖြစ်သည်။ ထို့ကြောင့် **ဘယ်**သည် **အမေးနာမ်စား** ဖြစ်သည်။)

(ခ) ဤအိမ်ရှိလူများသည် **အဘယ်**သို့ သွားကြလေကုန်သနည်း။

(ဂ) သူနေမကောင်းဖြစ်ရခြင်း၏ အကြောင်းရင်းကား **အဘယ်**နည်း။

(ဃ) အမေ ဈေးက **ဘာ**ဝယ်လာသလဲ။

(င) ဆရာကသူ့ကို **ဘာ**ပြောသနည်း။

(စ) ဤစာအုပ်သည် **မည်သူ**၏ စာအုပ်နည်း။

(ဆ) ဘုရားသို့ **မည်သူ**နှင့် သွားမည်နည်း။

(ဇ) ဒီစာအုပ်ဟာ **ဘယ်သူ**ရဲ့ စာအုပ်လဲ။

(ဈ) ဘုရားကို **ဘယ်သူ**နဲ့ သွားမလဲ။

(**အဘယ်၊ ဘာ၊ မည်သူ၊ ဘယ်သူ** တို့သည် အမေးသဘောဖြင့် နာမ်ပုဒ်၏ အစား သုံးသော **အမေးနာမ်စား**များ ဖြစ်ကြသည်ကို အထက်ပါဝါကျများတွင် လေ့လာနိုင်သည်။)

## လေ့ကျင့်ခန်း

၁။ အညွှန်းနာမ်စားဆိုသည်မှာ အဘယ်နည်း။ အညွှန်းနာမ်စား ၃ ခုကို ဖော်ပြ၍ ဝါကျ တစ်ခုစီ၌ သုံးပြပါ။

၂။ အမေးနာမ်စားဆိုသည်မှာ အဘယ်နည်း။ အမေးနာမ်စား ၃ ခုကို ဖော်ပြ၍ ဝါကျ တစ်ခုစီ၌ သုံးပြပါ။

၃။ အောက်ပါဝါကျများရှိ မျဉ်းသားထားသော နာမ်စားတို့သည် အညွှန်းနာမ်စားလော၊ အမေးနာမ်စားလော ခွဲပြပါ။

(က) နွေရာသီ ကျောင်းပိတ်ရက်တွင် အညာသို့ ဘုရားဖူးသွားမည်။ ထိုမှတစ်ဆင့် ရှမ်းပြည်သို့သွားမည်။

(ခ) ရှမ်းပြည်မှ ရန်ကုန်သို့ ဘာနှင့် ပြန်လာမည်နည်း။

(ဂ) ဆရာ မနေ့က ဘာသင်သလဲ။

(ဃ) မော်လမြိုင်သည် မိုးရေချိန်များသော မြို့ဖြစ်သည်။ ၎င်းထက် စစ်တွေမြို့က ပိုများသည်။

(င) ယခုလာနေသောသူသည် မည်သူနည်း။

(စ) သင် အဘယ်မှာ နေသနည်း။

(ဆ) ဈေးဝယ်လာသူများသည် ထိုမှဤမှ သွားလာဝင်ထွက်ကြသည်။

(ဇ) မည်သူ့ကို စာအုပ်ပေးခဲ့သနည်း။

(ဈ) တနင်္ဂနွေနေ့၌ ဘယ်ကိုသွားရန် စီစဉ်ထားသနည်း။

(ည) အစားအစာများတွင် သင်ဘာကို အနှစ်ခြိုက်ဆုံးနည်း။

၄။ ကွက်လပ်များကို ဖြည့်ပါ။

(က) နာမ်၏အစားသုံးသော ပုဒ်ကို --- ဟုခေါ်သည်။

(ခ) ---- ---- တို့သည် နာမ်စားများဖြစ်ကြသည်။

(ဂ) နာမ်ပုဒ်တစ်ခုကို ညွှန်ပြသည့် နာမ်စားကို --- ဟုခေါ်သည်။

(ဃ) --- --- တို့သည် အညွှန်းနာမ်စားများ ဖြစ်ကြသည်။

(င) အမေးသဘောဖြင့် နာမ်ပုဒ်၏အစားသုံးသော နာမ်စားကို -- ဟုခေါ်သည်။

(စ) --- --- တို့သည် အမေးနာမ်စားများ ဖြစ်ကြသည်။

(ဆ) "၎င်းကို အဘယ်မှာထားရမည် မသိပါ"ဟူသောဝါကျရှိ ၎င်းသည် --- နာမ်စားဖြစ်သည်။

(ဇ) "သူတို့ ဘယ်မှာနေသည်ကို မသိပါ"ဟူသော ဝါကျရှိ ဘယ်သည် --- နာမ်စားဖြစ်သည်။

၅။ အညွှန်းနာမ်စားနှင့် အမေးနာမ်စားတို့သည် မည်သို့ ကွာခြားသနည်း။ သာဓက ဝါကျ တစ်ခုစီဖြင့် ရှင်းပြပါ။

# ကြိယာ

## ကြိယာ

၁၃။ ပြုခြင်းကိုဖြစ်စေ၊ ဖြစ်ခြင်းကိုဖြစ်စေ၊ ရှိခြင်းကိုဖြစ်စေ ပြသော ပုဒ်ကို **ကြိယာ**ဟုခေါ်သည်။

**သာဓက**။ ။ ပြေး၊ ရိုက်၊ ကျက်၊ ရှိ။

၁၄။ ကြိယာကို–

(က) အနက်အဓိပ္ပာယ်အရ ၃ မျိုး

(ခ) ဖွဲ့စည်းတည်ဆောက်ပုံအရ ၃ မျိုး ခွဲသည်။

(အနက်အဓိပ္ပာယ်အရခွဲသော **ပြုခြင်းပြကြိယာ၊ ဖြစ်ခြင်းပြကြိယာ၊ ရှိခြင်းပြကြိယာ၊** ကြိယာ ၃ မျိုးအကြောင်းကို အတွဲ ၁၊ အခန်း ၂ ၌လည်းကောင်း၊ ဖွဲ့စည်းတည်ဆောက်ပုံအရခွဲသော **ပင်ကိုကြိယာ၊ ဂုဏ်ရည်ပြကြိယာ၊ ပေါင်းစပ်ကြိယာ၊** ကြိယာ ၃မျိုးအကြောင်းကို အတွဲ ၁၊ အခန်း ၃ ၌လည်းကောင်း ဖော်ပြခဲ့ပြီ။ ဤအတွဲ ၁၊ အခန်း ၄ ၌မူ ဖွဲ့စည်းတည်ဆောက်ပုံအရ ကြိယာ ၃ မျိုးရှိသည့်အနက်မှ **ဂုဏ်ရည်ပြကြိယာ**ကို **ဂုဏ်ရည်ပြနာမဝိသေသန**နှင့် နှိုင်းယှဉ်ဖော်ပြမည်။)

၁၅။ **ဂုဏ်ရည်ပြကြိယာနှင့် ဂုဏ်ရည်ပြနာမဝိသေသန**။ ။ အချို့သောပုဒ်တို့သည် ဝါကျအတွင်း၌ အခြားပုဒ်တို့နှင့်ပေါင်းစပ်ဖွဲ့စည်းပုံကိုလိုက်၍ **ဂုဏ်ရည်ပြကြိယာ**လည်း ဖြစ်နိုင်သည်။ **ဂုဏ်ရည်ပြနာမဝိသေသန**လည်း ဖြစ်နိုင်သည်။

**သာဓက**။ ။

(က) (၁) အောင်နက်သည် **လိမ္မာ၏**။

(၂) အောင်နက်သည် **လိမ္မာသောခွေး** ဖြစ်၏။

(၃) အောင်နက်သည် **ခွေးလိမ္မာ**ဖြစ်၏။

(ဖော်ပြပါဝါကျတို့တွင်–

– ဝါကျ (က) (၁)၌ **လိမ္မာ၏** သည် **လိမ္မာ**ဟူသော ဂုဏ်အရည်အချင်းပြပုဒ်နောက်တွင် ကြိယာဝိဘတ်**၏** ဆက်ထားသည့် **ဂုဏ်ရည်ပြကြိယာ**ဖြစ်သည်။

– ဝါကျ (က) (၂)၌ **လိမ္မာသော** သည် **လိမ္မာ** ဟူသော ဂုဏ်အရည်အချင်းပြပုဒ်နောက်တွင် **သော** ပစ္စည်းဆက်၍ **ခွေး**ဟူသည့်နာမ်ကို အထူးပြုသော **ဂုဏ်ရည်ပြနာမဝိသေသန** ဖြစ်သည်။

– ဝါကျ (က) (၃)၌ **လိမ္မာ**သည် **ခွေး**ဟူသော နာမ်နှင့် တိုက်ရိုက်ပေါင်းစပ်၍ ယင်း **ခွေး**ကို အထူးပြုသော **ဂုဏ်ရည်ပြနာမဝိသေသန**ဖြစ်သည်။)

(ခ ) (၁) ဖိုးမောင်သည် **ဆိုး၏**။

(၂) ဖိုးမောင်သည် **ဆိုးသောလူ** ဖြစ်၏။

(၃) ဖိုးမောင်သည် **လူဆိုး** ဖြစ်၏။

(ဂ) (၁) ဤခါးသည်**ရှည်၏။**
(၂) ဤခါးသည် **ရှည်သောခါး** ဖြစ်၏။
(၃) ဤခါးသည် **ခါးရှည်** ဖြစ်၏။
(ဃ) (၁) ဤရေသည်**အေး၏။**
(၂) ဤရေသည် **အေးသောရေ** ဖြစ်၏။
(၃) ဤရေသည် **ရေအေး** ဖြစ်၏။
(ဤသို့ ဝါကျအတွင်း၌ အခြားပုဒ်တို့နှင့် ပေါင်းစပ်ဖွဲ့စည်းပုံကိုလိုက်၍ **ဂုဏ်ရည်ပြကြိယာ၊ ဂုဏ်ရည်ပြနာမဝိသေသန** ဖြစ်နိုင်ပုံကို အထက်ပါဝါကျများတွင်လည်း လေ့လာနိုင်သည်။)

## လေ့ကျင့်ခန်း

၁။ ဂုဏ်ရည်ပြကြိယာနှင့် ဂုဏ်ရည်ပြနာမဝိသေသနတို့သည် မည်သို့ ခြားနားကြသနည်း။ သာဓက ၃ ခုဖြင့် ရှင်းပြပါ။

၂။ အောက်ပါတို့ကို ဂုဏ်ရည်ပြကြိယာအဖြစ်လည်းကောင်း၊ ဂုဏ်ရည်ပြနာမဝိသေသန အဖြစ်လည်းကောင်း ဝါကျတွင် သုံးပြပါ။
သာယာ၊ ဆွေးမြည့်၊ မွန်မြတ်၊ ခမ်းနား၊ ကြီးကျယ်၊ မြင့်မား။

၃။ ဂုဏ်ရည်ပြနာမဝိသေသနပါရှိသော အောက်ပါဝါကျများကို ဂုဏ်ရည်ပြကြိယာပါရှိသော ဝါကျများဖြစ်အောင် ပြင်ရေးပါ။

**နမူနာ**။ ။ စံပယ်ပန်းသည် **မွှေးသော**ပန်းဖြစ်သည်။ (ဂုဏ်ရည်ပြနာမဝိသေသန)
စံပယ်ပန်းသည် **မွှေးသည်။** (ဂုဏ်ရည်ပြကြိယာ)

(က) မဝိုင်းသည် ဆရာမိဘကို ရိုသေသော မိန်းကလေးဖြစ်သည်။
(ခ) ကြက်ဟင်းခါးသီးတွင် ခါးသော အရသာရှိသည်။
(ဂ) မဟာဗန္ဓုလသည် ရဲရင့်သော စစ်သူကြီးဖြစ်သည်။
(ဃ) ကြက်ဆူဆီသည် ပျစ်ချွဲသော အရည်တစ်မျိုးဖြစ်သည်။
(င) စလေဦးပုညသည် ထင်ရှားသော စာဆိုဖြစ်သည်။
(စ) လကွယ်ညသည် မှောင်မိုက်သော ညဖြစ်သည်။
(ဆ) မောင်အောင်သည် အားကစား၌ ထူးချွန်သော လူငယ်တစ်ဦး ဖြစ်သည်။
(ဇ) သွေးလှူခြင်းသည် မွန်မြတ်သော ဒါနဖြစ်သည်။
(ဈ) ရွာဝန်းကျင်၌ စိမ်းလန်းသော လယ်ကွင်းများရှိသည်။

# နာမဝိသေသန

**နာမဝိသေသန**

၁၆။ နာမ်ကို အထူးပြုသော ပုဒ်ကို **နာမဝိသေသန**ဟု ခေါ်သည်။

၁၇။ နာမဝိသေသနသည် အနက်အဓိပ္ပာယ်အရ ၄ မျိုးရှိသည်။ ၎င်းတို့မှာ–

(က) ဂုဏ်ရည်ပြနာမဝိသေသန

(ခ) အညွှန်းနာမဝိသေသန

(ဂ) သင်္ချာနာမဝိသေသန

(ဃ) အမေးနာမဝိသေသနတို့ ဖြစ်ကြသည်။

(ထိုနာမဝိသေသန ၄ မျိုးအကြောင်းကို အတွဲ ၁၊ အခန်း ၂ ၌ အကျဉ်းမျှ ဖော်ပြခဲ့သည်။ အတွဲ ၁၊ အခန်း ၃ ၌ မူ **ဂုဏ်ရည်ပြနာမဝိသေသန**အကြောင်း ကို အကျယ်ဖော်ပြခဲ့ပြီ။ ဤအတွဲ ၁၊ အခန်း ၄ ၌ **အညွှန်းနာမဝိသေသန** အကြောင်းကို ဆက်လက်ဖော်ပြမည်။)

၁၈။ **အညွှန်းနာမဝိသေသန**။ ။ နာမ်ကို ညွှန်ပြခြင်းဖြင့် အထူးပြုသည့်ပုဒ်ကို **အညွှန်းနာမဝိသေသန**ဟု ခေါ်သည်။

**သာဓက**။ ။ ဤ၊ သည်၊ ထို၊ ၎င်း၊ ယင်း၊ ဤသို့သော၊ ထိုသို့သော၊ ၎င်းကဲ့သို့သော၊ တစ်ပါးသော၊ တစ်စုံတစ်ရာသော၊ အကြင်၊ တစ်နေ့သော။

(က) **ဤ၊ သည်**တို့သည် အနီးတွင်ရှိသော တစ်စုံတစ်ခုကို ညွှန်ပြသော အညွှန်းနာမဝိသေသနများဖြစ်ကြသည်။

**သာဓက**။ ။ (၁) **ဤသစ်ပင်**သည် ဆေးဖက်ဝင်သည်။

(၂) **သည်လှေ** သည် အညာသို့ ဆန်လိမ့်မည်။

(ခ) **ထို** သည် အဝေးတွင်ရှိသော တစ်စုံတစ်ခုကို ညွှန်ပြသည်။

**သာဓက**။ ။ (၁) **ထိုအိမ်**ကို ဝယ်လိုသည်။

(၂) **ထိုရေကန်**အနီးမှာ ကျောင်းရှိသည်။

(ဂ) **ထို၊ ၎င်း၊ ယင်း၊ ဤသို့သော၊ ထိုသို့သော**တို့သည် ဖော်ပြခဲ့ပြီးသော နာမ်ကို ညွှန်ပြသည်။

**သာဓက**။ ။

(၁) သိဝရာဇ်မင်းကြီးသည်မင်းပြု၏။ ထို **သိဝရာဇ်မင်းကြီး**၏ သားတော်ကား သိဥ္စည်း အမည်ရှိ၏။

(၂) ဖေဖေသည် ဖောင်တိန်တစ်ချောင်းကို ဝယ်လာသည်။ **၎င်းဖောင်တိန်**ကို ကျွန်တော် ကြိုက်ပါသည်။

(၃) ကျောင်းခေါ်ချိန် မပြည့်သောကျောင်းသားများရှိသည်။ **ယင်းကျောင်းသား** တို့သည် ကျောင်းအုပ်ကြီးနှင့်တွေ့ကြရမည်။

(၄) ဘွားဘွားသည် ထူးဆန်းသောပုံပြင်များကို ပြောပြတတ်ပါသည်။ **ဤသို့သောပုံပြင်**များကို ကျွန်တော်တို့ ကြိုက်ပါသည်။

(ဃ) **အခြားသော၊ တစ်ပါးသော၊ တစ်ခုခုသော၊ တစ်စုံတစ်ခုသော၊ တစ်စုံတစ်ယောက်သော၊ တစ်စုံတစ်ရာသော၊ အကြင်** စသည်တို့သည် တစ်စုံတစ်ခုကို

တိတိကျကျမရည်ညွှန်းဘဲ နာမ်ကို အထူးပြုသည်။

**သာဓက**။ ။

(၁) **အခြားသော ကိစ္စ**ရှိလျှင် ပြောပါဦး။

(၂) **တစ်ပါးသောအရပ်**သို့ သွားကြကုန်အံ့။

(၃) ရှေးအခါ၌ **တစ်ခုသော တောအုပ်**ဝယ် ကြီးစွာသော ရေအိုင်ကြီး တစ်အိုင်ရှိ၏။

(၄) **တစ်စုံတစ်ခုသော အမှုကိစ္စ** ပေါ်ပေါက်ခဲ့လျှင် ကျွန်ုပ်ကူညီပါမည်။

(၅) **တစ်စုံတစ်ယောက်သောသူ**က ဤသတင်းကို ပြောလာပါလျှင် ဆိတ်ဆိတ်သာနေပါလေ။

(၆) **တစ်စုံတစ်ရာသော အကြောင်း**ကြောင့် နောက်ကျရသည် ထင်၏။

(၇) **အကြင်သူ**သည် ကြိုးစားအားထုတ်အံ့၊ ထိုသူသည် အောင်ပွဲရလတ္တံ့။

## လေ့ကျင့်ခန်း

၁။ နာမဝိသေသနဆိုသည်မှာ အဘယ်နည်း။

၂။ အောက်ပါဝါကျများရှိ ကွက်လပ်တို့၌ ဆီလျော်သော နာမဝိသေသနများကို ဖြည့်၍ မည်သည့်နာမဝိသေသနဖြစ်သည်ကို ဖော်ပြပါ။

(က) ...... စာအုပ်သည် အလွန်ရှားပါးသောစာအုပ်ဖြစ်သည်။

(ခ) ...... သူသည် ဤကျောင်းက မဟုတ်၊ ......သော ကျောင်းမှ ပြောင်းရွှေ့လာသူ ဖြစ်သည်။

(ဂ) ...... သောအကြောင်းကြောင့်......နေ့က ကျင်းပမည်ဖြစ်သော ကပွဲကို ရပ်ဆိုင်းထားသည်။

(ဃ) ......နေရာ၊ ......အချိန်၌......သူကို ဆက်ဆက်လာကြိုပါ။

(င) ......သော သူများသည်......သူကဲ့သို့ပင် ကြိုးစားကြကုန်သည်။

၃။ အောက်ပါဝါကျများရှိ မျဉ်းသားထားသော နာမဝိသေသနတို့သည် နာမ်ကို မည်သို့ အထူးပြုကြသနည်း။

(က) <u>အကြင်</u>မိန်းမသည် အဆင်းလှသော်လည်း အချင်းမလှ၊ ထိုမိန်းမသည် တန်ဖိုးမရှိ ဖြစ်ချေ၏။

(ခ) <u>ထိုသို့သော</u> အကြောင်းတရားသည် ဤအကျိုးတရားကို ဖြစ်စေ၏။

(ဂ) <u>အခြားတစ်ပါးသော</u> သူတို့ကို မကဲ့ရဲ့ဘဲ မိမိကိုယ်ကိုသာ ကောင်းအောင် ကြိုးစားပါ။

(ဃ) <u>သည့်</u>နေရာသည် သူတော်ကောင်းတို့ မှီတင်းနေထိုင်ရာအရပ်ဖြစ်ပေသည်။

(င) <u>ထို</u>ကျောင်းသား ရောက်လာသောအချိန်တွင် အတန်းထဲ၌ <u>အခြားသော</u> ကျောင်းသားများ မရောက်လာသေးချေ။

# အညွှန်းနာမဝိသေသနနှင့်အညွှန်းနာမ်စား

**အညွှန်းနာမဝိသေသနနှင့်အညွှန်းနာမ်စား**

၁၉။ အချို့သောပုဒ်တို့သည် ဝါကျအတွင်း အသုံးကိုလိုက်၍ **အညွှန်းနာမဝိသေသန**လည်း ဖြစ်နိုင်သည်။ **အညွှန်းနာမ်စား**လည်း ဖြစ်နိုင်သည်။ ဤသို့ ဝါကျအတွင်း အသုံးကိုလိုက်၍ ဝါစင်္ကွဲပြားပုံကို သာဓကများဖြင့် ရှင်းပြမည်။

(က) (၁) "ပညာရွှေအိုး၊ လူမခိုး" ဟူသော **စကား**ရှိသည်။

(၂) **ဤ**ကား ရှေးပညာရှိတို့၏ အဆိုအမိန့်တည်း။

(၃) **ဤစကား**သည် ရှေးပညာရှိတို့၏ အဆိုအမိန့်တည်း။

ဝါကျ (က) (၂)၌ရှိသော **ဤ**သည် **စကား**ဟူသော နာမ်ကို ညွှန်ပြပြီး ထိုနာမ်၏ အစားသုံးသော နာမ်စားဖြစ်ခြင်းကြောင့် **အညွှန်းနာမ်စား**ဖြစ်သည်။

ဝါကျ (က) (၃)၌မူ **ဤ**သည် **စကား**ဟူသောနာမ်ကို ညွှန်ပြပြီး ထိုနာမ်ကို အထူးပြုသောကြောင့် **အညွှန်းနာမဝိသေသန**ဖြစ်သည်။

(ခ) (၁) **ခုံ**ပေါ်မှာ ထိုင်ပါ။

(၂) **သည်**မှာ ထိုင်ပါ။

(၃) **သည်ခုံ**ပေါ်မှာထိုင်ပါ။

ဝါကျ (ခ)(၂)၌ရှိသော **သည်**သည် **ခုံ**ဟူသောနာမ်ကို ညွှန်ပြပြီး ထိုနာမ်၏ အစား သုံးသော နာမ်စား ဖြစ်ခြင်းကြောင့် **အညွှန်းနာမ်စား**ဖြစ်သည်။

ဝါကျ (ခ) (၃)၌မူ **သည်**သည် **ခုံ**ဟူသောနာမ်ကို ညွှန်ပြပြီး ထိုနာမ်ကို အထူး ပြုသောကြောင့် **အညွှန်းနာမဝိသေသန**ဖြစ်သည်။

ထိုနည်းအတူ **ထို၊ ၎င်း၊ ယင်း**တို့သည်လည်း အသုံးကိုလိုက်၍ တစ်နေရာတွင် **အညွှန်းနာမ်စား**ဖြစ်ပြီး၊ တစ်နေရာ၌မူ**အညွှန်းနာမဝိသေသန**ဖြစ်သည်ကို အောက်ပါဝါကျများ၌ လေ့လာနိုင်သည်။

(ဂ) (၁) မဟာမြိုင်**တော**၌ ကျားရဲပေါ၏။

(၂) **ထို**သို့ သွားလျှင် သတိဝီရိယရှိပါ။

(၃) **ထိုတော**သို့ သွားလျှင် သတိဝီရိယရှိပါ။

(ဃ) (၁) **ခွေးရူး**တစ်ကောင် ပြေးလာ၏။

(၂) **၎င်း**ကို လူများက ရိုက်သတ်လိုက်ကြသည်။

(၃) **၎င်းခွေးရူး** ကို လူများက ရိုက်သတ်လိုက်ကြသည်။

(င) (၁) လူတိုင်းလက်ကိုင်ပြုသင့်သည့် **တရား**တစ်ပါးရှိသည်။

(၂) **ယင်း**ကား ကိုယ်ချင်းစာတရားပင်ဖြစ်သည်။

(၃) **ယင်းတရား**ကား ကိုယ်ချင်းစာတရားပင်ဖြစ်သည်။

**အညွှန်းနာမ်စား**

၂၀။ နာမ်ပုဒ်ကို ညွှန်ပြလျက် ထိုနာမ်ပုဒ်၏အစား သုံးထားသောပုဒ်သည် **အညွှန်းနာမ်စား** ဖြစ်သည်။

**အညွှန်းနာမဝိသေသန**

၂၁။ နာမ်ပုဒ်ကို ညွှန်ပြလျက် ထိုနာမ်ပုဒ်ကို အထူးပြုသောပုဒ်မှာမူ **အညွှန်းနာမဝိသေသန** ဖြစ်သည်။

## လေ့ကျင့်ခန်း

၁။ အောက်ပါဝါကျများရှိ မျဉ်းသားထားသော ပုဒ်တို့သည် အညွှန်းနာမဝိသေသနလော၊ အညွှန်းနာမ်စားလော ခွဲပြပါ။

(က) ဤကား အနက်အဓိပ္ပာယ်ရှင်းလင်းချက်ဖြစ်သည်။
ဤစာပိုဒ်ကား အနက်အဓိပ္ပာယ် ရှင်းလင်းချက် ဖြစ်သည်။

(ခ) သည်မှာအိပ်ပါ။ သည်အိမ်မှာ အိပ်ပါ။

(ဂ) ထိုအရပ်သို့ မသွားနှင့်။ ထိုသို့ မသွားနှင့်။

(ဃ) ၎င်းအဖြစ်အပျက်သည် အလွန်စိတ်ဝင်စားဖွယ်ကောင်းပါသည်။
၎င်းကို နားထောင်လိုလျှင် ပြန်ပြောပြပါမည်။

(င) "ဖွဲရှိလျှင် အောင်မြင်ရာ၏" ဟူသော စကားရှိသည်။
ယင်းစကားသည် စိတ်ဓာတ်ကို မြှင့်တင်ပေးသော စကားပင်ဖြစ်သည်။
ယင်းကား စိတ်ဓာတ်ကို မြှင့်တင်ပေးသော စကားတစ်ရပ် ဖြစ်သည်။

၂။ အောက်ပါတို့ကို အညွှန်းနာမ်စားအဖြစ်လည်းကောင်း၊ အညွှန်းနာမဝိသေသနအဖြစ်လည်းကောင်း ဝါကျတွင် သုံးပြပါ။

ဤ၊ သည်၊ ထို၊ ၎င်း၊ ယင်း။

၃။ ကွက်လပ်များကို ဖြည့်ပါ။

(က) နာမ်ပုဒ်တစ်ခုခုကို ညွှန်ပြသည့်နာမ်စားကို ......ဟု ခေါ်သည်။

(ခ) နာမ်ကို ညွှန်ပြခြင်းဖြင့် အထူးပြုသည့်ပုဒ်ကို......ဟု ခေါ်သည်။

(ဂ) "ထိုပညာရှိမျိုးကို ချဉ်းကပ်သင့်သည်" ဟူသောဝါကျ၌ ထိုသည်......ဖြစ်သည်။

(ဃ) "ဤသို့လာ၊ ထိုသို့သွားနှင့်အငှားခန္ဓာ မြှောင်ရတယ်" ဟူသော စာသား၌ ဤနှင့်ထိုတို့သည်......ဖြစ်သည်။

(င) "ဤ၊ သည်၊ ထို၊ ၎င်း၊ ယင်း" တို့၏နောက်၌ နာမ်၊ နာမ်စားပုဒ်တစ်ခုခုပါလျှင် အဆိုပါ ဤ၊ သည်၊ ထို၊ ၎င်း၊ ယင်းတို့သည်......ဖြစ်သည်၊ နောက်၌ နာမ်၊ နာမ်စားပုဒ် တစ်ခုခုမပါလျှင် ယင်းတို့သည် ...... ဖြစ်သည်။

# ကြိယာဝိသေသန

**ကြိယာဝိသေသန**

၂၂။ ကြိယာကို အထူးပြုသောပုဒ်ကို **ကြိယာဝိသေသန**ဟု ခေါ်သည်။

(အနက်အဓိပ္ပာယ်အရ ကြိယာဝိသေသန ၅ မျိုးရှိသည့်အနက် **အချိန်ပြကြိယာဝိသေသန နှင့် အမူအရာပြကြိယာဝိသေသန**တို့ အကြောင်းကို အတွဲ ၁၊ အခန်း၃ ၌ ဖော်ပြခဲ့ပြီ။ ဤအတွဲ ၁၊ အခန်း ၄ ၌မူ ကျန်ရှိသော ကြိယာဝိသေသန ၃ မျိုးအကြောင်းကို ဆက်လက်ဖော်ပြမည်။)

၂၃။ ကျန်ရှိသော ကြိယာဝိသေသန ၃ မျိုးတို့မှာ–

(က) အခြေအနေပြကြိယာဝိသေသန

(ခ) ပမာဏပြကြိယာဝိသေသန

(ဂ) အမေးကြိယာဝိသေသနတို့ဖြစ်သည်။

၂၄။ **အခြေအနေပြကြိယာဝိသေသန**။ ။ အခြေအနေကိုပြခြင်းဖြင့် ကြိယာကိုအထူးပြုသော ကြိယာဝိသေသနကို **အခြေအနေပြကြိယာဝိသေသန**ဟု ခေါ်သည်။

**သာဓက**။ ။ ကန့်လန့်၊ သည်းထန်စွာ၊ သပ်သပ်ရပ်ရပ်၊ အသေ အချာ၊ ကေန်၊ အမှန်၊ စင်စစ်၊ မုချ။

(က) သစ်ပင်ကြီးတစ်ပင်သည် လမ်းပေါ်၌ **ကန့်လန့်**လဲကျနေသည်။

(ဤဝါကျ၌ သစ်ပင်ကြီးသည် လမ်းမပေါ်၌ မည်သို့လဲကျနေသည်ကို **ကန့်လန့်** ဟူသောပုဒ်က ပြသည်။ **ကန့်လန့်** ဟူသောပုဒ်သည် သစ်ပင်ကြီးလဲကျပုံ အခြေအနေကို ဖော်ပြခြင်းဖြင့် **လဲကျ** ဟူသော ကြိယာကို အထူးပြုသည်။ ထို့ကြောင့် **ကန့်လန့်**သည် **အခြေအနေပြကြိယာဝိသေသန** ဖြစ်သည်။)

(ခ) ယနေ့နံနက် မိုး**သည်းထန်စွာ** ရွာသည်။

(ဂ) စာအုပ်များကို စားပွဲပေါ်မှာ **သပ်သပ်ရပ်ရပ်** စီထားပါ။

(ဃ) ကြိုးစားလျှင် **မုချ** အောင်မြင်မည်။

(င) သူ့အကြောင်းကို ကျွန်တော် **အသေအချာ**သိပါသည်။

(**သည်းထန်စွာ၊ သပ်သပ်ရပ်ရပ်၊ မုချ၊ အသေအချာ**စသော အခြေအနေပြ ကြိယာဝိသေသနတို့၏အသုံးကို အထက်ပါဝါကျများတွင် လေ့လာနိုင်သည်။)

၂၅။ **ပမာဏပြကြိယာဝိသေသန**။ ။ မည်ရွေ့မည်မျှပမာဏကိုပြခြင်းဖြင့် ကြိယာကို အထူးပြုသော ကြိယာဝိသေသနကို **ပမာဏပြကြိယာဝိသေသန**ဟု ခေါ်သည်။

**သာဓက**။ ။ များများ၊ လုံး၀၊ အကုန်၊ အလွန်၊ များစွာ၊ နည်းနည်း၊ အနည်းငယ်၊ အဆမတန်။

(က) အစာကို **များများ**စားလျှင် ဘေးဖြစ်တတ်သည်။

(ဤဝါကျ၌ အစားများလျှင် ဘေးဖြစ်တတ်သည်ကို **များများ**ဟူသောပုဒ်က ပြသည်။ **များများ**ဟူသော ပုဒ်သည် အစာကို မည်ရွေ့မည်မျှစားကြောင်းကို

ဖော်ပြခြင်းဖြင့် **စား**ဟူသော ကြိယာကို အထူးပြုသည်။ ထို့ကြောင့် **များများ**သည် **ပမာဏပြ ကြိယာဝိသေသန** ဖြစ်သည်။)

(ခ) စကားကို **နည်းနည်း** ပြော၍ အလုပ်ကို **များများ**လုပ်ပါ။

(ဂ) အစားကို **အကုန်**စား၊ စကားကို **အကုန်**မပြောနှင့်။

(ဃ) မူးယစ်ဆေးဝါးသုံးစွဲခြင်းကို **လုံးဝ**ရှောင်ကြဉ်သင့်သည်။

(င) ရွှေတိဂုံစေတီတော်ကြီးသည် **အလွန်**သပ္ပာယ်သည်။

**(နည်းနည်း၊ အကုန်၊ လုံးဝ၊ အလွန်** စသော ပမာဏပြကြိယာဝိသေသန တို့၏အသုံးကို အထက်ပါဝါကျများတွင် လေ့လာနိုင်သည်။)

၂၆။ **အမေးကြိယာဝိသေသန**။ ။ မေးမြန်းခြင်းဖြင့် ကြိယာကိုအထူးပြုသော ကြိယာဝိသေသနကို **အမေးကြိယာဝိသေသန** ဟု ခေါ်သည်။

**သာဓက**။ ။ မည်သို့၊ မည်မျှ၊ မည်ကဲ့သို့၊ ဘယ်လောက်၊ ဘယ်လို။

(က) အစာကို ကြေညက်အောင် **မည်သို့** စားရမည်နည်း။

(ဤဝါကျ၌ **မည်သို့** ဟူသောပုဒ်သည် အစာမည်သို့ စားသင့်ကြောင်းကို မေးမြန်းခြင်းဖြင့် **စား**ဟူသော ကြိယာကို အထူးပြုသည်။ ထို့ကြောင့် **မည်သို့**သည် မေးမြန်းခြင်းသဘော သက်ရောက်သော **အမေးကြိယာ ဝိသေသန** ဖြစ်သည်။)

(ခ) ကျောင်းသင်ခန်းစာများကို **မည်ကဲ့သို့** ကျက်သင့်သနည်း။

(ဂ) ဤသရက်သီးသည် **မည်မျှ** ချိုသနည်း။

(ဃ) သူ့အကြောင်းကို မင်း **ဘယ်လောက်** သိသလဲ။

(င) လူချစ်လူခင်များလိုလျှင် စကားကို **ဘယ်လို**ပြောသင့်သလဲ။

**(မည်ကဲ့သို့၊ မည်မျှ၊ ဘယ်လောက်၊ ဘယ်လို** စသော အမေးကြိယာဝိသေသန တို့၏အသုံးကို အထက်ပါဝါကျများတွင် လေ့လာနိုင်သည်။)

**လေ့ကျင့်ခန်း**

၁။ ကြိယာဝိသေသနဆိုသည်မှာ အဘယ်နည်း။ ကြိယာဝိသေသန မည်မျှရှိသနည်း။

၂။ အခြေအနေပြကြိယာဝိသေသနဆိုသည်မှာ အဘယ်နည်း။ အခြေအနေပြကြိယာဝိသေသန ၃ ခုကို ဖော်ပြ၍ ဝါကျတစ်ခုစီ၌သုံးပြပါ။

၃။ ပမာဏပြကြိယာဝိသေသနဆိုသည်မှာ အဘယ်နည်း။ ပမာဏပြကြိယာဝိသေသန ၃ ခုကို ဖော်ပြ၍ ဝါကျတစ်ခုစီ၌ သုံးပြပါ။

၄။ အမေးကြိယာဝိသေသနဆိုသည်မှာ အဘယ်နည်း။ အမေးကြိယာဝိသေသန ၃ ခုကို ဖော်ပြ၍ ဝါကျတစ်ခုစီ၌ သုံးပြပါ။

၅။ ကွက်လပ်များကို ဖြည့်ပါ။

(က) ကြိယာကို အထူးပြုသောပုဒ်ကို......ဟုခေါ်သည်။

(ခ) အခြေအနေကို ပြခြင်းဖြင့် ကြိယာကို အထူးပြုသော ပုဒ်ကို......ဟုခေါ်သည်။

(ဂ) ပမာဏကို ပြခြင်းဖြင့် ကြိယာကို အထူးပြုသောပုဒ်ကို ......ဟုခေါ်သည်။

(ဃ) မေးမြန်းခြင်းဖြင့် ကြိယာကို အထူးပြုသောပုဒ်ကို ...... ဟုခေါ်သည်။

(င) အဟုန်ပြင်းစွာ၊ မတ်တတ်၊ တွဲလောင်း၊ အမှန်၊ စင်စစ် တို့သည် ...... ကြိယာဝိသေသနများဖြစ်ကြသည်။

(စ) အချို့၊ အဆမတန်၊ လုံးဝ၊ နည်းနည်း၊ များများတို့သည် ...... ကြိယာဝိသေသနများဖြစ်ကြသည်။

၆။ အောက်ပါဝါကျများရှိ ကြိယာဝိသေသနတို့ကို မျဉ်းသားပါ။ ၎င်းတို့သည် အနက်အဓိပ္ပာယ်အရ မည်သည့် ကြိယာဝိသေသနဖြစ်သည်ကိုလည်း ဖော်ပြပါ။

(က) ဤစာပိုဒ်၏ ဆိုလိုရင်းကို အနည်းငယ် ရှင်းပြပါ။

(ခ) စာအုပ်များကို စားပွဲပေါ်မှာ သပ်သပ်ရပ်ရပ် စီထားပါ။

(ဂ) ငါတို့အဖွဲ့သည် ပြိုင်ပွဲတွင် မုချအောင်နိုင်ရမည်။

(ဃ) တပေါင်းလတွင် နေသည် အလွန်ပူပြင်း၏။

(င) ဤပုစ္ဆာကို သင်မည်ကဲ့သို့ တွက်မည်နည်း။

(စ) ထိုကိစ္စနှင့်ပတ်သက်၍ ကျွန်တော်အတော်အတန် သိထားပြီး ဖြစ်ပါသည်။

(ဆ) လွန်ခဲ့သော ညက မိုးသည်းထန်စွာရွာသည်။

(ဇ) ဤအဆိုကို လုံးဝ သဘောမတူပါ။

(ဈ) ကျောင်းသို့ သင်မည်သို့ သွားမည်နည်း။

(ည) ဖူဇကာပုဏ္ဏားသည် အစာကို အဆမတန် စားသဖြင့် အသက်ဆုံးရှုံးရလေသည်။

# ဝိဘတ်

**ဝိဘတ်**

၂၇။ နာမ်၊ နာမ်စားတို့၏ နောက်၌ တည်၍ ၎င်းတို့သည် ကတ္တားဖြစ်သည်၊ ကံဖြစ်သည် စသည်ကိုလည်းကောင်း၊ ကြိယာ၏ နောက်၌တည်၍ ၎င်းကြိယာ၏ကာလနှင့် အမျိုးအစားကို လည်းကောင်း ဝေဖန်ပိုင်းခြားပြသော စကားလုံးကို **ဝိဘတ်**ဟု ခေါ်သည်။

၂၈။ ဝိဘတ် ၂ မျိုးရှိသည်။ ယင်းဝိဘတ် ၂မျိုးတို့မှာ–

(က) နာမ်ဝိဘတ်

(ခ) ကြိယာဝိဘတ်တို့ဖြစ်ကြသည်။

(နာမ်ဝိဘတ် ၉ မျိုးအကြောင်းကို အတွဲ ၁၊ အခန်း ၂ ၌လည်းကောင်း၊ ကျန်ရှိသော နာမ်ဝိဘတ် ၈ မျိုးအကြောင်းကို အတွဲ ၁၊ အခန်း ၃ ၌ လည်းကောင်း ဖော်ပြခဲ့ပြီ။ ဤအတွဲ ၁၊ အခန်း ၄ ၌မူ ကြိယာဝိဘတ် အကြောင်းကို ဆက်လက်ဖော်ပြမည်။)

၂၉။ **ကြိယာဝိဘတ်**။ ။ ကြိယာ၏နောက်၌တည်၍ ၎င်းကြိယာ၏ကာလနှင့်အမျိုးအစားကို ဝေဖန်ပိုင်းခြားပြသောဝိဘတ်ကို **ကြိယာဝိဘတ်**ဟု ခေါ်သည်။

၃၀။ ကြိယာဝိဘတ် ၂မျိုးရှိသည်။ ယင်းဝိဘတ် ၂ မျိုးတို့မှာ–

(က) ကာလပြကြိယာဝိဘတ်

(ခ) အမျိုးအစားပြကြိယာဝိဘတ်တို့ဖြစ်ကြသည်။

၃၁။ **ကာလပြကြိယာဝိဘတ်**။ ။ ကြိယာ၏ပြုခြင်း၊ ဖြစ်ခြင်း၊ ရှိခြင်းနှင့် စပ်ဆိုင်သည့် အချိန်ကာလကို ပြသော ဝိဘတ်ကို **ကာလပြကြိယာဝိဘတ်**ဟု ခေါ်သည်။

၃၂။ ကာလပြကြိယာဝိဘတ် ၃ မျိုးရှိသည်။ ယင်းဝိဘတ် ၃ မျိုးတို့မှာ–

(က) ပစ္စုပ္ပန်ကာလပြကြိယာဝိဘတ်

(ခ) အတိတ်ကာလပြကြိယာဝိဘတ်

(ဂ) အနာဂတ်ကာလပြကြိယာဝိဘတ် တို့ဖြစ်ကြသည်။

၃၃။(က) **ပစ္စုပ္ပန်ကာလပြကြိယာဝိဘတ်**။ ။ကြိယာ၏ပြုဆဲ၊ ဖြစ်ဆဲ၊ ရှိဆဲကာလကို ဖော်ပြသော ဝိဘတ်ကို **ပစ္စုပ္ပန်ကာလပြကြိယာဝိဘတ်**ဟု ခေါ်သည်။ ပစ္စုပ္ပန်ကာလပြကြိယာဝိဘတ် တို့မှာ **သည်၊ ၏၊ ပြီ**တို့ဖြစ်ကြသည်။

**သာဓက**။ ။

(၁) ယနေ့ရာသီဥတု သာယာ**သည်/၏**။

(၂) မောင်သံချောင်းသည် ရန်ကုန်မြို့၌ နေ**သည်/၏**။

(၃) လကမ္ဘာသို့ လူသားများ ရောက်**ပြီ**။

(၄) မီးရထားသည် ဘူတာရုံထဲသို့ ဝင်လာ**ပြီ**။

(၅) ကျွန်တော့်တွင် ငွေငါးကျပ်ရှိ**သည်**။

(ခ) **အတိတ်ကာလပြကြိယာဝိဘတ်**။ ။ ကြိယာ၏ပြုပြီး၊ ဖြစ်ပြီး၊ ရှိပြီးကာလကို ဖော်ပြသော ဝိဘတ်ကို **အတိတ်ကာလပြကြိယာဝိဘတ်**ဟုခေါ်သည်။ အတိတ်ကာလပြကြိယာဝိဘတ် တို့မှာ **သည်၊ ၏၊ ပြီ** တို့ဖြစ်ကြသည်။

**သာဓက**။ ။

(၁) မနေ့က ရာသီဥတု သာယာ**သည်/၏**။

(၂) လွန်ခဲ့သော ငါးနှစ်က မောင်သံချောင်းသည် ရန်ကုန်မြို့၌ နေ **သည်**/**၏**။

(၃) စောစောကပင် မီးရထားဝင်သွား**ပြီ**။

(၄) ဦးဘသည် စစ်အတွင်းက ကျောင်းဆရာလုပ်**သည်/၏**။

(၅) သူပြန်သွား**ပြီ**။

(ဂ) **အနာဂတ်ကာလပြကြိယာဝိဘတ်**။ ။ ကြိယာ၏ ပြုလတ္တံ့၊ ဖြစ်လလတ္တံ့၊ ရှိလတ္တံ့ ကာလကို ဖော်ပြသောဝိဘတ်ကို **အနာဂတ်ကာလပြကြိယာဝိဘတ်** ဟု ခေါ်သည်။ အနာဂတ်ကာလပြကြိယာဝိဘတ်တို့မှာ **မည်၊ လိမ့်မည်၊ အံ့၊ လတ္တံ့** တို့ ဖြစ်ကြသည်။

**သာဓက**။ ။

(၁) မနက်ဖြန် မောင်ရေချဲပြန်လာ**မည်/လိမ့်မည်**။

(၂) မန္တလေး–ရန်ကုန် အစုန်အမြန်ရထားသည် မကြာမီ ဆိုက် **မည်/ လိမ့်မည်**။

(၃) မိုးကောင်းသောကြောင့် စပါးအောင်**အံ့/ လတ္တံ့**။

(၄) ဤအမှုကို ဆောင်ရွက်လျှင် အများက ချီးမွမ်းကြ**အံ့/လတ္တံ့**။

(၅) မူးယစ်ဆေးဝါးကိုသုံးလျှင် လူမျိုးပါ ပြုန်း**မည်/လိမ့်မည်**။

၃၄။ **အမျိုးအစားပြကြိယာဝိဘတ်**။ ။ကြိယာ၏အမျိုးအစားကို ဖော်ပြသောဝိဘတ်ကို **အမျိုးအစားပြကြိယာဝိဘတ်**ဟု ခေါ်သည်။

၃၅။ အမျိုးအစားပြကြိယာဝိဘတ် ၄ မျိုးရှိသည်။ ယင်းဝိဘတ် ၄ မျိုးတို့မှာ–

(က) စေခိုင်းဝိဘတ်

(ခ) ညှိနှိုင်းဝိဘတ်

(ဂ) ဆန္ဒညွှန်ဝိဘတ်

(ဃ) အမိန့်ချဝိဘတ်တို့ဖြစ်ကြသည်။

၃၆။(က) **စေခိုင်းဝိဘတ်**။ ။ စေခိုင်းခြင်းကို ပြသည့် ဝိဘတ်ကို **စေခိုင်းဝိဘတ်**ဟု ခေါ်သည်။ စေခိုင်းဝိဘတ်မှာ **လော့**ဖြစ်သည်။

**သာဓက**။ ။

(၁) ဤအကြောင်းကို ချက်ချင်းပြောကြားပါ**လော့**။

(၂) ငါ့အားအမှန်အတိုင်း ပြောကြား**လော့**။

(၃) သွေးစည်းညီညွတ်ကြ**လော့**။

(ခ) **ညှိနှိုင်းဝိဘတ်**။ ။ ဆောင်ရွက်သူအချင်းချင်း ညှိနှိုင်းခြင်းကိုပြသည့်ဝိဘတ်ကို **ညှိနှိုင်းဝိဘတ်** ဟု ခေါ်သည်။ ညှိနှိုင်းဝိဘတ်တို့မှာ **စို့၊ ရအောင်**တို့ ဖြစ်ကြသည်။

**သာဓက**။ ။

(၁) အချိန်တန်ပြီမို့ အိမ်ပြန်**စို့**။

(၂) ယနေ့ကစ၍ အကျိုးများအောင် ကြိုးစား**စို့**။

(၃) ကျောင်းပိတ်ရက်မှာ လုပ်အားပေး**ရအောင်**။

(ဂ) **ဆန္ဒညွှန်ဝိဘတ်**။ ။ ခွင့်တောင်းခြင်း၊ ဆုတောင်းမေတ္တာ ပို့သခြင်း၊ ကျိန်ဆဲ ခြင်း စသော အလိုဆန္ဒတို့ကို ဖော်ပြသည့် ဝိဘတ်ကို **ဆန္ဒညွှန်ဝိဘတ်**ဟု ခေါ်သည်။ ဆန္ဒညွှန်ဝိဘတ်တို့မှာ **ပါရစေ၊ ပါစေ** တို့ဖြစ်ကြသည်။

**သာဓက**။ ။

(၁) ကျွန်တော် ကြည့်**ပါရစေ**။

(၂) ကျန်းမာချမ်းသာကြ**ပါစေ**။

(၃) သွားလေရာ ဘေးတွေ့**ပါစေ။**

(ဃ) **အမိန့်ချဝိဘတ်**။ ။ အမိန့်ပေးခြင်းကို ဖော်ပြသည့်ဝိဘတ်ကို **အမိန့်ချဝိဘတ်** ဟု ခေါ်သည်။ အမိန့်ချဝိဘတ်မှာ **စေ** ဖြစ်သည်။

**သာဓက**။ ။

(၁) အလုပ်ကြမ်းနှင့် ထောင်ဒဏ်သုံးနှစ်ကျခံ**စေ**။

(၂) ဤအမှုမှ တရားသေလွတ်**စေ**။

## လေ့ကျင့်ခန်း

၁။ နာမ်ဝိဘတ်ဆိုသည်မှာ အဘယ်နည်း။

၂။ ကြိယာဝိဘတ်ဆိုသည်မှာ အဘယ်နည်း။

၃။ ကာလပြကြိယာဝိဘတ်ဆိုသည်မှာ အဘယ်နည်း။ ကာလပြကြိယာဝိဘတ် ၃ မျိုး၏အမည်ကို သာဓက ဝါကျတစ်ခုစီနှင့်တကွ ဖော်ပြပါ။

၄။ အမျိုးအစားပြကြိယာဝိဘတ်ဆိုသည်မှာ အဘယ်နည်း။ အမျိုးအစားပြကြိယာဝိဘတ် ၄ မျိုး၏အမည်ကို သာဓက ဝါကျတစ်ခုစီနှင့်တကွ ဖော်ပြပါ။

၅။ စေခိုင်းဝိဘတ်ဆိုသည်မှာ အဘယ်နည်း။ စေခိုင်းဝိဘတ်ဖြင့် ဝါကျ ၃ ခုဖွဲ့ပါ။

၆။ ညွှိနှိုင်းဝိဘတ်ဆိုသည်မှာ အဘယ်နည်း။ ညွှိနှိုင်းဝိဘတ်ဖြင့် ဝါကျ ၃ ခုဖွဲ့ပါ။

၇။ ဆန္ဒညွှန်ဝိဘတ်ဆိုသည်မှာ အဘယ်နည်း။ ဆန္ဒညွှန်ဝိဘတ်ဖြင့် ဝါကျ ၃ ခုဖွဲ့ပါ။

၈။ အမိန့်ချဝိဘတ်ဆိုသည်မှာ အဘယ်နည်း။ အမိန့်ချဝိဘတ်ဖြင့် ဝါကျ ၃ ခုဖွဲ့ပါ။

၉။ ပေးထားသော ဝါကျများရှိ ဝိဘတ်တို့ကို မျဉ်းသား၍ နာမ်ဝိဘတ်ဖြစ်သည်၊ ကြိယာဝိဘတ်ဖြစ်သည်ကို ခွဲခြားပြပါ။ ၎င်းတို့၏ အမျိုးအမည်များကိုလည်း ဖော်ပြပါ။

(က) ကျန်းမာရေးအတွက် သန့်ရှင်းသော အစားအစာများကို နေ့စဉ်စားသင့်၏။

(ခ) နွေရာသီကျောင်းပိတ်ရက်တွင် ဆရာနှင့် သူ၏တပည့်များသည် လေ့လာရေးခရီး ထွက်ကြမည်။

(ဂ) ပညာရေးဆွေးနွေးပွဲ ပြီးပြီ။

(ဃ) ပြည်ထောင်စုနေ့အခမ်းအနားသို့ ချီတက်ကြလော့။

(င) အောင်ပွဲရ မြန်မာ့လက်ရွေးစင်အားကစားသမားများသည် နက်ဖြန် နံနက်တွင် မိခင်နိုင်ငံသို့ ပြန်လည်ရောက်ရှိကြမည်။

(စ) စစ်တောင်းမြစ်ရေသည် နောက် နှစ်ဆယ့်လေးနာရီအတွင်း စိုးရိမ်ရေမှတ်သို့ ရောက်မည်။

(ဆ) ဤအမှုကို ပလပ်စေဟု တရားသူကြီးက အမိန့်ချပြီးပြီ။

(ဇ) လုံ့လဝီရိယရှိသူသည် တစ်နေ့တွင် မုချအောင်မြင်ရမည်။

(ဈ) စောစောအိပ်လို့၊ စောစောထလို့၊ စောစောလမ်းလျှောက်ကြပါစို့။

(ည) ကျန်စစ်သားမင်းကြီးသည် အာနန္ဒာစေတီကို တည်ထားကိုးကွယ်တော်မူသည်။

(ဋ) ကျန်းမာခြင်းသည် လာဘ်တစ်ပါးဖြစ်သည်။

(ဌ) ရွာလမ်းဖောက်ရာမှာ လုပ်အားပေးကြရအောင်။

(ဍ) ကျန်းမာချမ်းသာကြပါစေ။

(ဎ) ချစ်စကို ရှည်စေ၊ မုန်းစကို တိုစေ။

(ဏ) အဖေအမေတို့ စိတ်ပူနေကြမည်၊ အိမ်ပြန်စို့။

(တ) ကြိုးစားခြင်းသည် အောင်မြင်ခြင်း၏လမ်းစဖြစ်သည်။

၁၀။ ပေးထားသောဝါကျများရှိ ကွက်လပ်တို့တွင် ဆီလျော်သော နာမ်ဝိဘတ်နှင့် ကြိယာဝိဘတ်များကို ဖြည့်ပါ။

(က) မကြာမီ အမေပြန်ရောက်တော့......။

(ခ) ကျွန်တော်တို့......လွန်ခဲ့သောလ......လပတ်စာမေးပွဲ ဖြေကြရ......။

(ဂ) တိုင်းရင်းသားအချင်းချင်းရိုင်းပင်းကူညီကြ......။

(ဃ) လာမည့်တနင်္ဂနွေနေ့......ကျွန်တော်တို့သူငယ်ချင်းတစ်စု ပျော်ပွဲစားသွားကြ ... ... ။

(င) ကျောင်းဆင်းလျှင် ငါတို့ကစားကြ......။

(စ) ကျောင်းပိတ်ရက်......မိဘ......ကူပါ။

(ဆ) တရားသူကြီး......မောင်ပု......အမှု......တရားသေ လွတ်......ဟု စီရင်ချက်ချလိုက်......။

(ဇ) အောက်ဆီဂျင်......လေထက်ပေါ့......။

(ဈ) လာမည့်ဘေး၊ ဝေး......။

(ည) တပို့တွဲလ......ထမနဲထိုးကြ......။

# သမ္ဗန္ဓ

**သမ္ဗန္ဓ**

၃၇။ ပုဒ်အချင်းချင်းကို ဖြစ်စေ၊ ဝါကျအချင်းချင်းကို ဖြစ်စေ၊ အဓိပ္ပာယ်အချင်းချင်းကို ဖြစ်စေ ဆက်စပ်ပေးသော စကားလုံးကို **သမ္ဗန္ဓ**ဟု ခေါ်သည်။

၃၈။ သမ္ဗန္ဓ ၃မျိုးရှိသည်။ ၎င်းတို့မှာ–

(က) ပုဒ်ဆက်သမ္ဗန္ဓ

( ခ ) ဝါကျဆက်သမ္ဗန္ဓ

( ဂ ) အဓိပ္ပာယ်ဆက်သမ္ဗန္ဓတို့ ဖြစ်ကြသည်။

(ပုဒ်ဆက်သမ္ဗန္ဓအကြောင်းကို အတွဲ ၁၊ အခန်း ၃ ၌ ဖော်ပြခဲ့ပြီး ဖြစ်သည်။ ဤအတွဲ ၁၊ အခန်း ၄ ၌မူ **ဝါကျဆက်သမ္ဗန္ဓ** နှင့် **အဓိပ္ပာယ်ဆက်သမ္ဗန္ဓ**တို့ အကြောင်းကို ဖော်ပြမည်။)

၃၉။ **ဝါကျဆက်သမ္ဗန္ဓ**။ ။ ဝါကျအချင်းချင်း ဆက်စပ်ပေးသော သမ္ဗန္ဓကို **ဝါကျဆက် သမ္ဗန္ဓ** ဟု ခေါ်သည်။

**သာဓက**။ ။ နှင့်တစ်ပြိုင်နက်၊ သကဲ့သို့၊ စေရန်၊ လျှင်၊ ၍၊ လျက်၊ သော်လည်း။

(က) **နှင့်တစ်ပြိုင်နက်။** ။ အချိန်ပြခြင်းအနက်ဖြင့် ဝါကျ အချင်းချင်းကို ဆက်စပ် ပေးသောသမ္ဗန္ဓဖြစ်သည်။

(၁) မိုးသံကို ကြားသည်။

(၂) လယ်သမားတို့သည် ထွန်တုံးကို ပြင်ကြပြီ။

(၃) မိုးသံကို ကြားသည်**နှင့်တစ်ပြိုင်နက်** လယ်သမားတို့သည် ထွန်တုံး ကို ပြင်ကြပြီ။

ဝါကျ (၁) နှင့် (၂) တို့သည် သီးခြားဝါကျရိုးများဖြစ်ကြသည်။ ထိုဝါကျများကို **နှင့်တစ်ပြိုင်နက်** ဟူသော သမ္ဗန္ဓဖြင့် ဆက်လိုက်သောအခါ တတိယဝါကျ ဖြစ်လာသည်။

မိုးဦးကျအခါ၌ လယ်သမားတို့ ထွန်တုံးပြင်ကြကြောင်းကို **နှင့်တစ်ပြိုင်နက်** ဟူသော သမ္ဗန္ဓက ပြသည်။ ထို့ကြောင့် **နှင့်တစ်ပြိုင်နက်**သည် အချိန် ပြခြင်း အနက်ဖြင့် ဝါကျအချင်းချင်းကို ဆက်စပ်ပေးသော **ဝါကျဆက်သမ္ဗန္ဓ** ဖြစ်သည်။ (ထိုနည်းအတူ **နှင့်၊ သောအခါ၊ လျက်၊ စဉ်၊ ပတ်လုံး၊ အတွင်း** စသည်တို့ သည်လည်း အချိန်ပြခြင်းအနက်ဖြင့် ဝါကျအချင်းချင်းကို ဆက်စပ်ပေးသော **ဝါကျဆက်သမ္ဗန္ဓ**များ ဖြစ်ကြသည်။)

( ခ ) **သကဲ့သို့**။ ။ နှိုင်းယှဉ်ခြင်းအနက်ဖြင့် ဝါကျအချင်းချင်းကို ဆက်စပ်ပေးသော သမ္ဗန္ဓ ဖြစ်သည်။

(၁) လူရည်ချွန်ကျောင်းသားများသည် စာကြိုးစားကြသည်။

(၂) ကျွန်ုပ်တို့လည်း စာကြိုးစားကြသည်။

(၃) လူရည်ချွန်ကျောင်းသားများ စာကြိုးစားကြ**သကဲ့သို့** ကျွန်ုပ်တို့လည်း စာကြိုးစားကြသည်။

ဝါကျ (၁) နှင့် (၂) တို့သည် သီးခြားဝါကျရိုးများ ဖြစ်ကြသည်။ ထိုဝါကျများကို **သကဲ့သို့** ဟူသော သမ္ဗန္ဓဖြင့် ဆက်လိုက်သောအခါ တတိယဝါကျ ဖြစ်လာသည်။ လူရည်ချွန်ကျောင်းသားများ၏ စာကြိုးစားမှုနှင့် ကျွန်ုပ်တို့၏ စာကြိုးစားမှုကို **သကဲ့သို့** ဟူသော သမ္ဗန္ဓက နှိုင်းယှဉ်ပြသည်။ ထို့ကြောင့် **သကဲ့သို့**သည် နှိုင်းယှဉ်ခြင်းအနက်ဖြင့် ဝါကျအချင်းချင်းကို ဆက်စပ်ပေးသော **ဝါကျဆက်သမ္ဗန္ဓ** ဖြစ်သည်။

(ထိုနည်းအတူ **ထက်၊ နည်းတူ၊ သလောက်၊ အတိုင်း** စသည်တို့သည်လည်း နှိုင်းယှဉ်ခြင်းအနက်ဖြင့် ဝါကျအချင်းချင်းကို ဆက်စပ်ပေးသော **ဝါကျဆက် သမ္ဗန္ဓ**များ ဖြစ်ကြသည်။)

(ဂ) **စေရန်**။ ။ အကျိုးတစ်စုံတစ်ရာကို မျှော်လင့်ခြင်းအနက်ဖြင့် ဝါကျအချင်းချင်းကို ဆက်စပ်ပေးသောသမ္ဗန္ဓ ဖြစ်သည်။

(၁) နိုင်ငံ၏စီးပွားရေးတိုးတက်သည်။

(၂) ကုန်များကို အဆင့်မီထုတ်လုပ်ရမည်။

(၃) နိုင်ငံ၏စီးပွားရေး တိုးတက်စေရန် ကုန်များကို အဆင့်မီ ထုတ်လုပ်ရမည်။

ဝါကျ (၁) နှင့် (၂) တို့သည် သီးခြားဝါကျရိုးများ ဖြစ်ကြသည်။ ထိုဝါကျများကို **စေရန်**ဟူသောသမ္ဗန္ဓဖြင့် ဆက်လိုက်သောအခါ တတိယဝါကျ ဖြစ်လာသည်။ နိုင်ငံ၏စီးပွားတိုးတက်မှုကို ရည်မှန်း၍ ကုန်များကို အဆင့်မီ ထုတ်လုပ်သင့်ကြောင်းကို **စေရန်** ဟူသော သမ္ဗန္ဓက ပြသည်။ ထို့ကြောင့် **စေရန်**သည် အကျိုး မျှော်လင့်ခြင်းအနက်ဖြင့် ဝါကျ အချင်းချင်းကို ဆက်စပ်ပေးသော **ဝါကျဆက်သမ္ဗန္ဓ** ဖြစ်သည်။

(ထိုနည်းအတူ **အောင်၊ အံ့သောငှာ၊ ရန်၊ အတွက်** စသည်တို့သည်လည်း အကျိုးမျှော်လင့်ခြင်းအနက်ဖြင့် ဝါကျအချင်းချင်းကို ဆက်စပ်ပေးသော **ဝါကျဆက် သမ္ဗန္ဓ** များဖြစ်ကြသည်။)

(ဃ) **လျှင်**။ ။ ကန့်သတ်ခြင်းအနက်ဖြင့် ဝါကျအချင်းချင်းကို ဆက်စပ်ပေးသော သမ္ဗန္ဓဖြစ်သည်။

(၁) စာမေးပွဲအောင်သည်။

(၂) အတန်းတက်ရမည်။

(၃) စာမေးပွဲအောင်လျှင် အတန်းတက်ရမည်။

ဝါကျ (၁) နှင့် (၂)တို့သည် သီးခြားဝါကျရိုးများဖြစ်ကြသည်။ ထိုဝါကျများကို **လျှင်** ဟူသော သမ္ဗန္ဓဖြင့်ဆက်လိုက်သောအခါ တတိယဝါကျ ဖြစ်လာသည်။ အတန်းတက်ရန်အတွက် စာမေးပွဲအောင်ရမည်ဖြစ်ကြောင်းကို **လျှင်**ဟူသော သမ္ဗန္ဓက ကန့်သတ်ပြသည်။ ထို့ကြောင့် **လျှင်**သည် ကန့်သတ်ခြင်းအနက်ဖြင့် ဝါကျအချင်းချင်းကို ဆက်စပ်ပေးသော **ဝါကျဆက်**သမ္ဗန္ဓဖြစ်သည်။

(ထိုနည်းအတူ **မှ၊ က၊ သော်** စသည်တို့သည်လည်း ကန့်သတ်ခြင်းအနက်ဖြင့်

ဝါကျအချင်းချင်းကို ဆက်စပ်သော **ဝါကျဆက်**သမ္ဗန္ဓများ ဖြစ်ကြသည်။)

(င) **၍**။ ။ အကြောင်းပြခြင်းအနက်ဖြင့် ဝါကျအချင်းချင်းကို ဆက်စပ်ပေးသော သမ္ဗန္ဓ ဖြစ်သည်။

(၁) မိုးလေဝသ မှန်ကန်သည်။

(၂) စပါးအထွက်တိုးသည်။

(၃) မိုးလေဝသမှန်ကန်၍ စပါးအထွက်တိုးသည်။

ဝါကျ (၁) နှင့် (၂) တို့သည် သီးခြားဝါကျရိုးများ ဖြစ်ကြသည်။ ထိုဝါကျများကို **၍** ဟူသော သမ္ဗန္ဓဖြင့် ဆက်လိုက်သောအခါ တတိယဝါကျဖြစ်လာသည်။ စပါးအထွက်တိုးရခြင်းအကြောင်းရင်းသည် မိုးလေဝသ မှန်ကန်ခြင်းဖြစ်ကြောင်းကို **၍**ဟူသော သမ္ဗန္ဓက ပြသည်။ ထို့ကြောင့် **၍**သည် အကြောင်းပြခြင်းအနက်ဖြင့် ဝါကျအချင်းချင်းကို ဆက်စပ်ပေးသော **ဝါကျဆက်သမ္ဗန္ဓ** ဖြစ်သည်။

(ထိုနည်းအတူ **သောကြောင့်၊ ရကား၊ သည့်အတွက်၊ သဖြင့်** စသည်တို့သည်လည်း အကြောင်းပြခြင်းအနက်ဖြင့် ဝါကျအချင်းချင်းကို ဆက်စပ်ပေးသော **ဝါကျဆက်သမ္ဗန္ဓ**များဖြစ်ကြသည်။)

(စ) **၍**။ ။ တစ်ခုပြီးတစ်ခု ဆောင်ရွက်ခြင်း၊ ဖြစ်ပေါ်ခြင်းအနက်ဖြင့် ဝါကျအချင်းချင်းကို ဆက်စပ်ပေးသော သမ္ဗန္ဓဖြစ်သည်။

(၁) ခွေးသည် အမဲကင်ကို ပစ်ချသည်။

(၂) ခွေးသည် လွတ်ရာသို့ ပြေးလေ၏။

(၃) ခွေးသည် အမဲကင်ကို ပစ်ချ**၍** လွတ်ရာသို့ ပြေးလေ၏။

ဝါကျ (၁) နှင့် (၂) တို့သည် သီးခြားဝါကျရိုးများဖြစ်ကြသည်။ ထိုဝါကျ များကို **၍** ဟူသော သမ္ဗန္ဓဖြင့် ဆက်လိုက်သောအခါ တတိယဝါကျ ဖြစ်လာသည်။ ခွေးသည် အမဲကင်ကို ပစ်ချခြင်း၊ လွတ်ရာသို့ ပြေးခြင်းဟူသည့် ဆောင်ရွက်မှု ၂ခုကို တစ်ခုပြီးတစ်ခု ပြုလုပ်ခြင်းဖြစ်ကြောင်း **၍** ဟူသော သမ္ဗန္ဓက ပြသည်။ ထို့ကြောင့် **၍**သည် တစ်ခုပြီးတစ်ခု ဆောင်ရွက်ခြင်းအနက်ဖြင့် ဝါကျအချင်းချင်းကို ဆက်စပ်ပေးသော **ဝါကျဆက်သမ္ဗန္ဓ**ဖြစ်သည်။

(ထိုနည်းအတူ **ကာ၊ ပြီး** စသည်တို့သည်လည်း တစ်ခုပြီးတစ်ခု ဆောင်ရွက်ခြင်း၊ ဖြစ်ပေါ်ခြင်းအနက်ဖြင့် ဝါကျအချင်းချင်းကို ဆက်စပ်ပေးသော **ဝါကျဆက်သမ္ဗန္ဓ**များ ဖြစ်ကြသည်။)

(ဆ) **လျက်**။ ။ တစ်ပြိုင်နက်ဆောင်ရွက်ခြင်း၊ ဖြစ်ပေါ်ခြင်းအနက်ဖြင့် ဝါကျအချင်းချင်းကို ဆက်စပ်ပေးသော သမ္ဗန္ဓ ဖြစ်သည်။

(၁) တောသူလုံမေတို့သည် ရေအိုးကိုယ်စီရွက်လာကြသည်။

(၂) တောသူလုံမေတို့သည် ရွာလယ်ရေကန်မှ ပြန်လာကြသည်။

(၃) တောသူလုံမေတို့သည် ရေအိုးကိုယ်စီရွက်လျက် ရွာလယ် ရေကန်မှ ပြန်လာကြသည်။

ဝါကျ (၁) နှင့် (၂) တို့သည် သီးခြားဝါကျရိုးများ ဖြစ်ကြသည်။ ထိုဝါကျများကို **လျက်**ဟူသော သမ္ဗန္ဓဖြင့် ဆက်လိုက်သောအခါ တတိယဝါကျဖြစ်လာသည်။ တောသူလုံမေတို့သည် ရေအိုးရွက်ခြင်း၊ ရေကန်မှပြန်လာခြင်းဟူသည့် ဆောင်ရွက်မှု ၂ခုကို တစ်ပြိုင်နက် ဆောင်ရွက်ခြင်းဖြစ်ကြောင်း **လျက်** ဟူသော သမ္ဗန္ဓက ပြသည်။ ထို့ကြောင့် **လျက်**သည် တစ်ပြိုင်နက် ဆောင်ရွက်ခြင်းအနက်ဖြင့် ဝါကျအချင်းချင်းကို ဆက်စပ်ပေးသော **ဝါကျဆက်သမ္ဗန္ဓ** ဖြစ်သည်။

(ထိုနည်းအတူ **ကာ၊ စဉ်၊ တုန်း** စသည်တို့သည်လည်း တစ်ပြိုင်နက် ဆောင်ရွက်ခြင်း၊ ဖြစ်ပေါ်ခြင်းအနက်ဖြင့် ဝါကျအချင်းချင်းကို ဆက်စပ် ပေးသော **ဝါကျဆက်သမ္ဗန္ဓ**များဖြစ်ကြသည်။)

(ဇ) **သော်လည်း**။ ။ ဆန့်ကျင်အနက်ဖြင့် ဝါကျအချင်းချင်းကို ဆက်စပ်ပေးသော သမ္ဗန္ဓဖြစ်သည်။

(၁) သူအမြန်ပြေးသွားသည်။

(၂) သူမီးရထားမမီလိုက်ပါ။

(၃) သူအမြန်ပြေးသွားသော်လည်း မီးရထား မမီလိုက်ပါ။

ဝါကျ (၁) နှင့် (၂) တို့သည် သီးခြားဝါကျရိုးများ ဖြစ်ကြသည်။ ထိုဝါကျများကို **သော်လည်း**ဟူသော သမ္ဗန္ဓဖြင့် ဆက်လိုက်သော အခါ တတိယဝါကျဖြစ်လာသည်။ မီးရထားမထွက်ခင် အချိန်မီရောက်ရှိရေးအတွက် ကြိုးစားအားထုတ်မှု သည် အချည်းနှီးဖြစ်ရပုံကို **သော်လည်း** ဟူသော သမ္ဗန္ဓကပြသည်။ ထို့ကြောင့် **သော်လည်း** သည် ဆန့်ကျင်ခြင်းအနက်ဖြင့် ဝါကျ အချင်းချင်းကို ဆက်စပ်ပေးသော **ဝါကျဆက်သမ္ဗန္ဓ**ဖြစ်သည်။

(ထိုနည်းအတူ **ဘဲ၊ ဘဲနှင့်၊ လျက်၊ ဘဲလျက်နှင့်၊ စေကာမူ** စသည် တို့သည်လည်း ဆန့်ကျင်ခြင်းအနက်ဖြင့် ဝါကျအချင်းချင်းကို ဆက်စပ်ပေးသော **ဝါကျဆက်သမ္ဗန္ဓ** ဖြစ်ကြသည်။

၄၀။ **အဓိပ္ပာယ်ဆက်သမ္ဗန္ဓ**။ ။ သီးခြားဝါကျတို့၌ ပါရှိသော အဓိပ္ပာယ်အချင်းချင်းကို ဆက်စပ်ပေးသည့်သမ္ဗန္ဓကို **အဓိပ္ပာယ်ဆက်သမ္ဗန္ဓ**ဟုခေါ်သည်။

**သာဓက**။ ။ ထို့ကြောင့်၊ အဘယ်ကြောင့်ဆိုသော်၊ အကြောင်းမူကား၊ ထို့ပြင်၊ ထို့နောက်၊ သို့ရာတွင်၊ ထိုအခါ။

(က) **ထို့ကြောင့်**။ ။ အကြောင်းပြခြင်းအနက်ဖြင့် အဓိပ္ပာယ်ကို ဆက်စပ်ပေးသော သမ္ဗန္ဓဖြစ်သည်။

(၁) အင်းဝဘုရင် ဒုတိယမင်းခေါင်သည် စာဆိုတော်များကို အားပေး ချီးမြှောက်တော်မူသည်။

(၂) အင်းဝခေတ်၌ စာပေထွန်းကားသည်။

(၃) အင်းဝဘုရင် ဒုတိယမင်းခေါင်သည် စာဆိုတော်များကို အားပေး ချီးမြှောက်တော်မူသည်။ ထို့ကြောင့် အင်းဝခေတ်၌ စာပေ ထွန်းကား သည်။

ဝါကျ (၁) နှင့် (၂) တို့သည် သီးခြားဝါကျရိုးများ ဖြစ်ကြသည်။ ထိုဝါကျနှစ်ခုကို အမှတ်(၃)အတိုင်း **ထို့ကြောင့်** နှင့်ဆက်နိုင်သည်။

အင်းဝခေတ်၌ စာပေထွန်းကားရခြင်းမှာ အကျိုးဖြစ်၍ အင်းဝဘုရင် ဒုတိယမင်းခေါင်က စာဆိုတော်များကို အားပေးချီးမြှောက်ခြင်းမှာ အကြောင်း ဖြစ်သည်။ ဤသို့ အကြောင်းအကျိုးဆက်စပ်မှုကို **ထို့ကြောင့်** ဟူသော အဓိပ္ပာယ်ဆက်သမ္ဗန္ဓက ဖော်ပြသည်။

(ဤကဲ့သို့ အကြောင်းအကျိုး ဆက်စပ်မှုကို ဖော်ပြသော အခြား အဓိပ္ပာယ်ဆက် သမ္ဗန္ဓများမှာ **သို့ဖြစ်၍၊ သို့ဖြစ်သောကြောင့်** စသည်တို့ ဖြစ်ကြသည်။)

( ခ ) **အဘယ်ကြောင့်ဆိုသော်**။ ။ အကြောင်းပြခြင်းအနက်ဖြင့် အဓိပ္ပာယ်ကို ဆက်စပ်ပေးသော သမ္ဗန္ဓဖြစ်သည်။

(၁) အင်းဝခေတ်၌ စာပေထွန်းကားသည်။

(၂) အင်းဝဘုရင် ဒုတိယမင်းခေါင်သည် စာဆိုတော်များကို အားပေး ချီးမြှောက်တော်မူသည်။

(၃) အင်းဝခေတ်၌ စာပေထွန်းကားသည်။ အဘယ်ကြောင့်ဆိုသော် အင်းဝ ဘုရင် ဒုတိယမင်းခေါင်သည် စာဆိုတော်များကို အားပေး ချီးမြှောက်တော် မူသောကြောင့် ဖြစ်သည်။

ဝါကျ (၁) နှင့် (၂) တို့သည် သီးခြားဝါကျရိုးများ ဖြစ်ကြသည်။ ထိုဝါကျ နှစ်ခုကို အမှတ် (၃)အတိုင်း **အဘယ်ကြောင့်ဆိုသော်**နှင့် ဆက်နိုင်သည်။

အင်းဝခေတ်၌ စာပေထွန်းကားရခြင်း၏အကြောင်းမှာ ဒုတိယမင်းခေါင်၏ အားပေးမှု ကြောင့် ဖြစ်သည်ဟူသော အကြောင်းအကျိုးဆက်စပ်မှုကို **အဘယ်ကြောင့်ဆိုသော်** ဟူသော အဓိပ္ပာယ်ဆက်သမ္ဗန္ဓက ဖော်ပြသည်။

(ဤကဲ့သို့ အကြောင်းအကျိုးဆက်စပ်မှုကို ဖော်ပြသော အခြားအဓိပ္ပာယ်ဆက် သမ္ဗန္ဓများမှာ **အကြောင်းမူကား၊ အကြောင်းမှာကား၊ အကြောင်းမှာမူ၊ အကြောင်းသော်ကား** စသည်တို့ ဖြစ်ကြသည်။)

(ဂ) **ထို့ပြင်**။ ။ ပေါင်းစည်းခြင်းအနက်ဖြင့် အဓိပ္ပာယ်ကို ဆက်စပ်ပေးသော သမ္ဗန္ဓ ဖြစ်သည်။

(၁) သတင်းစာထဲ၌ ပြည်တွင်းပြည်ပသတင်းများပါသည်။

(၂) သတင်းစာထဲ၌ ပြည်တွင်းပြည်ပဆောင်းပါးများ ပါသည်။

(၃) သတင်းစာထဲ၌ ပြည်တွင်းပြည်ပသတင်းများပါသည်။ ထို့ပြင် ဆောင်းပါး များလည်း ပါသည်။

ဝါကျ (၁) နှင့် (၂) တို့သည် သီးခြားဝါကျရိုးများ ဖြစ်ကြသည်။ ထိုဝါကျ နှစ်ခုကို အမှတ်(၃)အတိုင်း **ထို့ပြင်**နှင့် ဆက်နိုင်သည်။

ရှေ့ကဖော်ပြခဲ့သည့် အကြောင်းအရာ၊ အချက်အလက်နှင့် နောက်၌ ဖော်ပြမည့် အကြောင်းအရာ၊ အချက်အလက်ကို **ထို့ပြင်**ဟူသော အဓိပ္ပာယ်ဆက်သမ္ဗန္ဓက ပေါင်းစည်းဖော်ပြသည်။

(ဤကဲ့သို့ ပေါင်းစည်းမှုကိုပြသော အခြားအဓိပ္ပာယ်ဆက် သမ္ဗန္ဓများမှာ **ငင်းပြင်၊ သည့်ပြင်** စသည်တို့ ဖြစ်ကြသည်။)

(ဃ) **ထို့နောက်**။ ။ တစ်ခုပြီးလျှင်တစ်ခု ဆောင်ရွက်ခြင်းအနက်ဖြင့် အဓိပ္ပာယ်ကို ဆက်စပ်ပေးသော သမ္ဗန္ဓ ဖြစ်သည်။

(၁) ဦးကြီးသည် လယ်ကို ထွန်သည်။

(၂) သူသည် ပျိုးကြဲသည်။

(၃) ဦးကြီးသည် လယ်ကိုထွန်သည်။ ထို့နောက် သူသည် ပျိုးကြဲသည်။

ဝါကျ (၁) နှင့် (၂)တို့သည် သီးခြားဝါကျရိုးများ ဖြစ်ကြသည်။ ထိုဝါကျနှစ်ခုကို အမှတ်(၃)အတိုင်း **ထို့နောက်**နှင့်ဆက်နိုင်သည်။

ဦးကြီး၏ ပထမဆောင်ရွက်မှုမှာ လယ်ထွန်ခြင်းဖြစ်၍ ဒုတိယ ဆောင်ရွက်မှုမှာ ပျိုးကြဲခြင်းဖြစ်သည်။ ဆောင်ရွက်မှုတစ်ခုပြီး၍ နောက်တစ်ခု ဆက်လက်ဆောင်ရွက်ကြောင်းကို **ထို့နောက်** ဟူသော သမ္ဗန္ဓက ဖော်ပြသည်။

(ဤကဲ့သို့ တစ်ခုပြီးလျှင်တစ်ခု ဆောင်ရွက်ကြောင်း ဖော်ပြသော အခြားအဓိပ္ပာယ်ဆက်သမ္ဗန္ဓများမှာ **ငင်းနောက်၊ သည့်နောက်** စသည်တို့ ဖြစ်ကြသည်။)

(င) **သို့ရာတွင်**။ ။ ဆန့်ကျင်ခြင်းအနက်ဖြင့် အဓိပ္ပာယ်ကို ဆက်စပ်ပေးသော သမ္ဗန္ဓဖြစ်သည်။

(၁) သူသည် ကြမ်းတမ်းစွာ ပြောဆိုတတ်သည်။

(၂) သူသည် စိတ်သဘောထားကောင်းသည်။

(၃) သူသည် ကြမ်းတမ်းစွာ ပြောဆိုတတ်သည်။ သို့ရာတွင် သူသည် စိတ်သဘောထား ကောင်းသည်။

ဝါကျ (၁) နှင့် (၂) တို့သည် သီးခြားဝါကျရိုးများဖြစ်ကြသည်။ ထိုဝါကျ နှစ်ခုကို အမှတ်(၃)အတိုင်း **သို့ရာတွင်**နှင့် ဆက်နိုင်သည်။

လူတစ်ဦး၏အမူအရာနှင့် စိတ်ရင်းသဘောထားတို့သည် ရံဖန်ရံခါ၌ ဆန့်ကျင်ဘက်ဖြစ်တတ်သည်။ ထိုသို့ ဆန့်ကျင်ဘက်ဖြစ်တတ်ကြောင်းကို **သို့ရာတွင်** ဟူသော အဓိပ္ပာယ်ဆက်သမ္ဗန္ဓက ဖော်ပြသည်။

(ဤကဲ့သို့ ဆန့်ကျင်အနက်ကို ဖော်ပြသော အခြားသမ္ဗန္ဓများမှာ **သို့သော်လည်း၊ သို့ဖြစ်သော်လည်း၊ သို့တစေ၊ သို့ပေမည့်၊ သို့ပေမင့်၊ သို့ဖြစ်စေကာမူ** စသည်တို့ ဖြစ်ကြသည်။)

(စ) **ထိုအခါ**။ ။ အချိန်ပြခြင်းအနက်ဖြင့် အဓိပ္ပာယ်ကို ဆက်စပ်ပေးသော သမ္ဗန္ဓ ဖြစ်သည်။

(၁) တန်ခူးလ၌ သင်္ကြန်ပွဲတော်ကို ကျင်းပလေ့ရှိသည်။

(၂) လူငယ်လူရွယ်များသည် အတာရေသဘင်ကို ပျော်ပျော်ပါးပါး ဆင်နွှဲကြသည်။

(၃) တန်ခူးလ၌ သင်္ကြန်ပွဲတော်ကို ကျင်းပလေ့ရှိသည်။ ထိုအခါ လူငယ်လူရွယ်များသည် အတာရေသဘင်ကို ပျော်ပျော်ပါးပါး ဆင်နွှဲကြသည်။

ဝါကျ (၁) နှင့် (၂) တို့သည် သီးခြားဝါကျရိုးများ ဖြစ်ကြသည်။ ထိုဝါကျနှစ်ခုကို အမှတ်(၃)အတိုင်း **ထိုအခါ**နှင့်ဆက်နိုင်သည်။

သကြ်န်ပွဲတော်ကျင်းပချိန်၌ လူငယ်များနွဲ ပျော်ကြပုံကို **ထိုအခါ** ဟူသော အဓိပ္ပာယ်ဆက်သမ္ဗန္ဓက ဖော်ပြသည်။

## လေ့ကျင့်ခန်း

၁။ သမ္ဗန္ဓဆိုသည်မှာ အဘယ်နည်း။

၂။ ဝါကျဆက်သမ္ဗန္ဓဆိုသည်မှာ အဘယ်နည်း။ ဝါကျဆက်သမ္ဗန္ဓနှင့် ပုဒ်ဆက်သမ္ဗန္ဓတို့ ခြားနားပုံကို သာဓကဝါကျတစ်ခုစီဖြင့် ရှင်းပြပါ။

၃။ အဓိပ္ပာယ်ဆက် သမ္ဗန္ဓဆိုသည်မှာ အဘယ်နည်း။ ဝါကျဆက်သမ္ဗန္ဓနှင့် အဓိပ္ပာယ်ဆက် သမ္ဗန္ဓတို့ ခြားနားပုံကို သာဓကတစ်ခုစီဖြင့် ရှင်းပြပါ။

၄။ အဓိပ္ပာယ်ဆက်သမ္ဗန္ဓ ၅ ခုကို ဖော်ပြ၍ ဝါကျတစ်ခုစီ၌ သုံးပြပါ။

၅။ ကွက်လပ်များကို ဖြည့်ပါ။

(က) ...... အချင်းချင်းကိုဖြစ်စေ၊ ......အချင်းချင်းကိုဖြစ်စေ၊ ...... အချင်းချင်းကို ဖြစ်စေ ဆက်စပ်ပေးသော စကားလုံးကို သမ္ဗန္ဓဟု ခေါ်သည်။

(ခ) ဝါကျအချင်းချင်း ဆက်စပ်ပေးသော သမ္ဗန္ဓကို ...... သမ္ဗန္ဓ ဟု ခေါ်သည်။

(ဂ) ...... သမ္ဗန္ဓသည် ပုဒ်အချင်းချင်းကို ဆက်စပ်ပေး၍ ...... သမ္ဗန္ဓသည် သီးခြား ဝါကျနှစ်ခု၌ပါရှိသော အဓိပ္ပာယ်ကို ဆက်စပ်ပေးသည်။

၆။ ပေးထားသော ဝါကျများရှိကွက်လပ်တို့တွင် ဆီလျော်သော ဝါကျဆက်သမ္ဗန္ဓတို့ကို ဖြည့်ပါ။

(က) မူးယစ်ဆေးဝါးကို သုံး......လူညွန့်တုံးမည်။

(ခ) မောင်ကံကောင်းသည် စာကြိုးစား......ဂုဏ်ထူး လေးဘာသာရသည်။

(ဂ) နွေရာသီကျောင်းပိတ်......စက်ရုံ၊ အလုပ်ရုံများ၌ လုပ်အားပေးကြမည်။

(ဃ) ကြိုးစား......မုချအောင်မြင်မည်။

(င) မိုးရွာ......ပျိုးသာမည်။

(စ) ညီညာ......ပြည်သာမည်။

(ဆ) ဘကြီးဖြိုးသည် ပက်လက်ကုလားထိုင်ပေါ်တွင် ထိုင် ...... စာဖတ်နေ သည်။

(ဇ) မနက်ဖြန်ရောက်......ဆက်ဆက်လာခဲ့ပါ။

(ဈ) အမေ နံနက်စောစော ဈေးသွား......အဖေအိပ်နေသည်။

(ည) သူတို့လို လူရည်ချွန်လူရည်မွန်များဖြစ်......ကြိုးစားသင့်ကြသည်။

(ဋ) ကြောင်မကြီးသည် ကြောင်ကလေးများကို ချီ......ပြေးလာသည်။

(ဌ) ကျန်းမာ......ခွန်အားဖြစ်မည့် အစားအစာများကို သင့်တင့်မျှတ...... စားသင့်သည်။

(ૃ)　နွေရာသီ၌ ရေမပြတ်......ရေကို ချွေတာသုံးစွဲသင့်ကြ၏။
(ဎ)　ဆရာ　စာသင်နေ......စကားမပြောရ။
(ဏ)　အဆင်းလှ......အချင်းမလှ......အချည်းနှီးသာတည်း။
(တ)　မိုးများ......စပါးများ　ပျက်သည်။
(ထ)　ရေကြီး......ရထားလမ်းများ　ပျက်သည်။
(ဒ)　သူသည်　ခေါင်းမူး......အိပ်နေသည်။
(ဓ)　သူခိုးသည်　ခိုးရာပါပစ္စည်းများကို　ပစ်ချ......ထွက်ပြေးသွားသည်။
(န)　နိုင်ငံတော်အလံကို　အလေးပြု......အစည်းအဝေးကို　ဖွင့်လှစ်လိုက်သည်။
(ပ)　ကျော်ကျော်　စာကြိုးစားသည်......ဇော်ဇော်က　ပိုကြိုးစားသည်။
(ဖ)　သူပြန်ပြော......အလုံးစုံသိရပါပြီ။
(ဗ)　သူသည်　နေကောင်း......နေမကောင်းချင်ယောင်　ဆောင်နေသည်။
(ဘ)　မိုးလေဝသကောင်း......　စပါးအထွက်တိုးသည်။
(မ)　ကျောင်းစည်းကမ်းများကို　မလိုက်နာပါ......အရေးယူခြင်းခံရမည်။
(ယ)　ဗဟာဒူးသည်　ခေါင်းနှင့်တိုက်......ဂိုးသွင်းလိုက်သည်။

၇။　ပေးထားသော ဝါကျအစုံများကို ဝါကျဆက်သမ္ဗန္ဓ၊ သို့မဟုတ် အဓိပ္ပာယ်ဆက်သမ္ဗန္ဓ တို့ဖြင့် ဆီလျော်အောင်ဆက်စပ်ပါ။

(က)　(၁) ဤအရပ်သည် ရာသီဥတု ပူပြင်းသည်။
　(၂) သစ်ပင်ဝါးပင်နည်းပါးသောကြောင့် ဖြစ်သည်။
(ခ)　(၁) မြဝတီမင်းကြီးဦးစသည် လက်ရုံးရည်နှင့်ပြည့်စုံသည်။
　(၂) မြဝတီမင်းကြီးဦးစသည် နှလုံးရည်နှင့်ပြည့်စုံသည်။
(ဂ)　(၁) ဆာလဖြူရစ်အက်စစ်သည် အသားကို လောင်ကျွမ်းစေနိုင်၏။
　(၂) မထိမိစေရန် သတိပြုရမည်။
(ဃ)　(၁) အဘိုးချော်လဲသည်။
　(၂) အဘိုးခြေကျိုးသွားသည်။
(င)　(၁) ကျောင်းသူများက ကျောင်းဝင်းထဲ၌ တံမြက်လှည်းကြသည်။
　(၂) ကျောင်းသားများက အမှိုက်ကျုံးကြသည်။
(စ)　(၁) ကျွန်တော် ကျောင်းနောက်ကျမှာစိုးပါသည်။
　(၂) ကျွန်တော် လျင်မြန်စွာ ပြေးသွားသည်။
(ဆ)　(၁) ၈ နာရီထိုးပြီ။
　(၂) ညီလေးသည် အိပ်ရာက မထသေးပါ။
(ဇ)　(၁) သူသည် ရိုးသားဖြောင့်မတ်သည်။
　(၂) တစ်ရပ်ကွက်လုံးက သူ့ကို ချစ်ခင်လေးစားကြ၏။
(ဈ)　(၁) မန္တလေးသို့ မီးရထားဖြင့် သွားမည်။
　(၂) မန္တလေးသို့ လေယာဉ်ပျံဖြင့် သွားမည်။
(ည)　(၁) ကောက်စိုက်သမတစ်သိုက်သည် သီချင်းတကြော်ကြော် ဆိုနေကြသည်။
　(၂) ကောက်စိုက်သမတစ်သိုက်သည် ကောက်စိုက်နေကြသည်။

# ဝါကျဆက်သမ္ဗန္ဓနှင့်နာမ်ဝိဘတ်

**ဝါကျဆက်သမ္ဗန္ဓနှင့်နာမ်ဝိဘတ်**

၄၁။ အချို့သောစကားလုံးတို့သည် ဝါကျအတွင်းရှိ အသုံးကိုလိုက်၍ **ဝါကျဆက်သမ္ဗန္ဓ**လည်း ဖြစ်နိုင်သည်။ **နာမ်ဝိဘတ်**လည်း ဖြစ်နိုင်သည်။ ဤသို့ ဝါကျအတွင်း အသုံးကိုလိုက်၍ ဝါစင်္ကွဲပြားပုံကို သာဓကများဖြင့် ရှင်းပြမည်။

(က) သဘာပတိကြီးက မိန့်ခွန်းပြောသည်။

(ခ) သဘော်သည် ကမ်းက ခွာသည်။

(ဂ) မီးရထားလက်မှတ်မရပါက ကားဖြင့် သွားကြမည်။

ဝါကျ (က)၌ **က**သည် မိန့်ခွန်းပြောသူမှာ မည်သူဖြစ်ကြောင်းကိုပြသော **နာမ်ဝိဘတ်** ဖြစ်သည်။

ဝါကျ(ခ)၌ **က**သည် သဘော်ထွက်ခွာရာနေရာကိုပြသော **နာမ်ဝိဘတ်** ဖြစ်သည်။

ဝါကျ (ဂ)၌မူ **က**သည် ဝါကျရိုး ၂ ခုကို ဆက်စပ်ပေးသော **ဝါကျဆက် သမ္ဗန္ဓ** ဖြစ်သည်။

ဝါကျအတွင်း၌ အသုံးကိုလိုက်၍ ဝါစင်္ကွဲပြားပုံ အောက်ပါဝါကျများတွင်လည်း လေ့လာနိုင်သည်။

**သာဓက**။ ။

(က) **အနက်**

ဝါကျဆက်သမ္ဗန္ဓ။ ။ မြန်မာပြည်တွင် မြစ်ကြီးများရှိသည့်**အနက်** သံလွင်မြစ်သည် အရှည်ဆုံးဖြစ်သည်။

နာမ်ဝိဘတ်။ ။ မြန်မာပြည်ရှိ မြစ်ကြီးများ**အနက်** သံလွင်မြစ်သည် အရှည်ဆုံးဖြစ်သည်။

(ခ) **ဖို့**

ဝါကျဆက်သမ္ဗန္ဓ။ ။ အတွေးအခေါ်ရင့်သန်**ဖို့** စာများများ ဖတ်သင့်သည်။

နာမ်ဝိဘတ်။ ။ အမေသည် သားကြီး**ဖို့** သရက်သီးဝယ်လာသည်။

(ဂ) **အတွက်**

ဝါကျဆက်သမ္ဗန္ဓ။ ။ ဆီထွက်သီးနှံများအောင်မြင်သည့် **အတွက်** ဆီဈေးကျမည်။

နာမ်ဝိဘတ်။ ။ ကျွန်ုပ်တို့သည် တိုင်းပြည်**အတွက်** ကျရာနေရာမှ တာဝန်ထမ်းဆောင်ကြရမည်။

(ဃ) **က**

ဝါကျဆက်သမ္ဗန္ဓ။ ။ ကြိုးစား**က** ဘုရားပင်ဖြစ်နိုင်သည်။

နာမ်ဝိဘတ်။ ။ ဆရာကြီး**က** ထူးချွန်သော ကျောင်းသားကို ဆုပေးသည်။

(င) **တိုင်အောင်**

ဝါကျဆက်သမ္ဗန္ဓ။ ။ သူရောက်သည့်**တိုင်အောင်** ကျွန်တော်စောင့်ပါမည်။

နာမ်ဝိဘတ်။ ။ မန္တလေးမှ မြစ်ကြီးနား**တိုင်အောင်** ခရီးဆက်ကြမည်။

(စ) **မှ**

ဝါကျဆက်သမ္ဗန္ဓ။ ။ သူသွားသည်**မှ** ပြန်ရောက်သည်အထိ နာရီဝက်တိတိ ကြာသည်။

နာမ်ဝိဘတ်။ ။ အောင်ဇေယျသင်္ဘောသည် ရန်ကုန်**မှ** စစ်တွေသို့ မကြာမီ ထွက်ပါမည်။

(ဆ) **အတိုင်း**

ဝါကျဆက်သမ္ဗန္ဓ။ ။သားငယ်သည် မိခင်ကဏာန်းမကြီးသွားသည့်**အတိုင်း** ဘေးတိုက် သွားသည်။

နာမ်ဝိဘတ်။ ။ သားငယ်သည် မိခင် ကဏာန်းမကြီး**အတိုင်း** ဘေးတိုက် သွားသည်။

**ဝါကျဆက်သမ္ဗန္ဓ**

၄၂။ ဝါကျအချင်းချင်းကို ဆက်စပ်ပေးသော စကားလုံးသည် **ဝါကျဆက်သမ္ဗန္ဓ** ဖြစ်သည်။

**နာမ်ဝိဘတ်**

၄၃။ နာမ်၊ နာမ်စားတို့၏နောက်၌တည်၍ ၎င်းတို့သည် ကတ္တားဖြစ်သည်၊ ကံဖြစ်သည် စသည်ဖြင့် ဝေဖန်ပိုင်းခြားပြသော စကားလုံးသည် **နာမ်ဝိဘတ်**ဖြစ်သည်။

## လေ့ကျင့်ခန်း

၁။ ဝိဘတ်၏အဓိပ္ပာယ်ကို ရေးပါ။

၂။ နာမ်ဝိဘတ်ဆိုသည်မှာ အဘယ်နည်း။

၃။ အောက်ပါကွက်လပ်အသီးသီး၌ သက်ဆိုင်ရာနာမ်ဝိဘတ် အမည်တို့ကို ဖြည့်ပါ။

(က) အကြောင်းကိုပြသော ဝိဘတ်ကို......ဝိဘတ်ဟု ခေါ်သည်။

(ခ) အစုအပေါင်းမှ တစ်စုံတစ်ရာ၊ တစ်စုံတစ်ခု၊ တစ်စုံတစ်ယောက် စသည် တစ်စိတ် တစ်ဒေသကို ခွဲထုတ်ပြသော ဝိဘတ်ကို......ဝိဘတ်ဟုခေါ်သည်။

(ဂ) တစ်စုံတစ်ဦး၊ တစ်စုံတစ်ရာကို ရည်စူးကြောင်း ဖော်ပြသော ဝိဘတ်ကို ...... ဝိဘတ်ဟု ခေါ်သည်။

(ဃ) နေရာအဆက်မပြတ်ဖြစ်ခြင်းကိုပြသော ဝိဘတ်ကို ......ဝိဘတ်ဟု ခေါ်သည်။

(င) အချိန်အဆက်မပြတ်ဖြစ်ခြင်းကိုပြသော ဝိဘတ်ကို ......ဝိဘတ်ဟု ခေါ်သည်။

၄။ အောက်ပါဝါကျများရှိ မျဉ်းသားထားသော ဝိဘတ်များ၏အမည်ကို ရေးပါ။

(က) သဘာပတိကြီး<u>က</u> မိန့်ခွန်းပြောသည်။

(ခ) နိုင်ငံတော်အလံကို ညီညီညာညာ အလေးပြုကြသည်။
(ဂ) ဆရာကြီးသည် တပည့်များအား ပညာအမွေပေးခဲ့သည်။
(ဃ) ဦးဘသည်မန္တလေးသို့ မီးရထားဖြင့်သွားသည်။
(င) မနှစ်က စပါးအထွက်ကောင်းသည်။
(စ) သဘော်သည် ကမ်းမှခွာပြီ။
(ဆ) ဆရာ၊ ဆရာမများ၏စေတနာကို အစဉ်လေးစားကြရမည်။
(ဇ) ဘာသာရပ်အားလုံးတွင် ဂုဏ်ထူးရအောင် ကြိုးစားကြမည်။
(ဈ) နိုင်ငံတော်အလံသည် လေဝယ်တလူလူလွင့်နေသည်။
(ည) ငါးခုံးမတစ်ကောင်ကြောင့် တစ်လှေလုံးပုပ်သည်။
(ဋ) အမေသည် သားစိတ်ဖြင့်ဆုံးရှာပြီ။
(ဌ) ယနေ့မိုးလေဝသတိုင်းထွာချက်များအရ ဘင်္ဂလားပင်လယ်အော်၌ မုန်တိုင်းတစ်ခု ဖြစ်ပေါ်လျက်ရှိကြောင်း သိရသည်။
(ဍ) တိမ်များတွင်လေနှင့်အတူ ရေငွေ့များ ရောနေသည်။
(ဎ) သက်ရှိသတ္တဝါတို့တွင် လူသည် အသိဉာဏ်အရှိဆုံးဖြစ်သည်။
(ဏ) မိုးသည် ၇ ရက်တိုင်တိုင်မပြတ်ရွာသည်။
(တ) ကျန်းမာရေးအတွက်လေကောင်းလေသန့်ရရန်လိုသည်။
(ထ) ကျင့်ဝတ်နှင့်လျော်ညီစွာ နေထိုင်ပါ။
(ဒ) မြန်မာမုန့်များအနက် မုန့်စိမ်းပေါင်းကို အလွန်ကြိုက်ပါသည်။

၅။ အောက်ပါတို့ကို နာမ်ဝိဘတ်အဖြစ်လည်းကောင်း၊ သမ္ဗန္ဓအဖြစ်လည်းကောင်း ဝါကျတွင် သုံးပြပါ။

က၊ တွင်၊ အရ၊ မှ၊ ဖို့။

၆။ အောက်ပါဝါကျများရှိ မျဉ်းသားထားသော စကားလုံးတို့သည်ဝိဘတ်လော၊ သမ္ဗန္ဓလော ခွဲပြပါ။

(က) ကျွန်ုပ်တို့သည် တိုင်းပြည်အတွက်ကျရာတာဝန်ကို ထမ်းဆောင်ကြရမည်။
(ခ) မိုးဦးကောင်းသည့်အတွက် လယ်ယာဦးကြီးများ ဝမ်းမြောက်ဝမ်းသာဖြစ်ကြသည်။
(ဂ) အပြစ်ရှိသူသည် အပြစ်အလျောက် ပြစ်ဒဏ်ကို ကျခံရမည်။
(ဃ) ကြိုးစားသူမှာ ကြိုးစားသည့်အလျောက် အကျိုးခံစားရမည်။
(င) တရားသူကြီးသည် တရားဥပဒေအတိုင်း အမှုကို စီရင်သည်။
(စ) တရားသူကြီးသည် တရားဥပဒေရှိသည့်အတိုင်းအမှုကို စီရင်သည်။
(ဆ) ကျွန်ုပ်တို့သည် ရွာလမ်းမကြီးပြီးသည်အထိ လုပ်အားပေးကြမည်။
(ဇ) သူသည် ည ၁၂ နာရီအထိ စာကျက်လေ့ရှိသည်။
(ဈ) ရန်ကုန်–မန္တလေးအမြန်ရထားသည် ရန်ကုန်ဘူတာကြီး မှ စတင်ထွက်ခွာသည်။
(ည) မိုးရွာမှ ပျိုးသာမည်။

# နာမ်ပစ္စည်း

> **ပစ္စည်း။** ။ နာမ်၊ နာမ်စား၊ နာမဝိသေသန၊ ကြိယာ၊ ကြိယာဝိသေသနတို့၏ အဓိပ္ပာယ်ကို ထူးခြားလေးနက်အောင်ကူညီထောက်ပံ့သော စကားလုံးသည် **ပစ္စည်း**ဖြစ်သည်။

**နာမ်ပစ္စည်း**

၄၄။ နာမ်၊ နာမ်စားတို့၏ အဓိပ္ပာယ်ကို ထူးခြားလေးနက်အောင် ကူညီထောက်ပံ့သောပစ္စည်းကို **နာမ်ပစ္စည်း**ဟု ခေါ်သည်။

(နာမ်ပစ္စည်း ၉ မျိုးရှိသည်။ ၎င်းတို့အနက် **မျိုးပြပစ္စည်း၊ လိင်ညွှန်းပစ္စည်း**နှင့် **ကိန်းညွှန်းပစ္စည်း**တို့အကြောင်းကို အတွဲ ၁၊ အခန်း ၂၌လည်းကောင်း၊ **သင်္ချာပစ္စည်း** အကြောင်းကို အတွဲ ၁၊ အခန်း ၃၌လည်းကောင်း ဖော်ပြခဲ့ပြီ။ ဤအတွဲ ၁၊ အခန်း ၄ ၌မူ ကျန်ရှိသော နာမ်ပစ္စည်း ၅မျိုးအကြောင်းကို ဆက်လက်ဖော်ပြမည်။)

၄၅။ ထိုကျန်ရှိသော နာမ်ပစ္စည်း ၅ မျိုးမှာ–

(က) နာမ်ထောက်ပစ္စည်း

(ခ) ဥပမာပစ္စည်း

(ဂ) ရူပကပစ္စည်း

(ဃ) အာလုပ်ပစ္စည်း

(င) ဝိစ္ဆာပစ္စည်းတို့ ဖြစ်ကြသည်။

၄၆။ (က) **နာမ်ထောက်ပစ္စည်း။** ။ နာမ်၊ နာမ်စားတို့၏ အဓိပ္ပာယ်ကို ထူးခြားလေးနက်အောင် ကူညီထောက်ပံ့သောပစ္စည်းကို **နာမ်ထောက်ပစ္စည်း**ဟု ခေါ်သည်။

**သာဓက။** ။သာ၊ သာလျှင်၊ ချည်း၊ တော့၊ ပါ၊ ရော၊ လည်း၊ ပင်၊ တောင်၊ များ။

(၁) **သာ၊ သာလျှင်၊ ချည်း၊ တော့**တို့သည် ပိုင်းခြားကန့်သတ်ခြင်းကို ပြသည်။

**သာဓက။** ။

(ကက) သူ**သာ** အတော်ဆုံးဟု ကျွန်တော်ထင်သည်။

(ခခ) သူသည် ကြက်သားဟင်းကို**သာ** စားသည်။

(ဂဂ) အသင်းသားများ**သာ**အမှုဆောင်အဖြစ် အရွေးခံနိုင်ခွင့်ရှိသည်။

(ဃဃ) သူ**သာလျှင်**အတော်ဆုံးဖြစ်သည်။

(ငင) မိမိကိုယ်ကို**သာလျှင်**အားကိုးပါ။

(စစ) သူသည် ကြက်သားဟင်းကို**ချည်း** စားသည်။

(ဆဆ) သူသည် စာမေးပွဲကို**တော့** အောင်ချင်သည်၊ စာကို**တော့** မကြိုးစားပါ။

(ဇဇ) အဖေက**တော့** သဘောတူပါသည်။ အမေက**တော့** သဘော မတူပါ။

(၂) **ပါ၊ ရော၊ လည်း**တို့သည် ပေါင်းစည်းခြင်းကို ပြသည်။

**သာဓက**။ ။

(ကက) မောင်လှ**ပါ**လိုက်မည်။

(ခခ) သူ့ကို**ရော** မုန့်တစ်ခု ပေးလိုက်ပါ။

(ဂဂ) ကျန်းမာရေးကို**လည်း** ဂရုစိုက်ပါ။

(၃) **ပင်၊ တောင်**တို့သည် လေးနက်ခြင်းကို ပြသည်။

**သာဓက**။ ။

(ကက) သူ့ကို**ပင်** ဉက္ကဋ္ဌမြှောက်ကြသည်။

(ခခ) ဦးဘကို တစ်ရပ်ကွက်လုံးက**ပင်** ချစ်ခင်ကြသည်။

(ဂဂ) မျက်နှာ**တောင်** မပြဝံ့ပါ။

(ဃဃ) အဖေအမေကို**တောင်** ခံပြောသည်။

(၄) **များ**သည် သံသယနှင့် စိတ်ကူးစိတ်သန်းကို ပြသည်။

**သာဓက**။ ။

(ကက) ငါ့စာအုပ်ကို**များ**သူယူသွားလေသလား။

(ခခ) သူ**များ** နက်ဖြန် ရောက်လျှင် ကောင်းမှာပဲ။

(ဂဂ) သိန်းထီ**များ** ပေါက်လျှင် ဘယ်လောက်ကောင်းလိုက်မလဲ။

(ခ) **ဉပမာပစ္စည်း**။ ။ သိလွယ်စေရန် ဉပမာဆောင်၍ ပြောဆိုရာ၌ အသုံးပြုသော ပစ္စည်းကို **ဉပမာပစ္စည်း** ဟု ခေါ်သည်။

**သာဓက**။ ။ ကဲ့သို့၊ လို၊ နှယ်၊ အတိုင်း။

(၁) ဇနကမင်းသား**ကဲ့သို့** ဖွဲ့ရှိရမည်။

(၂) မလှသည် ယမင်းရုပ်ကလေး**လို** လှ၏။

(၃) ပန်း**နှယ်** မွှေး၍ စမ်း**နှယ်** အေးမြပါစေ။

(၄) အစ်ကိုကြီး**အတိုင်း** ညီလေးတို့သည် လိမ္မာကြသည်။

(ဂ) **ရူပကပစ္စည်း**။ ။ ဂုဏ်ရည်တူသော နာမ်နှစ်ခုကို ထပ်တူပြု၍ ပြောဆိုရာ၌ အသုံးပြုသည့်ပစ္စည်းကို **ရူပကပစ္စည်း**ဟု ခေါ်သည်။

**သာဓက**။ ။ တည်းဟူသော။

(၁) ကောင်းမှု**တည်းဟူသော** မျိုးစေ့ကို စိုက်ပျိုးကြကုန်အံ့။

(၂) ဒေါသ**တည်းဟူသော** စိတ်ဆင်ရိုင်းကို ပညာ**တည်းဟူသော** ချွန်းဖြင့် ထိန်းချုပ်ရာ၏။

(ဃ) **အာလုပ်ပစ္စည်း**။ ။ ခေါ်ရာထူးရာတွင် အသုံးပြုသော ပစ္စည်းကို **အာလုပ်ပစ္စည်း** ဟု ခေါ်သည်။

**သာဓက**။ ။ အို၊ ဟယ်၊ ရှင်၊ ရေ၊ဗျို့၊ ခင်ဗျာ၊ ဗျာ၊ ဟေ့။

(၁) **အို** မိခင် (၅) လာကြပါ**ဗျို့**

(၂) **ဟယ်** သူယုတ် (၆) တော်ပါပြီ**ခင်ဗျာ**

(၃) စိတ်ချပါ**ရှင်** (၇) ဟုတ်ကဲ့**ဗျာ**

(၄) မောင်ထူး**ရေ** (၈) **ဟေ့**ရွှေမိ

(င) **ဝိစ္ဆာပစ္စည်း**။ ။ အမျိုးအစားတူညီသော အရာအားလုံးသို့ ပျံ့နှံ့စေရန် တစ်ကြိမ်တည်းဖြစ်စေ၊ ခွန်းချင်းထပ် ၂ ကြိမ်ဖြစ်စေ ပြောဆိုသော စကားလုံးကို ဝိစ္ဆာပစ္စည်းဟု ခေါ်သည်။

**သာဓက**။ ။ တိုင်း၊ တကာ၊ အ။

(နာမ်တစ်ခု၏ နောက်တွင် **တိုင်း** ပစ္စည်း၊ **တကာ** ပစ္စည်းဆက်၍ဖြစ်စေ၊ မျိုးတူနာမ် ၂ ခု၏ ရှေ့တွင် **အ**ပစ္စည်းဆက်၍ဖြစ်စေ သုံးသည်။)

သာဓက။ ။

(၁) လူ**တိုင်း**စာတတ်မြောက်ရမည်။

(၂) ရွာ**တိုင်း**၊ ရွာ**တိုင်း**မှာ ရေတွင်းရှိ၏။

(၃) သစ်ပင်**တိုင်း**၊ သစ်ပင်**တိုင်း** ရေရှိမှ ရှင်သန်သည်။

(၄) ရပ်**တကာ**၊ ရွာ**တကာ** လှည့်၍ အလှူခံသည်။

(၅) **အ**တိုင်းတိုင်း၊ **အ**ပြည်ပြည်နှင့် ချစ်ကြည်ရင်းနှီးသည်။

## လေ့ကျင့်ခန်း

၁။ ပစ္စည်း၏အဓိပ္ပာယ်ကို ရေးပါ။

၂။ နာမ်ပစ္စည်းဆိုသည်မှာ အဘယ်နည်း။

၃။ ကွက်လပ်များကို ဖြည့်ပါ။

(က) ကျွန်ုပ်တို့ကျောင်းသည် နွေရာသီ၌ တစ်လ......ပိတ်သည်။

(ခ) ကလေးများကို ငှက်ပျောသီးတစ်ယောက်တစ်လုံး...... ဝေပေးပါ။

(ဂ) ယနေ့ တစ်နေ့......မိုးရွာသည်။

(ဃ) ဦးဘ၏ သားနှစ်ယောက်......လိမ္မာကြသည်။

(င) ကျွန်တော်တစ်ယောက်......သွားဝံ့ပါသည်။

(စ) ဤတောင်သည် ပေသုံးထောင်......မြင့်သည်။

(ဆ) အိမ်ပြင်ရန်အတွက် ငွေနှစ်ရာ......ကုန်မည်။

(ဇ) မန္တလေးမြို့သို့ သုံး......ရောက်ဖူးသည်။

(ဈ) ဆရာက မောင်မောင်ကိုသုံး......မြောက်သတိပေးသည်။

(ည) ဖေဖေ မေမေတို့၏ ၂၅နှစ်......မင်္ဂလာနေ့၌ ဘုန်းတော်ကြီးများကို ဆွမ်းကပ်ပါသည်။

၄။ အောက်ပါဝါကျများရှိ မျဉ်းသားထားသော နာမ်ပစ္စည်းများသည် နာမ်၊ နာမ်စားတို့ကို မည်သို့ ကူညီထောက်ပံ့သနည်း။ ရှင်းပြပါ။

(က) သူသည် ထမင်းကို မစားဘဲဟင်းကိုချည်းစားပစ်သည်။

(ခ) ညီအစ်မသုံးယောက်တွင် သူသာ အလှဆုံးဟု မိအေးက ပြောသည်။

(ဂ) လူကိုတော့ ခင်ပါသည်၊ ငွေကိုတော့ မချေးဝံ့ပါ။

(ဃ) ဘုရားပွဲသွားလျှင် ကျွန်တော်လည်းလိုက်မည်။

(င) သူ့ကိုပါခေါ်မည်။

(စ) ဆရာကြီးဦးဘကို တစ်မြို့လုံးကပင်လေးစားချစ်ခင်ကြသည်။

(ဆ) သူမပြန်ခင် ငါ့ကိုတောင်လာပြီး နှုတ်ဆက်သွားသေးတယ်။

(ဇ) ဆရာမက မင်းကိုရော ရိုက်သေးသလားဟု အဖေကမေးသည်။

(ဈ) မဟာဇနကမင်းသားကဲ့သို့ ဇွဲရှိရမည်။

(ည) ထီများပေါက်ရင် ငါ့မြေးတွေကို ရှင်ပြုဦးမယ်ဟု ဘကြီးသာဒွန်းက ကြုံးဝါးလိုက်သည်။

(ဋ) အိုလုလင်၊ သင်သည် ရဲစွမ်းသတ္တိနှင့် ပြည့်စုံပါပေသည်။

(ဌ) ဟယ်ကျီးမိုက်၊ သင်သည် အယောင်ဆောင်သောကြောင့် ပျက်စီးရချေပြီ။

(ဍ) လူတိုင်းမျိုးချစ်စိတ်ရှိရမည်။

(ဎ) မြန်မာနိုင်ငံကို နိုင်ငံတကာ က လေးစားကြသည်။

(ဏ) ဒေါသတည်းဟူသော စိတ်ဆင်ရိုင်းကို ပညာတည်းဟူသော ချွန်းဖြင့် ထိန်းချုပ်ရသည်။

၅။ နာမ်ထောက်ပစ္စည်းဆိုသည်မှာ အဘယ်နည်း။ သာဓကဝါကျ ၃ ခုဖြင့် ရှင်းပြပါ။

၆။ ဥပမာပစ္စည်းဆိုသည်မှာ အဘယ်နည်း။ သာဓကဝါကျ ၃ ခု ဖြင့် ရှင်းပြပါ။

၇။ အာလုပ်ပစ္စည်းဆိုသည်မှာ အဘယ်နည်း။ သာဓကဝါကျ ၃ ခုဖြင့် ရှင်းပြပါ။

၈။ ဝိစ္ဆာပစ္စည်းဆိုသည်မှာ အဘယ်နည်း။ သာဓကဝါကျ ၃ ခု ဖြင့် ရှင်းပြပါ။

၉။ ရူပကပစ္စည်းဆိုသည်မှာ အဘယ်နည်း။ သာဓကဝါကျ ၃ ခု ဖြင့် ရှင်းပြပါ။

# ဝါကျ

**ဝါကျ**

၄၇။ ဆိုလိုသည့်အဓိပ္ပာယ်ရောက်အောင် စနစ်တကျ စီစဉ်ထားသော ပုဒ်အစုအပေါင်းကို **ဝါကျ**ဟု ခေါ်သည်။

၄၈။ ဝါကျကို အနက်အဓိပ္ပာယ်အရ ၅ မျိုး၊ ဖွဲ့စည်းတည်ဆောက်ပုံအရ ၂ မျိုးခွဲသည်။ အနက်အဓိပ္ပာယ်အရ ဝါကျ ၅ မျိုးရှိသည်။ ၎င်းတို့မှာ–

(က) ထုတ်ဖော်ဝါကျ

(ခ) မေးခွန်းဝါကျ

(ဂ) ငြင်းပယ်ဝါကျ

(ဃ) တိုက်တွန်းဝါကျ

(င) ဆန္ဒဝါကျတို့ဖြစ်ကြသည်။

၄၉။(က) **ထုတ်ဖော်ဝါကျ။** ။ တစ်စုံတစ်ရာပြုခြင်း၊ ဖြစ်ခြင်း၊ ရှိခြင်းကိုပြသော ဝါကျကို **ထုတ်ဖော်ဝါကျ** ဟုခေါ်သည်။

**သာဓက။** ။

(၁) တပ်မတော်သားတို့သည် နိုင်ငံအတွက် အသက်ကို ပေးလှူကြသည်။

(၂) ဆန်စပါးသည် မြန်မာ့ထွက်ကုန်များအနက် အဓိက ထွက်ကုန် ဖြစ်သည်။

(၃) မန္တလေးမြို့၌ မြို့ရိုးနှင့် ကျုံးရှိသည်။

(ခ) **မေးခွန်းဝါကျ။** ။ တစ်စုံတစ်ရာကို မေးမြန်းသောဝါကျကို **မေးခွန်းဝါကျ** ဟု ခေါ်သည်။

**သာဓက။** ။

(၁) ဘုရားပွဲကို သွားမလား။

(၂) ဘုရားပွဲကို မသွားဘူးလား။

(၃) ဘုရားပွဲကို ဘယ်သူလိုက်မလဲ။

(၄) ဘုရားပွဲကို မည်သူလိုက်မည်နည်း။

(၅) စာမေးပွဲအောင်သလား။

(၆) စာမေးပွဲမအောင်ဘူးလား။

(၇) ဘယ်နှယောက် စာမေးပွဲအောင်သလဲ။

(၈) စာမေးပွဲအောင်သူမည်မျှရှိသနည်း။

(၉) အဖေပြန်ရောက်ပြီလား။

(၁၀) အဖေပြန်မရောက်သေးဘူးလား။

(၁၁) အဖေ ဘယ်တော့ ပြန်ရောက်မည်နည်း။

(၁၂) အဖေ မည်သည့်အချိန်တွင် ပြန်ရောက်မည်နည်း။

(ဂ) **ငြင်းပယ်ဝါကျ။** ။ တစ်စုံတစ်ရာမပြုခြင်း၊ မဖြစ်ခြင်း၊ မရှိခြင်းကိုပြသော ဝါကျကို **ငြင်းပယ်ဝါကျ**ဟု ခေါ်သည်။

**သာဓက**။ ။

(၁) မောင်မောင်ကျောင်းမှ ပြန်မလာပါ။

(၂) မောင်မောင်ကို ဘယ်မှာမှ ရှာမတွေ့ဘူး။

(၃) မောင်မောင်ကို မည်သည့်နေရာတွင်မျှ ရှာမတွေ့ချေ။

(၄) မောင်မောင်သည် လူဆိုးမဟုတ်ပါ။

(ဃ) **တိုက်တွန်းဝါကျ**။ ။အမိန့်ပေးခြင်း၊ စေခိုင်းခြင်း၊ နှိုးဆော်ခြင်း၊ တောင်းပန်ခြင်း၊ တောင်းဆိုခြင်း စသည်တို့ကို ပြသော ဝါကျတို့ကို **တိုက်တွန်းဝါကျ**ဟု ခေါ်သည်။

**သာဓက**။ ။

(၁) ခုံပေါ်မှာ မတ်တတ်ရပ်ပါ။

(၂) ဤစာပိုဒ်၏အဓိပ္ပာယ်ကို ရှင်းပြပါ။

(၃) တိုင်းရင်းသားအချင်းချင်း သွေးစည်းညီညွတ်ကြလော့။

(၄) အသက်ကို ချမ်းသာပေးပါ။

(၅) ကျွန်တော်တို့ သွားပါရစေ။

(၆) အဖိုးနည်းလည်း မဝယ်နှင့်၊ အမျိုးနည်းလည်း မကျယ်နှင့်။

( င ) **ဆန္ဒဝါကျ**။ ။ ဆုတောင်းခြင်း၊ ဆုပေးခြင်း၊ ကျိန်ဆဲခြင်း၊ ကျိန်ဆိုခြင်းတို့ကိုပြသော ဝါကျကို **ဆန္ဒဝါကျ**ဟု ခေါ်သည်။

**သာဓက**။ ။

(၁) လာမည့်ဘေး ဝေးပါစေသော်။

(၂) လိုအင်ဆန္ဒ တစ်လုံးတစ်ဝတည်း ပြည့်ပါစေ။

(၃) ဘုရားစူးရစေရဲ့။

(၄) ဤမှန်သောသစ္စာစကားကြောင့် ငါ့သားသုဝဏ္ဏသာမသည် မြားဆိပ်လျှောစေသတည်း။

## လေ့ကျင့်ခန်း

၁။ ထုတ်ဖော်ဝါကျဆိုသည်မှာ အဘယ်နည်း။ ထုတ်ဖော်ဝါကျ ၃ခုရေးပါ။

၂။ မေးခွန်းဝါကျဆိုသည်မှာ အဘယ်နည်း။ မေးခွန်းဝါကျ ၃ခုရေးပါ။

၃။ ငြင်းပယ်ဝါကျဆိုသည်မှာ အဘယ်နည်း။ ငြင်းပယ်ဝါကျ ၃ခုရေးပါ။

၄။ တိုက်တွန်းဝါကျဆိုသည်မှာ အဘယ်နည်း။ တိုက်တွန်းဝါကျ ၃ခုရေးပါ။

၅။ ဆန္ဒဝါကျဆိုသည်မှာ အဘယ်နည်း။ ဆန္ဒဝါကျ ၃ခုရေးပါ။

၆။ အောက်ပါဝါကျများကို အနက်အဓိပ္ပာယ်အရ ဝါကျအမျိုးအစားခွဲပါ။

(က) လူတိုင်းလက်ကိုင်ပြုသင့်သော တရားသည်ကား ကိုယ်ချင်းစာတရားပင်တည်း။

(ခ) ပန်းနှယ်မွှေး၍ စမ်းနှယ်အေးမြပါစေ။

(ဂ) ကြိုးစားက ဘုရားပင်ဖြစ်နိုင်သည်။

(ဃ) အမေဈေးက ဘာဝယ်လာသလဲ။

(င) ဆေးလိပ်မသောက်ရ။

(စ) ဒီစာအုပ်ဟာ ဘယ်သူ့ရဲ့စာအုပ်လဲ။

(ဆ) ရှေ့မှာ လမ်းပြင်နေသည်။

(ဇ) မည်သူက ပြောသနည်း။

(ဈ) ငါ့ကို မုန်းသွားပြီလား။

(ည) သွေးစည်းညီညွတ်ကြလော့။

(ဋ) သူပြောတတ်သလို ပြောပါစေ။

(ဌ) ကျန်းမာချမ်းသာကြပါစေ။

(ဍ) ပရိတ်တရားတော်နာကြွတော်မူပါ။

(ဎ) တံတားအို မှောင်ကိုမလျှောက်နှင့်၊ စကားဆို တောင်လိုမမောက်နှင့်။

(ဏ) လှိုက်လှဲစွာ ကြိုဆိုပါ၏။

(တ) ဆင်းရဲခပ်သိမ်းကင်းရပါလို၏။

(ထ) အတန်းထဲ၌ စကားကျယ်ကျယ်မပြောရ။

(ဒ) စာကို မှန်မှန်ကြိုးစားပါ။

(ဓ) ကောင်းသောအလေ့ကို အတုခိုးပါ။

(န) လူမိုက်နှင့်ငွေ အတူမနေ။

(ပ) အဆင်းကောင်းလျက် အချင်းဖျက်သည်။

(ဖ) သူ့အကျိုးဆောင်လျှင် ကိုယ့်အကျိုးအောင်သည်။

(ဗ) နေထွက်ပြီ။

(ဘ) မိမိကိုယ်ကို ကောင်းအောင်ကြိုးစားမည်။

(မ) ကိုယ်ချင်းစာတရားထားပါ။

(ယ) ကံကို ယုံ၍ ဆူးပုံမနင်းလေနှင့်။

(ရ) ချောင်းကိုပစ်၍ မြစ်ကိုရှာ၊ ရေသာများ၍ ငါးမတွေ့။

(လ) ကြိုးစားခြင်းသည် အောင်မြင်မှု၏ လမ်းစဖြစ်သည်။

(ဝ) တံခါးပိတ်လိုက်စမ်း။

(သ) ကြော်ငြာမကပ်ရ။

(ဟ) ဘယ်နှနာရီထိုးပြီလဲ။

(ဠ) အခန်းထဲမှာ ဘယ်သူမျှ မရှိဘူး။

# ဝါကျရိုးနှင့်ဝါကျရော

> **ဝါကျ**။ ။ ဆိုလိုသည့်အဓိပ္ပာယ်ရောက်အောင် စနစ်တကျ စီစဉ်ထားသော ပုဒ်အစုအပေါင်းကို **ဝါကျ**ဟု ခေါ်သည်။

**ဝါကျရိုးနှင့်ဝါကျရော**

၅၀။ ဖွဲ့စည်းတည်ဆောက်ပုံအရ ဝါကျ ၂ မျိုးရှိသည်။ ၎င်းတို့မှာ–

(က) ဝါကျရိုး

(ခ) ဝါကျရောတို့ဖြစ်ကြသည်။

**ဝါကျရိုး**

၅၁။ ကတ္တားတစ်ခုနှင့်ကြိယာတစ်ခုသာ ပါဝင်သော ဝါကျကို **ဝါကျရိုး**ဟု ခေါ်သည်။

သာဓက။ ။

(က) မောင်မောင်ပြန်လာသည်။

(ခ) မောင်မောင်ကျောင်းမှ ပြန်လာသည်။

(ဂ) မောင်မောင်ကို ကျွန်တော်တွေ့သည်။

(ဃ) မောင်မောင်ဂုဏ်ထူးရသည်။

(င) ဆရာဝင်လာသည်။

(စ) ဆရာက တပည့်များကို ပြောသည်။

(ဆ) ကျောင်းသားများ မတ်တတ်ရပ်ကြသည်။

**ဝါကျရော**

၅၂။ ဝါကျရိုးနှစ်ခု၊ သို့မဟုတ် နှစ်ခုထက်ပိုသော ဝါကျရိုးများကို ဝါကျတစ်ခုတည်းဖြစ်စေရန် ဝိဘတ်၊ ပစ္စည်း၊ သမ္ဗန္ဓတစ်ခုခုနှင့်ဆက်၍ ရေးသော ဝါကျကို **ဝါကျရော**ဟု ခေါ်သည်။

(က) **ဝိဘတ်နှင့်ဆက်ခြင်း။** ။ ဝါကျရိုးနှစ်ခု၊ သို့မဟုတ် နှစ်ခုထက်ပိုသော ဝါကျရိုးများကို **ကို၊ မှာ၊ က** စသော ဝိဘတ်တို့နှင့်ဆက်စပ်ရေးသောအခါ **ဝါကျရော** ဖြစ်လာသည်။

(၁) **ကို** (ကံဝိဘတ်)

**သာဓက**။ ။

(ကက) မောင်မောင်ပြန်လာသည်။

(ခခ) မောင်မောင်ကို ကျွန်တော်မြင်သည်။

ဖော်ပြပါ ဝါကျရိုးနှစ်ခုကို ဝါကျတစ်ခုတည်းဖြစ်အောင် **ကို** ဟူသော ကံဝိဘတ်နှင့် ဆက်စပ်လိုက်သောအခါ–

(ဂဂ) မောင်မောင်ပြန်လာသည်**ကို** ကျွန်တော်မြင်သည်။

ဟူသော **ဝါကျရော** ဖြစ်လာသည်။ ဤဝါကျရော၌ **မောင်မောင်ပြန်လာသည်ကို** ဟူသောအပိုင်းနှင့် **ကျွန်တော်**

**မြင်သည်** ဟူသော အပိုင်းနှစ်ပိုင်း ပါဝင်သည်။

(၂) **မှာ** (ကတ္တားဝိဘတ်)

**သာဓက**။ ။

(ကက) မောင်မောင်ဂုဏ်ထူးရမည်။

(ခခ) ဤထင်မြင်ချက်သည် သေချာသည်။

ဖော်ပြပါ ဝါကျရိုးနှစ်ခုကို ဝါကျတစ်ခုတည်းဖြစ်အောင် **မှာ** ဟူသော ကတ္တားဝိဘတ်နှင့် ဆက်စပ်လိုက်သောအခါ–

(ဂဂ) မောင်မောင် ဂုဏ်ထူးရမည်**မှာ** သေချာသည်။

ဟူသော **ဝါကျရော** ဖြစ်လာသည်။ ဤဝါကျရော၌ **မောင်မောင် ဂုဏ်ထူးရမည်မှာ** ဟူသော အပိုင်းနှင့် **သေချာသည်** ဟူသော အပိုင်းနှစ်ပိုင်းပါဝင်သည်။

(၃) **က** (ကတ္တားဝိဘတ်)

**သာဓက**။ ။

(ကက) မောင်မောင်ပထမရသည်။

(ခခ) ပထမက များသည်။

ဖော်ပြပါ ဝါကျရိုးနှစ်ခုကို ဝါကျတစ်ခုတည်းဖြစ်အောင် **က** ဟူသောကတ္တားဝိဘတ်နှင့် ဆက်စပ်လိုက်သောအခါ

(ဂဂ) မောင်မောင်ပထမရသည်**က** များသည်။

ဟူသော **ဝါကျရော**ဖြစ်လာသည်။ ဤဝါကျရော၌ **မောင်မောင် ပထမရသည်က** ဟူသောအပိုင်းနှင့် **များသည်** ဟူသော အပိုင်းနှစ်ပိုင်း ပါဝင်သည်။

(ခ) **ပစ္စည်းနှင့်ဆက်ခြင်း**။ ။ ဝါကျရိုးနှစ်ခု၊ သို့မဟုတ် နှစ်ခုထက်ပိုသော ဝါကျရိုးများကို **ဟု၊ သော** ပစ္စည်းတို့နှင့် ဆက်စပ်ရေးသောအခါ **ဝါကျရော** ဖြစ်လာသည်။

(၁) **ဟု (**ပစ္စည်း)

**သာဓက**။ ။

(ကက) မောင်မောင်ပထမရသည်။

(ခခ) ဆရာက တပည့်များကို ပြောသည်။

ဖော်ပြပါ ဝါကျရိုးနှစ်ခုကို ဝါကျတစ်ခုတည်းဖြစ်အောင် **ဟု** ပစ္စည်းနှင့် ဆက်စပ်လိုက်သောအခါ–

(ဂဂ) မောင်မောင် ပထမရသည်**ဟု** ဆရာက တပည့်များကို ပြောသည်။

ဟူသော **ဝါကျရော**ဖြစ်လာသည်။ ဤဝါကျရော၌ **မောင်မောင် ပထမရသည်ဟု** ဟူသောအပိုင်းနှင့် **ဆရာကတပည့်များကို ပြောသည်** ဟူသော အပိုင်း နှစ်ပိုင်း ပါဝင်သည်။

(၂) **သော** (ပစ္စည်း)

**သာဓက**။ ။

(ကက) မောင်မောင်ကျောင်းမှ ပြန်လာသည်။

(ခခ) မောင်မောင့်ကို ကျွန်တော်တွေ့သည်။

ဖော်ပြပါ ဝါကျရိုးနှစ်ခုကို ဝါကျတစ်ခုတည်းဖြစ်အောင် **သော** ပစ္စည်းနှင့် ဆက်စပ်လိုက်သောအခါ–

(ဂဂ) ကျောင်းမှပြန်လာသော မောင်မောင့်ကို ကျွန်တော် တွေ့သည်။

ဟူသော **ဝါကျရော**ဖြစ်လာသည်။ ဤဝါကျရော၌ **ကျောင်းမှပြန်လာသော** ဟူသော အပိုင်းနှင့် **မောင်မောင့်ကို ကျွန်တော်တွေ့သည်**ဟူသော အပိုင်းနှစ်ပိုင်း ပါဝင်သည်။ **သော** ပစ္စည်းဆက်ထားသော ပထမပိုင်း**ကျောင်းမှ ပြန်လာသော** သည် ဒုတိယပိုင်းရှိ **မောင်မောင်**ဟူသော နာမ်ကို နာမဝိသေသနအဖြစ် အထူးပြုလျက်ရှိသည်။

(ဂ) **သမ္ဗန္ဓနှင့်ဆက်ခြင်း**။ ။ ဝါကျရိုးနှစ်ခု၊ သို့မဟုတ် နှစ်ခုထက်ပိုသော ဝါကျရိုးများကို **သောအခါ၊ သောကြောင့်** အစရှိသည့် သမ္ဗန္ဓတို့နှင့် ဆက်စပ်ရေးသော အခါ **ဝါကျရော** ဖြစ်လာသည်။

(၁) **သောအခါ** (သမ္ဗန္ဓ)

**သာဓက**။ ။

(ကက) ဆရာဝင်လာသည်။

(ခခ) ကျောင်းသားများမတ်တတ်ရပ်ကြသည်။

ဖော်ပြပါ ဝါကျရိုးနှစ်ခုကို ဝါကျတစ်ခုတည်းဖြစ်အောင် **သောအခါ** ဟူသည့် သမ္ဗန္ဓနှင့်ဆက်စပ်လိုက်သောအခါ–

(ဂဂ) ဆရာ ဝင်လာ**သောအခါ** ကျောင်းသားများ မတ်တတ် ရပ်ကြသည်။

ဟူသော **ဝါကျရော** ဖြစ်လာသည်။ ဤဝါကျရော၌ **ဆရာဝင်လာသောအခါ** ဟူသောအပိုင်းနှင့် **ကျောင်းသားများမတ်တတ်ရပ်ကြသည်** ဟူသော အပိုင်းနှစ်ပိုင်း ပါဝင်သည်။ **သောအခါ** သမ္ဗန္ဓဆက်ထားသော ပထမပိုင်း**ဆရာဝင်လာသောအခါ**သည် ကျောင်းသားများမည်သည့်အချိန်တွင် မတ်တတ်ရပ်ကြကြောင်းကို ဖော်ပြခြင်းဖြင့် ဒုတိယပိုင်းရှိ **မတ်တတ်ရပ်** ဟူသော ကြိယာကို ကြိယာဝိသေသနအဖြစ် အထူးပြုလျက် ရှိသည်။

(၂) **သောကြောင့်** (သမ္ဗန္ဓ)

**သာဓက**။ ။

(ကက) မောင်မောင်ကြိုးစားသည်။

(ခ ခ) မောင်မောင်ဂုဏ်ထူးရသည်။
ဖော်ပြပါ ဝါကျရိုးနှစ်ခုကို ဝါကျတစ်ခုတည်းဖြစ်အောင် **သော ကြောင့်** ဟူသော သမ္ဗန္ဓနှင့် ဆက်စပ်လိုက်သောအခါ–

(ဂ ဂ) မောင်မောင်ကြိုးစား**သောကြောင့်** ဂုဏ်ထူးရသည်။
ဟူသော **ဝါကျရော** ဖြစ်လာသည်။ ဤဝါကျရော၌ **မောင်မောင် ကြိုးစားသောကြောင့်** ဟူသော အပိုင်းနှင့် **ဂုဏ်ထူးရသည်** ဟူသော အပိုင်းနှစ်ပိုင်းပါဝင်သည်။
**သောကြောင့်** သမ္ဗန္ဓဆက်ထားသော ပထမပိုင်း **မောင်မောင် ကြိုးစားသောကြောင့်**သည် မောင်မောင် ဂုဏ်ထူး ရသည့် အကြောင်းရင်းကို ဖော်ပြခြင်းဖြင့် ဒုတိယပိုင်းရှိ **ရ**ဟူသော ကြိယာကို ကြိယာဝိသေသနအဖြစ် အထူးပြုလျက်ရှိသည်။

## လေ့ကျင့်ခန်း

၁။ ဝါကျရိုးဆိုသည်မှာ အဘယ်နည်း။ ဝါကျရိုးဖွဲ့နည်းအမျိုးမျိုး အနက်မှ ဝါကျရိုးဖွဲ့နည်း ၁၀ မျိုးဖြင့် ဝါကျဖွဲ့ပြပါ။

၂။ ဝါကျရောဆိုသည်မှာ အဘယ်နည်း။ ဝါကျရော ၃ ခုရေးပါ။

၃။ အောက်ပါဝါကျရောများရှိ ကွက်လပ်တို့တွင် ဆီလျော်သော ဝိဘတ်၊ ပစ္စည်း၊ သမ္ဗန္ဓတို့ကို ဖြည့်ပါ။

(က) နိုင်ငံစီးပွားတိုးတက်......ကုန်များကို အဆင့်မီထုတ်လုပ်ကြရမည်။
(ခ) "ပညာရွှေအိုး၊ လူမခိုး"......ရှေးလူကြီးများ ဆိုရိုးရှိသည်။
(ဂ) ရွာပတ်ဝန်းကျင်တွင် စိမ်းလန်း......လယ်ကွင်းများရှိသည်။
(ဃ) သူအမြန်ပြေးသွား......မီးရထားကို မမီလိုက်ပါ။
(င) မြန်မာပြည်တွင် မြစ်ကြီးများရှိသည်...... သံလွင်မြစ်သည် အရှည်ဆုံး ဖြစ်သည်။
(စ) မီးရထားလက်မှတ်မရပါ......ကားဖြင့်သွားကြမည်။
(ဆ) မိုးရွာသည်......မရွာသည်......ကျွန်တော်လာပါမည်။
(ဇ) ဆရာမိဘများ ဆိုဆုံးမသည်......အစဉ်လိုက်နာသင့်ကြသည်။
(ဈ) စိတ်ထားဖြူစင်သူကို အများကချစ်ခင်ကြမည်......သေချာသည်။

၄။ အောက်ပါဝါကျရိုးများကို ဆီလျော်သော ဝိဘတ်၊ ပစ္စည်း၊ သမ္ဗန္ဓတို့နှင့်ဆက်၍ ဝါကျရောဖြစ်အောင်ဖွဲ့ပါ။

(က) (၁) ကမ္ဘာအရပ်ရပ်တွင် မုန်တိုင်းများဖြစ်ပေါ်သည်။
(၂) မုန်တိုင်းများကြောင့် အသေအပျောက်များစွာရှိသည်။

( ခ ) (၁) လေ၏ဖိအားကို တိုင်းတာသည်။
(၂) မိုးလေဝသအခြေအနေကို ခန့်မှန်းနိုင်သည်။
( ဂ ) (၁) နွေရာသီတွင် ကျောင်းပိတ်သည်။
(၂) ကျွန်တော်တို့မိသားစု ဘုရားဖူးသွားကြမည်။
(ဃ) (၁) ဆက်ဆက်လာပါမည်။
(၂) သူကပြောသည်။
( င ) (၁) မဟာဗန္ဓုလသည် ရဲရင့်သည်။
(၂) မဟာဗန္ဓုလသည် စစ်သူကြီးတစ်ဦးဖြစ်သည်။
( စ ) (၁) ကြက်ဆူဆီသည် ချွဲပျစ်သည်။
(၂) ကြက်ဆူဆီသည် အရည်တစ်မျိုးဖြစ်သည်။
(ဆ) (၁) ဒီရေတက်လာသည်။
(၂) ဗေဒါများ မျောပါလာသည်။
( ဇ ) (၁) နွေရာသီဖြစ်သည်။
(၂) ရွက်ရင့်ရွက်ဟောင်းတို့ ကြွေကြပြီ။
( ဈ ) (၁) အစာကို အဆမတန် စားသည်။
(၂) ဘေးဖြစ်မည်။
(ည) (၁) စကားကို နည်းနည်းပြောပါ။
(၂) အလုပ်ကို များများလုပ်ပါ။
( ဋ ) (၁) ဖေဖေပြန်လာမည်။
(၂) ကျွန်တော်တို့ စောင့်မျှော်နေကြသည်။
( ဌ ) (၁) ဤသရက်သီးသည် ချိုသည်။
(၂) ထိုသရက်သီးက ပိုချိုသည်။
( ဍ ) (၁) ကောင်းမှုကို ပြုပါ။
(၂) ကောင်းကျိုးကို ခံစားရမည်။
( ဎ ) (၁) လူကြီးများအလှူသို့ သွားကြသည်။
(၂) ကျွန်မ အိမ်စောင့်ကျန်ခဲ့သည်။
(ဏ) (၁) မူးယစ်ဆေးဝါး၏ အန္တရာယ်သည် ကြီးမားသည်။
(၂) သူသည် မူးယစ်ဆေးဝါးအန္တရာယ်ကို သိသွားပြီ။

# အတွဲ ၂၊ အခန်း ၅

# ဗျည်းများတွဲစပ်ပုံ

**ဗျည်းများတွဲစပ်ပုံ**

၁။ ဗျည်း ၃၃ လုံးရှိသည်။ ယင်းဗျည်းတို့အနက် ယ၊ ရ၊ ဝ၊ ဟ ဗျည်း ၄ လုံးကို အောက်ပါသင်္ကေတအသီးသီးအဖြစ် အသွင်ပြောင်းကာ ဗျည်းအချို့နှင့်တွဲသည်။

| **ဗျည်းအက္ခရာ** | | **သင်္ကေတအက္ခရာ** |
|---|---|---|
| ယ | = | ျ |
| ရ | = | ြ |
| ဝ | = | ွ |
| ဟ | = | ှ |

ျ သင်္ကေတကို **ယပင့်**ဟုခေါ်သည်။

ြ သင်္ကေတကို **ရရစ်**ဟုခေါ်သည်။

ွ သင်္ကေတကို **ဝဆွဲ**ဟု ခေါ်သည်။

ှ သင်္ကေတကို **ဟထိုး**ဟု ခေါ်သည်။

၂။ ယပင့်၊ ရရစ်၊ ဝဆွဲ၊ ဟထိုးသင်္ကေတတို့ကို ဗျည်းအချို့နှင့် တစ်ခုချင်းလည်း တွဲနိုင်သည်။ ၂ ခု၊ သို့မဟုတ် ၃ ခု ပေါင်း၍လည်း တွဲနိုင်သည်။ ယင်းသင်္ကေတအသီးသီးကို ဗျည်းအချို့နှင့် တွဲခြင်းဖြင့် ဗျည်းတွဲများဖြစ်ပေါ်လာသည်။ ဗျည်းတွဲတစ်ခု၌ "က၊ ခ" စသည့် မူလဗျည်းအက္ခရာနှင့် "ျ၊ ြ" စသည့် သင်္ကေတအက္ခရာများပါဝင်သည်။

**သာဓက။** ။ **ဗျည်းတွဲ** **ဗျည်းအက္ခရာ** **သင်္ကေတ**

| | | | | | | | |
|---|---|---|---|---|---|---|---|
| ကျ | = | က | + | ျ (ယပင့်) | | |
| ကြ | = | က | + | ြ (ရရစ်) | | |
| လွ | = | လ | + | ွ (ဝဆွဲ) | | |
| လှ | = | လ | + | ှ (ဟထိုး) | | |
| ချွ | = | ခ | + | ျ (ယပင့်) | + | ွ (ဝဆွဲ) |
| ခြွ | = | ခ | + | ြ (ရရစ်) | + | ွ (ဝဆွဲ) |
| လျှ | = | လ | + | ျ (ယပင့်) | + | ှ (ဟထိုး) |
| ငြှ | = | င | + | ြ (ရရစ်) | + | ှ (ဟထိုး) |

ရွှ = ရ + ှ (ဟထိုး) + ွ (ဝဆွဲ)

မြွှ = မ + ြ (ရရစ်) + ွ (ဝဆွဲ) + ှ (ဟထိုး)

၃။ မူလဗျည်းအက္ခရာအချို့ကို ယပင့်၊ ရရစ်၊ ဝဆွဲ၊ ဟထိုးသင်္ကေတ တို့နှင့် တွဲလိုက်သောအခါ အောက်ပါဗျည်းတွဲများကို ရရှိသည်။

ျ နှင့်တွဲခြင်း = ကျ၊ ချ၊ ပျ၊ မျ၊ လျ။

ြ နှင့်တွဲခြင်း = ကြ၊ ခြ၊ ပြ၊ ဖြ၊ မြ။

ွ နှင့်တွဲခြင်း = ကွ၊ ခွ၊ စွ၊ နွ၊ မွ။

ှ နှင့်တွဲခြင်း = ငှ၊ ညှ၊ နှ၊ မှ၊ လှ။

ျွ နှင့်တွဲခြင်း = ကျွ၊ ချွ၊ ဂျွ။

ြွ နှင့်တွဲခြင်း = ကြွ၊ ခြွ၊ ပြွ၊ ဖြွ၊ မြွ။

ျှ နှင့်တွဲခြင်း = မျှ၊ လျှ၊ သျှ။

ြှ နှင့်တွဲခြင်း = ငြှ၊ မြှ။

ွှ နှင့်တွဲခြင်း = ညွှ၊ နွှ၊ မွှ၊ ရွှ၊ လွှ။

ြွှ နှင့်တွဲခြင်း = မြွှ။

# အသတ်များ

**အသတ်များ**

၄။ မြန်မာစာရေးသားရာ၌ **အသတ်**ဟူသော ရေးထုံးတစ်ခုရှိသည်။

ဗျည်းနှင့်ရောနေသည့် သရကိုသတ်ထားကြောင်း အသတ်က ဖော်ပြသည်။ ထိုအသတ်ကို တံခွန်သင်္ကေတ (်) ဖြင့် ဗျည်း၏အထက်၌ ပြသည်။ ယင်းတံခွန်သင်္ကေတသည် အသတ် မည်၏။

မြန်မာစကားတွင် အသံမျိုးစုံရှိသည်ဖြစ်ရာ လိုအပ်သော အသံ တစ်ခုကို ရနိုင်ရန်အတွက် မြန်မာဘာသာရေးထုံးတွင် တံခွန်သင်္ကေတ ဖြင့် အသတ် ၁၀ ပါးကို ရှေးကပင် တီထွင်ခဲ့ကြ သည်။

လိုအပ်သောအသံတစ်ခုဆိုသည်မှာ မူလဗျည်းသံ၊ သရသံ၊ ဗျည်းတွဲသံတို့နှင့်မတူသော အသံဖြစ်သည်။

**သာဓက**။ ။ **အက အက်**

အထက်ပါသာဓက၌ **အ က** ဟူသောအက္ခရာ ၂ လုံးပါရှိသည်။ ဤအက္ခရာ ၂ လုံး အနက် **က** အထက်၌ အသတ်သင်္ကေတကို ပြခြင်းဖြင့် **အက်** ဟူသော လိုအပ်သောအသံတစ်ခု ဖြစ်လာသည်။

၅။ အသတ် ၂ မျိုးရှိသည်။ ယင်းအသတ် ၂ မျိုးတို့မှာ–

(က) မြန်မာအသတ်

(ခ) ပါဠိသက်အသတ်တို့ဖြစ်ကြသည်။

**မြန်မာအသတ်**

၆။ မြန်မာအသတ် ၁၀ ပါးရှိသည်။ ယင်းအသတ် ၁၀ ပါးတို့မှာ–

| **အသတ်** | **အမည်** |
|---|---|
| က် | က–သတ် |
| င် | င–သတ် |
| စ် | စ–သတ် |
| ဉ် | ဉ (ညကလေး) သတ် |
| ည် | ည–သတ် |
| တ် | တ–သတ် |
| န် | န–သတ် |
| ပ် | ပ–သတ် |
| မ် | မ–သတ် |
| ယ် | ယ–သတ်တို့ဖြစ်ကြသည်။ |

၇။ မြန်မာအသတ် ၁၀ ပါးတို့သည် ပထမအက္ခရာ ၄ လုံး (က၊ စ၊ တ၊ ပ)၊ ပဉ္စမအက္ခရာ ၄ လုံး (င၊ ည၊ န၊ မ)၊ ဉ (ညကလေး)၊ အဝဂ်မှ (ယ) တို့ကို တံခွန်လွှားထားခြင်းပင် ဖြစ်သည်။

၈။ ရှေးမြန်မာသင်ပုန်းကြီးသင်ရိုးတွင် မြန်မာအသတ် ၁၀ ပါးကို **–က်၊ –င်၊ –စ်၊ –ည်၊ –တ်၊ –န်၊ –ပ်၊ –မ်၊ –ယ်၊ –ဝ်** ဟူ၍ ပြသည်။ **ဝ်** ကို ခေတ်သုံးမြန်မာစာပေအရေးအသား တွင် မသုံးကြတော့၍ ချန်လှပ်ထားခဲ့သည်။ သင်ရိုးသင်ပုန်းကြီးတွင် မပါသော်လည်း အသုံးရှိသော **ဉ်** (ညကလေးသတ်)ကို မြန်မာအသတ် ၁၀ ပါးတွင် ထည့်သွင်းထားသည်။

၉။ မြန်မာအသတ်အသီးသီးသည် သတ်မှတ်ထားသော သရတို့နှင့်သာ အောက်ပါအတိုင်း တွဲစပ်နိုင်သည်။

| **အသတ်** | **တွဲစပ်နိုင်သောသရ** | |
|---|---|---|
| **က်** | **အ၊ အော၊ အို** – သရ ၃ လုံး | |
| | **သာဓက**။ ။ | အက်၊ အောက်၊ အိုက်။ |
| | | ကက်၊ ကောက်၊ ကိုက်။ |
| | | ကျက်၊ ကျောက်၊ ကျိုက်။ |
| | | ကြက်၊ ကြောက်၊ ကြိုက်။ |
| **င်** | **အ၊ အော၊ အို** သရ ၃ လုံး | |
| | **သာဓက**။ ။ | အင်၊ အင့်၊ အင်း။ |
| | | ကင်၊ ကင့်၊ ကင်း။ |
| | | ကျင်၊ ကျင့်၊ ကျင်း။ |
| | | ကြင်၊ ကြင့်၊ ကြင်း။ |
| | | ကွင်၊ ကွင့်၊ ကွင်း။ |
| | | အောင်၊ အောင့်၊ အောင်း။ |
| | | ကောင်၊ ကောင့်၊ ကောင်း။ |
| | | ကျောင်၊ ကျောင့်၊ ကျောင်း။ |
| | | ကြောင်၊ ကြောင့်၊ ကြောင်း။ |
| | | အိုင်၊ အိုင့်၊ အိုင်း။ |
| | | ကိုင်၊ ကိုင့်၊ ကိုင်း။ |
| | | ကျိုင်၊ ကျိုင့်၊ ကျိုင်း။ |
| | | ကြိုင်၊ ကြိုင့်၊ ကြိုင်း။ |
| | | ကွိုင်၊ ကွိုင့်၊ ကွိုင်း။ |

| **အသတ်** | **တွဲစပ်နိုင်သောသရ** | |
|---|---|---|
| **စ်** | **အ**– သရ ၁ လုံး | |
| | **သာဓက**။ ။ | အစ်။ |
| | | ကစ်။ |
| | | ကျစ်။ |
| | | ကြစ်။ |

**ဉ်** **အ**– သရ ၁ လုံး

**သာဓက**။ ။ အဉ်၊ အဉ့်၊ အဉ်း။

ကဉ်၊ ကဉ့်၊ ကဉ်း။

ကြဉ်၊ ကြဉ့်၊ ကြဉ်း။

**ည်** **အ**– သရ ၁ လုံး

**သာဓက**။ ။ အည်၊ အည့်၊ အည်း။

ကည်၊ ကည့်၊ ကည်း။

ကျည်၊ ကျည့်၊ ကျည်း။

**တ်** **အ၊ အိ၊ အု**–သရ ၃ လုံး

**သာဓက**။ ။ အတ်၊ အိတ်၊ အုတ်။

ကတ်၊ ကိတ်၊ ကုတ်။

ကျတ်၊ ကျိတ်၊ ကျုတ်။

ကြတ်၊ ကြိတ်၊ ကြုတ်။

**န်** **အ၊ အိ၊ အု** –သရ ၃ လုံး

**သာဓက**။ ။ အန်၊ အန့်၊ အန်း။

ကန်၊ ကန့်၊ ကန်း။

ကျန်၊ ကျန့်၊ ကျန်း။

အိန်၊ အိန့်၊ အိန်း။

ကိန်၊ ကိန့်၊ ကိန်း။

ကျိန်၊ ကျိန့်၊ ကျိန်း။

အုန်၊ အုန့်၊ အုန်း။

ကုန်၊ ကုန့်၊ ကုန်း။

ကျုန်၊ ကျုန့်၊ ကျုန်း။

**ပ်** **အ၊ အိ၊ အု**– သရ ၃ လုံး

**သာဓက**။ ။ အပ်၊ အိပ်၊ အုပ်။

ကပ်၊ ကိပ်၊ ကုပ်။

ကျပ်၊ ကျိပ်၊ ကျုပ်။

| | | |
|---|---|---|
| **အသတ်** | **တွဲစပ်နိုင်သောသရ** | |
| **မ်** | **အ၊ အိ၊ အု** သရ ၃ လုံး | |
| | **သာဓက**။ ။ | အမ်၊ အမ့်၊ အမ်း။ |
| | | ကမ်၊ ကမ့်၊ ကမ်း။ |
| | | ကျမ်၊ ကျမ့်၊ ကျမ်း။ |
| | | အိမ်၊ အိမ့်၊ အိမ်း။ |
| | | ကိမ်၊ ကိမ့်၊ ကိမ်း။ |
| | | ကျိမ်၊ ကျိမ့်၊ ကျိမ်း။ |
| | | အုမ်၊ အုမ့်၊ အုမ်း။ |
| | | ကုမ်၊ ကုမ့်၊ ကုမ်း။ |
| | | ကျုမ်၊ ကျုမ့်၊ ကျုမ်း။ |
| **ယ်** | **အ**–သရ ၁ လုံး | |
| | **သာဓက**။ ။ | အယ်၊ အယ့်၊ *။ |
| | | ကယ်၊ ကယ့်။ |
| | | ကျယ်၊ ကျယ့်။ |
| | | ကြယ်၊ ကြယ့်။ |
| | | ကွယ်၊ ကွယ့်။ |

* "အယ်း" ဟူ၍ ယခုခေတ်တွင် အသုံး မရှိတော့ပေ။ "အဲ" ဟူသော အသံ ထွက်အောင်ရေးလိုပါက "အဲ" ဟူ၍ "အ" တွင် "နောက်ပစ်" ၍ ရေးသည်။

## ပါဠိသက်အသတ်

၁၀။ မြန်မာတို့သည် ပါဠိဝေါဟာရများကို မြန်မာမှုပြု၍ သုံးခဲ့ကြသည်။ ပါဠိဝေါဟာရကို မြန်မာမှုပြု၍ ရေးသားခြင်းဖြင့် မြန်မာဘာသာတွင် အသတ်များတိုးပွားလာခဲ့သည်။

၁၁။ ပါဠိသက်အသတ် ၂၆ ပါးရှိသည်။ ယင်းအသတ် ၂၆ ပါးတို့ မှာ အောက်ပါအတိုင်း ဖြစ်သည်။

| အမှတ်စဉ် | အသတ် | အမည် | သာဓက |
|---|---|---|---|
| ၁။ | က် | က–သတ် | ကရဝိက် |
| ၂။ | ခ် | ခ–သတ် | မုခ် |
| ၃။ | ဂ် | ဂ–သတ် | ဘဝဂ် |
| ၄။ | င် | င–သတ် | အာနိသင် |
| ၅။ | စ် | စ–သတ် | ကေဝုစ် |
| ၆။ | ဇ် | ဇ–သတ် | ကေရာဇ် |
| ၇။ | ဉ် | ဉ (ညကလေး) သတ် | ယာဉ် |
| ၈။ | ဋ် | ဋ–သတ် | ဝဋ် |
| ၉။ | ဌ် | ဌ–သတ် | ပါဌ် |
| ၁၀။ | ဏ် | ဏ–သတ် | ဉာဏ် |
| ၁၁။ | တ် | တ–သတ် | အတိတ် |
| ၁၂။ | ထ် | ထ–သတ် | ဣရိယာပုထ်(ပုတ်) |
| ၁၃။ | ဒ် | ဒ–သတ် | ပုဒ် |
| ၁၄။ | ဓ် | ဓ–သတ် | ဝဇီရာဝုဓ် |
| ၁၅။ | န် | န–သတ် | ဗိမာန် |
| ၁၆။ | ပ် | ပ–သတ် | ဇမ္ဗူဒိပ် |
| ၁၇။ | ဗ် | ဗ–သတ် | ဒြဗ် (ဒြပ်) |
| ၁၈။ | ဘ် | ဘ–သတ် | လာဘ် |
| ၁၉။ | မ် | မ–သတ် | အာရာမ် |
| ၂၀။ | ယ် | ယ–သတ် | အဓိပ္ပာယ် |
| ၂၁။ | ရ် | ရ–သတ် | မာရ် |
| ၂၂။ | လ် | လ–သတ် | တက္ကသိုလ် |
| ၂၃။ | ဝ် | ဝ–သတ် | သိဋ္ဌိုဝ်း |
| ၂၄။ | သ် | သ–သတ် | ဥပုသ် |
| ၂၅။ | ဟ် | ဟ–သတ် | သိဟ်ရာသီ |
| ၂၆။ | ဠ် | ဠ–သတ် | သီဟိုဠ် |

# နာမ်

**နာမ်**

၁၂။ သက်ရှိသက်မဲ့၊ ဒြပ်ရှိဒြပ်မဲ့တို့၏ အမည်ဟူသမျှကို **နာမ်**ဟု ခေါ်သည်။

၁၃။ နာမ်ကို အနက်အဓိပ္ပာယ်အရနှင့် ဖွဲ့စည်းတည်ဆောက်ပုံအရဟူ၍ ၂ မျိုးခွဲခြားနိုင်သည်။

၁၄။ အနက်အဓိပ္ပာယ်အရ နာမ် ၄ မျိုးရှိသည်။ ယင်းနာမ် ၄ မျိုး တို့မှာ–

(က) တစ်ဦးဆိုင်နာမ်

( ခ ) အများဆိုင်နာမ်

( ဂ ) စိတ္တဇနာမ်

(ဃ) အစုပြနာမ်တို့ဖြစ်ကြသည်။

၁၅။ ဖွဲ့စည်းတည်ဆောက်ပုံအရ နာမ် ၄ မျိုးရှိသည်။ ယင်းနာမ် ၄ မျိုးတို့မှာ–

(က) ပင်ကိုနာမ်

( ခ ) ပေါင်းစပ်နာမ်

( ဂ ) ကြိယာနာမ်

(ဃ) ဂုဏ်ရည်ပြနာမ်တို့ဖြစ်ကြသည်။

(အနက်အဓိပ္ပာယ်အရ နာမ် ၄ မျိုးအကြောင်းကို မြန်မာသဒ္ဒါ အတွဲ ၁၊ အခန်း ၃ နှင့် ၄ ၌ ဖော်ပြခဲ့ပြီးဖြစ်သည်။ ဖွဲ့စည်းတည်ဆောက်ပုံအရ နာမ် ၄ မျိုးအကြောင်းကိုသာ ဆက်လက်ဖော်ပြပါမည်။)

၁၆။ **ပင်ကိုနာမ်**။ ။ မြန်မာသဒ္ဒါနည်းဖြင့် ခွဲစိတ်၍လည်းမရ၊ ပေါင်းစပ်ဖွဲ့စည်းထားခြင်းလည်းမဟုတ်၊ မူလအတိုင်းဖြစ်သောနာမ်ကို ပင်ကိုနာမ်ဟုခေါ်သည်။

**သာဓက**။ ။ (က) လ၊ လူ၊ ရေ၊ အိုး၊ ကျောင်း၊ လှည်း၊ အိမ်။

( ခ ) စပါး၊ ယောက်ျား၊ ထမင်း၊ ကလေး၊ ကောင်းကင်၊ မိန်းမ။

( ဂ ) ပညာ၊ မေတ္တာ၊ စေတနာ၊ ကုသိုလ်၊ ဂုဏ်။

(ဃ) မန်နေဂျာ၊ ဒရိုင်ဘာ၊ အယ်ဒီတာ၊ ဒါရိုက်တာ၊ မဂ္ဂဇင်း၊ ဂျာနယ်။

သာဓက (က) ၌ ဖော်ပြထားသည့် **လ၊ လူ၊ ရေ၊ အိုး** စသည်တို့သည် မြန်မာသဒ္ဒါနည်းအရ ခွဲစိတ်၍ မရ သော စာလုံးတစ်လုံးစီရှိကြသည့် ပင်ကိုနာမ်များ ဖြစ်ကြသည်။ သာဓက (ခ) ၌ ဖော်ပြထားသည့် **စပါး၊ ယောက်ျား၊ ထမင်း** စသည့် နာမ်တို့သည် စာလုံးတစ်လုံးထက်ပို၍ ပါဝင်သော နာမ်များဖြစ်ကြသည်။ ယင်းနာမ်တို့ကို မြန်မာသဒ္ဒါနည်းအရ ခွဲစိတ်၍ မရနိုင်ပေ။ ထို့ကြောင့် ၎င်းတို့သည်လည်း ပင်ကိုနာမ်များပင် ဖြစ်ကြသည်။

သာဓက (ဂ) ၌ ဖော်ပြထားသည့် **ပညာ၊ မေတ္တာ၊ စေတနာ** စသည့် နာမ်တို့သည် ပါဠိသက်နာမ်များ ဖြစ်ကြသည်။ ဤပါဠိသက်နာမ်တို့ကို ပါဠိသဒ္ဒါနည်းအရ ခွဲစိတ်၍ ရနိုင်မည် ဖြစ်သော်လည်း မြန်မာသဒ္ဒါနည်းအရ ခွဲစိတ်၍မရနိုင်ပေ။ ထို့ကြောင့် ၎င်းတို့သည်လည်း ပင်ကိုနာမ်များပင် ဖြစ်ကြသည်။

သာဓက (ဃ) ၌ ဖော်ပြထားသည့် **မန်နေဂျာ၊ ဒရိုင်ဘာ၊ အယ်ဒီတာ** စသည့် နာမ်တို့သည် အင်္ဂလိပ်ဘာသာမှယူ၍ မွေးစားထားသောနာမ်များ ဖြစ်ကြသည်။ ဤနာမ်မျိုးတို့ကို အင်္ဂလိပ်သဒ္ဒါနည်းအရ ခွဲစိတ်၍ရနိုင်မည် ဖြစ်သော်လည်း မြန်မာသဒ္ဒါနည်းအရ ခွဲစိတ်၍မရနိုင်ပေ။ ထို့ကြောင့် ၎င်းတို့သည်လည်း ပင်ကိုနာမ်များပင် ဖြစ်ကြသည်။

၁၇။ **ပေါင်းစပ်နာမ်**။ ။ ဝိဘတ်၊ ပစ္စည်း၊ သမ္ဗန္ဓတို့ကို ကြား၌မခံဘဲ နာမ်၊ ကြိယာ၊ နာမ်စား၊ နာမဝိသေသန၊ ကြိယာဝိသေသနတို့ကို ထိုက်သည့်အားလျော်စွာ ပူးတွဲထားသောနာမ်ကို **ပေါင်းစပ်နာမ်** ဟု ခေါ်သည်။

၁၈။ ပေါင်းစပ်နာမ်ဖြစ်လာစေရန် ဖွဲ့စည်းပေါင်းစပ်နည်း အမျိုးမျိုးရှိသည့်အနက် အချို့ကို အောက်၌ဖော်ပြထားသည်။

(က) နာမ် + နာမ်
(ခ) နာမ် + ကြိယာ
(ဂ) နာမ် + ကြိယာ + နာမ်
(ဃ) နာမ် + ကြိယာ + နာမ် + ကြိယာ
(င) နာမ် + နာမဝိသေသန
(စ) ကြိယာ + ကြိယာ
(ဆ) ကြိယာ + နာမ်
(ဇ) ကြိယာဝိသေသန + နာမ်

၁၉။(က) **နာမ် + နာမ်** ။ ။ နာမ်အချင်းချင်း ပေါင်းစပ်ခြင်းဖြင့် ပေါင်းစပ်နာမ်ဖြစ်လာသည်။

**သာဓက**။ ။

| | နာမ် | + | နာမ် | = | ပေါင်းစပ်နာမ် |
|---|---|---|---|---|---|
| (၁) | ရေ | + | အိုး | = | ရေအိုး |
| (၂) | တောင် | + | ကလပ် | = | တောင်ကလပ် |

(ခ) **နာမ် + ကြိယာ**။ ။ နာမ်နှင့်ကြိယာတို့ ပေါင်းစပ်ခြင်းဖြင့် ပေါင်းစပ်နာမ် ဖြစ်လာသည်။

**သာဓက**။ ။

| | နာမ် | + | ကြိယာ | = | ပေါင်းစပ်နာမ် |
|---|---|---|---|---|---|
| (၁) | လက် | + | စွပ် | = | လက်စွပ် |
| (၂) | ခေါင်း | + | ပေါင်း | = | ခေါင်းပေါင်း |

(ဂ) **နာမ် + ကြိယာ + နာမ်** ။ ။ နာမ်၊ ကြိယာ၊ နာမ်တို့ကို ပေါင်းစပ်ခြင်းဖြင့် ပေါင်းစပ်နာမ် ဖြစ်လာသည်။

**သာဓက**။ ။

| | နာမ် | + | ကြိယာ | + | နာမ် | = | ပေါင်းစပ်နာမ် |
|---|---|---|---|---|---|---|---|
| (၁) | လက် | + | ပတ် | + | နာရီ | = | လက်ပတ်နာရီ |
| (၂) | ရေ | + | ကူး | + | ကန် | = | ရေကူးကန် |

(ဃ) **နာမ် + ကြိယာ + နာမ် + ကြိယာ**။ ။ နာမ်၊ ကြိယာ၊ နာမ်၊ ကြိယာတို့ကို ပေါင်းစပ်ခြင်းဖြင့် ပေါင်းစပ်နာမ်ဖြစ်လာသည်။

**သာဓက**။ ။

| | နာမ် | + | ကြိယာ | + | နာမ် | + | ကြိယာ | = | ပေါင်းစပ်နာမ် |
|---|---|---|---|---|---|---|---|---|---|
| (၁) | စာ | + | တတ် | + | ပေ | + | တတ် | = | စာတတ်ပေတတ် |
| (၂) | ရုပ် | + | မြင် | + | သံ(အသံ) | + | ကြား | = | ရုပ်မြင်သံကြား |

(င) **နာမ် + နာမဝိသေသန**။ ။ နာမ်နှင့်နာမဝိသေသနတို့ကို ပေါင်းစပ်ခြင်းဖြင့် ပေါင်းစပ်နာမ်ဖြစ်လာသည်။

| **သာဓက**။ ။ | **နာမ်** | + | **နာမဝိသေသန** | = | **ပေါင်းစပ်နာမ်** |
|---|---|---|---|---|---|
| (၁) | လူ | + | ငယ် | = | လူငယ် |
| (၂) | မြေ | + | ဖြူ | = | မြေဖြူ |

(စ) **ကြိယာ + ကြိယာ**။ ။ ကြိယာအချင်းချင်း ပေါင်းစပ်ခြင်းဖြင့် ပေါင်းစပ်နာမ် ဖြစ်လာသည်။

| **သာဓက**။ ။ | **ကြိယာ** | + | **ကြိယာ** | = | **ပေါင်းစပ်နာမ်** |
|---|---|---|---|---|---|
| (၁) | ထမ်း | + | ပိုး | = | ထမ်းပိုး |
| (၂) | အုပ် | + | ဆောင်း | = | အုပ်ဆောင်း |

(ဆ) **ကြိယာ + နာမ်**။ ။ ကြိယာနှင့်နာမ်တို့ကို ပေါင်းစပ်ခြင်းဖြင့် ပေါင်းစပ်နာမ် ဖြစ်လာသည်။

| **သာဓက**။ ။ | **ကြိယာ** | + | **နာမ်** | = | **ပေါင်းစပ်နာမ်** |
|---|---|---|---|---|---|
| (၁) | လွယ် | + | အိတ် | = | လွယ်အိတ် |
| (၂) | ဆွဲ | + | ကြိုး | = | ဆွဲကြိုး |

(ဇ) **ကြိယာဝိသေသန + နာမ်**။ ။ ကြိယာဝိသေသနနှင့် နာမ်တို့ကို ပေါင်းစပ်ခြင်းဖြင့် ပေါင်းစပ်နာမ်ဖြစ်လာသည်။

| သာဓက။ ။ | **ကြိယာဝိသေသန** | + | **နာမ်** | = | **ပေါင်းစပ်နာမ်** |
|---|---|---|---|---|---|
| (၁) | နေ့စဉ် | + | မှတ်တမ်း | = | နေ့စဉ်မှတ်တမ်း |
| (၂) | တစ်ဆင့် | + | စကား | = | တစ်ဆင့်စကား |

၂၀။ **ကြိယာနာမ်**။ ။ ကြိယာ၏ရှေ့၌ဖြစ်စေ၊ နောက်၌ဖြစ်စေ၊ ပစ္စည်းဆက်၍ ဖြစ်လာသော နာမ်ကို **ကြိယာနာမ်**ဟု ခေါ်သည်။

ကြိယာနှင့်ဆက်၍ ကြိယာနာမ်ဖြစ်လာစေသော ပစ္စည်းတို့မှာ **အ**၊ **ခြင်း**၊ **ချက်**၊ **မှု**၊ **ဖွယ်**၊ **စရာ**၊ **ဖို့**၊ **ရန်** စသည်တို့ဖြစ်ကြသည်။

**သာဓက**။ ။

| (က) | **ပစ္စည်း** | + | **ကြိယာ** | = | **ကြိယာနာမ်** |
|---|---|---|---|---|---|
| (၁) | အ | + | စား | = | အစား |
| (၂) | အ | + | သွား | = | အသွား |

| (ခ) | **ကြိယာ** | + | **ပစ္စည်း** | = | **ကြိယာနာမ်** |
|---|---|---|---|---|---|
| (၁) | စား | + | ခြင်း | = | စားခြင်း |
| (၂) | စွမ်းဆောင် | + | ချက် | = | စွမ်းဆောင်ချက် |
| (၃) | ကူညီ | + | မှု | = | ကူညီမှု |
| (၄) | စား | + | ဖွယ် | = | စားဖွယ် |
| (၅) | နေ | + | စရာ | = | နေစရာ |

| | | | | |
|---|---|---|---|---|
| (၆) | အိပ် | + | ဖို့ | = အိပ်ဖို့ |
| (၇) | ပေး | + | ရန် | = ပေးရန် |

၂၁။ **ဂုဏ်ရည်ပြနာမ်**။ ။ ဂုဏ်အရည်အချင်းပြပုဒ်၏ ရှေ့၌ဖြစ်စေ၊ နောက်၌ဖြစ်စေ ပစ္စည်းဆက်၍ ဖြစ်လာသောနာမ်ကို **ဂုဏ်ရည်ပြနာမ်** ဟု ခေါ်သည်။

ဂုဏ်အရည်အချင်းပြပုဒ်နှင့်ဆက်၍ ဂုဏ်ရည်ပြနာမ် ဖြစ်လာစေသော ပစ္စည်းတို့မှာ **အ၊ မှု၊ ခြင်း** တို့ဖြစ်ကြသည်။

| **သာဓက**။ ။ | | **ဂုဏ်ရည်ပြပုဒ်** | **+** | **ပစ္စည်း** | **= ဂုဏ်ရည်ပြနာမ်** |
|---|---|---|---|---|---|
| | (က) | ကောင်း | + | အ၊ မှု၊ ခြင်း | = အကောင်း |
| | | | | | = ကောင်းမှု |
| | | | | | = ကောင်းခြင်း |
| | (ခ) | ထူးချွန် | + | မှု၊ ခြင်း | = ထူးချွန်မှု |
| | | | | | = ထူးချွန်ခြင်း |
| | (ဂ) | သာယာ | + | မှု၊ ခြင်း | = သာယာမှု |
| | | | | | = သာယာခြင်း |
| | (ဃ) | သက်သာ | + | မှု၊ ခြင်း | = သက်သာမှု |
| | | | | | = သက်သာခြင်း |
| | (င) | စည်ကား | + | မှု၊ ခြင်း | = စည်ကားမှု |
| | | | | | = စည်ကားခြင်း |
| | (စ) | ဝါ | + | အ | = အဝါ |
| | (ဆ) | မှည့် | + | အ၊ ခြင်း | = အမှည့် |
| | | | | | = မှည့်ခြင်း |

## လေ့ကျင့်ခန်း

၁။ ဖွဲ့စည်းတည်ဆောက်ပုံအရ နာမ်အမျိုးအစားမည်မျှရှိသနည်း။ ယင်းတို့ကို ဖော်ပြပါ။

၂။ မည်သည့်နာမ်ကို ပင်ကိုနာမ်ဟု ခေါ်သနည်း။

၃။ အောက်ပါပင်ကိုနာမ်တို့ကို သာဓကတစ်ခုစီနှင့်တကွ ရှင်းပြပါ။

(က) စာလုံးတစ်လုံးတည်းရှိသော ပင်ကိုနာမ်

(ခ) စာလုံးတစ်လုံးထက်ပို၍ ပါဝင်သောပင်ကိုနာမ်

(ဂ) ပါဠိသက်ပင်ကိုနာမ်

(ဃ) အင်္ဂလိပ်ဘာသာမှယူ၍ မွေးစားသောပင်ကိုနာမ်

၄။ မည်သည့်နာမ်ကို ပေါင်းစပ်နာမ်ဟု ခေါ်သနည်း။

၅။ ပေါင်းစပ်နာမ်တစ်ခုဖြစ်လာစေရန် မည်သည့်ဝါစင်္ဂတို့ကို ပေါင်းစပ်နိုင်သနည်း။

၆။ အောက်ပါပေါင်းစပ်နာမ်တစ်ခုစီ၌ မည်သည့်ဝါစင်္ဂများ ပါဝင် ပေါင်းစပ်နေသည်ကို ဖော်ပြပါ။

ပန်းအိုး၊ မျှော်စင်၊ ပန်းကန်ပြား၊ ဆံညှပ်၊ အုပ်ဆောင်း၊ မီးပူ၊ လွယ်အိတ်၊ ခဲဖျက်၊ ရွက်လှေ၊ ရေငုပ်သင်္ဘော၊ လမ်းကြိတ်စက်၊ ခေါင်းအုံး၊ ပြပွဲ၊ အိမ်သစ်၊ ဖယောင်းတိုင်၊ ပဲလှော်၊ စာခြောက်ရုပ်၊ ထွေးခံ၊ တောင်ကတုံး။

၇။ အောက်ပါကွက်လပ်တို့ကို ဖြည့်၍ ပေါင်းစပ်နာမ်ဖွဲ့ပါ။

(က)

| | | | | |
|---|---|---|---|---|
| **နာမ်** | **+** | **နာမ်** | **=** | **ပေါင်းစပ်နာမ်** |
| ရေ | + | – | = | |
| – | + | ရထား | = | |
| – | + | ဆိုင် | = | |

(ခ)

| | | | | |
|---|---|---|---|---|
| **နာမ်** | **+** | **ကြိယာ** | **=** | **ပေါင်းစပ်နာမ်** |
| ငါး | + | – | = | |
| – | + | စည်း | = | |
| – | + | ပြုတ် | = | |

(ဂ)

| | | | | | | |
|---|---|---|---|---|---|---|
| **နာမ်** | **+** | **ကြိယာ** | **+** | **နာမ်** | **=** | **ပေါင်းစပ်နာမ်** |
| လက် | + | ကိုင် | + | | = | |
| စာ | + | – | + | တိုက် | = | |
| – | + | နှိပ် | + | စက် | = | |

| | | | | | | |
|---|---|---|---|---|---|---|
| (ဃ) | **နာမ်** | **+** | **နာမဝိသေသန** | **=** | **ပေါင်းစပ်နာမ်** |
| | − | + | ချဉ် | = | |
| | မီး | + | − | = | |
| | ကြက်သွန် | + | − | = | |
| ( င ) | **ကြိယာ** | **+** | **ကြိယာ** | **=** | **ပေါင်းစပ်နာမ်** |
| | ပြုတ် | + | − | = | |
| | ပေါက် | + | − | = | |
| | − | + | ချက် | = | |
| ( စ ) | **ကြိယာ** | **+** | **နာမ်** | **=** | **ပေါင်းစပ်နာမ်** |
| | − | + | ကြိုး | = | |
| | − | + | ဆေး | = | |
| | − | + | သင်္ဘော | = | |

၈။ မည်သည့်နာမ်ကို ကြိယာနာမ်ဟု ခေါ်သနည်း။

၉။ ကြိယာနာမ် ဖြစ်လာစေသော ပစ္စည်းတို့ကိုဖော်ပြ၍ ထိုပစ္စည်းအသီးသီးဖြင့် ကြိယာနာမ် ဖွဲ့ပါ။

၁၀။ မည်သည့်နာမ်ကို ဂုဏ်ရည်ပြနာမ်ဟု ခေါ်သနည်း။

၁၁။ ဂုဏ်ရည်ပြနာမ် ဖြစ်လာစေသော ပစ္စည်းတို့ကိုဖော်ပြ၍ ထိုပစ္စည်းအသီးသီးဖြင့် ဂုဏ်ရည်ပြနာမ် ဖွဲ့ပါ။

# နာမ်စား

**နာမ်စား**

၂၂။ နာမ်၏အစားသုံးသော ပုဒ်ကို **နာမ်စား**ဟု ခေါ်သည်။

၂၃။ နာမ်စား ၄ မျိုးရှိသည်။ ယင်းနာမ်စား ၄ မျိုးတို့မှာ–

(က) ပုဂ္ဂလနာမ်စား

( ခ ) အညွှန်းနာမ်စား

( ဂ ) အမေးနာမ်စား

(ဃ) သင်္ချာနာမ်စားတို့ ဖြစ်ကြသည်။

(နာမ်စား ၄ မျိုးအနက် **ပုဂ္ဂလနာမ်စား၊ အညွှန်းနာမ်စား၊ အမေးနာမ်စား**တို့ အကြောင်းကို မြန်မာသဒ္ဒါအတွဲ ၁၊ အခန်း ၃ နှင့် ၄ တို့၌ ဖော်ပြခဲ့ပြီး ဖြစ်သည်။ **သင်္ချာနာမ်စား**အကြောင်းကို ယခုဆက်လက်ဖော်ပြမည်။)

၂၄။ **သင်္ချာနာမ်စား**။ ။ အရေအတွက်နှင့်ပမာဏကိုပြသော နာမ်စားကို **သင်္ချာနာမ်စား** ဟု ခေါ်သည်။

၂၅။ သင်္ချာနာမ်စား ၂ မျိုးရှိသည်။ ယင်းနာမ်စား ၂ မျိုးတို့မှာ–

(က) အရေအတွက်ပြသင်္ချာနာမ်စား

( ခ ) ပမာဏပြသင်္ချာနာမ်စားတို့ဖြစ်ကြသည်။

၂၆။(က) **အရေအတွက်ပြသင်္ချာနာမ်စား**။ ။ အရေအတွက်ကိုပြ၍ နာမ်၏အစားသုံးသောပုဒ်ကို အရေအတွက်ပြသင်္ချာနာမ်စားဟု ခေါ်သည်။

အရေအတွက်ပြသင်္ချာနာမ်စားတို့မှာ **တစ်ခု၊ တစ်စောင်၊ သုံးကောင်၊ နှစ်စင်း** စသည်တို့ ဖြစ်ကြသည်။

**သာဓက**။ ။(၁) မြန်မာပြည်၌ ထင်ရှားသော ပင်လယ်ကမ်းခြေနှစ်ခုရှိသည်။ **တစ်ခု**သည် ငပလီကမ်းခြေဖြစ်၍ **တစ်ခု**မှာ မောင်းမကန်ကမ်းခြေ ဖြစ်သည်။

(၂) အစ်ကိုကြီးသည် သတင်းစာသုံးစောင်ကို ဈေးက ဝယ်လာသည်။ **နှစ်စောင်**သည် မြန်မာသတင်းစာဖြစ်၍ **တစ်စောင်**မှာ အင်္ဂလိပ် သတင်းစာဖြစ်သည်။

(၃) လယ်သမားကြီးဦးဖိုးမြသည် နွားငါးကောင်ကို မွေးထားသည်။ **သုံးကောင်**သည် နို့စားနွားမဖြစ်၍ **နှစ်ကောင်**မှာ ခိုင်းနွားဖြစ်သည်။

(၄) ဘူတာရုံ၌ မီးရထားလေးစင်းဆိုက်နေပြီ။ **နှစ်စင်း**သည် အစုန် မီးရထားဖြစ်၍ **နှစ်စင်းမှာ** အဆန်မီးရထားဖြစ်သည်။

( ခ) **ပမာဏပြသင်္ချာနာမ်စား**။ ။ ပမာဏကိုပြ၍ နာမ်၏အစားသုံးသော ပုဒ်ကို **ပမာဏပြ သင်္ချာနာမ်စား**ဟု ခေါ်သည်။

ပမာဏပြသင်္ချာနာမ်စားတို့မှာ **အချို့၊ အားလုံး၊ အများစု** စသည်တို့ ဖြစ်ကြသည်။

**သာဓက**။ ။(၁) တောင်းထဲ၌ သရက်သီးများရှိသည်။ **အချို့မှာ** မှည့်ပြီ။
(၂) ဦးလှမှာ သားသမီးသုံးယောက်ရှိသည်။ **အားလုံး** စာကြိုးစားကြသည်။
(၃) ကျောင်းသားများသည်ကျောင်းဝင်းထဲ၌ သန့်ရှင်းရေး လုပ်နေကြသည်။ **အများစု**က ချုံများကို ရှင်းလင်းကြသည်။

## လေ့ကျင့်ခန်း

၁။ မည်သည့်နာမ်စားကို သင်္ချာနာမ်စားဟု ခေါ်သနည်း။

၂။ သင်္ချာနာမ်စား အမျိုးအစားမည်မျှရှိသည်ကို ဖော်ပြပါ။

၃။ မည်သည့်နာမ်စားကို အရေအတွက်ပြသင်္ချာနာမ်စားဟု ခေါ်သနည်း။

၄။ အောက်ပါအရေအတွက်ပြသင်္ချာနာမ်စားအသီးသီးကို ဝါကျ၌သုံးပြပါ။
ယင်းနာမ်စားအသီးသီးသည် မည်သည့်နာမ်၏အစားသုံးသော နာမ်စားဖြစ်သည်ကိုလည်း ရှင်းပြပါ။
တစ်ယောက်၊ တစ်ပွင့်၊ နှစ်ပင်၊ သုံးစီး၊ လေးကောင်၊ ငါးခန်း၊ ခြောက်ခု၊ ဆယ်ချပ်၊ ခုနစ်လုံး၊ ငါးထည်။

၅။ မည်သည့်နာမ်စားကို ပမာဏပြသင်္ချာနာမ်စားဟု ခေါ်သနည်း။

၆။ အောက်ပါပမာဏပြသင်္ချာနာမ်စားအသီးသီးကို ဝါကျ၌ သုံးပြပါ။
ယင်းနာမ်စားအသီးသီးသည် မည်သည့်နာမ်၏အစားသုံးသော နာမ်စားဖြစ်သည်ကိုလည်းရှင်းပြပါ။
အချို့၊ အားလုံး၊ အများစု၊ အများ၊ အနည်းငယ်၊ ထက်ဝက်။

# နာမဝိသေသန

**နာမဝိသေသန**

၂၇။ နာမ်ကို အထူးပြုသောပုဒ်ကို **နာမဝိသေသန**ဟု ခေါ်သည်။

၂၈။ နာမဝိသေသနကို အနက်အဓိပ္ပာယ်အရနှင့် ဖွဲ့စည်းတည် ဆောက်ပုံအရဟူ၍ ၂ မျိုး ခွဲခြားနိုင်သည်။

၂၉။ အနက်အဓိပ္ပာယ်အရ နာမဝိသေသန ၄ မျိုးရှိသည်။ ယင်းနာမဝိသေသန ၄ မျိုး တို့မှာ−

(က) ဂုဏ်ရည်ပြနာမဝိသေသန

(ခ) အညွှန်းနာမဝိသေသန

(ဂ) သင်္ချာနာမဝိသေသန

(ဃ) အမေးနာမဝိသေသနတို့ဖြစ်ကြသည်။

၃၀။ ဖွဲ့စည်းတည်ဆောက်ပုံအရ နာမဝိသေသန ၂ မျိုးရှိသည်။ ယင်းနာမဝိသေသန ၂ မျိုး တို့မှာ−

(က) ပင်ကိုနာမဝိသေသန

(ခ) ပေါင်းစပ်နာမဝိသေသနတို့ဖြစ်ကြသည်။

(အနက်အဓိပ္ပာယ်အရ နာမဝိသေသန ၄ မျိုးအကြောင်းကို မြန်မာသဒ္ဒါအတွဲ ၁၊ အခန်း ၂ ၌ အကျဉ်းမျှဖော်ပြခဲ့ပြီ။ ထို ၄ မျိုးအနက်မှ **ဂုဏ်ရည်ပြနာမဝိသေသန** အကြောင်းနှင့် **ဖွဲ့စည်း တည်ဆောက်ပုံအရ နာမဝိသေသန ၂ မျိုးအကြောင်းကို** အတွဲ ၁၊ အခန်း ၃ တွင် လည်းကောင်း၊ **အညွှန်းနာမဝိသေသန**အကြောင်းကို အတွဲ ၁၊ အခန်း ၄ တွင်လည်းကောင်း ဖော်ပြခဲ့သည်။ ကျန်သော **သင်္ချာနာမဝိသေသနနှင့် အမေးနာမဝိသေသန** အကြောင်းကို ဤအတွဲ ၂၊ အခန်း ၅ ၌ ဆက်လက်ဖော်ပြမည်။)

၃၁။ **သင်္ချာနာမဝိသေသန**။ ။ အရေအတွက်ကိုလည်းကောင်း၊ အစဉ်ကိုလည်းကောင်း၊ အနည်းအများပမာဏကိုလည်းကောင်း ဖော်ပြ၍နာမ်ကိုအထူးပြုသော နာမဝိသေသနကို **သင်္ချာ နာမဝိသေသန**ဟု ခေါ်သည်။

၃၂။ သင်္ချာနာမဝိသေသန ၃ မျိုးရှိသည်။ ယင်းနာမဝိသေသန ၃ မျိုးတို့မှာ−

(က) အရေအတွက်ပြသင်္ချာနာမဝိသေသန

(ခ) အစဉ်ပြသင်္ချာနာမဝိသေသန

(ဂ) ပမာဏပြသင်္ချာနာမဝိသေသနတို့ဖြစ်ကြသည်။

၃၃။(က) **အရေအတွက်ပြသင်္ချာနာမဝိသေသန**။ ။ နာမ်၏အရေအတွက်ကို ဖော်ပြ၍ ထိုနာမ်ကိုအထူးပြုသော နာမဝိသေသနကို **အရေအတွက်ပြသင်္ချာနာမဝိသေသန** ဟု ခေါ်သည်။

အရေအတွက်ပြသင်္ချာနာမဝိသေသနတို့မှာ **သုံးယောက်၊ ၁၀ ယောက်၊ အယောက် ၂၀၊ နှစ်ခု၊ ၁၀ ခု၊ အခု ၂၀၊ လေးပင်၊ ၁၀ ပင်၊ အပင် ၂၀၊ ငါးကောင်၊ ၁၀ ကောင်၊ အကောင် ၂၀၊ ခြောက်ဦး၊ ၁၀ ဦး** စသည်တို့ ဖြစ်ကြသည်။

**သာဓက**။ ။(၁) ကျောင်းသား**သုံးယောက်** စာဖတ်နေကြသည်။
ကျောင်းသား **၁၀ ယောက်** စာဖတ်နေကြသည်။
ကျောင်းသား **အယောက် ၂၀** စာဖတ်နေကြသည်။
(၂) ဤစာသင်ခန်းထဲ၌ ပြက္ခဒိန် **နှစ်ခု** ရှိသည်။
ဤစာသင်ခန်းထဲ၌ ပြက္ခဒိန် **၁၀ ခု** ရှိသည်။
ဤစာသင်ခန်းထဲ၌ ပြက္ခဒိန် **အခု ၂၀** ရှိသည်။
(၃) ကျောင်းဝင်းထဲ၌ ငှက်ပျောပင် **သုံးပင်** စိုက်ထားသည်။
ကျောင်းဝင်းထဲ၌ ငှက်ပျောပင် **၁၀ ပင်** စိုက်ထားသည်။
ကျောင်းဝင်းထဲ၌ ငှက်ပျောပင် **အပင် ၂၀** စိုက်ထားသည်။
(၄) ဦးလေးမှာ နွား **လေးကောင်** ရှိသည်။
ဦးလေးမှာ နွား **၁၀ ကောင်** ရှိသည်။
ဦးလေးမှာ နွား **အကောင် ၂၀** ရှိသည်။
(၅) အဖွဲ့ဝင် **ငါးဦး** အစည်းအဝေးတက်ရောက်ကြသည်။
အဖွဲ့ဝင် **၁၀ ဦး** အစည်းအဝေးတက်ရောက်ကြသည်။

( ခ) **အစဉ်ပြသင်္ချာနာမဝိသေသန**။ ။ နာမ်၏အစဉ်ကို ဖော်ပြ၍ ထိုနာမ်ကို အထူးပြုသော နာမဝိသေသနကို အစဉ်ပြသင်္ချာနာမဝိသေသနဟု ခေါ်သည်။
အစဉ်ပြသင်္ချာနာမဝိသေသနတို့မှာ အမှတ် (၃)၊ ၄ စင်းမြောက်၊ ၁၀ နှစ်မြောက်၊ ဒုတိယအကြိမ်၊ ဒုတိယအကြိမ်မြောက် စသည်တို့ဖြစ်ကြသည်။

**သာဓက**။ ။(၁) မောင်မြင့်သည် **အမှတ် (၃)** အထက်တန်းကျောင်းက ကျောင်းသား ဖြစ်သည်။
(၂) **၄ စင်းမြောက်** မီးရထားသည် ဘူတာရုံမှ စတင် ထွက်ခွာပြီ။
(၃) ညီမလေး၏ **၁၀ နှစ်မြောက်**မွေးနေ့၌ ညှော်ခံပွဲ ကျင်းပ မည်။
(၄) **ဒုတိယအကြိမ်**စကားရည်လုပွဲကို ကျောင်း၌ ယနေ့ ကျင်းပသည်။
(၅) ကျွန်တော်တို့ရွာ၌ **ဒုတိယအကြိမ်မြောက်** လှေပြိုင်ပွဲကို လွတ်လပ်ရေးနေ့၌ ကျင်းပမည်။

(ဂ) **ပမာဏပြသင်္ချာနာမဝိသေသန**။ ။ ပမာဏကို ဖော်ပြ၍ နာမ်ကိုအထူးပြုသော နာမဝိသေသနကို **ပမာဏပြသင်္ချာနာမဝိသေသန**ဟု ခေါ်သည်။
ပမာဏပြသင်္ချာနာမဝိသေသနတို့မှာ **အမြောက်အမြား၊ များစွာသော၊ အများ၊ အချို့၊ အချို့သော၊ ခပ်သိမ်း၊ ခပ်သိမ်းသော၊ အားလုံး၊ အားလုံးသော** စသည်တို့ ဖြစ်ကြသည်။

**သာဓက**။ ။(၁) ဦးလှသည် ငွေ**အမြောက်အမြား**ကို ဘဏ်၌ စုထားသည်။
(၂) **များစွာသော** ပရိသတ်တို့သည် ငြိမ်သက်စွာ နားထောင် နေကြသည်။
(၃) အဖွဲ့ဝင်**အများက** ဦးမြ၏စေတနာကို လေးစားကြသည်။
(၄) ကျောင်းသား**အချို့** ကစားနေကြသည်။
**အချို့သော**ကျောင်းသားများ ကစားနေကြသည်။

(၅) သတ္တဝါ**ခပ်သိမ်း** ကျန်းမာကြပါစေ။
**ခပ်သိမ်းသော**သတ္တဝါတို့ ကျန်းမာကြပါစေ။
(၆) မြစ်**အားလုံး**သည် ကောက်ကွေ့ကြကုန်၏။
**အားလုံးသော**မြစ်တို့သည် ကောက်ကွေ့ကြကုန်၏။

၃၄။ **အမေးနာမဝိသေသန**။ ။ အမေးသဘောဖြင့် နာမ်ကိုအထူးပြုသော နာမဝိသေသနကို **အမေးနာမဝိသေသန**ဟု ခေါ်သည်။

အမေးနာမဝိသေသနတို့မှာ **မည်သို့သော၊ မည်ကဲ့သို့သော၊ ဘယ်သို့သော၊ အဘယ်ကဲ့သို့သော၊ ဘယ်လို၊ မည်မျှ၊ အဘယ်မျှ၊ ဘယ်နှ၊ ဘယ်နှယောက်၊ ဘယ်လောက်၊ မည်သည့်၊ အဘယ်၊ ဘယ်** စသည်တို့ ဖြစ်ကြသည်။

**သာဓက**။ ။(က) **မည်သို့သော**စာပေကို ကျောင်းသားများ ဖတ်သင့်သနည်း။
(ခ) **မည်ကဲ့သို့သော** လူကို လူကောင်းဟု သတ်မှတ်မည်နည်း။
(ဂ) **ဘယ်သို့သော** အစားအစာသည် လူတို့ကို ကျေးဇူးပြု သနည်း။
(ဃ) **အဘယ်ကဲ့သို့သော** ပိုးမွှားသည် သစ်ပင်တို့ကို ဖျက်ဆီး တတ်သနည်း။
(င) **ဘယ်လို** အစားအစာကို သင်နှစ်သက်သလဲ။
(စ) အလှူသို့ ပရိသတ်**မည်မျှ** လာမည်ဟု ခန့်မှန်းထားသနည်း။
(ဆ) ငွေ**အဘယ်မျှ** သင်၌ ရှိသနည်း။
(ဇ) သင်သည် တစ်နေ့လျှင် စာကို **ဘယ်နှ**နာရီ ဖတ်သနည်း။
(ဈ) ဤမော်တော်ကား၌ ခရီးသည် **ဘယ်နှယောက်** လိုက်နိုင် သနည်း။
(ည) မီးရထားခ **ဘယ်လောက်** ပေးရသလဲ။
(ဋ) **မည်သည့်** အားကစားကို သင် အနှစ်သက်ဆုံးဖြစ်သနည်း။
(ဌ) **အဘယ်**ဆရာဝန်နှင့် ကုသလိုသနည်း။
(ဍ) **ဘယ်** ကျောင်းမှာနေသလဲ။

၃၅။ **အရေအတွက်ပြသချ်ာနာမ်စားနှင့် အရေအတွက်ပြသချ်ာနာမဝိသေသန**။ ။ အရေအတွက်ပြသချ်ာနာမ်စားနှင့် အရေအတွက်ပြ သချ်ာနာမဝိသေသနတို့အကြောင်းကို ဖော်ပြခဲ့ပြီး ဖြစ်သည်။ ယင်းအရေအတွက်ပြသချ်ာနာမ်စားနှင့် အရေအတွက်ပြသချ်ာနာမဝိသေသနတို့တွင် ပါဝင်ကြသော **တစ်ခု၊ နှစ်ကောင်၊ သုံးပင်** စသည်တို့သည် အရေအတွက်ကို ဖော်ပြရာ၌ တူညီကြသော်လည်း ဝါကျအတွင်း၌ အသုံးကိုလိုက်၍ ဝါစင်္ဂကွဲပြားပုံကို လေ့လာနိုင်ရန် အောက်တွင် နှိုင်းယှဉ်ဖော်ပြထားသည်။

**သာဓက**။ ။(က) (၁) ရန်ကုန်မြို့၌ ထင်ရှားသော ပန်းခြံများရှိသည်။ **တစ်ခုသည်** မဟာဗန္ဓုလပန်းခြံဖြစ်သည်။
(၂) ရန်ကုန်မြို့၌ ထင်ရှားသောပန်းခြံများရှိသည်။ **ပန်းခြံတစ်ခု** သည် မဟာဗန္ဓုလပန်းခြံ ဖြစ်သည်။
(ခ) (၁) သူသည် ငါးများကို ဝယ်လာသည်။ **နှစ်ကောင်သည်** ငါးကြင်းများ ဖြစ်ကြသည်။

(၂) သူသည် ငါးများကိုဝယ်လာသည်။ **ငါးနှစ်ကောင်**သည် ငါးကြင်းများ ဖြစ်ကြသည်။

(ဂ) (၁) မလှသည် ပန်းပင်များကို စိုက်ထားသည်။ **သုံးပင်**သည် ရွက်လှပင်များ ဖြစ်ကြသည်။

(၂) မလှသည် ပန်းပင်များကို စိုက်ထားသည်။ **ပန်းပင်သုံးပင်**သည် ရွက်လှပင်များဖြစ်ကြသည်။

သာဓက (က) (၁) ၌ ပါရှိသော **တစ်ခု**သည် **ပန်းခြံ**ဟူသော နာမ်၏အရေအတွက်ကို ဖော်ပြ၍ ထိုနာမ်၏အစားသုံးသော နာမ်စားဖြစ်သဖြင့် အရေအတွက်ပြသင်္ချာနာမ်စား ဖြစ်သည်။

သာဓက (က) (၂) ၌ ပါရှိသော **တစ်ခု**မှာမူယင်းပုဒ်၏ ရှေ့၌ ရှိသော **ပန်းခြံ**ဟူသော နာမ်၏အရေအတွက်ကိုဖော်ပြ၍ ထိုနာမ်ကိုပင် အထူးပြုသဖြင့် အရေအတွက်ပြ သင်္ချာနာမဝိသေသနဖြစ်သည်။

သာဓက(ခ) (၁) ၌ပါရှိသော **နှစ်ကောင်**နှင့် သာဓက (ဂ) (၁)၌ပါရှိသော **သုံးပင်**တို့ **သည်လည်း** အရေအတွက်ပြသင်္ချာနာမ်စားများဖြစ်ကြသည်။

သာဓက(ခ) (၂) ၌ ပါရှိသော **နှစ်ကောင်**နှင့် သာဓက(ဂ) (၂) ၌ ပါရှိသော **သုံးပင်** တို့မှာမူအရေအတွက်ပြ သင်္ချာနာမဝိသေသနများ ဖြစ်ကြသည်။

၃၆။ **ပမာဏပြသင်္ချာနာမ်စားနှင့် ပမာဏပြသင်္ချာနာမဝိသေသန**။ ။ ပမာဏပြသင်္ချာ နာမ်စားနှင့် ပမာဏပြသင်္ချာနာမဝိသေသနတို့အကြောင်းကို ဖော်ပြခဲ့ပြီးဖြစ်သည်။ ယင်းပမာဏပြ သင်္ချာနာမ်စားနှင့် ပမာဏပြသင်္ချာနာမဝိသေသနတို့တွင် ပါဝင်ကြသော **အချို့၊ အားလုံး၊ အနည်းငယ်** စသည်တို့သည် ပမာဏကို ဖော်ပြရာ၌ တူညီကြသော်လည်း ဝါကျအတွင်း၌ အသုံးကိုလိုက်၍ ဝါစင်္ဂကွဲပြားပုံကို လေ့လာနိုင်ရန်အောက်တွင် နှိုင်းယှဉ်ဖော်ပြထားသည်။

**သာဓက**။ ။ (က)(၁) ဥယျာဉ်အတွင်း၌ ပန်းပင်များရှိသည်။ **အချို့**သည် နှင်းဆီပင်များ ဖြစ်ကြသည်။

(၂) ဥယျာဉ်အတွင်း၌ ပန်းပင်များရှိသည်။ **ပန်းပင်အချို့**သည် နှင်းဆီပင်များ ဖြစ်ကြသည်။

(ခ)(၁) တောင်းထဲ၌ သရက်သီးများရှိသည်။ **အားလုံး**မှည့်ပြီ။

(၂) တောင်းထဲ၌ သရက်သီးများရှိသည်။ **သရက်သီးအားလုံး** မှည့်ပြီ။

(ဂ)(၁) မိခင်သည် မျှင်ငါးပိဝယ်လာသည်။ **အနည်းငယ်ကို** ချဉ်ပေါင်ဟင်းတွင် ထည့်၍ချက်သည်။

(၂) မိခင်သည် မျှင်ငါးပိဝယ်လာသည်။ **မျှင်ငါးပိအနည်းငယ်** ကို ချဉ်ပေါင်ဟင်းတွင်ထည့်၍ ချက်သည်။

သာဓက (က) (၁) ၌ ပါရှိသော **အချို့**သည် **ပန်းပင်** ဟူသော နာမ်၏ပမာဏကို ဖော်ပြ၍ ထိုနာမ်၏အစားသုံးသော နာမ်စားဖြစ်သဖြင့် ပမာဏပြသင်္ချာနာမ်စား ဖြစ်သည်။

သာဓက (က) (၂) ၌ ပါရှိသော **အချို့**မှာမူယင်းပုဒ်၏ ရှေ့၌ရှိသော **ပန်းပင်**ဟူသော နာမ်၏ပမာဏကို ဖော်ပြ၍ ထိုနာမ်ကိုပင် အထူးပြုသဖြင့် ပမာဏပြသချ်ာနာမဝိသေသန ဖြစ်သည်။

သာဓက (ခ)(၁) ၌ပါရှိသော **အားလုံး**နှင့် သာဓက (ဂ) (၁)၌ ပါရှိသော **အနည်းငယ်** တို့သည်လည်း ပမာဏပြသချ်ာနာမ်စားများ ဖြစ်ကြသည်။

သာဓက (ခ)(၂)၌ ပါရှိသော **အားလုံး**နှင့် သာဓက (ဂ)(၂) ၌ ပါရှိသော **အနည်းငယ်** တို့မှာမူ ပမာဏပြသချ်ာနာမဝိသေသနများ ဖြစ်ကြသည်။

၃၇။ **အမေးနာမ်စားနှင့်အမေးနာမဝိသေသန**။ ။ အမေးနာမ်စားနှင့် အမေးနာမဝိသေသနတို့ အကြောင်းကို ဖော်ပြခဲ့ပြီး ဖြစ်သည်။ ယင်းအမေးနာမ်စားနှင့် အမေးနာမဝိသေသနတို့တွင် ပါဝင်ကြသော **ဘယ်၊ ဘာ** စသည်တို့သည် အမေးသဘောသက်ရောက်ရာ၌ တူညီကြသော်လည်း ဝါကျအတွင်း၌ အသုံးကိုလိုက်၍ ဝါစင်္ဂကွဲပြားပုံကို လေ့လာနိုင်ရန် အောက်တွင်နှိုင်းယှဉ် ဖော်ပြ ထားသည်။

သာဓက။ ။(က) (၁) ဤစာအုပ်ကို **ဘယ်**က ဝယ်လာသနည်း။

(၂) ဤစာအုပ်ကို **ဘယ်ဆိုင်**က ဝယ်လာသနည်း။

(ခ)(၁) သင် **ဘာ**ကို စားလိုသလဲ။

(၂) သင် **ဘာဟင်း**ကို စားလိုသလဲ။

သာဓက (က) (၁) ၌ ပါရှိသော **ဘယ်**သည် စာအုပ် ဝယ်လာသည့်နေရာကို မေးမြန်း၍ ယင်းဝယ်လာသည့်နေရာအစား သုံးထားသော နာမ်စားဖြစ်သဖြင့် အမေးနာမ်စား ဖြစ်သည်။

သာဓက (က)(၂) ၌ ပါရှိသော **ဘယ်** မှာမူ ယင်းပုဒ်၏နောက်၌ရှိသော **ဆိုင်** ဟူသော နာမ်ကို အထူးပြုသဖြင့် အမေးနာမဝိသေသနဖြစ်သည်။

သာဓက (ခ) (၁) ၌ပါရှိသော **ဘာ** သည်လည်း အမေးနာမ်စားဖြစ်၍ သာဓက (ခ) (၂) ၌ ပါရှိသော **ဘာ**မှာမူ အမေးနာမဝိသေသန ဖြစ်သည်။

၃၈။ **အမေးနာမဝိသေသနနှင့်အမေးကြိယာဝိသေသန**။ ။ အမေးနာမဝိသေသနနှင့် အမေးကြိယာဝိသေသနတို့အကြောင်းကို ဖော်ပြခဲ့ပြီးဖြစ်သည်။ ယင်းအမေးနာမဝိသေသနနှင့် အမေးကြိယာဝိသေသနတို့တွင် ပါဝင်ကြသော **မည်မျှ၊ ဘယ်လောက်** စသည်တို့သည် အမေးသဘော သက်ရောက်ရာ၌ တူညီကြသော်လည်း ဝါကျအတွင်း၌ အသုံးကိုလိုက်၍ ဝါစင်္ဂ ကွဲပြားပုံကို လေ့လာနိုင်ရန် အောက်တွင် နှိုင်းယှဉ်ဖော်ပြထားသည်။

**သာဓက**။ ။(က)(၁) ဤကျောင်း၌ **ကျောင်းသားမည်မျှ** ရှိသနည်း။

(၂) မောင်ထွေးသည် စာကို **မည်မျှ** ကြိုးစားသနည်း။

(ခ)(၁) သင်သည် တစ်နှစ်လျှင် **စာအုပ်ဘယ်လောက်** ဖတ်သနည်း။

(၂) သင်သည် ရေကို တစ်နေ့လျှင် **ဘယ်လောက်** သောက်သနည်း။

သာဓက (က) (၁)၌ပါရှိသော **မည်မျှ**သည် ကျောင်း၌ရှိသော ကျောင်းသား အရေအတွက်ကို မေးမြန်း၍ ယင်းပုဒ်၏ရှေ့၌ ရှိသော **ကျောင်းသား**ဟူသော နာမ်ကို အထူးပြုသဖြင့် အမေးနာမဝိသေသန ဖြစ်သည်။

သာဓက (က) (၂)၌ ပါရှိသော **မည်မျှ**မှာမူ မောင်ထွေး၏ စာကြိုးစားမှု အတိုင်းအတာကိုမေးမြန်း၍ ကြိုးစားဟူသောကြိယာကို အထူးပြုသဖြင့် အမေးကြိယာဝိသေသန ဖြစ်သည်။

သာဓက(ခ)(၁)၌ ပါရှိသော **ဘယ်လောက်**သည် အမေးနာမဝိသေသနဖြစ်၍ သာဓက (ခ) (၂) ၌ ပါရှိသော **ဘယ်လောက်**မှာမူ အမေးကြိယာဝိသေသနဖြစ်သည်။

## လေ့ကျင့်ခန်း

၁။ မည်သည့်နာမဝိသေသနကို သင်္ချာနာမဝိသေသနဟု ခေါ်သနည်း။

၂။ သင်္ချာနာမဝိသေသနအမျိုးအစားမည်မျှရှိသနည်း။ ယင်းတို့ကို ဖော်ပြပါ။

၃။ မည်သည့်နာမဝိသေသနကို အရေအတွက်ပြသင်္ချာနာမဝိသေသနဟုခေါ်သနည်း။

၄။ အောက်ပါ အရေအတွက်ပြ သင်္ချာနာမဝိသေသနအသီးသီးကို ဝါကျ၌သုံးပြပါ။ မည်သည့်နာမ်ကို အထူးပြုသည်ကိုလည်း ရှင်းပြပါ။

ငါးယောက်၊ ၁၀ ယောက်၊ အယောက် ၅၀။
လေးခု၊ ၁၀ ခု၊ အခု ၄၀ ။
ခုနစ်ပင်၊ ၁၀ ပင်၊ အပင် ၇၀။
ရှစ်ကောင်၊ ၁၀ ကောင်၊ အကောင် ၃၀။
သုံးဦး၊ ၁၀ ဦး။

၅။ မည်သည့် နာမဝိသေသနကို အစဉ်ပြသင်္ချာနာမဝိသေသနဟု ခေါ်သနည်း။

၆။ အောက်ပါအစဉ်ပြသင်္ချာနာမဝိသေသနအသီးသီးကို ဝါကျ၌သုံးပြပါ။ မည်သည့်နာမ်ကို အထူးပြုသည်ကိုလည်း ရှင်းပြပါ။

အမှတ် (၂)၊ ၂ စင်းမြောက်၊ ၂၅ နှစ်မြောက်၊ ပဉ္စမအကြိမ်၊ သတ္တမအကြိမ်မြောက်။

၇။ မည်သည့်နာမဝိသေသနကို ပမာဏပြသင်္ချာနာမဝိသေသနဟု ခေါ်သနည်း။

၈။ အောက်ပါ ပမာဏပြသင်္ချာနာမဝိသေသနအသီးသီးကို ဝါကျ၌ သုံးပြပါ။ မည်သည့်နာမ်ကို အထူးပြုသည်ကိုလည်း ရှင်းပြပါ။

အမြောက်အမြား၊ များစွာသော၊ အများ၊ အချို့၊ အချို့သော၊ ခပ်သိမ်း၊ ခပ်သိမ်းသော၊ အားလုံး၊ အားလုံးသော။

၉။ မည်သည့်နာမဝိသေသနကို အမေးနာမဝိသေသနဟု ခေါ်သနည်း။

၁၀။ အောက်ပါအမေးနာမဝိသေသနအသီးသီးကို ဝါကျ၌ သုံးပြပါ။

မည်သို့သော၊ ဘယ်လို၊ မည်မျှ၊ အဘယ်မျှ၊ ဘယ်နှယောက်၊ ဘယ်လောက်၊ မည်သည့်၊ အဘယ်၊ ဘယ်။

၁၁။ အောက်ပါပုဒ်တို့သည် ဝါကျအတွင်း၌ အသုံးကို လိုက်၍ ဝါစင်္ဂကွဲပြားပုံကို သာဓကဖြင့် ရှင်းပြပါ။

နှစ်ခု၊ သုံးကောင်၊ ငါးပင်။

အချို့၊ အားလုံး၊ အနည်းငယ်။

ဘယ်၊ ဘာ။

မည်မျှ၊ ဘယ်လောက်။

# ကြိယာဝိသေသန

## ကြိယာဝိသေသန

၃၉။ ကြိယာကို အထူးပြုသော ပုဒ်ကို **ကြိယာဝိသေသန** ဟု ခေါ်သည်။

၄၀။ ကြိယာဝိသေသနကို အနက်အဓိပ္ပာယ်အရနှင့် ဖွဲ့စည်းတည်ဆောက်ပုံအရဟူ၍ ၂ မျိုး ခွဲခြားနိုင်သည်။

၄၁။ အနက်အဓိပ္ပာယ်အရ ကြိယာဝိသေသန ၅ မျိုးရှိသည်။ ယင်းကြိယာဝိသေသန ၅ မျိုး တို့မှာ–

(က) အချိန်ပြကြိယာဝိသေသန

(ခ) အမူအရာပြကြိယာဝိသေသန

(ဂ) အခြေအနေပြကြိယာဝိသေသန

(ဃ) ပမာဏပြကြိယာဝိသေသန

(င) အမေးကြိယာဝိသေသနတို့ဖြစ်ကြသည်။

၄၂။ ဖွဲ့စည်းတည်ဆောက်ပုံအရ ကြိယာဝိသေသန ၃ မျိုးရှိသည်။ ယင်းကြိယာဝိသေသန ၃ မျိုးတို့မှာ–

(က) နှစ်ကြိမ်ထပ်ကြိယာဝိသေသန

(ခ) ပစ္စည်းဆက်ကြိယာဝိသေသန

(ဂ) ကာရန်လိုက် ကြိယာဝိသေသနတို့ဖြစ်ကြသည်။

(အနက်အဓိပ္ပာယ်အရ ကြိယာဝိသေသန ၅ မျိုးအကြောင်းကို မြန်မာသဒ္ဒါ အတွဲ ၁၊ အခန်း ၃ နှင့် ၄ တို့၌ ဖော်ပြခဲ့ပြီးဖြစ်သည်။ ဖွဲ့စည်းတည်ဆောက်ပုံအရ ကြိယာဝိသေသန ၃ မျိုးအကြောင်းကို ယခုဆက်လက်ဖော်ပြမည်။)

၄၃။ **နှစ်ကြိမ်ထပ်ကြိယာဝိသေသန**။ ။ ကြိယာကိုဖြစ်စေ၊ နာမဝိသေသနကိုဖြစ်စေ နှစ်ကြိမ် ထပ်ခြင်းဖြင့် ဖြစ်လာသည့် ကြိယာဝိသေသနကို **နှစ်ကြိမ်ထပ်ကြိယာဝိသေသန** ဟုခေါ်သည်။

ကြိယာဝိသေသနဖြစ်လာစေရန် နှစ်ကြိမ်ထပ်ရမည့် ကြိယာ၊ သို့မဟုတ် နာမဝိသေသန အချို့မှာ စကားတစ်လုံးတည်းသာဖြစ်သည်။ အချို့မှာမူစကား၂ လုံးဖြစ်သည်။ စကား ၂ လုံး ရှိသည့်ပုဒ်၌ စကားတစ်လုံးစီကို နှစ်ကြိမ်ထပ်ရမည်။

၄၄။(က) **စကားတစ်လုံးရှိ နှစ်ကြိမ်ထပ်ကြိယာဝိသေသန**

**သာဓက**။ ။

| နာမဝိသေသန | ကြိယာဝိသေသန |
|---|---|
| မြန် | မြန်မြန် |
| တိုး | တိုးတိုး |
| ကောင်း | ကောင်းကောင်း |

ဖော်ပြပါ ကြိယာဝိသေသနတို့ကို ဝါကျ၌ အောက်ပါအတိုင်း သုံးနိုင်သည်။

(၁) ကျွန်တော်သည် မိုးမချုပ်မီအိမ်သို့ **မြန်မြန်** ပြန်သည်။

(၂) စာကြည့်တိုက်၌ စကားကို **တိုးတိုး**ပြောရသည်။

(၃) သူသည် ဆန်တစ်အိတ်ကို **ကောင်းကောင်း**ထမ်းနိုင်သည်။

(ခ) **စကား ၂ လုံးရှိ နှစ်ကြိမ်ထပ်ကြိယာဝိသေသန**

**သာဓက**။ ။

| **ကြိယာ** | **ကြိယာဝိသေသန** |
| --- | --- |
| ခင်မင် | ခင်ခင်မင်မင် |
| လေးစား | လေးလေးစားစား |
| ယုယ | ယုယုယယ |
| တိုင်ပင် | တိုင်တိုင်ပင်ပင် |
| ဆင်ခြင် | ဆင်ဆင်ခြင်ခြင် |
| နှိုင်းချိန် | နှိုင်းနှိုင်းချိန်ချိန် |

| **နာမဝိသေသန** | **ကြိယာဝိသေသန** |
| --- | --- |
| ချိုသာ | ချိုချိုသာသာ |
| လှပ | လှလှပပ |
| တိတ်ဆိတ် | တိတ်တိတ်ဆိတ်ဆိတ် |

ဖော်ပြပါ ကြိယာဝိသေသနတို့ကို ဝါကျ၌ အောက်ပါအတိုင်း သုံးနိုင်သည်။

(၁) သင်တို့သည် အိမ်နီးချင်းတို့နှင့် **ခင်ခင်မင်မင်** နေရမည်။

(၂) ကိုယ့်ထက်အသက်ကြီးသူနှင့် **လေးလေးစားစား** ဆက်ဆံရမည်။

(၃) သူနာပြုဆရာမက လူနာကို **ယုယုယယ**ပြုစုသည်။

(၄) ရပ်ရွာလူကြီးများသည် ရပ်ရေးရွာရေးကိစ္စများကို **တိုင်တိုင်ပင်ပင်** ဆောင်ရွက်ကြသည်။

(၅) ငွေကို **ဆင်ဆင်ခြင်ခြင်**သုံးစွဲရသည်။

(၆) တရားသူကြီးသည် အမှုကို **နှိုင်းနှိုင်းချိန်ချိန်**ဆုံးဖြတ်သည်။

(၇) ကိုယ့်ကို ချစ်ခင်စေလိုလျှင် စကားကို **ချိုချိုသာသာ** ပြောရသည်။

(၈) သီတင်းကျွတ်လတွင် အိမ်တိုင်း၌ ရောင်စုံမီးပုံးများကို **လှလှပပ** ချိတ်ဆွဲကြသည်။

(၉) ကျောင်းသားများသည် စာသင်ခန်းထဲ၌ **တိတ်တိတ်ဆိတ်ဆိတ်** စာဖြေနေကြသည်။

၄၅။ **ပစ္စည်းဆက်ကြိယာဝိသေသန**။ ။ ကြိယာကိုဖြစ်စေ၊ နာမဝိသေသနကိုဖြစ်စေ ပစ္စည်းဆက်ခြင်းဖြင့် ဖြစ်လာသည့် ကြိယာဝိသေသနကို **ပစ္စည်းဆက်ကြိယာဝိသေသန** ဟု ခေါ်သည်။

၄၆။ ပစ္စည်းဆက်ကြိယာဝိသေသန ၄ မျိုးရှိသည်။ ယင်းကြိယာဝိသေသန ၄ မျိုးတို့မှာ–

(က) ပစ္စည်းနောက်ဆက်ကြိယာဝိသေသန

(ခ) ပစ္စည်းရှေ့ဆက်ကြိယာဝိသေသန

(ဂ) ရှေ့နှင့်ကြားပစ္စည်းဆက်ကြိယာဝိသေသန

(ဃ) ကြားနှင့်နောက်ပစ္စည်းဆက်ကြိယာဝိသေသနတို့ ဖြစ်ကြသည်။

၄၇။(က) **ပစ္စည်းနောက်ဆက်ကြိယာဝိသေသန**။ ။ ကြိယာ၊ သို့မဟုတ် နာမဝိသေသန၏ နောက်၌ **စွာ** ပစ္စည်းကိုဆက်ခြင်းဖြင့် ကြိယာဝိသေသနဖြစ်လာသည်။

**သာဓက**။ ။

| **ကြိယာ** | **+** | **ပစ္စည်း** | **=** | **ကြိယာဝိသေသန** |
|---|---|---|---|---|
| ခင်မင် | + | စွာ | = | ခင်မင်စွာ |
| လေးစား | + | စွာ | = | လေးစားစွာ |

| **နာမဝိသေသန** | **+** | **ပစ္စည်း** | **=** | **ကြိယာဝိသေသန** |
|---|---|---|---|---|
| ချိုသာ | + | စွာ | = | ချိုသာစွာ |
| လှပ | + | စွာ | = | လှပစွာ |

ဖော်ပြပါ ကြိယာဝိသေသနတို့ကို ဝါကျ၌ အောက်ပါအတိုင်းသုံးနိုင်သည်။

(၁) သင်တို့သည် အိမ်နီးချင်းတို့နှင့် **ခင်မင်စွာ**နေရမည်။
(၂) မိဘစကားကို **လေးစားစွာ** နားထောင်ပါ။
(၃) ကိုယ့်ကိုချစ်ခင်စေလိုလျှင် စကားကို **ချိုသာစွာ** ပြောရသည်။
(၄) သီတင်းကျွတ်လတွင် အိမ်တိုင်း၌ ရောင်စုံမီးပုံးများကို **လှပစွာ** ချိတ်ဆွဲကြသည်။

(ခ) **ပစ္စည်းရှေ့ဆက်ကြိယာဝိသေသန**။ ။ ကြိယာသို့မဟုတ် နာမဝိသေသန၏ရှေ့၌ **အ** ပစ္စည်းကိုဆက်ခြင်းဖြင့် ကြိယာဝိသေသန ဖြစ်လာသည်။

**သာဓက**။ ။

| **ပစ္စည်း** | **+** | **ကြိယာ** | **=** | **ကြိယာဝိသေသန** |
|---|---|---|---|---|
| အ | + | ကုန် | = | အကုန် |
| အ | + | ပြီး | = | အပြီး |

| **ပစ္စည်း** | **+** | **နာမဝိသေသန** | **=** | **ကြိယာဝိသေသန** |
|---|---|---|---|---|
| အ | + | လှ | = | အလှ |
| အ | + | မြန် | = | အမြန် |

ဖော်ပြပါ ကြိယာဝိသေသနတို့ကို ဝါကျ၌ အောက်ပါအတိုင်းသုံးနိုင်သည်။

(၁) စကားကို **အကုန်** မပြောနှင့်။
(၂) ရွာသားတို့က ချောင်းကူးတံတားကို ၃ ရက်နှင့် **အပြီး** ဆောက်ကြသည်။
(၃) ခြင်းသမားတို့သည် ပြိုင်ပွဲမစမီ **အလှ** ခတ်ကြသည်။
(၄) မီးသတ်ကားသည် မီးလောင်ရာသို့ **အမြန်** ရောက်လာသည်။

အသံပြပုဒ်၊ သို့မဟုတ် အမူအရာပြပုဒ်ကို နှစ်ကြိမ်ထပ်၍ ရှေ့၌ **တ** ပစ္စည်းကို ဆက်ခြင်းဖြင့် ကြိယာဝိသေသနဖြစ်လာသည်။

**သာဓက**။ ။

| **ပစ္စည်း** | **+** | **အသံပြပုဒ်** | **=** | **ကြိယာဝိသေသန** |
|---|---|---|---|---|
| တ | + | ဒုန်း | = | တဒုန်းဒုန်း |
| တ | + | ဝုန်း | = | တဝုန်းဝုန်း |

| **ပစ္စည်း** | **+** | **အမူအရာပြပုဒ်** | **=** | **ကြိယာဝိသေသန** |
|---|---|---|---|---|
| တ | + | ရွေ့ | = | တရွေ့ရွေ့ |
| တ | + | လည် | = | တလည်လည် |

ဖော်ပြပါ ကြိယာဝိသေသနတို့ကို ဝါကျ၌ အောက်ပါအတိုင်း သုံးနိုင်သည်။

(၁) မောင်ဝင်းသည် အိမ်ပေါ်၌ **တဒုန်းဒုန်း**ပြေးနေသည်။

(၂) လှိုင်းလုံးများသည် ကမ်းကို ရိုက်ခတ်သဖြင့် **တဝုန်းဝုန်း** မြည်နေသည်။

(၃) လုပ်သားပြည်သူတို့သည် ပြည်ထောင်စုနေ့ကျင်းပမည့် ကွင်းဆီသို့ **တရွေ့ရွေ့** ချီတက်နေကြသည်။

(၄) ကျွန်တော်သည် ဈေးထဲ၌ **တလည်လည်**ဖြစ်နေသည်။

ကြိယာ၊ သို့မဟုတ် နာမဝိသေသန၏ရှေ့၌ **တရ၊ ဗရ** ပစ္စည်းဆက်ခြင်းဖြင့် ကြိယာဝိသေသန ဖြစ်လာသည်။

**သာဓက**။ ။

| | | | | |
|---|---|---|---|---|
| **ပစ္စည်း** | **+** | **ကြိယာ** | **=** | **ကြိယာဝိသေသန** |
| တရ | + | စပ် | = | တရစပ် |
| **ပစ္စည်း** | **+** | **နာမဝိသေသန** | **=** | **ကြိယာဝိသေသန** |
| တရ | + | ကြမ်း | = | တရကြမ်း |
| ဗရ | + | ပျစ် | = | ဗရပျစ် |

ဖော်ပြပါ ကြိယာဝိသေသနတို့ကို ဝါကျ၌ အောက်ပါအတိုင်း သုံးနိုင်သည်။

(၁) မိုးသည် ခုနစ်ရက်တိုင်တိုင် **တရစပ်** ရွာသည်။

(၂) လေသည် မိုးဦး၌ **တရကြမ်း**တိုက်ခတ်သည်။

(၃) သူ၏မုတ်ဆိတ်မွေးသည် **ဗရပျစ်** ထူသည်။

ကြိယာသို့မဟုတ် နာမဝိသေသနကို နှစ်ကြိမ်ထပ်၍ ရှေ့၌ **ခပ်** ပစ္စည်းကို ဆက်ခြင်းဖြင့် ကြိယာဝိသေသနဖြစ်လာသည်။

**သာဓက**။ ။

| | | | | |
|---|---|---|---|---|
| **ပစ္စည်း** | **+** | **ကြိယာ** | **=** | **ကြိယာဝိသေသန** |
| ခပ် | + | ပြုံး | = | ခပ်ပြုံးပြုံး |
| ခပ် | + | တည် | = | ခပ်တည်တည် |
| **ပစ္စည်း** | **+** | **နာမဝိသေသန** | **=** | **ကြိယာဝိသေသန** |
| ခပ် | + | မြန် | = | ခပ်မြန်မြန် |
| ခပ် | + | နွမ်း | = | ခပ်နွမ်းနွမ်း |

ဖော်ပြပါ ကြိယာဝိသေသနတို့ကို ဝါကျ၌ အောက်ပါအတိုင်း သုံးနိုင်သည်။

(၁) မောင်အေးချမ်းသည် **ခပ်ပြုံးပြုံး** နေတတ်သည်။

(၂) မောင်သန့်စင်သည် **ခပ်တည်တည်** နေတတ်သည်။

(၃) သူသည် စကားကို **ခပ်မြန်မြန်** ပြောတတ်သည်။

(၄) သူ့အင်္ကျီသည် **ခပ်နွမ်းနွမ်း** ဖြစ်သည်။

(ဂ) **ရှေ့နှင့်ကြားပစ္စည်းဆက်ကြိယာဝိသေသန**။ ။ ကြိယာ၊ သို့မဟုတ် **နာမဝိသေသန၏** ရှေ့နှင့် ကြားတို့၌ **တ–တ၊ အ–တ၊ အ–အ၊ က–က၊ ပ–ပ၊ မ–တ၊ မ–မ** စသည့် ပစ္စည်းတို့ကိုဆက်ခြင်းဖြင့် ကြိယာဝိသေသန ဖြစ်လာသည်။

**သာဓက**။ ။

| **ကြိယာ** | + | **ပစ္စည်း** | = | **ကြိယာဝိသေသန** |
| --- | --- | --- | --- | --- |
| ရှိသေ | + | တ–တ | = | တရှိတသေ |
| ကျွမ်းဝင် | + | အ–တ | = | အကျွမ်းတဝင် |
| စုံလင် | + | အ–အ | = | အစုံအလင် |
| ချော်ချွတ် | + | က–က | = | ကချော်ကချွတ် |
| ကျက် | + | မ–တ | = | မကျက်တကျက် |
| ဆင်ခြင် | + | မ–မ | = | မဆင်မခြင် |
| **နာမဝိသေသန** | **+** | **ပစ္စည်း** | **=** | **ကြိယာဝိသေသန** |
| ပင်ပန်း | + | တ–တ | = | တပင်တပန်း |
| ပူပြင်း | + | အ–တ | = | အပူတပြင်း |
| ကြီးကျယ် | + | အ–အ | = | အကြီးအကျယ် |
| လျော့လျည်း | + | က–က | = | ကလျော့ကလျည်း |
| လူးလဲ | + | ပ–ပ | = | ပလူးပလဲ |
| ဝ | + | မ–တ | = | မဝတဝ |
| ထူပိန်း | + | မ–မ | = | မထူမပိန်း |

ဖော်ပြပါ ကြိယာဝိသေသနတို့ကို ဝါကျ၌ အောက်ပါအတိုင်းသုံးနိုင်သည်။

(၁) ယဉ်ကျေးမှုဆိုင်ရာ ရှေးဟောင်းပစ္စည်းတို့ကို **တရှိတသေ** ထိန်းသိမ်းရမည်။
(၂) ဆိုးသွမ်းသူနှင့် **အကျွမ်းတဝင်** မနေအပ်။
(၃) ဤဆိုင်၌ လိုအပ်သည့်ပစ္စည်း **အစုံအလင်** ရနိုင်သည်။
(၄) အရေးကြီးသည့်ကိစ္စကို **ကချော်ကချွတ်** မပြုနှင့်။
(၅) သူသည် ကြက်ဥကို **မကျက်တကျက်** ပြုတ်သည်။
(၆) မည်သည့်အမှုကိုမျှ **မဆင်မခြင်** မပြုနှင့်။
(၇) ဘကြီးသည် ငှက်ပျောခိုင်များကို တောမှ **တပင်တပန်း** သယ်လာသည်။
(၈) လူဆိုးကို ရဲအဖွဲ့က **အပူတပြင်း** ရှာဖွေနေသည်။
(၉) ယခုနှစ်၌ စာဆိုတော်နေ့ကို **အကြီးအကျယ်** ကျင်းပမည်။
(၁၀) ပုဆိုးကို **ကလျော့ကလျည်း** မဝတ်နှင့်။
(၁၁) သူသည် **ပလူးပလဲ** လုပ်တတ်သည်။
(၁၂) ဤအရပ်၌ ရေရှားပါးသဖြင့် ရေကို **မဝတဝ** ချိုးရသည်။
(၁၃) မလှသည် သနပ်ခါးကို **မထူမပိန်း** လိမ်းထားသည်။

(ဃ) **ကြားနှင့်နောက်ပစ္စည်းဆက်ကြိယာဝိသေသန**။ ။ ကြိယာ၊ သို့မဟုတ် နာမဝိသေသန၏ ကြားနှင့်နောက်တို့၌ **ချည်–ချည်၊ လိုက်–လိုက် ပစ္စည်း**တို့ကို ဆက်ခြင်းဖြင့် ကြိယာဝိသေသန ဖြစ်လာသည်။

**သာဓက**။ ။

| **ကြိယာ** | **+** | **ပစ္စည်း** | **=** | **ကြိယာဝိသေသန** |
| --- | --- | --- | --- | --- |
| ဝင်ထွက် | + | ချည်–ချည် | = | ဝင်ချည်ထွက်ချည် |
| တက်ဆင်း | + | လိုက်–လိုက် | = | တက်လိုက်ဆင်းလိုက် |

| | | | | |
|---|---|---|---|---|
| **နာမဝိသေသန** | **+** | **ပစ္စည်း** | **=** | **ကြိယာဝိသေသန** |
| မြန်နှေး | + | ချည်–ချည် | = | မြန်ချည်နှေးချည် |
| ပူအေး | + | လိုက်–လိုက် | = | ပူလိုက်အေးလိုက် |

ဖော်ပြပါကြိယာဝိသေသနတို့ကို ဝါကျ၌ အောက်ပါအတိုင်း သုံးနိုင်သည်။

(၁) မိမိနှင့်မရင်းနှီးသူ၏အိမ်သို့ **ဝင်ချည်ထွက်ချည်** မပြုပါနှင့်။

(၂) ကလေးများသည် သစ်ပင်ပေါ်သို့ **တက်လိုက်ဆင်းလိုက်** ကစားနေကြသည်။

(၃) နာရီသည် **မြန်ချည်နှေးချည်**ဖြစ်နေသည်။

(၄) ရာသီဥတုသည် **ပူလိုက်အေးလိုက်** ဖြစ်နေသည်။

၄၈။ **ကာရန်လိုက်ကြိယာဝိသေသန**။ ။ ကြိယာ၊ သို့မဟုတ် နာမဝိသေသန၏ရှေ့၌ဖြစ်စေ၊ နောက်၌ဖြစ်စေ ပုဒ်ရင်းနှင့်ကာရန်တူလိုက်ခြင်းဖြင့် ဖြစ်လာသည့် ကြိယာဝိသေသနကို **ကာရန်လိုက် ကြိယာဝိသေသနဟု** ခေါ်သည်။

ကြိယာ၊ သို့မဟုတ် နာမဝိသေသန၏နောက်၌ **ရ** ၂ လုံးဆက်၍ နောက် **ရ** ကို ပုဒ်ရင်းနှင့် ကာရန်တူလိုက်ခြင်းဖြင့် ကြိယာဝိသေသန ဖြစ်လာသည်။ ပုဒ်ရင်း၌ ဝဆွဲ (ွ) ပါလျှင် နောက် **ရ** ၌ ဝဆွဲဖြည့်၍ ပုဒ်ရင်းနှင့် ကာရန်တူလိုက်ရသည်။

**သာဓက**။ ။

| | | | | |
|---|---|---|---|---|
| **ကြိယာ** | **+** | **ကာရန်တူ** | **=** | **ကြိယာဝိသေသန** |
| စီ | + | ရရီ | = | စီရရီ |
| ဆင့် | + | ရရင့် | = | ဆင့်ရရင့် |
| **နာမဝိသေသန** | **+** | **ကာရန်တူ** | **=** | **ကြိယာဝိသေသန** |
| တွဲ | + | ရရွဲ | = | တွဲရရွဲ |
| ကျုံ့ | + | ရရုံ့ | = | ကျုံ့ရရုံ့ |

ဖော်ပြပါ ကြိယာဝိသေသနတို့ကို ဝါကျ၌ အောက်ပါအတိုင်း သုံးနိုင်သည်။

(၁) ငှက်ကလေးများသည် သစ်ကိုင်းပေါ်၌ **စီရရီ** နားနေကြသည်။

(၂) တန်ခူးလ၌ ပိတောက်ပန်းတို့သည် **ဆင့်ရရင့်** ဖူးပွင့်ကြသည်။

(၃) စပျစ်သီးများသည် **တွဲရရွဲ** ကျနေသည်။

(၄) မလှသည် လူကြီးများရှေ့၌ **ကျုံ့ရရုံ့** ထိုင်နေသည်။

ကြိယာ၊ သို့မဟုတ် နာမဝိသေသန၏နောက်၌တ ၂ လုံးဆက်၍ ပုဒ်ရင်းနှင့် ကာရန်တူ လိုက်ခြင်းဖြင့် ကြိယာဝိသေသန ဖြစ်လာသည်။

သာဓက။ ။

| | | | | |
|---|---|---|---|---|
| **ကြိယာ** | **+** | **ကာရန်တူ** | **=** | **ကြိယာဝိသေသန** |
| ဆာ | + | တာတာ | = | ဆာတာတာ |
| ကတ် | + | တတ်တတ် | = | ကတ်တတ်တတ် |

| **နာမဝိသေသန** | **+** | **ကာရန်တူ** | **=** | **ကြိယာဝိသေသန** |
|---|---|---|---|---|
| နီ | + | တီတီ | = | နီတီတီ |
| ယိုင် | + | တိုင်တိုင် | = | ယိုင်တိုင်တိုင် |

ဖော်ပြပါ ကြိယာဝိသေသနတို့ကို ဝါကျ၌ အောက်ပါအတိုင်း သုံးနိုင်သည်။

(၁) ကျွန်တော်သည် စာကျက်ပြီးသည်နှင့် **ဆာတာတာ** ဖြစ်လာသည်။

(၂) သူသည် စကားကို **ကတ်တတ်တတ်** ပြောတတ်သည်။

(၃) ဤသဘော်ာဆေး၏အရောင်သည် **နီတီတီ** ဖြစ်သည်။

(၄) အဘိုးအိုသည် **ယိုင်တိုင်တိုင်** လျှောက်လာသည်။

စာလုံး ၂ လုံးပါသော ပုဒ်ရင်း၏ ဗျည်း ၂ လုံးတွင် **အိုး** ကာရန်ပေါင်းကာ ထိုပုဒ်ရင်း၏ရှေ့၌ ဆက်စပ်ခြင်းဖြင့် ကြိယာဝိသေသနဖြစ်လာသည်။

| **သာဓက**။ ။ | **ပုဒ်ရင်း** | **+** | **ကာရန်တူ** | **=** | **ကြိယာဝိသေသန** |
|---|---|---|---|---|---|
| | ကားရား | + | ကိုးရိုး | = | ကိုးရိုးကားရား |
| | ပက်လက် | + | ပိုးလိုး | = | ပိုးလိုးပက်လက် |
| | မတ်တတ် | + | မိုးတိုး | = | မိုးတိုးမတ်တတ် |
| | ကန့်လန့် | + | ကိုးလိုး | = | ကိုးလိုးကန့်လန့် |

ဖော်ပြပါ ကြိယာဝိသေသနတို့ကို ဝါကျ၌ အောက်ပါအတိုင်းသုံးနိုင်သည်။

(၁) သူသည် အဝတ်အစားကို **ကိုးရိုးကားရား** ဝတ်တတ်သည်။

(၂) အိုးခွက်ပန်းကန်များကို **ပိုးလိုးပက်လက်** မထားပါနှင့်။

(၃) လူကြီးများသည် **မိုးတိုးမတ်တတ်** စကားပြောနေကြသည်။

(၄) လှည်းများကို လမ်းပေါ်၌ **ကိုးလိုးကန့်လန့်** ရပ်ထားသည်။

## လေ့ကျင့်ခန်း

၁။ ဖွဲ့စည်းတည်ဆောက်ပုံအရ ကြိယာဝိသေသနအမျိုးအစား မည်မျှရှိသနည်း။

၂။ မည်သည့်ကြိယာဝိသေသနကို နှစ်ကြိမ်ထပ်ကြိယာဝိသေသနဟု ခေါ်သနည်း။

၃။ အောက်ပါနှစ်ကြိမ်ထပ်ကြိယာဝိသေသနအသီးသီးကို ဝါကျ၌ သုံးပြပါ။

နေးနေး၊ သိမ်သိမ်မွေ့မွေ့၊ လွယ်လွယ်ကူကူ၊ ပျော်ပျော်ရွှင်ရွှင်၊ မြင့်မြင့်၊ ကြိုးကြိုးစားစား၊ သာသာယာယာ၊ ကျယ်ကျယ်၊ ခက်ခက်ခဲခဲ၊ ကြမ်းကြမ်းတမ်းတမ်း။

၄။ မည်သည့်ကြိယာဝိသေသနကို ပစ္စည်းဆက်ကြိယာဝိသေသနဟု ခေါ်သနည်း။

၅။ (က) အောက်ပါ ပစ္စည်းဆက်ကြိယာဝိသေသနအသီးသီး၌ မည်သည့်ပုဒ်နှင့်ပစ္စည်း ပါဝင်သနည်း။ ယင်းကြိယာဝိသေသနအသီးသီးကို ဝါကျ၌သုံးပြပါ။

ရှိသေစွာ၊ သာယာစွာ၊ အဆိုး၊ တညီတညွတ်၊ ပြေးလိုက်ခုန်လိုက်။

(ခ) အောက်ပါကြိယာဝိသေသနအသီးသီးကို မည်သို့ ဖွဲ့စည်းထားကြောင်း ရှင်းပြပါ။

တဒိုင်းဒိုင်း၊ တလှုပ်လှုပ်၊ ခပ်သွက်သွက်၊ တရှိန်း။

၆။ မည်သည့်ကြိယာဝိသေသနကို ကာရန်လိုက်ကြိယာဝိသေသနဟု ခေါ်သနည်း။

၇။ အောက်ပါကြိယာဝိသေသနအသီးသီးကို မည်သို့ ဖွဲ့စည်းထားကြောင်း ရှင်းပြပါ။ စိမ်းတိမ်းတိမ်း၊ ဝါတာတာ၊ သိုးသိုးသံ့သံ့၊ ခိုးလိုးခုလု။

# ဝိဘတ်

**ဝိဘတ်**

၄၉။ နာမ်၊ နာမ်စားတို့၏ နောက်၌ တည်၍ ၎င်းတို့သည် ကတ္တားဖြစ်သည် ကံဖြစ်သည် စသည်ကိုလည်းကောင်း၊ ကြိယာ၏ နောက်၌တည်၍ ၎င်းကြိယာ၏ကာလနှင့် အမျိုးအစားကို လည်းကောင်း ဝေဖန်ပိုင်းခြားပြသော စကားလုံးကို **ဝိဘတ်**ဟု ခေါ်သည်။

၅၀။ ဝိဘတ် ၂ မျိုးရှိသည်။ ယင်းဝိဘတ် ၂ မျိုးတို့မှာ–

(က) နာမ်ဝိဘတ်

( ခ ) ကြိယာဝိဘတ်တို့ဖြစ်ကြသည်။

၅၁။ **နာမ်ဝိဘတ်**။ ။ နာမ်၊ နာမ်စားတို့၏ နောက်၌တည်၍ ၎င်းတို့သည် ကတ္တားဖြစ်သည် ကံဖြစ်သည် စသည် ဝေဖန်ပိုင်းခြားပြသောဝိဘတ်ကို **နာမ်ဝိဘတ်**ဟု ခေါ်သည်။

၅၂။ နာမ်ဝိဘတ် ၁၇ မျိုးရှိသည်။ ယင်းဝိဘတ် ၁၇ မျိုးတို့မှာ–

(က) ကတ္တားဝိဘတ်

( ခ) ကံဝိဘတ်

( ဂ) ထွက်ခွာရာပြဝိဘတ်

(ဃ) ရှေးရှုရာပြဝိဘတ်

( င) ဆိုက်ရောက်ရာပြဝိဘတ်

( စ) အသုံးခံပြဝိဘတ်

(ဆ) အကြောင်းပြဝိဘတ်

( ဇ) လက်ခံပြဝိဘတ်

( ဈ) နေရာပြဝိဘတ်

(ည) အချိန်ပြဝိဘတ်

( ဋ) ပိုင်ဆိုင်ခြင်းပြဝိဘတ်

( ဌ) လိုက်လျောပြဝိဘတ်

( ဍ) ယှဉ်တွဲပြဝိဘတ်

( ဎ) ခွဲထုတ်ရာပြဝိဘတ်

(ဏ) ရည်စူးချက်ပြဝိဘတ်

(တ) နေရာဆက်တိုက်ပြဝိဘတ်

(ထ) အချိန်ဆက်တိုက်ပြဝိဘတ် တို့ဖြစ်ကြသည်။

၅၃။ **ကတ္တားဝိဘတ်**။ ။ ပြုသူ၊ ဖြစ်သူ၊ ရှိသူ၊ သို့မဟုတ် ပြုတတ်၊ ဖြစ်တတ်၊ ရှိတတ်သော အရာကို ပြသည့်ဝိဘတ်ကို **ကတ္တားဝိဘတ်** ဟု ခေါ်သည်။

ကတ္တားဝိဘတ်တို့မှာ **သည်၊ က၊ မှာ** တို့ဖြစ်ကြသည်။

**သာဓက**။ ။ (က) မောင်ချစ်ညို**သည်** စက်ဘီးကို ပြင်သည်။

(ခ) လူ**သည်** သက်ရှိသတ္တဝါတို့တွင် အသိဉာဏ် အရှိဆုံးဖြစ်သည်။

(ဂ) ပုပ္ပားတောင်**သည်** ကျောက်ပန်းတောင်းမြို့အနီး၌ ရှိသည်။

(ဃ) စပါးရိတ်ပြီးချိန်၌ မိုး**က**နှောင့်ယှက်တတ်သည်။

(င) သူ့ကို အားလုံး**က** ကျေးဇူးတင်ကြသည်။

(စ) စပျစ်သီးအချို့သည် ချဉ်သည်။ အချို့**မှာ** ချိုသည်။

၅၄။ **ကံဝိဘတ်**။ ။ ပြုလုပ်ခြင်းခံရသောသူ၊ ပြုလုပ်ခြင်းခံရသောအရာကိုပြသည့် ဝိဘတ်ကို **ကံဝိဘတ်**ဟု ခေါ်သည်။

ကံဝိဘတ်မှာ **ကို** ဖြစ်သည်။

**သာဓက**။ ။ (က) မလှသည် ပန်း**ကို** ခူးသည်။

(ခ) တပည့်တို့က ဆရာ**ကို** ကန်တော့ကြသည်။

၅၅။ **ထွက်ခွာရာပြဝိဘတ်**။ ။ ထွက်ခွာရာနေရာကို ပြသည့် ဝိဘတ်ကို **ထွက်ခွာရာပြဝိဘတ်** ဟု ခေါ်သည်။

ထွက်ခွာရာပြဝိဘတ်တို့မှာ **မှ၊ က** တို့ဖြစ်ကြသည်။

**သာဓက**။ ။ (က) ကျွန်တော်သည် အိမ်**မှ**ကျောင်းအထိ လမ်းလျှောက်သည်။

(ခ) ပုသိမ်သင်္ဘောသည် ဆိပ်ကမ်း**က** ခွာပြီ။

၅၆။ **ရှေးရှုရာပြဝိဘတ်**။ ။ ရှေးရှုရာနေရာကို ပြသည့် ဝိဘတ်ကို **ရှေးရှုရာပြဝိဘတ်** ဟု ခေါ်သည်။

ရှေးရှုရာပြဝိဘတ်မှာ **သို့** ဖြစ်သည်။

**သာဓက**။ ။ (က) ဧရာဝတီမြစ်သည် မြောက်ဘက်မှတောင်ဘက်**သို့** စီးဆင်းသည်။

(ခ) အပူရှိန်ကြောင့် ရေငွေ့တို့သည် အထက်**သို့** တက်သည်။

၅၇။ **ဆိုက်ရောက်ရာပြဝိဘတ်**။ ။ ဆိုက်ရောက်ရာနေရာနှင့် အချိန်ကိုပြသည့် ဝိဘတ်ကို **ဆိုက်ရောက်ရာပြဝိဘတ်**ဟု ခေါ်သည်။

ဆိုက်ရောက်ရာပြဝိဘတ်တို့မှာ **သို့၊ ထိ၊ အထိ၊ ထိအောင်၊ တိုင်အောင်** တို့ဖြစ်ကြသည်။

**သာဓက**။ ။ (က) ကလေးများသည် တိရစ္ဆာန်ရုံ**သို့** ရောက်သောအခါ အလွန်ပျော်ကြ၏။

(ခ) မြစ်ကြီးနားမှ ရေးမြို့**ထိ/အထိ** မီးရထားဖြင့် သွားနိုင်သည်။

( ဂ) သူတို့သည် ဘောလုံးကွင်း**ထိအောင်/တိုင်အောင်** လမ်းလျှောက် ကြသည်။

(ဃ) သန်းခေါင်ယံ**သို့**ရောက်ပြီ။

( င) တပေါင်းလပြည့်ကျော် တစ်ရက်နေ့မှ ဝါဆိုလပြည့်နေ့ **ထိ/အထိ** သည် နွေကာလဖြစ်သည်။

( စ) မောင်ဝင်းသည် မိုးလင်း**ထိအောင်/တိုင်အောင်** စာဖတ်သဖြင့် ခေါင်းမူးနေသည်။

၅၈။ **အသုံးခံပြဝိဘတ်**။ ။ အသုံးပြုခံရသော အရာကို ပြသည့် ဝိဘတ်ကို **အသုံးခံပြဝိဘတ်** ဟု ခေါ်သည်။

အသုံးခံပြဝိဘတ်တို့မှာ **ဖြင့်၊ နှင့်**တို့ ဖြစ်ကြသည်။

**သာဓက**။ ။ (က) ဦးမြသည် မန္တလေးသို့ မီးရထား**ဖြင့်** သွားသည်။

( ခ) ကျွန်တော်သည် သံပရာသီးကို ဓား**ဖြင့်** လှီးသည်။

( ဂ) ဒေါ်ကြည်ခင်သည် လက်ဖက်ခြောက်ကို ချိန်ခွင်**နှင့်** ချိန်သည်။

(သာဓကဝါကျ (ဂ) ကို "ဒေါ်ကြည်ခင်သည် ချိန်ခွင်**နှင့်** လက်ဖက်ခြောက်ကို ချိန်သည်"ဟု ရေးလျှင် လက်ဖက်ခြောက်ကိုသာမက ချိန်ခွင်ကိုလည်း ချိန်သည်ဟူသော အဓိပ္ပာယ်သို့ သက်ရောက်နိုင်သည်။ ထို့ကြောင့် **"နှင့်" ကို အသုံးခံပြဝိဘတ် အဖြစ် အသုံးပြုသောအခါ ကြိယာ၏ရှေ့၌ ထားရသည်။**)

၅၉။ **အကြောင်းပြဝိဘတ်**။ ။ တစ်စုံတစ်ရာဖြစ်စေသောအကြောင်းကိုပြသည့် ဝိဘတ်ကို **အကြောင်းပြဝိဘတ်**ဟု ခေါ်သည်။

အကြောင်းပြဝိဘတ်တို့မှာ **ကြောင့်၊ ဖြင့်** တို့ဖြစ်ကြသည်။

**သာဓက**။ ။ (က) သူသည်စေတနာ**ကြောင့်** အကျိုးခံစားရသည်။

( ခ) ဦးပုသည် နှလုံးရောဂါ**ဖြင့်** ကွယ်လွန်သည်။

၆၀။ **လက်ခံပြဝိဘတ်**။ ။ လက်ခံသူကိုပြသည့်ဝိဘတ်ကို **လက်ခံပြဝိဘတ်**ဟု ခေါ်သည်။ လက်ခံပြဝိဘတ်မှာ **အား** ဖြစ်သည်။

**သာဓက**။ ။ (က) ဆရာဝန်က ဆေးကို လူနာ**အား** ပေးသည်။

( ခ) ဖခင်က သား**အား** မုန့်ဖိုးပေးသည်။

၆၁။ **နေရာပြဝိဘတ်။ ။** နေရာကို ပြသည့်ဝိဘတ်ကို **နေရာပြဝိဘတ်** ဟု ခေါ်သည်။ နေရာပြဝိဘတ်တို့မှာ **၌၊ မှာ၊ တွင်၊ ဝယ်၊ က** တို့ဖြစ်ကြသည်။

**သာဓက**။ ။ (က) ပျားအုံတစ်အုံ**၌** ပျားဘုရင်မတစ်ကောင်သာရှိသည်။

( ခ) ဆူးလေစေတီသည် ရန်ကုန်မြို့**မှာ** ရှိသည်။

( ဂ) မီးရထားသည် ပဲခူးဘူတာ**တွင်** ခေတ္တရပ်နားသည်။

(ဃ) ပျားများသည် ပန်းပင်ထက်**ဝယ်** ပျံဝဲနေကြသည်။

( င) အမေသည် သားကို အိမ်ဝ**က** စောင့်သည်။

၆၂။ **အချိန်ပြဝိဘတ်**။ ။ အချိန်ကိုပြသည့် ဝိဘတ်ကို **အချိန်ပြဝိဘတ်**ဟု ခေါ်သည်။ အချိန်ပြဝိဘတ်တို့မှာ **၌၊ မှာ၊ တွင်၊ ဝယ်၊ က** တို့ဖြစ်ကြသည်။

**သာဓက**။ ။ (က) စာမေးပွဲများကို တပေါင်းလ**၌** ကျင်းပလေ့ရှိသည်။

( ခ) ဉသြတွန်သံကို နွေဦး**မှာ** ကြားရသည်။

( ဂ) သူသည် နံနက် ၆ နာရီ**တွင်** အိပ်ရာကနိုးသည်။

(ဃ) ကလတက်ခေါက်သံကို အရုဏ်တက်**ဝယ်** ကြားရသည်။

( င) မိခင်သည် မှိုဟင်းကို ယမန်နေ့**က** ချက်သည်။

၆၃။ **ပိုင်ဆိုင်ခြင်းပြဝိဘတ်**။ ။ ပိုင်ဆိုင်ကြောင်းပြသည့် ဝိဘတ်ကို **ပိုင်ဆိုင်ခြင်းပြဝိဘတ်** ဟု ခေါ်သည်။

ပိုင်ဆိုင်ခြင်းပြဝိဘတ်မှာ **၏** ဖြစ်သည်။ **၏** အစား **အောက်မြစ် (့)** ကိုလည်း အသုံးပြုနိုင်သည်။

**သာဓက**။ ။ (က) ကျွန်တော်သည် သူ**၏** စာအုပ်ကို ငှားသည်။

( ခ) ကျွန်တော်သည် **သူ့**စာအုပ်ကို ငှားသည်။

၆၄။ **လိုက်လျောပြဝိဘတ်**။ ။ အဖြစ်အပျက်၊ သဘောတရား၊ လူပုဂ္ဂိုလ်၊ ပမာဏ စသည် တို့နှင့် ဆန့်ကျင်ခြင်းမရှိဘဲ လိုက်လျောညီညွတ်ကြောင်းပြသည့် ဝိဘတ်ကို **လိုက်လျောပြဝိဘတ်** ဟု ခေါ်သည်။

လိုက်လျောပြဝိဘတ်တို့မှာ **အရ၊ အတိုင်း၊ အလိုက်၊ အလျောက်၊ အားလျော်စွာ၊ နှင့်အညီ၊ နှင့်အမျှ** တို့ဖြစ်ကြသည်။

**သာဓက**။ ။ (က) ကျောင်းသားများသည် ကျောင်းစည်းကမ်း**အရ** ကျောင်းမှန်မှန် တက်ကြရမည်။

( ခ) အလုပ်သမားတို့သည် စည်းကမ်း**အတိုင်း** လိုက်နာ ဆောင်ရွက်ကြသည်။

( ဂ) တောထဲ၌ ပန်းမျိုးစုံသည် ရာသီ**အလိုက်** ဖူးပွင့်နေကြသည်။

(ဃ) မြန်မာနိုင်ငံ၌ သဘာဝ**အလျောက်** ကျောက်မျက်ရတနာ ပေါများသည်။

( င) ကပွဲအစီအစဉ်ကို အကြောင်း**အားလျော်စွာ** ပြင်လိုက်သည်။

( စ) ဘိုးတော်ဘုရားသည် မင်းကျင့်တရား**နှင့်အညီ** တိုင်းပြည်ကို အုပ်ချုပ်တော်မူသည်။

(ဆ) ကျောင်းခန်းမ**နှင့်အမျှ** ကျောင်းသားများ စုဝေးနေကြသည်။

၆၅။ **ယှဉ်တွဲပြပ၀ိဘတ်**။ ။ ယှဉ်တွဲခြင်း၊ ပေါင်းစည်းခြင်းကို ပြသည့် ဝိဘတ်ကို **ယှဉ်တွဲပြ ဝိဘတ်** ဟု ခေါ်သည်။

ယှဉ်တွဲပြဝိဘတ်တို့မှာ **နှင့်၊ နှင့်အတူ၊ နှင့်တကွ** တို့ဖြစ်ကြသည်။

**သာဓက**။ ။ (က) မဟာဗန္ဓုလသည် စစ်သူကြီးအင်္ဂါ**နှင့်**ပြည့်စုံသည်။

(ခ) ကျွန်တော်သည် မိဘ**နှင့်အတူ**နေသည်။

(ဂ) ဆရာက မြန်မာ့မျိုးချစ်စိတ်ဓာတ်အကြောင်းကို သာဓကများ **နှင့်တကွ** သေချာစွာ ရှင်းပြသည်။

၆၆။ **ခွဲထုတ်ရာပြဝိဘတ်**။ ။ အစုအပေါင်းမှ တစ်စုံတစ်ရာ၊ တစ်စုံတစ်ခု၊ တစ်စုံတစ်ယောက် စသည့် တစ်စိတ်တစ်ဒေသကိုပြသည့် ဝိဘတ်ကို **ခွဲထုတ်ရာပြဝိဘတ်**ဟု ခေါ်သည်။

ခွဲထုတ်ရာပြ ဝိဘတ်တို့မှာ **တွင်၊ အနက်၊ အထဲမှာ၊ အထဲမှ** တို့ဖြစ်ကြသည်။

**သာဓက**။ ။ (က) ကျောက်မျက်ရတနာတို့**တွင်** စိန်သည် အမာဆုံး ဖြစ်သည်။

(ခ) ရဲဘော်သုံးကိုျပ်တို့**အနက်** ဗိုလ်ချုပ်အောင်ဆန်းသည် ခေါင်းဆောင် ဖြစ်သည်။

(ဂ) ငှက်တို့**အထဲမှာ** ဒေါင်းသည် ကျက်သရေအရှိဆုံး ဖြစ်သည်။

(ဃ) ဆရာမက ကျောင်းသားများ**အထဲမှ** တစ်ယောက်ကို အတန်းမှူး အဖြစ် ရွေးချယ်လိုက်သည်။

၆၇။ **ရည်စူးချက်ပြဝိဘတ်**။ ။ တစ်စုံတစ်ရာ၊ တစ်စုံတစ်ဦးကို ရည်စူးကြောင်းပြသည့် ဝိဘတ် ကို **ရည်စူးချက်ပြဝိဘတ်** ဟု ခေါ်သည်။

ရည်စူးချက်ပြဝိဘတ်တို့မှာ **ငှာ၊ အလို့ငှာ၊ ဖို့၊ အဖို့၊ အတွက်** တို့ဖြစ်ကြသည်။

**သာဓက**။ ။ (က) မြန်မာ့စစ်ပညာအကြောင်းကို ပြည်သူတို့သိစေခြင်း**ငှာ** တပ်မတော် ပြပွဲကို ပြသသည်။

(ခ) ကျောင်းသားများသည် ဗဟုသုတ**အလို့ငှာ** လေ့လာရေးခရီး ထွက်ကြသည်။

(ဂ) အစ်ကိုကြီးသည် ညီငယ်**ဖို့** ကစားစရာဝယ်လာသည်။

(ဃ) ကျောင်းမှန်မှန်တက်သူတို့**အဖို့** မည်သည့်စာမျှ မခက်ပါ။

(င) အလုပ်သမားတို့သည် ကိုယ့်နိုင်ငံကြီးပွားရေး**အတွက်** အလုပ်ကို အားသွန်ခွန်စိုက် လုပ်ကြသည်။

၆၈။ **နေရာဆက်တိုက်ပြဝိဘတ်**။ ။ နေရာအဆက်မပြတ်ဖြစ်ခြင်းကို ပြသည့် ဝိဘတ်ကို **နေရာဆက်တိုက်ပြဝိဘတ်** ဟု ခေါ်သည်။

နေရာဆက်တိုက်ပြဝိဘတ်တို့မှာ **တိုင်တိုင်၊ တိုင်အောင်**စသည်တို့ဖြစ်ကြသည်။

**သာဓက**။ ။ (က) ကျွန်တော်တို့သည် မော်တော်ကားဖြင့် မိုင် ၁၂၀ **တိုင်တိုင်** ခရီးသွားခဲ့ကြသည်။

( ခ ) ရွာသားများသည် လယ်ကွင်းမှ ချောင်း**တိုင်အောင်** ရေနုတ်မြောင်းတူးကြသည်။

၆၉။ **အချိန်ဆက်တိုက်ပြဝိဘတ်**။ ။ အချိန် အဆက်မပြတ် ဖြစ်ခြင်းကိုပြသည့် ဝိဘတ်ကို **အချိန်ဆက်တိုက်ပြဝိဘတ်**ဟုခေါ်သည်။

အချိန်ဆက်တိုက်ပြဝိဘတ်တို့မှာ **တိုင်တိုင်၊ တိုင်အောင်၊ ပတ်လုံး၊ လုံးလုံး** စသည်တို့ဖြစ်ကြသည်။

**သာဓက**။ ။ (က) ရေလုပ်သားကြီးဦးမြိုင်သည် ရေအောက်၌ တစ်နာရီ**တိုင်တိုင်**နေနိုင်သည်။

( ခ ) မမြသည် ည ၁၁ နာရီ**တိုင်အောင်** စာဖတ်လေ့ရှိသည်။

( ဂ ) နှင်းဆီပန်းသည် တစ်နှစ်**ပတ်လုံး** ပွင့်သည်။

(ဃ) သူသည် ၃ လ**လုံးလုံး** သက်သတ်လွတ် စားသည်။

၇၀။ **ကြိယာဝိဘတ်**။ ။ ကြိယာ၏ နောက်၌တည်၍ ၎င်းကြိယာ၏ ကာလနှင့် အမျိုးအစားကို ဝေဖန်ပိုင်းခြားပြသော ဝိဘတ်ကို **ကြိယာဝိဘတ်**ဟု ခေါ်သည်။

၇၁။ ကြိယာဝိဘတ် ၂ မျိုးရှိသည်။ ယင်းဝိဘတ် ၂ မျိုးတို့မှာ–

(က) ကာလပြကြိယာဝိဘတ်

( ခ ) အမျိုးအစားပြကြိယာဝိဘတ်တို့ဖြစ်ကြသည်။

၇၂။ **ကာလပြကြိယာဝိဘတ်**။ ။ ကြိယာ၏ပြုခြင်း၊ ဖြစ်ခြင်း၊ ရှိခြင်းနှင့်စပ်ဆိုင်သည့် အချိန်ကိုပြသောဝိဘတ်ကို **ကာလပြကြိယာဝိဘတ်**ဟုခေါ်သည်။

၇၃။ ကာလပြကြိယာဝိဘတ် ၃ မျိုးရှိသည်။ ယင်းဝိဘတ် ၃ မျိုးတို့မှာ–

(က) ပစ္စုပ္ပန်ကာလပြကြိယာဝိဘတ်

( ခ ) အတိတ်ကာလပြကြိယာဝိဘတ်

( ဂ ) အနာဂတ်ကာလပြကြိယာဝိဘတ်တို့ဖြစ်ကြသည်။

၇၄။ ကာလပြကြိယာဝိဘတ်တို့မှာ **သည်၊ ၏၊ ပြီ၊ မည်၊ လိမ့်မည်၊ အံ့၊ လတ္တံ့**တို့ဖြစ်ကြသည်။ "သည်၊ ၏၊ ပြီ" ဝိဘတ်တို့ သည် ကြိယာ၏နောက်၌ တည်၍ ၎င်းကြိယာ၏ပစ္စုပ္ပန်ကာလနှင့် အတိတ်ကာလတို့ကို ပြသည်။ "မည်၊ လိမ့်မည်၊ အံ့၊ လတ္တံ့" ဝိဘတ်တို့သည် အနာဂတ်ကာလကိုပြသည်။ ကာလပြကြိယာဝိဘတ်တို့သည် ကြိယာ၏ကာလကို ပြကြသည်ဆိုရာ၌ ပိုင်းပိုင်းခြားခြား ပုံသေနည်းအားဖြင့် ပြကြခြင်းမဟုတ်ပေ။ ဝါကျ၌ ပါဝင်သော အချိန်ပြပုဒ်နှင့် ဝါကျ၏ဆိုလိုသည့် အဓိပ္ပာယ်တို့ကိုလိုက်၍ ကာလကို ပြကြခြင်းဖြစ်သည်။

၇၅။ **ပစ္စုပ္ပန်ကာလပြကြိယာဝိဘတ်**။ ။ ကြိယာ၏ ပြုဆဲ၊ ဖြစ်ဆဲ၊ ရှိဆဲကာလကို ပြသော ဝိဘတ်ကို **ပစ္စုပ္ပန်ကာလပြကြိယာဝိဘတ်**ဟုခေါ်သည်။

ပစ္စုပ္ပန်ကာလပြကြိယာဝိဘတ်တို့မှာ **သည်၊ ၏၊ ပြီ**တို့ဖြစ်ကြသည်။

**သာဓက**။ ။ (က) ဆရာသည် မြန်မာသဒ္ဒါကို ယခုသင်ကြား**သည်/၏**။

(ခ) ယနေ့ရာသီဥတုသာယာ**သည်/၏**။

(ဂ) ကချင်ပြည်နယ်၌ ရေခဲများဖုံးလွှမ်းနေသော တောင်တန်းများ ရှိ**သည်/၏**။

(ဃ) မီးရထားသည် ဘူတာရုံထဲသို့ ဝင်လာ**ပြီ**။

သာဓက ဝါကျ(က)၏ ဆိုလိုသည့်အဓိပ္ပာယ်မှာ ပစ္စုပ္ပန်ကာလ၌ ဆရာသည် မြန်မာသဒ္ဒါကို သင်ကြားနေကြောင်းပင် ဖြစ်သည်။ ဤဝါကျ၌ **သင်ကြား** ကြိယာ၏ပြုဆဲကာလကို ပြသည့် **ယခု** ဟူသော အချိန်ပြပုဒ် လည်း ပါဝင်သည်။ ထို့ကြောင့် "သည်၊ ၏"တို့သည် ပစ္စုပ္ပန်ကာလကို ပြသည့် ကြိယာဝိဘတ်များ ဖြစ်ကြသည်။

သာဓကဝါကျ(ခ)၏ ဆိုလိုသည့်အဓိပ္ပာယ်မှာ ပစ္စုပ္ပန်ကာလ၌ ရာသီဥတု သာယာကြောင်းပင် ဖြစ်သည်။ ဤဝါကျ၌ **သာယာ**ကြိယာ၏ ဖြစ်ဆဲ ကာလကိုပြသည့် **ယနေ့** ဟူသော အချိန်ပြပုဒ်လည်း ပါဝင်သည်။ ထို့ကြောင့် "သည်၊၏" တို့သည် ပစ္စုပ္ပန်ကာလကိုပြသည့် ကြိယာဝိဘတ် များ ဖြစ်ကြသည်။

သာဓကဝါကျ(ဂ)၏ ဆိုလိုသည့် အဓိပ္ပာယ်မှာ ပစ္စုပ္ပန်ကာလ၌ ရေခဲများ ဖုံးလွှမ်းနေသော တောင်တန်းများသည် ကချင်ပြည်နယ်၌ ရှိနေကြောင်း ပင်ဖြစ်သည်။ ဤဝါကျ၌ ပစ္စုပ္ပန်ကာလကိုပြသည့် အချိန်ပြပုဒ် မပါဝင် သော်လည်း ယင်းဝါကျ၏ဆိုလိုသည့် အဓိပ္ပာယ်အရ "သည်၊၏" တို့သည် ပစ္စုပ္ပန်ကာလကို ပြသည့်ကြိယာဝိဘတ်များပင် ဖြစ်ကြသည်။

သာဓကဝါကျ(ဃ)၏ဆိုလိုသည့် အဓိပ္ပာယ်မှာ ပစ္စုပ္ပန်ကာလ၌ မီးရထား သည် ဘူတာရုံထဲသို့ ဝင်လာကြောင်းပင်ဖြစ်သည်။ ဤဝါကျ၌ ပစ္စုပ္ပန် ကာလကို ပြသည့်အချိန်ပြပုဒ် မပါဝင်သော်လည်း ယင်းဝါကျ၏ ဆိုလိုသည့် အဓိပ္ပာယ်အရ "ပြီ"သည် ပစ္စုပ္ပန်ကာလကို ပြသည့် ကြိယာဝိဘတ်ပင် ဖြစ်သည်။

၇၆။ ပစ္စုပ္ပန်ကာလပြကြိယာဝိဘတ် "သည်၊၏" တို့ကို ပြုလေ့ပြုထ ရှိသော၊ ဖြစ်လေ့ဖြစ်ထ ရှိသော အဖြစ်အပျက်နှင့် အမြဲတမ်း မှန်ကန် နေသောသဘာဝကို ပြရာ၌လည်း အသုံးပြုကြသည်။

**သာဓက**။ ။ (က) မောင်မောင်သည် နေ့စဉ်နွားနို့သောက်**သည်/၏**။

(ခ) တပေါင်းလ၌ သစ်ရွက်များ ကြွေ**သည်/၏**။

(ဂ) ကိုယ်ကျင့်တရားရှိသူသည် လူကောင်းဖြစ်**သည်/ ၏**။

သာဓကဝါကျ(က) သည် မောင်မောင်၏ နေ့စဉ်ပြုလေ့ပြုထရှိသော အလေ့အထကို ပြသည်။ ဤသို့ ပြုလေ့ပြုထရှိသော အဖြစ်အပျက်ကိုပြရာ၌ "သည်၊ ၏" ဝိဘတ်တို့ကို အသုံးပြုရသည်။

သာဓကဝါကျ(ခ) သည် တပေါင်းလ၌ သစ်ရွက်များ၏ ဖြစ်လေ့ ဖြစ်ထရှိသော သဘာဝကို ပြသည်။ ဤသို့ဖြစ်လေ့ဖြစ်ထရှိသော သဘာဝကိုပြရာ၌ "သည်၊ ၏" ဝိဘတ်တို့ကို အသုံးပြုရသည်။

သာဓကဝါကျ(ဂ)သည် ကိုယ်ကျင့်တရားရှိသူသည် လူကောင်းဖြစ်သည်ဟူသော အမြဲတမ်း မှန်ကန်သည့် သဘာဝကို ပြသည်။ ဤသို့ အမြဲတမ်းမှန်ကန်သော သဘာဝကိုပြရာ၌ "သည်၊ ၏"ဝိဘတ်တို့ကို အသုံးပြုရသည်။

၇၇။ **အတိတ်ကာလပြကြိယာဝိဘတ်**။ ။ ကြိယာ၏ ပြုပြီး၊ ဖြစ်ပြီး၊ ရှိပြီးကာလကို ပြသော ဝိဘတ်ကို **အတိတ်ကာလပြကြိယာဝိဘတ်**ဟု ခေါ်သည်။

အတိတ်ကာလပြကြိယာဝိဘတ်တို့မှာ **သည်၊ ၏၊ ပြီ**တို့ဖြစ်ကြသည်။

**သာဓက**။ ။ (က) သူသည် ယခင်က ဈေးရောင်း**သည်/၏။**

(ခ) ယမန်နေ့က ရာသီဥတုသာယာ**သည်/၏။**

(ဂ) အလောင်းမင်းတရားကြီးသည် သန်လျင်မြို့ကိုတိုက်ခိုက်**သည်/၏။**

(ဃ) ၁၉၇၃–ခုနှစ်တွင် မြန်မာနိုင်ငံ၌ လူဦးရေ ၂၈ သန်းကျော် ရှိ**သည်/ ၏။**

(င) သူသွား**ပြီ။**

သာဓကဝါကျ(က)၏ ဆိုလိုသည့် အဓိပ္ပာယ်မှာ အတိတ်ကာလ၌ သူဈေးရောင်းကြောင်းပင်ဖြစ်သည်။ ဤဝါကျ၌ **ဈေးရောင်း**ကြိယာ၏ပြုပြီး ကာလကို ပြသည့် **ယခင်က**ဟူသော အချိန်ပြပုဒ်လည်း ပါဝင်သည်။ ထို့ကြောင့် "သည်၊ ၏" တို့သည် အတိတ်ကာလကို ပြသည့်ကြိယာဝိဘတ်များ ဖြစ်ကြသည်။

သာဓကဝါကျ(ခ)၏ ဆိုလိုသည့် အဓိပ္ပာယ်မှာ အတိတ်ကာလ၌ ရာသီဥတု သာယာကြောင်းပင် ဖြစ်သည်။ ဤဝါကျ၌ သာယာကြိယာ၏ ဖြစ်ပြီးကာလကို ပြသည့် **ယမန်နေ့က** ဟူသောအချိန် ပြပုဒ်လည်း ပါဝင်သည်။ ထို့ကြောင့် "သည်၊ ၏" တို့သည် အတိတ်ကာလကိုပြသည့် ကြိယာဝိဘတ်များ ဖြစ်ကြသည်။

သာဓကဝါကျ (ဂ)၏ ဆိုလိုသည့်အဓိပ္ပာယ်မှာ အတိတ်ကာလ၌ အလောင်းမင်းတရားကြီး သံလျင်မြို့ကို တိုက်ခိုက်ကြောင်းပင်ဖြစ်သည်။ ဤဝါကျ၌ အတိတ်ကာလကို ပြသည့်အချိန်ပြပုဒ် မပါဝင်သော်လည်း ယင်းဝါကျ၏ဆိုလိုသည့် အဓိပ္ပာယ်အရ "သည်၊ ၏" တို့သည် အတိတ်ကာလကိုပြသည့် ကြိယာဝိဘတ်များ ဖြစ်ကြသည်။

သာဓကဝါကျ(ဃ) ၏ဆိုလိုသည့် အဓိပ္ပာယ်မှာ အတိတ်ကာလတွင် မြန်မာနိုင်ငံ၌ လူဦးရေ ၂၈ သန်းကျော်ရှိကြောင်းပင် ဖြစ်သည်။ ဤဝါကျ၌ **ရှိ** ကြိယာ၏

ရှိပြီးကာလကို ပြသည့် **၁၉၇၃–ခုနှစ်တွင်** ဟူသောအချိန်ပြပုဒ်လည်း ပါဝင် သည်။ ထို့ကြောင့် "သည်၊၏" တို့သည် အတိတ်ကာလကိုပြသည့် ကြိယာဝိဘတ်များဖြစ်ကြသည်။

သာဓကဝါကျ (င)၏ ဆိုလိုသည့်အဓိပ္ပာယ်မှာ အတိတ်ကာလ၌ သူသွားကြောင်း ပင် ဖြစ်သည်။ ဤဝါကျ၌ လွန်ခဲ့သော အတိတ်ကာလကိုပြသည့် အချိန်ပြပုဒ် မပါဝင်သော်လည်း ယင်းဝါကျ၏ ဆိုလိုသည့် အဓိပ္ပာယ်အရ "ပြီ" သည် အတိတ်ကာလကိုပြသည့် ကြိယာဝိဘတ်ဖြစ်သည်။

၇၈။ **အနာဂတ်ကာလပြကြိယာဝိဘတ်**။ ။ ကြိယာ၏ ပြုလတ္တံ့၊ ဖြစ်လတ္တံ့၊ ရှိလတ္တံ့ ကာလကိုပြသောဝိဘတ်ကို **အနာဂတ်ကာလပြကြိယာဝိဘတ်**ဟု ခေါ်သည်။

အနာဂတ်ကာလပြကြိယာဝိဘတ်တို့မှာ **မည်၊ လိမ့်မည်၊ အံ့၊ လတ္တံ့**တို့ဖြစ်ကြသည်။

**သာဓက**။ ။ (က) သူနက်ဖြန် ပြန်လာ**မည်/လိမ့်**မည်။

(ခ) သင်၏ ကြိုးစားမှုသည် နောင်တွင် သင့်ကို အကျိုးပေး**အံ့/လတ္တံ့။**

(ဂ) ကျွန်ုပ်တို့သည် အများအကျိုးဆောင်လျှင် ကိုယ့် အကျိုးအောင် **မည်/လိမ့်မည်။**

(ဃ) မိုးမှန်မှန်ရွာသဖြင့် စပါးကောင်းစွာ ထွက်**အံ့/ လတ္တံ့**။

(င) မောင်မောင်သည် ကျောင်းပိတ်ရက်များတွင် လုပ်အားပေးစခန်း၌ ရှိ**မည်/ လိမ့်မည်။**

(စ) ၂၀၀၀ ပြည့်နှစ်တွင် ကမ္ဘာ၌ လူဦးရေ သန်းပေါင်း ၆၅၀၀ ရှိ **အံ့/လတ္တံ့**။

၇၉။ **အမျိုးအစားပြကြိယာဝိဘတ်**။ ။ ကြိယာ၏အမျိုးအစားကို ပြသောဝိဘတ်ကို အမျိုးအစားပြ ကြိယာဝိဘတ်ဟု ခေါ်သည်။

၈၀။ အမျိုးအစားပြကြိယာဝိဘတ် ၄ မျိုးရှိသည်။ ယင်းဝိဘတ် ၄ မျိုးတို့မှာ–

(က) စေခိုင်းဝိဘတ်

(ခ) ညှိနှိုင်းဝိဘတ်

(ဂ) ဆန္ဒညွှန်ဝိဘတ်

(ဃ) အမိန့်ချဝိဘတ် တို့ဖြစ်ကြသည်။

၈၁။ **စေခိုင်းဝိဘတ်**။ ။ စေခိုင်းခြင်းကို ပြသည့်ဝိဘတ်ကို **စေခိုင်းဝိဘတ်**ဟု ခေါ်သည်။ စေခိုင်းဝိဘတ်မှာ **လော့** ဖြစ်သည်။

**သာဓက**။ ။(က) သင်တို့သည် ဤအိမ်မှ ယခုချက်ချင်းထွက်သွား**လော့**။

(ခ) နွေအခါ၌ ရေကို ချွေချွေတာတာသုံးစွဲကြ**လော့**။

၈၂။ **ညှိနှိုင်းဝိဘတ်**။ ။ ဆောင်ရွက်သူအချင်းချင်း ညှိနှိုင်းခြင်းကိုပြသည့်ဝိဘတ်ကို **ညှိနှိုင်း ဝိဘတ်**ဟု ခေါ်သည်။

ညှိနှိုင်းဝိဘတ်တို့မှာ **စို့၊ ရအောင်** စသည်တို့ ဖြစ်ကြသည်။

**သာဓက**။ ။(က) မိုးချုပ်ပြီ၊ ပြန်**စို့**။

( ခ ) စာမေးပွဲနီးပြီ။ စုပေါင်းစာကျက်ကြ**ရအောင်**။

၈၃။ **ဆန္ဒညွှန်ဝိဘတ်**။ ။ ခွင့်တောင်းခြင်း၊ ပန်ကြားခြင်း၊ ဆုတောင်းမေတ္တာပို့သခြင်း၊ ကျိန်ဆဲခြင်း စသော အလိုဆန္ဒတို့ကို ဖော်ပြသည့် ဝိဘတ်ကို **ဆန္ဒညွှန်ဝိဘတ်**ဟု ခေါ်သည်။

ဆန္ဒညွှန်ဝိဘတ်တို့မှာ **ပါရစေ၊ ပါစေ** တို့ဖြစ်ကြသည်။

**သာဓက**။ ။(က) ဤစာအုပ်ကို ကြည့်**ပါရစေ**။

( ခ ) သတ္တဝါအပေါင်း ကျန်းမာကြ**ပါစေ**။

( ဂ ) အနိုင်ကျင့်တတ်သူတိုင်း ဘေးတွေ့**ပါစေ**။

၈၄။ **အမိန့်ချဝိဘတ်**။ ။ အမိန့်ပေးခြင်းကို ဖော်ပြသည့် ဝိဘတ်ကို **အမိန့်ချဝိဘတ်** ဟု ခေါ်သည်။

အမိန့်ချဝိဘတ်မှာ **စေ** ဖြစ်သည်။

**သာဓက**။ ။ ဤတရားခံသည် တစ်နှစ်အတွင်း ကောင်းမွန်စွာ နေ**စေ။**

## လေ့ကျင့်ခန်း

၁။ ဝိဘတ်အမျိုးအစားမည်မျှရှိသနည်း။ ယင်းတို့ကို ဖော်ပြပါ။

၂။ မည်သည့်ဝိဘတ်ကို နာမ်ဝိဘတ်ဟု ခေါ်သနည်း။

၃။ နာမ်ဝိဘတ် ၁၇ မျိုးကို သက်ဆိုင်ရာ ဝိဘတ်တို့နှင့်တကွ ဖော်ပြပါ။

၄။ အောက်ပါဝိဘတ်အသီးသီးသည် မည်သည့်ဝိဘတ်အမျိုးအစား၌ ပါဝင်သည်ကို ဖော်ပြပါ။
က၊ မှာ၊ ဖြင့်၊ နှင့်၊ ၌၊ တွင်၊ ဝယ်၊ တိုင်အောင်၊ သို့၊ အထိ၊ တိုင်တိုင်။

၅။(က) အောက်ပါ နာမ်ဝိဘတ်အတွဲတစ်ခုစီကို ဝါကျ၌ သုံးပြပါ။

**နမူနာ**။ ။ မောင်ချစ်ညို**သည်** သတင်းစာ**ကို** ဖတ်သည်။
သည်–ကို၊ က–ကို၊ သည်–မှ၊ သည်–မှာ၊ ကို–မှာ၊
သည်–ကြောင့်၊ သည်–နှင့်အတူ၊ သည်–နှင့်တကွ၊
အနက်–သည်၊ သည်–အလို့ငှာ၊ သည်–တိုင်အောင်။

(ခ) အောက်ပါ နာမ်ဝိဘတ်အတွဲတစ်ခုစီကို ဝါကျ၌ သုံးပြပါ။

**နမူနာ**။ ။ မောင်မောင်သည် ရန်ကုန်**မှ** မန္တလေး**သို့** သွားသည်။
သည်–သို့–ဖြင့်၊ သည်–ကို–နှင့်၊ က–အား–ကို၊
သည်–က–အထိ၊ သည်–၏–ကို၊ သည်–ကို–က၊
သည်–နှင့်အညီ–ကို၊
မှ–အထိ–ဖြင့်၊ သည်–မှ–တိုင်၊ သည်–၌–တိုင်တိုင်။

၆။ မည်သည့်ဝိဘတ်ကို ကြိယာဝိဘတ်ဟု ခေါ်သနည်း။

၇။ မည်သည့် ဝိဘတ်ကို ကာလပြကြိယာဝိဘတ်ဟု ခေါ်သနည်း။

၈။ အောက်ပါကာလပြကြိယာဝိဘတ်တို့၏ အဓိပ္ပာယ်ကိုဖော်ပြပါ။ ယင်းကာလပြ ကြိယာဝိဘတ် တစ်မျိုးစီနှင့် သက်ဆိုင်သည့် ဝိဘတ်တို့ကိုလည်း ဝါကျတွင် သုံးပြပါ။

(က) ပစ္စုပ္ပန်ကာလပြကြိယာဝိဘတ်

(ခ) အတိတ်ကာလပြကြိယာဝိဘတ်

(ဂ) အနာဂတ်ကာလပြကြိယာဝိဘတ်

၉။ မည်သည့်ဝိဘတ်ကို အမျိုးအစားပြကြိယာဝိဘတ်ဟု ခေါ်သနည်း။

၁၀။ အောက်ပါ အမျိုးအစားပြ ကြိယာဝိဘတ်တို့၏ အဓိပ္ပာယ်ကိုဖော်ပြပါ။ ယင်း အမျိုးအစားပြ ကြိယာဝိဘတ်တစ်မျိုးစီနှင့် သက်ဆိုင်သည့်ဝိဘတ်တို့ကိုလည်း ဝါကျတွင်သုံးပြပါ။

(က) စေခိုင်းဝိဘတ်

(ခ) ညွှန်ကြားဝိဘတ်

(ဂ) ဆန္ဒညွှန်ဝိဘတ်

(ဃ) အမိန့်ချဝိဘတ်

# သမ္ဗန္ဓ

**သမ္ဗန္ဓ**

၈၅။ ပုဒ်အချင်းချင်းကိုဖြစ်စေ၊ ဝါကျအချင်းချင်းကိုဖြစ်စေ၊ အဓိပ္ပာယ်အချင်းချင်းကို ဖြစ်စေ ဆက်စပ်ပေးသောစကားလုံးကို **သမ္ဗန္ဓ** ဟု ခေါ်သည်။

၈၆။ **သမ္ဗန္ဓ**ကို ဆက်စပ်ပုံအရနှင့် အနက်အဓိပ္ပာယ်အရ ဟူ၍ ၂ မျိုး ခွဲခြားနိုင်သည်။

၈၇။ ဆက်စပ်ပုံအရ သမ္ဗန္ဓ ၃မျိုးရှိသည်။ ယင်းသမ္ဗန္ဓ ၃ မျိုးတို့မှာ–

(က) ပုဒ်ဆက်သမ္ဗန္ဓ

(ခ) ဝါကျဆက်သမ္ဗန္ဓ

(ဂ) အဓိပ္ပာယ်ဆက်သမ္ဗန္ဓ တို့ဖြစ်ကြသည်။

၈၈။ အနက်အဓိပ္ပာယ်အရသမ္ဗန္ဓ ၁၁ မျိုးရှိသည်။ ယင်းသမ္ဗန္ဓ ၁၁ မျိုးတို့မှာ–

(က) ဆန့်ကျင်ပြသမ္ဗန္ဓ

(ခ) အချိန်ပြသမ္ဗန္ဓ

(ဂ) အကျိုးမျှော်ပြသမ္ဗန္ဓ

(ဃ) အကြောင်းပြသမ္ဗန္ဓ

(င) နှိုင်းယှဉ်ပြသမ္ဗန္ဓ

(စ) ပေါင်းစည်းပြသမ္ဗန္ဓ

(ဆ) ရွေးချယ်ပြသမ္ဗန္ဓ

(ဇ) ကန့်သတ်ချက်ပြသမ္ဗန္ဓ

(ဈ) ကန့်သတ်မဲ့ပြသမ္ဗန္ဓ

(ည) တစ်ပြိုင်နက်ပြသမ္ဗန္ဓ

(ဋ) တစ်ခုပြီးတစ်ခုပြသမ္ဗန္ဓတို့ဖြစ်ကြသည်။

(ဆက်စပ်ပုံအရ သမ္ဗန္ဓ ၃ မျိုးအကြောင်းကို မြန်မာသဒ္ဒါ အတွဲ ၁၊ အခန်း ၂ ၊ ၃၊ ၄ တို့၌ ဖော်ပြခဲ့ပြီးဖြစ်သည်။ အနက်အဓိပ္ပာယ်အရ သမ္ဗန္ဓ ၁၁ မျိုးအကြောင်းကို ယခု ဆက်လက် ဖော်ပြမည်။)

၈၉။ **ဆန့်ကျင်ပြသမ္ဗန္ဓ**။ ။ ရှေ့၌ဖော်ပြသော အကြောင်းအရာကို နောက်၌ဖော်ပြသည့် အကြောင်းအရာက ဆန့်ကျင်သည့် အနက်ဖြင့် ဆက်စပ်ပေးသော သမ္ဗန္ဓကို **ဆန့်ကျင်ပြသမ္ဗန္ဓ** ဟု ခေါ်သည်။

ဆန့်ကျင်ပြသမ္ဗန္ဓတို့မှာ **သို့ရာတွင်၊ သို့သော်လည်း၊ လင့်ကစား၊ သော်လည်း၊ စေကာမူ၊ လျက်နှင့်၊ မ......ဘဲလျက်** စသည်တို့ ဖြစ်ကြသည်။

**သာဓက**။ ။(က) မိုးချုန်းသည်။ **သို့ရာတွင်** မိုးမရွာပေ။

( ခ) သူသည် ထမင်း ၃ ပန်းကန်စားသည်။

**သို့သော်လည်း** သူသည်မတင်းတိမ်သေးပေ။

( ဂ) ဦးမြတ်သာသည် ရေလုပ်သားပင် ဖြစ်**လင့်ကစား** ရေမကူးတတ်ပေ။

(ဃ) သူသည် အဆင်းလှ**သော်လည်း** အချင်းမလှရှာပေ။

( င) အလုပ်တာဝန် များ**စေကာမူ**သူသည် မညည်းညူပေ။

( စ) မမြသည် ကြား**လျက်နှင့်** မကြားယောင်ဆောင်သည်။

(ဆ) သူသည် **မဆာဘဲလျက်** မုန့်ကိုစားသည်။

၉၀။ **အချိန်ပြသမ္ဗန္ဓ**။ ။ အခြေအနေ၊ အကြောင်းအရာစသည်တို့ ဖြစ်ပျက်သော အချိန်ကာလကို ပြခြင်းအားဖြင့် ဆက်စပ်ပေးသော သမ္ဗန္ဓကို **အချိန်ပြသမ္ဗန္ဓ**ဟု ခေါ်သည်။

အချိန်ပြသမ္ဗန္ဓတို့မှာ **နှင့်တစ်ပြိုင်နက်၊ မှစ၍၊ တိုင်၊ တိုင်အောင်၊ အခါတိုင်း၊ မှ၊ စဉ်၊ ရင်း၊ တုန်း၊ သမျှ၊ မ...မီ၊ မ...မချင်း၊ သောအခါ၊ တိုင်း** စသည်တို့ ဖြစ်ကြသည်။

**သာဓက**။ ။(က) လယ်သမားတို့သည် မိုးသံကို ကြားသည်**နှင့်တစ်ပြိုင်နက်**ထွန်တုံးကို ပြင်ကြသည်။

( ခ) ကျောင်းဖွင့်သည်မှ**စ၍** ကျောင်းသားများ စာကြိုးစားကြသည်။

( ဂ) နံနက် ၃ နာရီထိုးသည့်**တိုင်** သူမအိပ်သေး။

(ဃ) သူပြန်လာသည့်**တိုင်အောင်** ကျွန်တော်စောင့်မည်။

( င) သူပြုံးလိုက်သည့်**အခါတိုင်း** သူ၏ ပါးချိုင့်ကလေးများပေါ်လာသည်။

( စ) သီတင်းကျွတ်လရောက်**မှ** ကြာပန်းများ ပွင့်ကြသည်။

(ဆ) ဆရာ စာသင်နေ**စဉ်** စကားမပြောရ။

( ဇ) မိန်းကလေးတစ်သိုက် ရေခပ်**ရင်း** စကားပြောနေကြသည်။

( ဈ) လသာ**တုန်း** ဗိုင်းငင်ရသည်။

(ည) ကျွန်ုပ်တို့ စည်းလုံးနေ**သမျှ** မည်သူကမျှ ရန်စဝံ့မည်မဟုတ်။

( ဋ) သူထမင်းမစားမီရေချိုးသည်။

( ဌ) မောင်မောင်သည် စာမေးပွဲ**မ**ပြီး**မချင်း** ရုပ်ရှင် မကြည့်ပါ။

( ဍ) ကျောင်းပိတ်**သောအခါ** ကျောင်းသားများ လုပ်အားပေးကြသည်။

( ဎ) မောင်ချစ်ညိုသည်သူ၏ မွေးနေ့ရောက်**တိုင်း** ဥပုသ်စောင့်လေ့ရှိသည်။

၉၁။ **အကျိုးမျှော်ပြသမ္ဗန္ဓ**။ ။ အကျိုးတစ်စုံတစ်ရာကို မျှော်လင့်သည့်အနက်ဖြင့် ဆက်စပ်ပေးသောသမ္ဗန္ဓကို **အကျိုးမျှော်ပြသမ္ဗန္ဓ** ဟုခေါ်သည်။

အကျိုးမျှော်ပြသမ္ဗန္ဓတို့မှာ **အောင်၊ ရန်၊ ဖို့၊ ရန်အလို့ငှာ၊ ရန်အတွက်၊ အံ့သောငှာ၊ စိမ့်သောငှာ** စသည်တို့ ဖြစ်ကြသည်။

**သာဓက**။ ။ (က) လူကောင်းဖြစ်**အောင်** ကိုယ်ကျင့်တရားကို စောင့်ထိန်းရမည်။

( ခ ) လူတော်ဖြစ်**ရန်** ကြိုးစားရမည်။

( ဂ ) ကိုယ့်တိုင်းပြည်လုံခြုံ**ဖို့** အရွယ်ရောက်သူတိုင်း စစ်ပညာကို တတ်ထားရမည်။

(ဃ) နိုင်ငံ၏ စီးပွားရေးတိုးတက်**ရန်အလို့ငှာ** ကုန်များကို အဆင့်မီမီ ထုတ်လုပ်ကြရမည်။

( င ) ကျန်းမာစေရန်**အတွက်** သင့်တင့်မျှတသော အစားအစာကို စားရမည်။

( စ ) မုဆိုးသည် သားကောင်ကို ပစ်**အံ့သောငှာ** လင့်စင်ပေါ်က စောင့်သည်။

(ဆ) နွေအခါ ရေမပြတ်**စိမ့်သောငှာ** ရေကန်ကို တူးကြသည်။

၄၂။ **အကြောင်းပြသမ္ဗန္ဓ**။ ။ အကြောင်းပြသည့်အနက်ဖြင့် ဆက်စပ်ပေးသော သမ္ဗန္ဓကို **အကြောင်းပြသမ္ဗန္ဓ** ဟုခေါ်သည်။

အကြောင်းပြသမ္ဗန္ဓတို့မှာ **၍၊ နှင့်၊ သောကြောင့်၊ သဖြင့်၊ လို့၊ ထို့ကြောင့်၊ သို့ဖြစ်၍၊ အဘယ်ကြောင့်ဆိုသော်** စသည်တို့ ဖြစ်ကြသည်။

**သာဓက**။ ။(က) ကျွန်တော်စာမေးပွဲအောင်**၍** တစ်အိမ်သားလုံး ဝမ်းသာကြသည်။

( ခ ) သူသည်ဆူဆူညံညံ အသံကြားသည်**နှင့်** အိပ်ရာမှ နိုးလာသည်။

( ဂ ) လူအများတရားစောင့်**သောကြောင့်** မိုးလေဝသ မှန်ကန်သည်။

(ဃ) မိုးလေဝသမှန်ကန်**သဖြင့်** သီးနှံပို၍ထွက်သည်။

( င ) သူပြော**လို့**ကျွန်တော်သိရတယ်။

( စ ) သူသည် ရိုးသားဖြောင့်မတ်သည်။ **ထို့ကြောင့်** သူ့ကို အများက ယုံကြည် လေးစားသည်။

(ဆ) နတ်တော်လသို့ ရောက်ပြီ။ **သို့ဖြစ်၍** သဇင်ပန်းပွင့်သည်။

( ဇ ) ဤအရပ်၌ ရာသီဥတု ပူပြင်းသည်။ **အဘယ်ကြောင့်ဆိုသော်** သစ်ပင်နည်းပါးသောကြောင့် ဖြစ်သည်။

၄၃။ **နှိုင်းယှဉ်ပြသမ္ဗန္ဓ**။ ။ နှိုင်းယှဉ်သည့်အနက်ဖြင့် ဆက်စပ်ပေးသော သမ္ဗန္ဓကို **နှိုင်းယှဉ်ပြသမ္ဗန္ဓ** ဟု ခေါ်သည်။

နှိုင်းယှဉ်ပြသမ္ဗန္ဓတို့မှာ **သကဲ့သို့၊ သလို၊ ထက်** စသည်တို့ ဖြစ်ကြသည်။

**သာဓက**။ ။(က) သူကြိုးစား**သကဲ့သို့** ကျွန်တော်ကြိုးစားသည်။

( ခ ) ဤကိစ္စသည် လယ်ပြင်မှာ ဆင်သွား**သလို** ထင်ရှားသည်။

( ဂ ) ရောဂါဖြစ်မှုကုသသည်**ထက်** ရောဂါမဖြစ်မီ ကြိုတင် ကာကွယ်သည်က ပို၍သင့်မြတ်သည်။

၉၄။ **ပေါင်းစည်းပြသမ္ဗန္ဓ**။ ။ လူ၊ အရာဝတ္ထု၊ အကြောင်းအရာတို့ကို ပေါင်းစည်းသည့် အနက်ဖြင့် ဆက်စပ်ပေးသောသမ္ဗန္ဓကို **ပေါင်းစည်းပြသမ္ဗန္ဓ** ဟု ခေါ်သည်။

ပေါင်းစည်းပြသမ္ဗန္ဓတို့မှာ **နှင့်၊ လည်း...လည်း၊ အပြင်...လည်း၊ သာမက...လည်း၊ သာမဟုတ်...လည်း** စသည်တို့ ဖြစ်ကြသည်။

**သာဓက**။ ။(က) ရေ**နှင့်**ကြာသည် လွန်စွာပနံရသည်။

( ခ ) သူသည် စကားပြော**လည်း** ကောင်းသည်။

စာရေး**လည်း**ကောင်းသည်။

( ဂ ) ဆရာကြီးသည် ကျောင်းအုပ်ချုပ်ရေး**အပြင်** သင်ကြားရေးကို**လည်း** တာဝန်ယူရသည်။

(ဃ) တပ်မတော်၌ အမျိုးသားများ**သာမက** အမျိုးသမီးများ**လည်း** တာဝန်ထမ်းဆောင်ကြသည်။

( င ) မြဝတီမင်းကြီးဦးစမှာ လက်ရုံးရည်**သာမဟုတ်** နှလုံးရည်**လည်း** ရှိသည်။

၉၅။ **ရွေးချယ်ပြသမ္ဗန္ဓ**။ ။ တစ်ဦးမဟုတ်တစ်ဦး၊ တစ်ခုမဟုတ်တစ်ခုကို ရွေးချယ်သည့် အနက်ဖြင့် ဆက်စပ်ပေးသောသမ္ဗန္ဓကို **ရွေးချယ်ပြသမ္ဗန္ဓ**ဟု ခေါ်သည်။

ရွေးချယ်ပြသမ္ဗန္ဓမှာ **သို့မဟုတ်**ဖြစ်သည်။

**သာဓက**။ ။(က) ဆရာက မောင်မောင်၊ **သို့မဟုတ်** မောင်အောင်ကို အတန်းခေါင်းဆောင်အဖြစ် ရွေးလိမ့်မည်။

( ခ ) တနင်္ဂနွေနေ့၌ မုန့်ဟင်းခါး၊ **သို့မဟုတ်** အုန်းနို့ခေါက်ဆွဲကို ကျွန်တော်တို့ ချက်စားကြမည်။

၉၆။ **ကန့်သတ်ချက်ပြသမ္ဗန္ဓ**။ ။ တစ်စုံတစ်ရာသော အခြေအနေကို ကန့်သတ်သည့်အနက်ဖြင့်ဖြစ်စေ၊ စည်းကမ်းသတ်မှတ်သည့် အနက်ဖြင့်ဖြစ်စေ ဆက်စပ်ပေးသော သမ္ဗန္ဓကို **ကန့်သတ်ချက်ပြသမ္ဗန္ဓ** ဟု ခေါ်သည်။

ကန့်သတ်ချက်ပြသမ္ဗန္ဓတို့မှာ **လျှင်၊ မှ၊ က** စသည်တို့ ဖြစ်ကြသည်။

**သာဓက**။ ။(က) သားသမီးလိမ္မာ**လျှင်** မိဘစိတ်ချမ်းသာမည်။

( ခ ) လူက ငွေကိုချစ်**မှ** ငွေက လူကိုချစ်မည်။

( ဂ ) ရှေ့ဆောင်နွားလား၊ ဖြောင့်ဖြောင့်သွား**က**၊ နောက်နွားတစ်သိုက် ဖြောင့်ဖြောင့်လိုက်၏။

(ဃ) သူတစ်ပါးပစ္စည်းကို ခိုး**လျှင်** အဖမ်းခံရလိမ့်မည်။

( င ) သင်တို့သည် ဘာသာတိုင်း၌ အမှတ် ၄၀ ရ**မှ** စာမေးပွဲအောင်မည်။

( စ ) ယာဉ်မောင်းသူသည် ယာဉ်စည်းကမ်းကို မလိုက်နာပါ**က** အရေး ယူခြင်း ခံရလိမ့်မည်။

၄၇။ **ကန့်သတ်မဲ့ပြသမ္ဗန္ဓ**။ ။ တစ်စုံတစ်ရာသော အခြေအနေကို ကန့်သတ်ခြင်းမရှိသည့် အနက်ဖြင့်ဖြစ်စေ၊ စည်းကမ်းသတ်မှတ်ခြင်း မရှိသည့်အနက်ဖြင့်ဖြစ်စေ ဆက်စပ်ပေးသော သမ္ဗန္ဓကို **ကန့်သတ်မဲ့ပြသမ္ဗန္ဓ**ဟု ခေါ်သည်။

ကန့်သတ်မဲ့ပြသမ္ဗန္ဓတို့မှာ **ဖြစ်စေ...ဖြစ်စေ၊ ဖြစ်စေ ...မ...ဖြစ်စေ၊ သော်လည်းကောင်း ... သော်လည်းကောင်း၊ သော်လည်းကောင်း ... မ...သော်လည်းကောင်း** စသည်တို့ ဖြစ်ကြ သည်။

**သာဓက**။ ။(က) ထားဝယ်မြို့သို့ လေယာဉ်ပျံဖြင့်**ဖြစ်စေ၊** သင်္ဘောဖြင့်**ဖြစ်စေ** သွားနိုင် သည်။

( ခ ) သူလာသည်**ဖြစ်စေ၊** မလာသည်**ဖြစ်စေ** ကျွန်တော် ရောက်အောင် လာမည်။

( ဂ) ဦးကြီးသည် သူ၏ယာ၌ နှမ်း**သော်လည်းကောင်း၊** မြေပဲ**သော် လည်းကောင်း** စိုက်လိမ့်မည်။

(ဃ) စာမေးပွဲဖြေဖြစ်လျှင် **သော်လည်းကောင်း၊ မ**ဖြေဖြစ်လျှင် **သော် လည်းကောင်း** စာမေးပွဲဝင်ကြေးကိုမူ ပေးကြရမည်။

၄၈။ **တစ်ပြိုင်နက်ပြသမ္ဗန္ဓ**။ ။ တစ်ပြိုင်နက်ဆောင်ရွက်ခြင်း၊ ဖြစ်ပေါ်ခြင်းအနက်ဖြင့် ဝါကျအချင်းချင်း ဆက်စပ်ပေးသောသမ္ဗန္ဓကို **တစ်ပြိုင်နက်ပြသမ္ဗန္ဓ**ဟု ခေါ်သည်။

တစ်ပြိုင်နက်ပြသမ္ဗန္ဓတို့မှာ **လျက်၊ ကာ၊ ရင်း**တို့ဖြစ်ကြသည်။

**သာဓက**။ ။(က) မုဆိုးသည် ချုံကို ကွယ်**လျက်**သားကောင်ကို ချောင်းနေသည်။

( ခ ) ဖိုးသာအောင်သည် သီချင်းတကျော်ကျော်ဆို**ကာ** လယ်ထွန် နေ သည်။

( ဂ ) ဦးမြနှင့် ဦးလှတို့သည် လမ်းလျှောက်**ရင်း** စကားပြောကြသည်။

(ဃ မိုးသည် တအုန်းအုန်းမြည်**လျက်**သည်းထန်စွာ ရွာနေသည်။

( င ) လေပြင်းကြောင့် အုန်းလက်တို့သည် အချင်းချင်း ထိခတ်**ကာ** တရှုန်းရှုန်း မြည်နေသည်။

( စ ) လုပ်သားများသည် အလုပ်လုပ်**ရင်း** ပညာရှာကြသည်။

၄၉။ **တစ်ခုပြီးတစ်ခုပြသမ္ဗန္ဓ**။ ။ တစ်ခုပြီးတစ်ခုဆောင်ရွက်ခြင်း၊ ဖြစ်ပေါ်ခြင်းအနက်ဖြင့် ဝါကျအချင်းချင်း ဆက်စပ်ပေးသောသမ္ဗန္ဓကို **တစ်ခုပြီးတစ်ခုပြသမ္ဗန္ဓ**ဟု ခေါ်သည်။

တစ်ခုပြီးတစ်ခုပြသမ္ဗန္ဓတို့မှာ **ကာ၊ ၍** တို့ဖြစ်ကြသည်။

**သာဓက**။ ။(က) လူဆိုးများကို ရဲအဖွဲ့က ဖမ်းဆီး**ကာ** ရဲစခန်းသို့ ခေါ်ဆောင်သွားသည်။

( ခ ) ဘုရားဖူးများသည် ကင်ပွန်းစခန်း၌ ခေတ္တနား**၍** ကျိုက်ထီးရိုး ဘုရားဆီသို့ ခရီးဆက်ကြသည်။

(ဂ) မြစ်လက်တက်များသည် မြစ်ဝကျွန်းပေါ်၌ ဧရာဝတီမြစ်မှ ခွဲထွက်**ကာ** ဘင်္ဂလားပင်လယ်အော်ထဲသို့ စီးဝင်ကြသည်။

(ဃ) နေသည် အရှေ့မှထွက်**၍** အနောက်သို့ ဝင်သည်။

## လေ့ကျင့်ခန်း

၁။ အနက်အဓိပ္ပာယ်အရ သမ္ဗန္ဓ ၁၁ မျိုးကို ဖော်ပြပါ။

၂။ မည်သည့်သမ္ဗန္ဓကို ဆန့်ကျင်ပြသမ္ဗန္ဓဟု ခေါ်သနည်း။ အောက်ပါ ဆန့်ကျင်ပြသမ္ဗန္ဓတို့ကို ဝါကျတစ်ခုစီ၌ သုံးပြပါ။

သို့ရာတွင်၊ လင့်ကစား၊ စေကာမူ၊ လျက်နှင့်၊ မ...ဘဲလျက်။

၃။ မည်သည့်သမ္ဗန္ဓကို အချိန်ပြသမ္ဗန္ဓဟုခေါ်သနည်း။ အောက်ပါ အချိန်ပြသမ္ဗန္ဓတို့ကို ဝါကျတစ်ခုစီ၌ သုံးပြပါ။

နှင့်တစ်ပြိုင်နက်၊ အခါတိုင်း၊ စဉ်၊ သမျှ၊ မ...မီ၊ သောအခါ၊ တိုင်း၊ မ...မချင်း။

၄။ မည်သည့်သမ္ဗန္ဓကို အကျိုးမျှော်ပြသမ္ဗန္ဓဟု ခေါ်သနည်း။ အောက်ပါ အကျိုးမျှော်ပြသမ္ဗန္ဓတို့ကို ဝါကျတစ်ခုစီ၌ သုံးပြပါ။

အောင်၊ ရန်၊ အံ့သောငှာ၊ စိမ့်သောငှာ၊ ဖို့။

၅။ မည်သည့်သမ္ဗန္ဓကို အကြောင်းပြသမ္ဗန္ဓဟု ခေါ်သနည်း။ အောက်ပါအကြောင်းပြသမ္ဗန္ဓတို့ကို ဝါကျတစ်ခုစီ၌ သုံးပြပါ။

၍၊ သောကြောင့်၊ သဖြင့်၊ လို့၊ ထို့ကြောင့်။

၆။ မည်သည့်သမ္ဗန္ဓကို နှိုင်းယှဉ်ပြသမ္ဗန္ဓဟု ခေါ်သနည်း။ အောက်ပါနှိုင်းယှဉ်ပြသမ္ဗန္ဓတို့ကို ဝါကျတစ်ခုစီ၌ သုံးပြပါ။

သကဲ့သို့၊ သလို၊ ထက်။

၇။ မည်သည့်သမ္ဗန္ဓကို ပေါင်းစည်းပြသမ္ဗန္ဓဟု ခေါ်သနည်း။ အောက်ပါပေါင်းစည်းပြသမ္ဗန္ဓတို့ကို ဝါကျတစ်ခုစီ၌ သုံးပြပါ။

နှင့်၊ လည်း...လည်း၊ အပြင်...လည်း၊ သာမက...လည်း။

၈။ မည်သည့်သမ္ဗန္ဓကို ရွေးချယ်ပြသမ္ဗန္ဓဟု ခေါ်သနည်း။ ရွေးချယ်ပြသမ္ဗန္ဓ "သို့မဟုတ်" ကို ဝါကျ၌ သုံးပြပါ။

၉။ မည်သည့်သမ္ဗန္ဓကို ကန့်သတ်ချက်ပြသမ္ဗန္ဓဟု ခေါ်သနည်း။ အောက်ပါကန့်သတ်ချက်ပြသမ္ဗန္ဓတို့ကို ဝါကျတစ်ခုစီ၌ သုံးပြပါ။

လျှင်၊ မှ၊ က။

၁၀။ မည်သည့်သမ္ဗန္ဓကို ကန့်သတ်မဲ့ပြသမ္ဗန္ဓဟုခေါ်သနည်း။ အောက်ပါကန့်သတ်မဲ့ပြသမ္ဗန္ဓတို့ကို ဝါကျတစ်ခုစီ၌ သုံးပြပါ။

ဖြစ်စေ…ဖြစ်စေ၊ ဖြစ်စေ…မ…ဖြစ်စေ၊ သော်လည်းကောင်း …သော်လည်းကောင်း၊ သော်လည်းကောင်း၊…မ …သော်လည်းကောင်း။

၁၁။ မည်သည့်သမ္ဗန္ဓကို တစ်ပြိုင်နက်ပြသမ္ဗန္ဓဟု ခေါ်သနည်း။ အောက်ပါ တစ်ပြိုင်နက်ပြသမ္ဗန္ဓတို့ကို ဝါကျတစ်ခုစီ၌ သုံးပြပါ။

လျက်၊ ကာ၊ ရင်း။

# ပစ္စည်း

**ပစ္စည်း**

၁၀၀။ နာမ်၊ နာမ်စား၊ နာမဝိသေသန၊ ကြိယာ၊ ကြိယာဝိသေသနတို့၏အဓိပ္ပာယ်ကို ထူးခြားလေးနက်အောင် ကူညီထောက်ပံ့သောစကားလုံးကို **ပစ္စည်း**ဟု ခေါ်သည်။

၁၀၁။ ပစ္စည်း ၃ မျိုးရှိသည်။ ယင်းပစ္စည်း ၃ မျိုးတို့မှာ–

(က) နာမ်ပစ္စည်း

(ခ) ကြိယာပစ္စည်း

(ဂ) ပုဒ်ပြောင်းပစ္စည်းတို့ဖြစ်ကြသည်။

(ဤပစ္စည်း ၃ မျိုးတို့အနက် **နာမ်ပစ္စည်း**အကြောင်းကို မြန်မာသဒ္ဒါအတွဲ ၁၊ အခန်း ၂၊ ၃၊ ၄ တို့၌ ဖော်ပြခဲ့ပြီး ဖြစ်သည်။ **ကြိယာပစ္စည်းနှင့် ပုဒ်ပြောင်းပစ္စည်း**အကြောင်းတို့ကိုသာ ယခုဆက်လက်ဖော်ပြမည်။

၁၀၂။ **ကြိယာပစ္စည်း**။ ။ ကြိယာ၏အဓိပ္ပာယ်ကို ထူးခြားလေးနက်အောင် ကူညီထောက်ပံ့ သောပစ္စည်းကို **ကြိယာပစ္စည်း**ဟု ခေါ်သည်။

၁၀၃။ ကြိယာပစ္စည်း ၅ မျိုးရှိသည်။ ယင်းပစ္စည်း ၅ မျိုးတို့မှာ–

(က) အမေးပစ္စည်း

(ခ) ကိန်းညွှန်းပစ္စည်း

(ဂ) ကြိယာထောက်ပစ္စည်း

(ဃ) အငြင်းပြပစ္စည်း

(င) ဝါကျနောက်လိုက်ပစ္စည်းတို့ ဖြစ်ကြသည်။

၁၀၄။ (က) **အမေးပစ္စည်း**။ ။ သိလိုသောအကြောင်းအရာ၊ အချက်အလက်တို့ကို မေးမြန်းရာ၌ အသုံးပြုသော ပစ္စည်းကို **အမေးပစ္စည်း**ဟု ခေါ်သည်။

အမေးပစ္စည်းတို့မှာ **နည်း၊ လော၊ စ၊ လား၊ လဲ၊ တုံး**စသည်တို့ဖြစ်ကြသည်။

**သာဓက**။ ။(၁) (кк) မြန်မာနိုင်ငံ၌ မြစ်ကူးတံတားကြီးပေါင်း မည်မျှရှိသ**နည်း**။

(ခခ) သင်တို့သည် သူတစ်ပါးကြီးပွားချမ်းသာသည်ကို ဝမ်းမြောက်ဝမ်းသာရှိကြပါ၏**လော**။

(гг) ကျန်းမာပါ**စ**။

(ဃဃ) မင်းမိဘများ နေထိုင်ကောင်းကြရဲ့**လား**။

(ငင) ဘာဝယ်ခဲ့သ**လဲ**။

(စစ) ဘယ်သူက ပြောသ**တုံး**။

**လို့** ဟူသော ပစ္စည်းကို အမေးပစ္စည်း "လား၊ လဲ၊ တုံး" တို့နှင့် တွဲ၍ သုံးလေ့ရှိသည်။

**သာဓက**။ ။(၂) (ကက) ဒီနေ့ဘောလုံးပွဲ ရှိ**လို့လား**။

(ခခ) ဘယ်သူတွေ ကစားမ**လို့လဲ**။

(ဂဂ) ဘယ်မှာ ကစားမ**လို့တုံး**။

(ခ) **ကိန်းညွှန်းပစ္စည်း**။ ။ ကြိယာတို့၏အများကိန်းကို ညွှန်ပြသော ပစ္စည်းကို **ကိန်းညွှန်းပစ္စည်းဟု** ခေါ်သည်။

ကိန်းညွှန်းပစ္စည်းတို့မှာ **ကြ**၊ **ကုန်**၊ **ကြကုန်**တို့ဖြစ်ကြသည်။

**သာဓက**။ ။(၁) (ကက) ရုပ်ရှင်မင်းသား၊ မင်းသမီးတို့သည် စံပြလုပ်သားကြီးများကို အဆိုအကဖြင့် ဖျော်ဖြေ**ကြ**သည်။

(ခခ) စပါးပင်တို့သည် မိုးကောင်းစွာရသဖြင့် ရှင်သန်**ကုန်**၏။

(ဂ) သူတော်စင်တို့သည် တိတ်ဆိတ်အေးချမ်းသော အရပ်ကို ပို၍ နှစ်သက်**ကြကုန်**၏။

ကြိယာကိန်းညွှန်းပစ္စည်းကို မြှုပ်၍လည်း ရေးသားလေ့ရှိသည်။

**သာဓက**။ ။(၂)(ကက) ရုပ်ရှင်မင်းသား၊ မင်းသမီးတို့သည် စံပြလုပ်သားကြီးများကို အဆိုအကဖြင့် ဖျော်ဖြေသည်။

(ခခ) စပါးပင်တို့သည် မိုးကောင်းစွာရသဖြင့် ရှင်သန်၏။

(ဂ) သူတော်စင်တို့သည် တိတ်ဆိတ်အေးချမ်းသောအရပ်ကို ပို၍ နှစ်သက်၏။

(ဂ **ကြိယာထောက်ပစ္စည်း**။ ။ ကြိယာ၏အနက်သဘောကို ထူးခြားအောင် ကူညီထောက်ပံ့သောပစ္စည်းကို **ကြိယာထောက်ပစ္စည်း**ဟုခေါ်သည်။

ကြိယာထောက်ပစ္စည်းတို့မှာ **ချင်**၊ **တတ်**၊ **နိုင်**၊ **ဖူး**၊ **ဝံ့**၊ **ခဲ**၊ **ခဲ့**၊ **မိ**၊ **သင့်**၊ **ရှာ**၊ **လွန်း**၊ **လှ**၊ **ရက်**၊ **သေး**၊ **ဦး**၊ **အပ်**၊ **ရ**၊ **ထိုက်**၊ **နေ**၊ **ပြန်**၊ **တော့**၊ **နှင့်**၊ **သွား**၊ **ရစ်**၊ **ထား**၊ **ပျော်**၊ **ပစ်**၊ **ပါ** စသည်တို့ ဖြစ်ကြသည်။

**သာဓက**။ ။

(၁) **ချင်**။ ။ (ကက) မောင်မြင့်သည် စာမေးပွဲအောင်သည်။

(ခခ) မောင်မြင့်သည် စာမေးပွဲအောင်**ချင်**သည်။

ပထမဝါကျ၌ **အောင်** ဟူသောကြိယာ၏နောက်တွင် ကြိယာထောက်ပစ္စည်း မပါပေ။ ယင်းဝါကျသည် မောင်မြင့် စာမေးပွဲအောင်ကြောင်း သာမန်မျှသာ ဖော်ပြသည်။

ဒုတိယဝါကျ၌ကား **အောင်** ဟူသောကြိယာ၏နောက်တွင် **ချင်**ဟူသော ကြိယာထောက်ပစ္စည်းပါသည်။ ထို **ချင်** ဟူသော ကြိယာထောက်ပစ္စည်းသည် "ဆန္ဒရှိသည်" ဟူသောအနက်ဖြင့် **အောင်** ဟူသောကြိယာ၏ အဓိပ္ပာယ်ကို ထူးခြားအောင် ကူညီထောက်ပံ့သည်။

(၂) **တတ်**။ ။ (ကက) မစံပယ်သည် သူငယ်ချင်းများကို ကူညီသည်။

( ခခ ) မစံပယ်သည် သူငယ်ချင်းများကို ကူညီ**တတ်**သည်။

ပထမဝါကျ၌ **ကူညီ** ဟူသော ကြိယာ၏နောက်တွင် ကြိယာထောက်ပစ္စည်း မပါပေ။ ယင်းဝါကျသည် သူငယ်ချင်းများကို မစံပယ်ကူညီကြောင်း သာမန်မျှသာ ဖော်ပြသည်။

ဒုတိယဝါကျ၌မူကား **ကူညီ** ဟူသော ကြိယာ၏နောက်တွင် **တတ်** ဟူသော ကြိယာထောက်ပစ္စည်းပါသည်။ ထို **တတ်**ဟူသော ကြိယာထောက်ပစ္စည်းသည် "ပြုလေ့ပြုထရှိသည်" ဟူသောအနက်ဖြင့် **ကူညီ** ဟူသော ကြိယာ၏အဓိပ္ပာယ်ကို ထူးခြားအောင် ကူညီထောက်ပံ့သည်။

(၃) **နိုင်**။ ။ (ကက) အသက် ၁၈ နှစ် ပြည့်သူတိုင်း မဲဆန္ဒပေးသည်။

( ဆ ) အသက် ၁၈ နှစ်ပြည့်သူတိုင်း မဲဆန္ဒပေး**နိုင်**သည်။

ပထမဝါကျ၌ **ပေး** ဟူသော ကြိယာ၏နောက်တွင် ကြိယာထောက်ပစ္စည်း မပါပေ။ ယင်းဝါကျသည် အသက် ၁၈ နှစ်ပြည့်သူတိုင်း မဲဆန္ဒပေးကြောင်း သာမန်မျှသာ ဖော်ပြသည်။

ဒုတိယဝါကျ၌မူကား **ပေး**ဟူသော ကြိယာ၏နောက်တွင် **နိုင်** ဟူသော ကြိယာထောက်ပစ္စည်းပါသည်။ ထို **နိုင်** ဟူသော ကြိယာထောက်ပစ္စည်းသည် "အခွင့်အလမ်းရှိသည်" ဟူသောအနက်ဖြင့် **ပေး** ဟူသော ကြိယာ၏အဓိပ္ပာယ်ကို ထူးခြားအောင် ကူညီထောက်ပံ့သည်။

(၄) **ဖူး**။ ။ (ကက) သူသည် တောင်ကြီးမြို့၌ နေသည်။

( ဆ ) သူသည် တောင်ကြီးမြို့၌ နေ**ဖူး**သည်။

ပထမဝါကျ၌ **နေ** ဟူသော ကြိယာ၏ နောက်တွင် ကြိယာထောက်ပစ္စည်း မပါပေ။ ယင်းဝါကျသည် တောင်ကြီးမြို့၌ သူ **နေ**ကြောင်း သာမန်မျှသာ ဖော်ပြသည်။

ဒုတိယဝါကျ၌မူကား **နေ**ဟူသောကြိယာ၏ နောက်တွင် **ဖူး**ဟူသော ကြိယာထောက်ပစ္စည်းပါသည်။ ထို **ဖူး** ဟူသော ကြိယာထောက်ပစ္စည်းသည် "ပြုမှု ဆောင်ရွက်ဖြစ်ပျက်ခဲ့သည်"ဟူသောအနက်ဖြင့် **နေ**ဟူသော ကြိယာ၏အဓိပ္ပာယ်ကို ထူးခြားအောင် ကူညီထောက်ပံ့သည်။

(၅) **ဝံ့**။ ။ (ကက) မောင်ချစ်ညိုသည် သစ်ပင်ထိပ်ဖျားသို့ တက်သည်။

( ဆ ) မောင်ချစ်ညိုသည် သစ်ပင်ထိပ်ဖျားသို့ တက်**ဝံ့**သည်။

ပထမဝါကျ၌ **တက်**ဟူသောကြိယာ၏နောက်တွင် ကြိယာထောက်ပစ္စည်း မပါပေ။ ယင်းဝါကျသည် သစ်ပင်ထိပ်ဖျားသို့ မောင်ချစ်ညိုတက်ကြောင်း သာမန်မျှသာ ဖော်ပြသည်။

ဒုတိယဝါကျ၌မူကား **တက်**ဟူသော ကြိယာ၏နောက်တွင် **ဝံ့**ဟူသော ကြိယာထောက်ပစ္စည်းပါသည်။ ထို **ဝံ့** ဟူသော ကြိယာထောက်ပစ္စည်းသည် "ရဲရင့်သည်"ဟူ သော အနက်ဖြင့် **တက်**ဟူသော ကြိယာ၏အဓိပ္ပာယ်ကို ထူးခြားအောင် ကူညီထောက်ပံ့သည်။

(၆) **ခဲ**။ ။ (ကက) သူသည် မဟုတ်မမှန်သောစကားကို ပြောသည်။

( ခခ ) သူသည်မဟုတ်မမှန်သောစကားကို ပြော**ခဲ**သည်။

ပထမဝါကျ၌ **ပြော**ဟူသောကြိယာ၏နောက်တွင် ကြိယာထောက်ပစ္စည်း မပါပေ။ ယင်းဝါကျသည် မဟုတ်မမှန်သောစကားကို သူပြောကြောင်း သာမန်မျှသာ ဖော်ပြသည်။

ဒုတိယဝါကျ၌ **ပြော**ဟူသော ကြိယာ၏နောက်တွင် **ခဲ** ဟူသော ကြိယာထောက်ပစ္စည်းပါသည်။ ထို **ခဲ** ဟူသော ကြိယာထောက်ပစ္စည်းသည် "ပြုလေ့မရှိ" ဟူသောအနက်ဖြင့် **ပြော**ဟူသော ကြိယာ၏အဓိပ္ပာယ်ကို ထူးခြားအောင် ကူညီထောက်ပံ့သည်။

(၇) **ခဲ့** ။ ။ (ကက) ကျွန်တော်လာ**ခဲ့**မည်။

( ခခ ) အမေ ဈေးကမုန့်ဝယ်လာ**ခဲ့**သည်။

( ဂဂ ) သူသည် မိုးရွာမှာစိုး၍ ထီးယူလာ**ခဲ့**သည်။

(ဃဃ) ကျွန်မတို့ ရွာသို့အလည်လာ**ခဲ့**ပါ။

ဖော်ပြပါဝါကျတို့၌ပါသော **ခဲ့**ကြိယာထောက်ပစ္စည်းသည် ကာလကို ဖော်ပြသော ပစ္စည်းမဟုတ်ချေ။ **ခဲ့** ပစ္စည်းသည် ယင်းဝါကျတို့၌ပါသော **လာ၊ ဝယ်လာ၊ ယူလာ၊ အလည်လာ** ဟူသော ကြိယာတို့၏ အဓိပ္ပာယ်ကို သေချာသည့်သဘော၊ ဖြစ်မြောက်သည့် သဘော၊ တိုက်တွန်းသည့်သဘောဖြင့်သာ ထူးခြားအောင် ကူညီထောက်ပံ့ကြသည်။

ဖော်ပြပါ သာဓကဝါကျ ၄ ခုတို့ကို **ခဲ့**ပစ္စည်းမပါဘဲလည်း အောက်ပါအတိုင်း ရေးသားနိုင်သည်။

( ငင) ကျွန်တော်လာမည်။

( စစ) အမေဈေးက မုန့်ဝယ်လာသည်။

(ဆဆ) သူသည် မိုးရွာမှာစိုး၍ ထီးယူလာသည်။

( ဇဇ ) ကျွန်မတို့ရွာသို့ အလည်လာပါ။

(၈) **မိ**။ ။ (ကက) မသိဂီသည် မသိတာမကြိုက်သောစကားကို ပြောသည်။

( ခခ ) မသိဂီသည် မသိတာ မကြိုက်သောစကားကို ပြော**မိ**သည်။

ပထမဝါကျ၌ **ပြော**ဟူသောကြိယာ၏နောက်တွင် ကြိယာထောက်ပစ္စည်း မပါပေ။ ယင်းဝါကျသည် မသိတာမကြိုက်သောစကားကို မသိဂီပြောကြောင်း သာမန်မျှသာ ဖော်ပြသည်။

ဒုတိယဝါကျ၌ **ပြော**ဟူသောကြိယာ၏နောက်တွင် **မိ**ဟူသော ကြိယာထောက် ပစ္စည်းပါသည်။ ထို **မိ** ဟူသော ကြိယာထောက်ပစ္စည်းသည် "အမှတ်မထင် ပြုမူသည်" ဟူသောအနက်ဖြင့် **ပြော**ဟူသော ကြိယာ၏အဓိပ္ပာယ်ကို ထူးခြားအောင် ကူညီထောက်ပံ့သည်။

(၉) "ချင်၊ တတ်၊ နိုင်၊ ဖူး၊ ဝံ့၊ ခဲ၊ ခဲ့၊ မိ" ဟူသော ကြိယာ ထောက်ပစ္စည်းတို့ ကဲ့သို့ပင် အောက်ပါဝါကျများ၌ ပါရှိသည့် **သင့်၊ ရှာ၊ လွန်း၊ လှ၊ ရက်၊ သေး၊ ဦး၊ အပ်၊ ရ၊ ထိုက်၊ နေ၊ ပြန်၊ တော့၊ နှင့်၊ သွား၊ ရစ်၊ ထား၊ ပျော်၊ ပစ်၊ ပါ** ဟူသော ကြိယာထောက်ပစ္စည်းတို့သည်လည်း သက်ဆိုင်ရာ ကြိယာအသီးသီး၏ အနက်သဘောကို ထူးခြားအောင် ကူညီထောက်ပံ့ သည်။

**သာဓက**။ ။ (ကက) သင်သည် ရောဂါဖြစ်စကပင် နီးရာဆရာဝန်နှင့် တိုင်ပင် **သင့်**သည်။

( ခခ ) မမြခက်သည် ဆင်းရဲ**ရှာ**သည်။

( ဂဂ ) ဦးမြသည် သားသမီးများကို အလိုလိုက်**လွန်း**သည်။

(ဃဃ) မိဘမေတ္တာသည် မြင်းမိုရ်တောင်မက ကြီးမား**လှ**သည်။

( ငင ) သူသည်ကျေးဇူးရှင်ကို ပြစ်မှား**ရက်**သည်။

( စစ ) ပုဂံခေတ်က နံရံဆေးရေးပန်းချီများသည် ယခုတိုင် ရှိ**သေး** သည်။

(ဆဆ) ထမင်းမစားမီ ကျွန်တော်ရေချိုး**ဦး**မည်။

( ဇဇ ) ပြည်ထောင်စုသားအချင်းချင်း တစ်ဦးကိုတစ်ဦး လေးစား**အပ်** သည်။

( ဈဈ ) ၃ နှစ်အောက်ကလေးများသာ မီးရထားကို အခမဲ့စီး **ရ**သည်။

(ညည) သားသမီးတိုင်း မိဘတို့၏ဆုံးမသွန်သင်မှုကို နာခံ **ထိုက်** သည်။

( ဋဋ ) ရွာသားတို့သည် ချောင်းကူးတံတားကို ပြုပြင် **နေ**သည်။

( ဌဌ ) "ဆက်ဆက် လာပါမည်"ဟု သူက ပြော**ပြန်**သည်။

( ဍဍ ) မီးရထားထွက်**တော့**မည်။

( ဎဎ) ကျွန်တော်ကျောင်းသို့ သွား**နှင့်**မည်။

(ဏဏ) ကျွန်တော့်ကို လာခေါ်မည်" ဟု အစ်ကိုကြီးက မှာ**သွား** သည်။

(တတ) လူကြီးများ အလှူသွားကြသဖြင့် ကျွန်မသည် အိမ်စောင့် အဖြစ် ကျန်**ရစ်**သည်။

(ထထ) ဦးလေးသည် ကျွန်တော်တို့ လာမည်ကိုသိ၍ ထမင်းချက်**ထား**သည်။

( ဒဒ ) ဤစာအုပ်ကို ၂ ကျပ်နှင့်ရောင်းလျှင် ဝယ်**ပျော်**သည်။

( ဆ ) သူသည် ကျွန်တော်၏စာအုပ်ကို ဖျောက်**ပစ်**သည်။

( နန ) ဦးကြီး ဆုံးမသည့်အတိုင်း ကျွန်တော်နားထောင်**ပါ**မည်။

(ဃ) **အငြင်းပြပစ္စည်း**။ ။ကြိယာ၏မူလအနက်ကို ဆန့်ကျင်အနက်ဖြစ်အောင် ပြောင်းလဲရာတွင် အသုံးပြုသောပစ္စည်းကို **အငြင်းပြပစ္စည်း**ဟု ခေါ်သည်။

အငြင်းပြပစ္စည်းတို့မှာ ကြိယာ၏ရှေ့၌ထား၍သုံးလေ့ရှိသော **မ** ပစ္စည်းနှင့် **မ**...**ဘူး** ပစ္စည်းတို့ ဖြစ်ကြသည်။ **မ** ပစ္စည်းဖြင့် အငြင်းဝါကျကိုရေးရာ၌ အခြားဆီလျော်သော ပစ္စည်းတစ်ခုခုကိုလည်း ကြိယာ၏နောက်တွင်ထား၍ သုံးလေ့ရှိသည်။

**သာဓက**။ ။ (၁) မူးယစ်ဆေးဝါး၏ အန္တရာယ်ကြီးမားပုံကို **သူမ**သိ**ချေ**။

(၂) သူသည် ရေနစ်ဖူးသဖြင့် ရေနက်ထဲသို့ **မ**ဆင်း**တော့**။

(၃) ပညာလိုသော် **မ**ပျင်း**နှင့်**။

(၄) မိုးချုန်းတိုင်းလည်း မိုး**မ**ရွာ**ပါ**။

(၅) ဤမြို့နယ်၌ စာမတတ်သူ**မ**ရှိ**ပေ**။

(၆) ကျွန်မတစ်ခါမျှ စာမေးပွဲ**မ**ကျဖူး**ဘူး**။

(၇) အချိန်ကို အလဟဿ**မ**ဖြုန်းရ**ဘူး**။

(၈) ယခုတိုင် ပိတောက်ပန်းများ **မ**ပွင့်**သေး**။

(င) **ဝါကျနောက်လိုက်ပစ္စည်း**။ ။ ဝါကျ၏အဆုံး၌ သုံးလေ့ရှိသော (ကြိယာဝိဘတ်မဟုတ်သော) ပစ္စည်းကို **ဝါကျနောက်လိုက်ပစ္စည်း**ဟု ခေါ်သည်။

ဝါကျနောက်လိုက်ပစ္စည်းတို့မှာ **ကွာ၊ ကွယ်၊ နော်၊ ပါ၊ ပေါ့၊ ဗျာ၊ ရှင်၊ လေ၊ လို့၊ ပေါ့ဗျာ၊ ပေါ့လေ၊ လေကွယ်** စသည်တို့ ဖြစ်ကြသည်။

**သာဓက**။ ။ (၁) သူ့ခများအားကိုးရာမဲ့ဖြစ်နေပါတယ်**ကွာ**။

(၂) ငါ့မြေးတို့ဆန္ဒအတိုင်း ဘိုးဘိုးဆောင်ရွက်ပေးပါ့မယ်**ကွယ်**။

(၃) စာမေးပွဲ နီးလာပြီ**နော်**။

(၄) ကျွန်တော်တတ်နိုင်သမျှကူညီတာ**ပါ**။

(၅) ခရီးပန်းရင် သစ်ပင်ရိပ်မှာ ခဏနားကြတာ**ပေါ့**။

(၆) အားလုံးက ခင်ဗျားကို မျှော်လင့်နေကြပါတယ်**ဗျာ**။

(၇) အခုလိုကူညီတဲ့အတွက် ကျေးဇူးတင်ပါတယ်**ရှင်**။

(၈) ရထားမီအောင် မြန်မြန်သွားကြမယ်**လေ**။

(၉) ကျွန်တော်ဈေးသွားမ**လို့**။

(၁၀) ခင်ဗျားတို့က ပြိုင်ပွဲမှာ အနိုင်ရတော့ ပြုံးနိုင်တာ**ပေါ့ဗျာ**။

(၁၁) ဒီအခက်အခဲပြေလည်သွားအောင် ကျွန်တော်တို့ စဉ်းစားကြတာ**ပေါ့လေ**။

(၁၂) “ပညာရွှေအိုး၊ လူမခိုး”လို့ ဆိုတယ်**လေကွယ်**။

၁၀၅။ **ပုဒ်ပြောင်းပစ္စည်း**။ ။ ကြိယာနှင့်နာမဝိသေသနတို့ကို နာမ်အဖြစ်သို့လည်းကောင်း၊ ကြိယာကို နာမဝိသေသနအဖြစ်သို့လည်းကောင်း၊ ကြိယာနှင့် နာမဝိသေသနတို့ကို ကြိယာဝိသေသနအဖြစ်သို့လည်းကောင်း ပြောင်းရာ၌ အသုံးပြုသောပစ္စည်းကို **ပုဒ်ပြောင်းပစ္စည်း** ဟုခေါ်သည်။

၁၀၆။ နာမ်ပစ္စည်းနှင့် ကြိယာပစ္စည်းတို့သည် နာမ်၊ နာမ်စား၊ နာမဝိသေသန၊ ကြိယာ၊ ကြိယာဝိသေသနတို့၏ အဓိပ္ပာယ်ကို ထူးခြားလေးနက်အောင် ဆောင်ရွက်ကြသော်လည်း ပုဒ်ပြောင်းပစ္စည်းမှာမူ ဝါစင်္ဂတစ်ခုမှ တစ်ခုသို့ ပြောင်းပေးရုံမျှသာ ဆောင်ရွက်သည်။

၁၀၇။ ပုဒ်ပြောင်းပစ္စည်း ၃ မျိုးရှိသည်။ ယင်းပစ္စည်း ၃ မျိုးတို့မှာ–

(က) နာမ်ပုဒ်ပြောင်းပစ္စည်း

(ခ) နာမဝိသေသနပုဒ်ပြောင်းပစ္စည်း

(ဂ) ကြိယာဝိသေသနပုဒ်ပြောင်းပစ္စည်းတို့ ဖြစ်ကြသည်။

၁၀၈။ **နာမ်ပုဒ်ပြောင်းပစ္စည်း**။ ။ ကြိယာနှင့်နာမဝိသေသနတို့ကို နာမ်အဖြစ်သို့ ပြောင်းရာ၌ အသုံးပြုသောပစ္စည်းကို **နာမ်ပုဒ်ပြောင်းပစ္စည်း**ဟု ခေါ်သည်။

၁၀၉။ နာမ်ပုဒ်ပြောင်းပစ္စည်း၂ မျိုးရှိသည်။ ယင်းပစ္စည်း ၂ မျိုးတို့မှာ–

(က) ကြိယာနာမ်ပုဒ်ပြောင်းပစ္စည်း

(ခ) ဂုဏ်ရည်ပြနာမ်ပုဒ်ပြောင်းပစ္စည်းတို့ ဖြစ်ကြသည်။

၁၁၀။ (က) **ကြိယာနာမ်ပုဒ်ပြောင်းပစ္စည်း**။ ။ ကြိယာကို ကြိယာနာမ်အဖြစ်သို့ ပြောင်းရာ၌ အသုံးပြုသောပစ္စည်းကို **ကြိယာနာမ်ပုဒ်ပြောင်းပစ္စည်း**ဟု ခေါ်သည်။

ကြိယာနာမ်ပုဒ်ပြောင်းပစ္စည်းတို့မှာ **အ**၊ **ခြင်း**၊ **ချက်**၊ **ဖွယ်**၊ **စရာ**၊ **ဖို့**၊ **ရန်**၊ **မှု**၊ **အ–အ** တို့ဖြစ်ကြသည်။

| **သာဓက**။ ။ | **ကြိယာ** | **+** | **ပစ္စည်း** | **=** | **ကြိယာနာမ်** |
|---|---|---|---|---|---|
| (၁) | စား | + | အ | = | အစား |
| (၂) | စား | + | ခြင်း | = | စားခြင်း |

(ဤပုဒ်ပြောင်းပစ္စည်းတို့ကို အသုံးပြုခြင်းဖြင့် ကြိယာမှ ကြိယာနာမ်ဖြစ်လာပုံအကြောင်းကို ကြိယာနာမ်အကြောင်း၌ ဖော်ပြခဲ့ပြီးဖြစ်ပါသည်။)

( ခ ) **ဂုဏ်ရည်ပြနာမ်ပုဒ်ပြောင်းပစ္စည်း။** ။ နာမဝိသေသနကို ဂုဏ်ရည်ပြနာမ် အဖြစ်သို့ ပြောင်းရာ၌ အသုံးပြုသောပစ္စည်းကို **ဂုဏ်ရည်ပြနာမ်ပုဒ်ပြောင်း ပစ္စည်း** ဟု ခေါ်သည်။

ဂုဏ်ရည်ပြနာမ်ပုဒ်ပြောင်းပစ္စည်းတို့မှာ **အ၊ ခြင်း၊ မှု**တို့ ဖြစ်ကြသည်။

**သာဓက။** ။ **နာမဝိသေသန + ပစ္စည်း = ဂုဏ်ရည်ပြနာမ်**

(၁) ကောင်း + အ၊ မှု၊ ခြင်း = အကောင်း
= ကောင်းမှု
= ကောင်းခြင်း

(၂) ထူးချွန် + မှု၊ ခြင်း = ထူးချွန်မှု
= ထူးချွန်ခြင်း

(ဤပုဒ်ပြောင်းပစ္စည်းတို့ကို အသုံးပြုခြင်းဖြင့် နာမဝိသေသနမှ ဂုဏ်ရည်ပြနာမ် ဖြစ်လာပုံအကြောင်းကို ဂုဏ်ရည်ပြနာမ်အကြောင်း၌ ဖော်ပြခဲ့ပြီးဖြစ်သည်။)

၁၁။ **နာမဝိသေသနပုဒ်ပြောင်းပစ္စည်း။** ။ ကြိယာကို နာမဝိသေသနအဖြစ်သို့ ပြောင်းရာ၌ အသုံးပြုသောပစ္စည်းကို **နာမဝိသေသနပုဒ်ပြောင်းပစ္စည်း**ဟု ခေါ်သည်။

နာမဝိသေသနပုဒ်ပြောင်းပစ္စည်းတို့မှာ **သော၊ သည့်၊ မည့်**တို့ဖြစ်ကြသည်။

| **သာဓက။** ။ | **ကြိယာ** | **+** | **ပစ္စည်း** | **=** | **နာမဝိသေသန** |
|---|---|---|---|---|---|
| (က) | ဝယ် | + | သော | = | ဝယ်သော(စာအုပ်) |
| ( ခ ) | စား | + | သည့် | = | စားသည့် (အစာ) |
| ( ဂ ) | ပြော | + | မည့် | = | ပြောမည့် (စကား) |

၁၂။ **ကြိယာဝိသေသနပုဒ်ပြောင်းပစ္စည်း။** ။ ကြိယာနှင့်နာမဝိသေသနတို့ကို ကြိယာဝိသေသန အဖြစ်သို့ပြောင်းရာ၌ အသုံးပြုသောပစ္စည်းကို **ကြိယာဝိသေသနပုဒ်ပြောင်းပစ္စည်း**ဟုခေါ်သည်။

ကြိယာဝိသေသနပုဒ်ပြောင်းပစ္စည်းတို့မှာ **စွာ၊ အ၊ တ–တ၊ အ–တ၊ ချည်–ချည်** စသည်တို့ ဖြစ်ကြသည်။

| **သာဓက။** ။ | **ကြိယာ** | **+** | **ပစ္စည်း** | **=** | **ကြိယာဝိသေသန** |
|---|---|---|---|---|---|
| (က)(၁) | ခင်မင် | + | စွာ | = | ခင်မင်စွာ |
| (၂) | ကုန် | + | အ | = | အကုန် |
| (၃) | ရှိသေ | + | တ–တ | = | တရှိတသေ |
| (၄) | ကျွမ်းဝင် | + | အ–တ | = | အကျွမ်းတဝင် |
| (၅) | ဝင်ထွက် | + | ချည်–ချည် | = | ဝင်ချည်ထွက်ချည် |

| နာမဝိသေသန | + | ပစ္စည်း | = | ကြိယာဝိသေသန |
|---|---|---|---|---|
| (ခ) (၁) ချိုသာ | + | စွာ | = | ချိုသာစွာ |
| (၂) လှ | + | အ | = | အလှ |
| (၃) ပင်ပန်း | + | တ–တ | = | တပင်တပန်း |
| ပူပြင်း | + | အ–တ | = | အပူတပြင်း |
| မြန်နှေး | + | ချည်–ချည် | = | မြန်ချည်နှေးချည် |

(ဤပုဒ်ပြောင်းပစ္စည်းတို့ကို အသုံးပြုခြင်းဖြင့် ကြိယာနှင့်နာမဝိသေသနတို့မှ ကြိယာဝိသေသနဖြစ်လာပုံအကြောင်းကို ပစ္စည်းဆက် ကြိယာဝိသေသနအကြောင်း၌ ဖော်ပြခဲ့ပြီးဖြစ်သည်။)

## လေ့ကျင့်ခန်း

၁။ ကြိယာပစ္စည်းဟူသည် အဘယ်နည်း။

၂။ အမေးပစ္စည်းဟူသည် အဘယ်နည်း။ အောက်ပါအမေးပစ္စည်းအသီးသီးကို ဝါကျ၌ သုံးပြပါ။

နည်း၊ လား၊ လဲ၊ တုံး၊ လို့လား၊ လို့လဲ၊ လို့တုံး။

၃။ မည်သည့်ပစ္စည်းကို ကိန်းညွှန်းပစ္စည်းဟုခေါ်သနည်း။ အောက်ပါကိန်းညွှန်းပစ္စည်း အသီးသီးကို ဝါကျ၌သုံးပြပါ။ ယင်းပစ္စည်းတို့နှင့် သက်ဆိုင်သော ကြိယာကိုလည်း ဖော်ပြပါ။

ကြ၊ ကုန်၊ ကြကုန်။

၄။ ကြိယာထောက်ပစ္စည်းဟူသည် အဘယ်နည်း။ အောက်ပါကြိယာထောက်ပစ္စည်းအသီးသီးကို ဝါကျ၌ သုံးပြပါ။ ယင်းပစ္စည်းတို့သည် မည်သည့်အနက်ဖြင့် သက်ဆိုင်ရာကြိယာ၏ အဓိပ္ပာယ်ကို ထူးခြားအောင် ကူညီထောက်ပံ့ကြောင်းကိုလည်း ရှင်းပြပါ။

ချင်၊ ဖူး၊ ဝံ့၊ သင့်၊ သေး၊ ထိုက်၊ နိုင်၊ ပါ။

၅။ အငြင်းပြပစ္စည်းဟူသည် အဘယ်နည်း။

(က) အငြင်းပြပစ္စည်း**မ**ကို ကြိယာနောက်တွင်ရှိသော "ပေ၊ပါ၊ နှင့်၊ ချေ" ပစ္စည်း အသီးသီးနှင့် တွဲ၍ ဝါကျ၌သုံးပြပါ။

(ခ) အငြင်းပြပစ္စည်း**မ...ဘူး**ကို ဝါကျ ၂ ခု၌ သုံးပြပါ။

၆။ မည်သည့်ပစ္စည်းကို ဝါကျနောက်လိုက်ပစ္စည်းဟု ခေါ်သနည်း။ အောက်ပါဝါကျနောက်လိုက်ပစ္စည်းအသီးသီးကို ဝါကျ၌သုံးပြပါ။

ကွာ၊ နော်၊ လေ၊ ဗျာ၊ ရှင်၊ ပေါ့ဗျာ၊ လေကွယ်။

၇။ ပုဒ်ပြောင်းပစ္စည်းဟူသည် အဘယ်နည်း။

၈။ (က) ပုဒ်ပြောင်းပစ္စည်း ဘယ်နှမျိုးရှိသနည်း။ ရေတွက်ပြပါ။

(ခ) အောက်ပါပစ္စည်းအသီးသီးသည် မည်သည့်ပုဒ်ပြောင်း ပစ္စည်းဖြစ်သည်ကို ခွဲခြားပြပါ။

ဖွယ်၊ သည့်၊ တ–တ။

(ဂ) အောက်ပါကြိယာအသီးသီးကို ကြိယာနာမ်ဖြစ်လာစေရန် သက်ဆိုင်ရာပစ္စည်းနှင့်တွဲပြပါ။

ပေး၊ ပြောဆို၊ ဖော်ရွေ၊ ရည်မှန်း။

(ဃ) အောက်ပါ နာမဝိသေသနအသီးသီးကို ဂုဏ်ရည်ပြနာမ်ဖြစ်လာစေရန် သက်ဆိုင်ရာပစ္စည်းနှင့် တွဲပြပါ။

ဆိမ့်၊ ရိုးသား၊ ဖြောင့်မတ်၊ တည်ကြည်။

(င) အောက်ပါကြိယာအသီးသီးကို နာမဝိသေသနဖြစ်လာစေရန် သက်ဆိုင်ရာပစ္စည်းနှင့်တွဲ၍ ကွက်လပ်တွင်ဖြည့်ပါ။

မွေးဖွား၊ ရောင်း၊ မျှော်မှန်း။

......ပစ္စည်း၊ ......ပန်းတိုင်၊ ......ရက်။

(စ) အောက်ပါကြိယာနှင့် နာမဝိသေသနအသီးသီးကို ကြိယာဝိသေသန ဖြစ်လာစေရန် သက်ဆိုင်ရာပစ္စည်းနှင့်တွဲ၍ ကွက်လပ်တွင် ဖြည့်ပါ။

ထင်ရှား၊ လေးစား၊ ရင်းနှီး၊ နိမ့်မြင့်၊ ခမ်းနား။

(၁) ...... ကျင်းပသည်။

(၂) ...... ပျံသန်းသည်။

(၃) ...... နေကြသည်။

(၄) ...... မြင်ရသည်။

(၅) ...... ဆက်ဆံသည်။

# ဝါကျရောနှင့် ဝါကျကဏ္ဍ

## ဝါကျရောနှင့်ဝါကျကဏ္ဍ

၁၁၃။ ဆိုလိုသည့် အဓိပ္ပာယ်ရောက်အောင် စနစ်တကျစီစဉ်ထားသော ပုဒ်အစုအပေါင်းကို **ဝါကျ**ဟုခေါ်သည်။

၁၁၄။ ဖွဲ့စည်းတည်ဆောက်ပုံအရ ဝါကျ ၂ မျိုးရှိသည်။ ယင်းဝါကျ ၂ မျိုးတို့မှာ–

(က) ဝါကျရိုး

( ခ ) ဝါကျရောတို့ ဖြစ်ကြသည်။

(**ဝါကျရိုး**အကြောင်းကို မြန်မာသဒ္ဒါ၊ အတွဲ ၁၊ အခန်း ၂ နှင့် ၃ တို့၌ ဖော်ပြခဲ့ပြီး ဖြစ်သည်။ **ဝါကျရောဖွဲ့နည်း**အကြောင်းကိုလည်း မြန်မာသဒ္ဒါအတွဲ ၁၊ အခန်း ၄ ၌ ဖော်ပြခဲ့ပြီး ဖြစ်သည်။

ဝါကျကဏ္ဍအကြောင်းကို မလေ့လာမီ ဝါကျရောဖွဲ့စည်း တည်ဆောက်ပုံကို သိရှိရန် လိုသည်။ ထို့ကြောင့် ဝါကျရောအကြောင်းကို အကျဉ်းမျှ ထပ်မံ၍ အောက်၌ဖော်ပြ ထားသည်။)

## ဝါကျရော

၁၁၅။ ဝါကျရိုး ၂ ခု၊ သို့မဟုတ် ၂ ခုထက်ပိုသော ဝါကျရိုးများကို ဝါကျတစ်ခုတည်းဖြစ်စေရန် ဝိဘတ်၊ ပစ္စည်း၊ သမ္ဗန္ဓတစ်ခုခုဖြင့် ဆက်၍ရေးသောဝါကျကို **ဝါကျရော** ဟု ခေါ်သည်။

**သာဓက**။ ။ (က) မောင်မောင်ပြန်လာသည်**ကို** ကျွန်တော်တွေ့သည်။

( ခ) ကျောင်းမှပြန်လာ**သော** မောင်မောင်ကို ကျွန်တော် တွေ့သည်။

( ဂ ) မောင်မောင်ကျောင်းမှ ပြန်လာသောအခါ ၅ နာရီ ထိုးပြီ။

သာဓကဝါကျ (က)သည် **မောင်မောင်ပြန်လာသည်**ဟူသော ဝါကျရိုးနှင့် **ကျွန်တော်တွေ့သည်**ဟူသော ဝါကျရိုးတို့ကို **ကို** ဝိဘတ်ဖြင့်ဆက်၍ ရေးထားသော ဝါကျရောဖြစ်သည်။

သာဓကဝါကျ(ခ) သည် **မောင်မောင်** ကျောင်းမှ **ပြန်လာသည်** ဟူသော ဝါကျရိုးနှင့် **မောင်မောင်**ကို **ကျွန်တော်တွေ့သည်**ဟူသော ဝါကျရိုးတို့ကို **သော** ပစ္စည်းဖြင့်ဆက်၍ ရေးထားသော ဝါကျရော ဖြစ်သည်။

သာဓကဝါကျ (ဂ) သည် **မောင်မောင်ကျောင်းမှ ပြန်လာသည်** ဟူသော ဝါကျရိုးနှင့် **၅ နာရီထိုးပြီ**ဟူသော ဝါကျရိုးတို့ကို **သောအခါ**ဟူသောသမ္ဗန္ဓဖြင့် ဆက်၍ရေးထားသော ဝါကျရောဖြစ်သည်။

## ဝါကျကဏ္ဍ

၁၁၆။ ဝါကျရော၏အစိတ်အပိုင်းတစ်ခုဖြစ်သည့်ပြင် ကတ္တားနှင့် ကြိယာပါရှိသော ပုဒ်အစုအပေါင်း ကို **ဝါကျကဏ္ဍ** ဟု ခေါ်သည်။

၁၁၇။ ဝါကျကဏ္ဍ ၂ မျိုးရှိသည်။ ယင်းဝါကျကဏ္ဍ ၂ မျိုးတို့မှာ–

(က) အမှီခံဝါကျကဏ္ဍ

( ခ ) အမှီဝါကျကဏ္ဍတို့ဖြစ်ကြသည်။

၁၁၈။ **အမှီခံဝါကျကဏ္ဍနှင့်အမှီဝါကျကဏ္ဍ။** ။ ဝါကျရောတွင် ကတ္တားနှင့်ကြိယာ ပါရှိပြီး သီးခြားရပ်တည်နိုင်သော အဓိပ္ပာယ်ပြည့်စုံသော ပုဒ်အစုအပေါင်းကို **အမှီခံဝါကျကဏ္ဍ**ဟု ခေါ်သည်။

ဝါကျရောတွင် ကတ္တားနှင့်ကြိယာပါရှိသော်လည်း သီးခြားမရပ်တည်နိုင်သော၊ အဓိပ္ပာယ် မပြည့်စုံသေးသော ပုဒ်အစုအပေါင်းကို **အမှီဝါကျကဏ္ဍ**ဟု ခေါ်သည်။

**သာဓက။** ။

| | **အမှီဝါကျကဏ္ဍ** | **အမှီခံဝါကျကဏ္ဍ** |
|---|---|---|
| (က) | မောင်မောင်ပြန်လာသည်ကို | ကျွန်တော်တွေ့သည်။ |
| ( ခ ) | သူသည်ဖျားသောကြောင့် | ကျောင်းမတက်နိုင်ပါ။ |

သာဓက (က) ၌ ဖော်ပြထားသည့် ဝါကျရောတွင် **မောင်မောင် ပြန်လာသည်ကို** နှင့် **ကျွန်တော်တွေ့သည်** ဟူသော ဝါကျကဏ္ဍ ၂ ခုပါဝင်သည်။ **ကျွန်တော်တွေ့သည်** ဟူသောဝါကျကဏ္ဍသည် အမှီခံဝါကျကဏ္ဍဖြစ်သည်။ **မောင်မောင်ပြန်လာသည်ကို** ဟူသော ဝါကျကဏ္ဍမှာ အမှီဝါကျကဏ္ဍဖြစ်သည်။ ဝါကျရော၏ ဆိုလိုသည့် အဓိပ္ပာယ်ပြည့်စုံစေရန် **မောင်မောင်ပြန်လာသည်ကို** ဟူသော ဝါကျကဏ္ဍသည် **ကျွန်တော်တွေ့သည်** ဟူသော ဝါကျကဏ္ဍကို မှီရသဖြင့် အမှီဝါကျကဏ္ဍဖြစ်သည်။ **မောင်မောင် ပြန်လာသည်ကို** ဟူသော ဝါကျကဏ္ဍ၏မှီခြင်းကိုခံရသည့် **ကျွန်တော်တွေ့သည်** ဟူသော ဝါကျကဏ္ဍသည် အမှီခံဝါကျကဏ္ဍဖြစ်သည်။

သာဓက(ခ) ၌ ဖော်ပြထားသည့် ဝါကျရောတွင် **သူသည် ဖျားသောကြောင့်**နှင့် (သူ) **ကျောင်းမတတ်နိုင်ပါ**ဟူသော ဝါကျကဏ္ဍ ၂ ခုပါဝင်သည်။ (သူ) **ကျောင်းမတက်နိုင်ပါ** ဟူသော ဝါကျကဏ္ဍသည် အမှီခံဝါကျကဏ္ဍ ဖြစ်သည်။ **သူသည်ဖျားသောကြောင့်** ဟူသော ဝါကျကဏ္ဍသည် အမှီဝါကျကဏ္ဍဖြစ်သည်။

၁၁၉။ အမှီဝါကျကဏ္ဍ ၃ မျိုးရှိသည်။ ယင်းအမှီဝါကျကဏ္ဍ၃ မျိုးတို့မှာ–

(က) နာမ်ဝါကျကဏ္ဍ

( ခ ) နာမဝိသေသနဝါကျကဏ္ဍ

( ဂ ) ကြိယာဝိသေသနဝါကျကဏ္ဍတို့ ဖြစ်ကြသည်။

၁၂၀။ (က) **နာမ်ဝါကျကဏ္ဍ။** ။ ကတ္တားနှင့်ကြိယာပါရှိပြီး နာမ်သဘောသက်ရောက်သော အမှီဝါကျကဏ္ဍကို **နာမ်ဝါကျကဏ္ဍ**ဟု ခေါ်သည်။

နာမ်ဝါကျကဏ္ဍ၏အဆုံး၌ **ကို၊ မှာ၊ က** စသည့် နာမ်ဝိဘတ်များ ပါဝင်ကြသည်။

**သာဓက**။ ။

| | **နာမ်ဝိကျကဗ္ဗာ** | **အမှီခံဝါကျကဗ္ဗာ** |
|---|---|---|
| (၁) | မောင်မောင်ပြန်လာသည်ကို | ကျွန်တော်တွေ့သည်။ |
| (၂) | သူပြောသည်မှာ | အမှန်ဖြစ်သည်။ |
| (၃) | သူပထမရသည်က | များသည်။ |

သာဓက(၁)၌ **ကျွန်တော်တွေ့သည်**သည် အမှီခံဝါကျကဗ္ဗာဖြစ်သည်။ **မောင်မောင်ပြန်လာသည်ကို**သည် အမှီဝါကျကဗ္ဗာ ဖြစ်သည်။ ယင်းအမှီဝါကျကဗ္ဗာသည် နာမ်သဘော သက်ရောက်သည့်အပြင်အဆုံး၌ နာမ်ဝိဘတ် **ကို** ပါဝင်သောကြောင့် နာမ်ဝါကျကဗ္ဗာ ဖြစ်သည်။ အမှီခံဝါကျကဗ္ဗာ၏ ကံလည်းဖြစ်သည်။

သာဓက(၂) ၌ **အမှန်ဖြစ်သည်**သည် အမှီခံဝါကျကဗ္ဗာ ဖြစ်သည်။ **သူပြောသည်မှာ**သည် အမှီဝါကျကဗ္ဗာဖြစ်သည်။ ယင်းအမှီဝါကျကဗ္ဗာသည် နာမ်သဘော သက်ရောက်သည့်အပြင် အဆုံး၌ နာမ်ဝိဘတ် **မှာ** ပါဝင်သောကြောင့် နာမ်ဝါကျကဗ္ဗာဖြစ်သည်။ အမှီခံဝါကျကဗ္ဗာ၏ကတ္တားလည်းဖြစ်သည်။

သာဓက(၃) ၌ **များသည်** သည် အမှီခံဝါကျကဗ္ဗာဖြစ်သည်။ **သူ ပထမရသည်က** သည် အမှီဝါကျကဗ္ဗာဖြစ်သည်။ ယင်းအမှီဝါကျကဗ္ဗာသည် နာမ်သဘော သက်ရောက်သည့်အပြင် အဆုံး၌ နာမ်ဝိဘတ် **က** ပါဝင်သောကြောင့် နာမ်ဝါကျကဗ္ဗာ ဖြစ်သည်။ အမှီခံဝါကျကဗ္ဗာ၏ ကတ္တားလည်း ဖြစ်သည်။

(ခ) **နာမဝိသေသနဝါကျကဗ္ဗာ**။ ။ ကတ္တားနှင့်ကြိယာပါရှိပြီး နာမဝိသေသန သဘော သက်ရောက်သော အမှီဝါကျကဗ္ဗာကို **နာမဝိသေသနဝါကျကဗ္ဗာ**ဟု ခေါ်သည်။

နာမဝိသေသနဝါကျကဗ္ဗာ၏အဆုံး၌ **သော၊ သည့်၊ မည့်** ဟူသော ပုဒ်ပြောင်း ပစ္စည်းများ ပါဝင်ကြသည်။

**သာဓက**။ ။

| | **နာမဝိသေသနဝါကျကဗ္ဗာ** | **အမှီခံဝါကျကဗ္ဗာ** |
|---|---|---|
| (၁) | သူ ကျွေး**သော** မုန့်ကို | ကျွန်တော်စားသည်။ |
| (၂) | မောင်မောင် စားချင်**သည့်** | ဟင်းမှာ ကြက်သားဟင်း ဖြစ်သည်။ |
| (၃) | ကျောင်းသားများ စာမေးပွဲဖြေရ**မည့်** | ရက်ကို ဆရာကြီးက ကြေညာပြီ။ |

သာဓက (၁) ၌ **မုန့်ကို ကျွန်တော်စားသည်** သည် အမှီခံဝါကျကဗ္ဗာဖြစ်သည်။ **သူကျွေးသော**သည် အမှီဝါကျကဗ္ဗာ ဖြစ်သည်။ အမှီဝါကျကဗ္ဗာ၏အဆုံး၌

နာမဝိသေသနပုဒ်ပြောင်းပစ္စည်း**သော** ပါဝင်သည့်အပြင် ယင်းအမှီဝါကျကဏ္ဍသည် အမှီခံဝါကျကဏ္ဍ၌ရှိသော **မုန့်**ဟူသော နာမ်ကိုလည်း အထူးပြုသည်။ ထို့ကြောင့် **သူကျွေးသော**သည် နာမဝိသေသန ဝါကျကဏ္ဍဖြစ်သည်။

သာဓက(၂) ၌ **ဟင်းမှာကြက်သားဟင်းဖြစ်သည်**သည် အမှီခံဝါကျကဏ္ဍ ဖြစ်သည်။ **မောင်မောင်စားချင်သည့်**သည် အမှီဝါကျကဏ္ဍဖြစ်သည်။

သာဓက(၃) ၌ **ရက်ကိုဆရာကြီးက ကြေညာပြီ**သည် အမှီခံဝါကျကဏ္ဍ ဖြစ်သည်။ **ကျောင်းသားများ စာမေးပွဲဖြေရမည့်**သည် အမှီဝါကျကဏ္ဍ ဖြစ်သည်။ အမှီဝါကျကဏ္ဍ၏အဆုံး၌ နာမဝိသေသနပုဒ်ပြောင်းပစ္စည်း **မည့်** ပါဝင်သည့်အပြင် ယင်းအမှီဝါကျကဏ္ဍသည် အမှီခံဝါကျကဏ္ဍ၌ရှိသော **ရက်** ဟူသော နာမ်ကိုလည်းအထူးပြုသည်။ ထို့ကြောင့် **ကျောင်းသားများ စာမေးပွဲ ဖြေရမည့်**သည် နာမဝိသေသနဝါကျကဏ္ဍ ဖြစ်သည်။

(ဂ) **ကြိယာဝိသေသနဝါကျကဏ္ဍ**။ ။ ကတ္တားနှင့်ကြိယာပါရှိပြီး ကြိယာဝိသေသန သဘော သက်ရောက်သော အမှီဝါကျကဏ္ဍကို **ကြိယာဝိသေသနဝါကျကဏ္ဍ** ဟု ခေါ်သည်။

၁၂၁။ ကြိယာဝိသေသနဝါကျကဏ္ဍ၉ မျိုးရှိသည်။ ယင်းဝါကျကဏ္ဍ ၉ မျိုးတို့မှာ–

(က) ဆန့်ကျင်ပြကြိယာဝိသေသနဝါကျကဏ္ဍ

(ခ) အချိန်ပြကြိယာဝိသေသနဝါကျကဏ္ဍ

(ဂ) အကျိုးမျှော်ပြကြိယာဝိသေသနဝါကျကဏ္ဍ

(ဃ) အကြောင်းပြကြိယာဝိသေသနဝါကျကဏ္ဍ

(င) နှိုင်းယှဉ်ပြကြိယာဝိသေသနဝါကျကဏ္ဍ

(စ) ကန့်သတ်ချက်ပြကြိယာဝိသေသနဝါကျကဏ္ဍ

(ဆ) ကန့်သတ်မဲ့ပြကြိယာဝိသေသနဝါကျကဏ္ဍ

(ဇ) ပမာဏပြကြိယာဝိသေသနဝါကျကဏ္ဍ

(ဈ) အမူအရာပြကြိယာဝိသေသနဝါကျကဏ္ဍတို့ဖြစ်ကြသည်။

၁၂၂။(က) **ဆန့်ကျင်ပြကြိယာဝိသေသနဝါကျကဏ္ဍ**။ ။ ဆန့်ကျင်ခြင်းအနက်ဖြင့် ကြိယာ ဝိသေသနသဘော သက်ရောက်သော အမှီဝါကျကဏ္ဍကို **ဆန့်ကျင်ပြကြိယာ ဝိသေသနဝါကျကဏ္ဍ**ဟု ခေါ်သည်။

ဆန့်ကျင်ပြကြိယာဝိသေသနဝါကျကဏ္ဍ၏အဆုံး၌ **သော်လည်း၊ စေကာမူ** စသည့် ဆန့်ကျင်ပြသမ္ဗန္ဓများ ပါဝင်ကြသည်။

**သာဓက။ ။**

| **ဆန့်ကျင်ပြကြိယာဝိသေသန ဝါကျကဏ္ဍ** | **အမှီခံဝါကျကဏ္ဍ** |
| --- | --- |
| (၁) မောင်မောင်သည်စာကြိုးစား**သော်လည်း** | ဂုဏ်ထူးမရချေ။ |
| (၂) ဦးမြသည်နေမကောင်း**စေကာမူ** | ရုံးသို့သွားသည်။ |

သာဓက(၁) ၌ **ဂုဏ်ထူးမရချေ**သည် အမှီခံဝါကျကဏ္ဍဖြစ်သည်။ **မောင်မောင်စာကြိုးစားသော်လည်း**သည် အမှီဝါကျကဏ္ဍဖြစ်သည်။ အမှီဝါကျကဏ္ဍ၏အဆုံး၌ ဆန့်ကျင်ပြသမ္ဗန္ဓ **သော်လည်း** ပါဝင်သည့်အပြင် ယင်းအမှီ ဝါကျကဏ္ဍသည် အမှီခံဝါကျကဏ္ဍ၌ရှိသော **မရချေ** ဟူသော ကြိယာကိုလည်း ဆန့်ကျင်သည့်အနက်ဖြင့် အထူးပြုသည်။ ထို့ကြောင့် **မောင်မောင်စာကြိုးစားသော်လည်း** သည် ဆန့်ကျင်ပြကြိယာဝိသေသနဝါကျကဏ္ဍ ဖြစ်သည်။

( ခ) **အချိန်ပြကြိယာဝိသေသနဝါကျကဏ္ဍ။ ။** အချိန်ကာလကို ဖော်ပြခြင်းဖြင့် ကြိယာဝိသေသန သဘော သက်ရောက်သော အမှီဝါကျကဏ္ဍကို **အချိန်ပြကြိယာဝိသေသန ဝါကျကဏ္ဍ**ဟု ခေါ်သည်။

အချိန်ပြ ကြိယာဝိသေသနဝါကျကဏ္ဍ၏အဆုံး၌ **သောအခါ၊ နှင့်တစ်ပြိုင်နက်** စသည့်အချိန်ပြ သမ္ဗန္ဓများပါဝင်ကြသည်။

**သာဓက။ ။**

| **အချိန်ပြကြိယာဝိသေသန ဝါကျကဏ္ဍ** | **အမှီခံဝါကျကဏ္ဍ** |
| --- | --- |
| (၁) ဆရာအတန်းထဲသို့ဝင်လာ **သောအခါ** | ကျောင်းသားများ မတ်တတ်ရပ်ကြသည်။ |
| (၂) လယ်သမားတို့သည် ကြားသည်**နှင့်တစ်ပြိုင်နက်** | မိုးသံကို ထွန်တုံးကို ပြင်ကြသည်။ |

သာဓက(၁) ၌ **ကျောင်းသားများ မတ်တတ်ရပ်ကြသည်**သည် အမှီခံဝါကျကဏ္ဍဖြစ်သည်။ **ဆရာအတန်းထဲသို့ ဝင်လာသောအခါ**သည် အမှီဝါကျကဏ္ဍဖြစ်သည်။ အမှီဝါကျကဏ္ဍ၏အဆုံး၌ အချိန်ပြသမ္ဗန္ဓ**သောအခါ** ပါဝင်သည့်အပြင် ယင်းအမှီဝါကျကဏ္ဍသည် အမှီခံဝါကျကဏ္ဍ၌ရှိသော **ရပ်ကြသည်**ဟူသော ကြိယာကိုလည်းအချိန်ကို ဖော်ပြခြင်းဖြင့် အထူးပြုသည်။ ထို့ကြောင့် **ဆရာအတန်းထဲသို့ ဝင်လာသောအခါ**သည် အချိန်ပြကြိယာဝိသေသနဝါကျကဏ္ဍ ဖြစ်သည်။

သာဓက (၂) ၌ **ထွန်တုံးကို ပြင်ကြသည်**သည် အမှီခံဝါကျကဏ္ဍဖြစ်သည်။ **လယ်သမားတို့သည် မိုးသံကို ကြားသည်နှင့်တစ်ပြိုင်နက်**သည် အမှီဝါကျကဏ္ဍဖြစ်သည်။ အမှီဝါကျကဏ္ဍ၏အဆုံး၌ အချိန်ပြသမ္ဗန္ဓ**နှင့်တစ်ပြိုင်နက်** ပါဝင်သည့်

အပြင် ယင်းအမှီဝါကျကဏ္ဍသည် အမှီခံဝါကျကဏ္ဍ၌ရှိသော **ပြင်ကြသည်** ဟူသော ကြိယာကိုလည်း အချိန်ကို ဖော်ပြခြင်းဖြင့် အထူးပြုသည်။ ထို့ကြောင့် **လယ်သမားတို့သည် မိုးသံကို ကြားသည်နှင့်တစ်ပြိုင်နက်**သည် အချိန်ပြ ကြိယာဝိသေသန ဝါကျကဏ္ဍဖြစ်သည်။

(ဂ) **အကျိုးမျှော်ပြကြိယာဝိသေသနဝါကျကဏ္ဍ**။ ။ အကျိုးတစ်စုံတစ်ရာ မျှော်လင့်ခြင်းအနက်ဖြင့် ကြိယာဝိသေသနသဘော သက်ရောက်သော အမှီဝါကျကဏ္ဍကို **အကျိုးမျှော်ပြကြိယာဝိသေသနဝါကျကဏ္ဍ**ဟု ခေါ်သည်။

အကျိုးမျှော်ပြကြိယာဝိသေသနဝါကျကဏ္ဍ၏အဆုံး၌ **အောင်၊ ရန်** စသည့် အကျိုးမျှော်ပြ သမ္ဗန္ဓများ ပါဝင်ကြသည်။

**သာဓက**။ ။

| **အကျိုးမျှော်ပြကြိယာဝိသေသန ဝါကျကဏ္ဍ** | **အမှီခံဝါကျကဏ္ဍ** |
|---|---|
| (၁) ကျောင်းသားတိုင်းလိမ္မာ**အောင်** | ဆရာက သွန်သင်သည်။ |
| (၂) မီးဘေးကို ကာကွယ်**ရန်** | ရွာသားတိုင်း ကင်းစောင့်ကြသည်။ |

သာဓက (၁) ၌ **ဆရာကသွန်သင်သည်** သည် အမှီခံဝါကျကဏ္ဍဖြစ်သည်။ **ကျောင်းသားတိုင်း လိမ္မာအောင်**သည် အမှီဝါကျကဏ္ဍဖြစ်သည်။ အမှီဝါကျကဏ္ဍ၏အဆုံး၌ အကျိုးမျှော်ပြသမ္ဗန္ဓ**အောင်**ပါဝင်သည့်အပြင် ယင်းအမှီဝါကျကဏ္ဍသည် အမှီခံဝါကျကဏ္ဍ၌ရှိသော **သွန်သင်သည်**ဟူသောကြိယာကိုလည်း အကျိုးတစ်စုံတစ်ရာ မျှော်လင့်ခြင်းအနက်ဖြင့် အထူးပြုသည်။ ထို့ကြောင့် **ကျောင်းသားတိုင်း လိမ္မာအောင်**သည် အကျိုးမျှော်ပြ ကြိယာဝိသေသနဝါကျကဏ္ဍ ဖြစ်သည်။

သာဓက (၂) ၌ **ရွာသားတိုင်းကင်းစောင့်ကြသည်** သည် အမှီခံဝါကျကဏ္ဍဖြစ်သည်။ **မီးဘေးကို ကာကွယ်ရန်**သည် အမှီဝါကျကဏ္ဍဖြစ်သည်။ အမှီဝါကျကဏ္ဍ၏အဆုံး၌ အကျိုး မျှော်ပြသမ္ဗန္ဓ **ရန်**ပါဝင်သည့်အပြင် ယင်းအမှီဝါကျကဏ္ဍသည် အမှီခံ ဝါကျကဏ္ဍ၌ ရှိသော **ကင်းစောင့်ကြသည်** ဟူသော ကြိယာကိုလည်း အကျိုးတစ်စုံတစ်ရာ မျှော်လင့်ခြင်းအနက်ဖြင့် အထူးပြုသည်။ ထို့ကြောင့် **မီးဘေးကို ကာကွယ်ရန်**သည် အကျိုးမျှော်ပြ ကြိယာဝိသေသနဝါကျကဏ္ဍဖြစ်သည်။

(ဃ) **အကြောင်းပြကြိယာဝိသေသနဝါကျကဏ္ဍ**။ ။ အကြောင်းပြခြင်းအနက်ဖြင့် ကြိယာဝိသေသနသဘော သက်ရောက်သော အမှီဝါကျကဏ္ဍကို **အကြောင်းပြ ကြိယာဝိသေသနဝါကျကဏ္ဍ** ဟု ခေါ်သည်။

အကြောင်းပြကြိယာဝိသေသနဝါကျကဏ္ဍ၏အဆုံး၌ **သောကြောင့်၊ သဖြင့်** စသည့် အကြောင်းပြသမ္ဗန္ဓများပါဝင်ကြသည်။

**သာဓက**။ ။

| **အကြောင်းပြကြိယာဝိသေသန ဝါကျကဏ္ဍ** | **အမှီဝါကျကဏ္ဍ** |
|---|---|
| (၁) သူကူညီ**သောကြောင့်** | ကျွန်တော်၏လုပ်ငန်းများ အောင်မြင်သည်။ |
| (၂) မောင်မောင်သည်လိမ္မာ**သဖြင့်** | လူကြီးများက ချစ်ကြသည်။ |

သာဓက(၁) ၌ **ကျွန်တော်၏လုပ်ငန်းများ အောင်မြင်သည်**သည် အမှီခံဝါကျကဏ္ဍဖြစ်သည်။ သူ**ကူညီသောကြောင့်**သည် အမှီဝါကျကဏ္ဍဖြစ်သည်။ အမှီဝါကျကဏ္ဍ၏အဆုံး၌ အကြောင်းပြသမ္ဗန္ဓ **သောကြောင့်** ပါဝင်သည့်အပြင် ယင်းအမှီ ဝါကျကဏ္ဍသည် အမှီခံဝါကျကဏ္ဍ၌ရှိသော **အောင်မြင်သည်** ဟူသော ကြိယာကိုလည်းအကြောင်းပြခြင်းအနက်ဖြင့် အထူးပြုသည်။ ထို့ကြောင့် **သူကူညီသောကြောင့်** သည် အကြောင်းပြကြိယာဝိသေသနဝါကျကဏ္ဍ ဖြစ်သည်။

သာဓက(၂) ၌ **လူကြီးများက ချစ်ကြသည်**သည် အမှီခံဝါကျကဏ္ဍဖြစ်သည်။ **မောင်မောင်သည် လိမ္မာသဖြင့်** သည် အမှီဝါကျကဏ္ဍဖြစ်သည်။ အမှီဝါကျကဏ္ဍ၏အဆုံး၌ အကြောင်းပြသမ္ဗန္ဓ**သဖြင့်** ပါဝင်သည့်အပြင် ယင်း အမှီဝါကျကဏ္ဍသည် အမှီခံဝါကျကဏ္ဍ၌ ရှိသော **ချစ်ကြသည်**ဟူသော ကြိယာကိုလည်း အကြောင်းပြခြင်းအနက်ဖြင့် အထူးပြုသည်။ ထို့ကြောင့် **မောင်မောင်သည် လိမ္မာသဖြင့်**သည် အကြောင်းပြကြိယာဝိသေသနဝါကျ ကဏ္ဍဖြစ်သည်။

(င) **နှိုင်းယှဉ်ပြကြိယာဝိသေသနဝါကျကဏ္ဍ။ ။** သက်ရှိ၊ သက်မဲ့ စသည်တို့ကို တစ်ခုနှင့်တစ်ခု နှိုင်းယှဉ်သည့်အနက်ဖြင့် ကြိယာဝိသေသနသဘော သက်ရောက်သော အမှီဝါကျကဏ္ဍကို **နှိုင်းယှဉ်ပြ ကြိယာဝိသေသနဝါကျကဏ္ဍ** ဟု ခေါ်သည်။

နှိုင်းယှဉ်ပြကြိယာဝိသေသနဝါကျကဏ္ဍ၏အဆုံး၌ **သကဲ့သို့၊ သလို** စသည့် နှိုင်းယှဉ်ပြသမ္ဗန္ဓများ ပါဝင်ကြသည်။

သာဓက။ ။

| **နှိုင်းယှဉ်ပြကြိယာဝိသေသန ဝါကျကဏ္ဍ** | **အမှီခံဝါကျကဏ္ဍ** |
|---|---|
| (၁) ခြင်္သေ့မင်းသည်သတ္တိရှိ**သကဲ့သို့** | မြန်မာ့တပ်မတော်သားတို့သည် သတ္တိ ရှိကြသည်။ |
| (၂) ရွှေ၏အရောင်သည်ဝါဝင်း**သလို** | စပါးပုံများသည် ဝါဝင်းနေသည်။ |

သာဓက(၁)၌ **မြန်မာ့တပ်မတော်သားတို့သည် သတ္တိရှိကြသည်** သည် အမှီခံဝါကျကဏ္ဍဖြစ်သည်။ **ခြသေ့်မင်းသည် သတ္တိရှိသကဲ့သို့**သည် အမှီဝါကျကဏ္ဍဖြစ်သည်။ အမှီဝါကျကဏ္ဍ၏အဆုံး၌ နှိုင်းယှဉ်ပြသမ္ဗန္ဓ**သကဲ့သို့** ပါဝင်သည့်အပြင် ယင်းအမှီဝါကျကဏ္ဍသည် အမှီခံဝါကျကဏ္ဍ၌ရှိသော **သတ္တိရှိကြသည်** ဟူသော ကြိယာကိုလည်း နှိုင်းယှဉ်သည့်အနက်ဖြင့် အထူးပြုသည်။ ထို့ကြောင့် **ခြသေ့်မင်းသည် သတ္တိရှိသကဲ့သို့**သည် နှိုင်းယှဉ်ပြကြိယာဝိသေသန ဝါကျကဏ္ဍဖြစ်သည်။

သာဓက(၂ ) ၌ **စပါးပုံများသည် ဝါဝင်းနေသည်** သည်အမှီခံ ဝါကျကဏ္ဍဖြစ်သည်။ **ရွှေ၏အရောင်သည် ဝါဝင်းသလို** သည် အမှီဝါကျကဏ္ဍဖြစ်သည်။ အမှီဝါကျကဏ္ဍ၏အဆုံး၌ နှိုင်းယှဉ်ပြသမ္ဗန္ဓ**သလို** ပါဝင်သည့်အပြင် ယင်းအမှီဝါကျကဏ္ဍသည် အမှီခံဝါကျကဏ္ဍ၌ရှိသော **ဝါဝင်းနေသည်**ဟူသော ကြိယာကိုလည်း နှိုင်းယှဉ်သည့်အနက်ဖြင့် အထူးပြုသည်။ ထို့ကြောင့် **ရွှေ၏အရောင်သည် ဝါဝင်းသလို**သည် နှိုင်းယှဉ်ပြ ကြိယာဝိသေသနဝါကျကဏ္ဍဖြစ်သည်။

(စ) **ကန့်သတ်ချက်ပြကြိယာဝိသေသနဝါကျကဏ္ဍ**။ ။ တစ်စုံတစ်ရာသော အခြေအနေကို ကန့်သတ်သည့်အနက်ဖြင့်ဖြစ်စေ၊ စည်းကမ်းသတ်မှတ်သည့် အနက်ဖြင့်ဖြစ်စေ ကြိယာဝိသေသန သဘောသက်ရောက်သော အမှီဝါကျကဏ္ဍကို **ကန့်သတ်ချက်ပြ ကြိယာဝိသေသနဝါကျကဏ္ဍ**ဟု ခေါ်သည်။

ကန့်သတ်ချက်ပြ ကြိယာဝိသေသနဝါကျကဏ္ဍ၏အဆုံး၌ **လျှင်၊ မှ** စသည့် ကန့်သတ်ချက်ပြသမ္ဗန္ဓများ ပါဝင်ကြသည်။

**သာဓက**။ ။

| | **ကန့်သတ်ချက်ပြကြိယာဝိသေသန ဝါကျကဏ္ဍ** | **အမှီခံဝါကျကဏ္ဍ** |
|---|---|---|
| (၁) | သားသမီးလိမ္မာ**လျှင်** | မိဘစိတ်ချမ်းသာမည်။ |
| (၂) | သင်တို့သည်ဘာသာတိုင်း၌ အမှတ် ၄၀ ရ**မှ** | စာမေးပွဲအောင်မည်။ |

သာဓက(၁)၌ **မိဘစိတ်ချမ်းသာမည်**သည် အမှီခံဝါကျကဏ္ဍ ဖြစ်သည်။ **သားသမီးလိမ္မာလျှင်**သည် အမှီဝါကျကဏ္ဍဖြစ်သည်။ အမှီဝါကျကဏ္ဍ၏အဆုံး၌ ကန့်သတ်ချက်ပြသမ္ဗန္ဓ **လျှင်**ပါဝင်သည့်အပြင် ယင်းအမှီဝါကျကဏ္ဍသည် အမှီခံဝါကျကဏ္ဍ၌ရှိသော **စိတ်ချမ်းသာမည်**ဟူသော ကြိယာကိုလည်း ကန့်သတ်သည့် အနက်ဖြင့် အထူးပြုသည်။ ထို့ကြောင့် **သားသမီးလိမ္မာလျှင်**သည် ကန့်သတ်ချက်ပြ ကြိယာဝိသေသနဝါကျကဏ္ဍဖြစ်သည်။

သာဓက(၂)၌ **စာမေးပွဲအောင်မည်**သည် အမှီခံဝါကျကဏ္ဍ ဖြစ်သည်။ **သင်တို့သည် ဘာသာတိုင်း၌ အမှတ် ၄၀ ရမှ** သည်အမှီဝါကျကဏ္ဍဖြစ်သည်။ အမှီဝါကျကဏ္ဍ၏အဆုံး၌ ကန့်သတ်ချက်ပြသမ္ဗန္ဓ**မှ** ပါဝင်သည့်အပြင် ယင်းအမှီဝါကျကဏ္ဍသည် အမှီခံဝါကျကဏ္ဍ၌ရှိသော **စာမေးပွဲအောင်မည်** ဟူသော ကြိယာ

ကိုလည်း ကန့်သတ်သည့်အနက်ဖြင့် အထူးပြုသည်။ ထို့ကြောင့် **သင်တို့သည် ဘာသာတိုင်း၌ အမှတ် ၄၀ ရမှ**သည် ကန့်သတ်ချက်ပြ ကြိယာဝိသေသနဝါကျ ကဏ္ဍ ဖြစ်သည်။

(ဆ) **ကန့်သတ်မဲ့ပြကြိယာဝိသေသနဝါကျကဏ္ဍ**။ ။တစ်စုံတစ်ရာသော အခြေအနေကို ကန့်သတ်ခြင်းမရှိသည့်အနက်ဖြင့်ဖြစ်စေ၊ စည်းကမ်းသတ်မှတ်ခြင်း မရှိသည့် အနက်ဖြင့်ဖြစ်စေ ကြိယာဝိသေသနသဘောသက်ရောက်သော အမှီဝါကျကဏ္ဍကို **ကန့်သတ်မဲ့ပြကြိယာဝိသေသနဝါကျကဏ္ဍ**ဟုခေါ်သည်။

ကန့်သတ်မဲ့ပြကြိယာဝိသေသနဝါကျကဏ္ဍ၌ **ဖြစ်စေ...မ ...ဖြစ်စေ၊ လျှင်သော်လည်းကောင်း...လျှင်သော်လည်းကောင်း** စသည့် ကန့်သတ်မဲ့ပြသမ္ဗန္ဓများ ပါဝင်ကြသည်။

**သာဓက**။ ။

| ကန့်သတ်မဲ့ပြကြိယာဝိသေသန ဝါကျကဏ္ဍ | | အမှီခံဝါကျကဏ္ဍ |
|---|---|---|
| (၁) | မိုးရွာသည်**ဖြစ်စေ၊ မ**ရွာသည်**ဖြစ်စေ** | ကျွန်တော်လာမည်။ |
| (၂) | ဖခင်ကဆုံးမ**လျှင်သော်လည်းကောင်း၊** မိခင်ကဆုံးမလျှင် **သော်လည်းကောင်း** | ကျွန်တော်နာခံလေ့ ရှိပါသည်။ |

သာဓက(၁)၌ **ကျွန်တော်လာမည်** သည် အမှီခံဝါကျကဏ္ဍဖြစ်သည်။ **မိုးရွာသည်ဖြစ်စေ၊ မရွာသည်ဖြစ်စေ**သည် အမှီဝါကျ ကဏ္ဍဖြစ်သည်။ အမှီဝါကျကဏ္ဍ၌ ကန့်သတ်မဲ့ပြသမ္ဗန္ဓ **ဖြစ်စေ...မ ...ဖြစ်စေ** ပါဝင်သည့်အပြင် ယင်းအမှီဝါကျ ကဏ္ဍသည် အမှီခံဝါကျကဏ္ဍ၌ရှိသော **လာမည်**ဟူသော ကြိယာကို ကန့်သတ်ခြင်း မရှိသည့် အနက်ဖြင့်လည်း အထူးပြုသည်။ ထို့ကြောင့် **မိုးရွာသည်ဖြစ်စေ၊ မရွာသည်ဖြစ်စေ**သည် ကန့်သတ်မဲ့ပြ ကြိယာဝိသေသနဝါကျကဏ္ဍ ဖြစ်သည်။

သာဓက(၂)၌ **ကျွန်တော် နာခံလေ့ရှိပါသည်**သည် အမှီခံဝါကျကဏ္ဍ ဖြစ်သည်။ **ဖခင်ကဆုံးမလျှင်သော်လည်းကောင်း၊ မိခင်က ဆုံးမလျှင်သော်လည်းကောင်း** သည် အမှီဝါကျကဏ္ဍဖြစ်သည်။ အမှီဝါကျကဏ္ဍ၌ ကန့်သတ်မဲ့ပြသမ္ဗန္ဓ **လျှင်သော်လည်းကောင်း ... လျှင်သော်လည်းကောင်း** ပါဝင်သည့်အပြင် ယင်းအမှီဝါကျ ကဏ္ဍသည် အမှီခံဝါကျကဏ္ဍ၌ရှိသော **နာခံလေ့ရှိပါသည်**ဟူသော ကြိယာကို ကန့်သတ်ခြင်းမရှိသည့် အနက်ဖြင့်လည်း အထူးပြုသည်။ ထို့ကြောင့် **ဖခင်က ဆုံးမလျှင်သော်လည်းကောင်း၊ မိခင်က ဆုံးမလျှင်သော်လည်းကောင်း** သည် ကန့်သတ်မဲ့ပြ ကြိယာဝိသေသနဝါကျကဏ္ဍဖြစ်သည်။

(ဇ) **ပမာဏပြကြိယာဝိသေသနဝါကျကဏ္ဍ**။ ။ ပမာဏကို ဖော်ပြခြင်းဖြင့် ကြိယာ ဝိသေသန သဘောသက်ရောက်သော အမှီဝါကျကဏ္ဍကို **ပမာဏပြ ကြိယာ ဝိသေသနဝါကျကဏ္ဍ** ဟု ခေါ်သည်။

ပမာဏပြကြိယာဝိသေသနဝိကျကထ္တာ၏အဆုံး၌ **သလောက်၊ ကာမျှဖြင့်** စသည့် ပမာဏပြသမ္ဗန္ဓများ ပါဝင်ကြသည်။

**သာဓက။** ။

| **ပမာဏပြကြိယာဝိသေသန ဝိကျကထ္တာ** | **အမှီခံဝိကျကထ္တာ** |
|---|---|
| (၁) ကျွန်ုပ်၏အိမ်တွင်နေချင်**သလောက်** | သင်နေနိုင်ပါသည်။ |
| (၂) သင်သည် တစ်ကြိမ်တစ်ခါရှုံး**ကာမျှဖြင့်** | စိတ်အားမလျှော့သင့်ပေ။ |

သာဓက(၁) ၌ **သင်နေနိုင်ပါသည်**သည် အမှီခံဝိကျကထ္တာ ဖြစ်သည်။ **ကျွန်ုပ်၏အိမ်တွင်နေချင်သလောက်**သည် အမှီဝိကျကထ္တာဖြစ်သည်။ အမှီဝိကျကထ္တာ၏ အဆုံး၌ ပမာဏပြသမ္ဗန္ဓ **သလောက်** ပါဝင်သည့်အပြင် ယင်းအမှီဝိကျကထ္တာ သည် အမှီခံဝိကျကထ္တာ၌ရှိသော **နေနိုင်ပါသည်** ဟူသော ကြိယာကိုလည်း ပမာဏကို ဖော်ပြခြင်းဖြင့် အထူးပြုသည်။ ထို့ကြောင့် **ကျွန်ုပ်၏အိမ်တွင် နေချင်သလောက်**သည် ပမာဏပြ ကြိယာဝိသေသနဝိကျကထ္တာဖြစ်သည်။

သာဓက(၂) ၌ **စိတ်အားမလျှော့သင့်ပေ**သည် အမှီခံဝိကျကထ္တာ ဖြစ်သည်။ **သင်သည် တစ်ကြိမ်တစ်ခါ ရှုံးကာမျှဖြင့်** သည် အမှီဝိကျကထ္တာဖြစ်သည်။ အမှီဝိကျကထ္တာ၏အဆုံး၌ ပမာဏပြသမ္ဗန္ဓ**ကာမျှဖြင့်** ပါဝင်သည့်အပြင် ယင်းအမှီဝိကျကထ္တာသည် အမှီခံဝိကျကထ္တာ၌ရှိသော **မလျှော့သင့်ပေ**ဟူသော ကြိယာကိုလည်း ပမာဏကိုဖော်ပြခြင်းဖြင့် အထူးပြုသည်။ ထို့ကြောင့် **သင်သည် တစ်ကြိမ်တစ်ခါ ရှုံးကာမျှဖြင့်**သည် ပမာဏပြကြိယာဝိသေသနဝိကျကထ္တာ ဖြစ်သည်။

(ဈ) **အမူအရာပြကြိယာဝိသေသနဝိကျကထ္တာ။** ။ အမူအရာကို ဖော်ပြခြင်းဖြင့် ကြိယာဝိသေသသနသဘော သက်ရောက်သောအမှီဝိကျကထ္တာကို **အမူအရာပြကြိယာဝိသေသန ဝိကျကထ္တာ**ဟု ခေါ်သည်။

အမူအရာပြကြိယာဝိသေသနဝိကျကထ္တာ၏အဆုံး၌ **လျက်၊ ကာ** စသည့် တစ်ပြိုင်နက်ပြသမ္ဗန္ဓနှင့် တစ်ခုပြီးတစ်ခုပြသမ္ဗန္ဓများ ပါဝင်ကြသည်။

**သာဓက။** ။

| **အမူအရာပြကြိယာဝိသေသန ဝိကျကထ္တာ** | **အမှီခံဝိကျကထ္တာ** |
|---|---|
| (၁) ကလေးများသည် ခုန်ပေါက်**လျက်** | ကျောင်းမှပြန်လာကြသည်။ |
| (၂) မောင်မောင်သည်ဘောလုံးကို တစ်ယောက်တည်းလွတ်လွတ်ကျွတ်ကျွတ် သယ်လာ**ကာ** | ဂိုးပေါက်ထဲသို့ ကန်သွင်းလိုက်သည်။ |

သာဓက (၁) ၌ **ကျောင်းမှပြန်လာကြသည်**သည် အမှီခံဝါကျကဏ္ဍဖြစ်သည်။ **ကလေးများသည် ခုန်ပေါက်လျက်**သည် အမှီဝါကျကဏ္ဍဖြစ်သည်။ အမှီဝါကျကဏ္ဍ၏အဆုံး၌ တစ်ပြိုင်နက်ပြသမ္ဗန္ဓ **လျက်** ပါဝင်သည့်အပြင် ယင်းအမှီဝါကျကဏ္ဍသည် အမှီခံဝါကျကဏ္ဍ၌ရှိသော **ပြန်လာကြသည်**ဟူသော ကြိယာကိုလည်း အမူအရာကို ဖော်ပြခြင်းဖြင့် အထူးပြုသည်။ ထို့ကြောင့် **ကလေးများသည် ခုန်ပေါက်လျက်** သည် အမူအရာပြ ကြိယာဝိသေသနဝါကျကဏ္ဍဖြစ်သည်။

သာဓက (၂) ၌ **ဂိုးပေါက်ထဲသို့ ကန်သွင်းလိုက်သည်**သည် အမှီခံဝါကျကဏ္ဍဖြစ်သည်။ **မောင်မောင်သည် ဘောလုံးကို တစ်ယောက်တည်း လွတ်လွတ်ကျွတ်ကျွတ် သယ်လာကာ**သည် အမှီဝါကျကဏ္ဍဖြစ်သည်။ အမှီဝါကျကဏ္ဍ၏အဆုံး၌ တစ်ခုပြီး တစ်ခုပြ သမ္ဗန္ဓ **ကာ** ပါဝင်သည့်အပြင် ယင်းအမှီဝါကျကဏ္ဍသည် အမှီခံဝါကျကဏ္ဍ၌ ရှိသော **ကန်သွင်းလိုက်သည်** ဟူသော ကြိယာကိုလည်း အမူအရာကို ဖော်ပြခြင်းဖြင့် အထူးပြုသည်။ ထို့ကြောင့် **မောင်မောင်သည် ဘောလုံးကို တစ်ယောက်တည်း လွတ်လွတ်ကျွတ်ကျွတ်သယ်လာကာ**သည် အမူအရာပြ ကြိယာဝိသေသန ဝါကျကဏ္ဍ ဖြစ်သည်။

## လေ့ကျင့်ခန်း

၁။ ဝါကျကဏ္ဍဟူသည် အဘယ်နည်း။ ဝါကျကဏ္ဍဘယ်နှမျိုး ရှိသနည်း။ ရေတွက်ပြပါ။

၂။ အမှီဝါကျကဏ္ဍနှင့်အမှီခံဝါကျကဏ္ဍခြားနားပုံကို သာဓကနှင့်တကွ ဖော်ပြပါ။

၃။ နာမ်ဝါကျကဏ္ဍဟူသည် အဘယ်နည်း။ ယင်းဝါကျကဏ္ဍပါသော ဝါကျရော ၂ ခုဖွဲ့ပါ။

၄။ နာမဝိသေသနဝါကျကဏ္ဍဟူသည် အဘယ်နည်း။ ယင်းဝါကျကဏ္ဍပါသော ဝါကျရော ၂ ခု ဖွဲ့ပါ။

၅။ ကြိယာဝိသေသနဝါကျကဏ္ဍဟူ သည် အဘယ်နည်း။ ယင်းဝါကျကဏ္ဍပါသော ဝါကျရော ၂ ခုဖွဲ့ပါ။

၆။ ကြိယာဝိသေသနဝါကျကဏ္ဍ ဘယ်နှမျိုးရှိသနည်း။ ရေတွက် ပြပါ။

၇။ အောက်ပါသမ္ဗန္ဓများ ပါဝင်သော ဝါကျရောများဖွဲ့ပါ။

စေကာမူ၊ သောအခါ၊ ရန်၊ သဖြင့်၊ သကဲ့သို့၊ လျှင်၊ လျှင်သော်လည်းကောင်း… လျှင်သော်လည်းကောင်း၊ ကာမျှဖြင့်၊ လျက်။

# အတွဲ ၂၊ အခန်း ၆

# မြန်မာစာ၊ မြန်မာစကားဆိုင်ရာ သိမှတ်ဖွယ်များ

## မြန်မာအက္ခရာ

### မြန်မာအက္ခရာ

၁။ **မူရင်းအရေးအသားများ။** ။ မြန်မာအက္ခရာအရေးအသားကို မြန်မာသက္ကရာဇ် ၄၀၀–ကျော် (အေဒီ–၁၁ ရာစု)မှစ၍ တွေ့ရှိခဲ့ရသည်။ ထိုအချိန်မှစ၍ ယနေ့အထိ ခေတ်အဆက်ဆက် အသုံးပြုခဲ့သော မြန်မာအက္ခရာတို့သည် နှစ်ကာလကြာလာသည်နှင့်အမျှ ပုံသဏ္ဌာန်အဆင့်ဆင့် ပြောင်းလဲခဲ့သည်။ ထိုသို့ပြောင်းလဲခဲ့ပုံကို မူရင်းအရေးအသားများကို လေ့လာခြင်းဖြင့်သိနိုင်သည်။ မူရင်းအရေးအသားဆိုသည်မှာ မူလရေးသားခဲ့သည့် အချိန်မှစ၍ ယနေ့တိုင် မူလအတိုင်း တည်ရှိနေသောစာများကို ဆိုလိုသည်။ တစ်နည်းအားဖြင့် တစ်ဆင့်ကူးရေးထားခြင်းမဟုတ်သည့်စာများကို ဆိုလိုသည်။ ရှေးခေတ်မူရင်းအရေးအသားများကို ရှေးဟောင်းအုတ်ခွက်စာ၊ စဉ့်ကွင်းစာ၊ ကျောက်စာ၊ မင်စာ၊ ပေစာ၊ ပုရပိုက်စာ၊ ခေါင်းလောင်းစာ စသည်တို့၌ တွေ့နိုင်သည်။

၂။ **အုတ်ခွက်စာများ။** ။ ပုဂံခေတ်က ရှေးမြန်မာတို့သည် ရွှံ့စေးပြားပေါ်တွင် ဗုဒ္ဓရုပ်ပွား ပုံတော်များ ပုံနှိပ်၍ မီးဖုတ်ပြီးအုတ်ခွက်ဘုရားများ ပြုလုပ်ပူဇော်ခဲ့ကြသည်။ အုတ်ခွက်ဘုရားများ၏ အောက်ခြေနှင့် ကျောဘက်တွင် ကုသိုလ်ရှင်၏ ဆုတောင်းစာများ ပါတတ်သည်။ ယင်းစာများသည် အလွန်ခိုင်လုံသော မူရင်းအရေးအသားများ ဖြစ်ပေသည်။ ပုဂံခေတ် အနော်ရထာမင်း၊ စောလူးမင်းနှင့် ကျန်စစ်သားမင်းတို့လက်ထက်တွင် အုတ်ခွက်ပြုလုပ်ခြင်း ခေတ်စားခဲ့သည်။ အုတ်ခွက်ပြုလုပ်ပူဇော်သူများတွင် အဆိုပါမင်းတို့ကိုယ်တိုင် ပါဝင်ခဲ့ကြသည်။

၃။ **စဉ့်ကွင်းစာ။** ။ ပုဂံခေတ်က ဘုရားတည်သော ကုသိုလ်ရှင်အချို့သည် မိမိတို့၏ ကောင်းမှုစေတီပုထိုးများကို ၅၅၀ ဇာတ်နိပါတ် သရုပ်ဖော်ရုပ်လုံး၊ ရုပ်ကြွအုတ်ချပ်များဖြင့် ပတ်ပတ်လည် စီခြယ်ပူဇော်ခဲ့ကြသည်။ အကွက်တစ်ကွက်တွင် ဇာတ်တစ်ဇာတ်ကျသော်လည်းကောင်း၊ ဇာတ်တစ်ဇာတ်ကို အကွက်များစွာဖြင့်သော်လည်းကောင်း ရုပ်ကြွပြုလုပ်ပြီး သက်ဆိုင်ရာဇာတ်နိပါတ်၏ အမည်နှင့်အမှတ်စဉ်၊ ဇာတ်အညွှန်းများကို ကမ္ဘည်းအက္ခရာ ရေးထိုးထားသည်။ ဤရုပ်ကြွများကို စဉ့်ကွင်းဟုခေါ်သည်။ စဉ့်ကွင်း၌ရေးထားသည့်စာကို စဉ့်ကွင်းစာဟုခေါ်သည်။ စဉ့်ကွင်းများကို အနော်ရထာမင်း (အေဒီ ၁၀၄၄–၁၀၇၇)မှစ၍ ပုဂံမင်းများ ပြုလုပ်ပူဇော်ခဲ့ကြသည်။ စေတီပုထိုး၏ ကုသိုလ်ရှင်နှင့်သမိုင်းကိုသိလျှင် ထိုစေတီ၌ရှိသည့် စဉ့်ကွင်းစာများ၏ ခုနှစ်သက္ကရာဇ်ကို တွက်ဆနိုင်သည်။

၄။ **ကျောက်စာ။** ။ သက္ကရာဇ်အခိုင်အမာပါရှိသော တွေ့ရှိရသမျှ မြန်မာကျောက်စာတို့တွင် မြန်မာသက္ကရာဇ် ၄၇၅–ခုနှစ် (အေဒီ ၁၁၁၃–ခန့်) ၌ ရေးထိုးခဲ့သည့် ရာဇကုမာရ်ကျောက်စာသည် အစောဆုံးပင်ဖြစ်သည်။ ထို့နောက်တွင်မူ ပုဂံခေတ်တစ်ခေတ်လုံးသာမက ပင်းယ၊ အင်းဝ၊ တောင်ငူ၊ ညောင်ရမ်း၊ ကုန်းဘောင်ခေတ်ထိအောင် ကျောင်းကန်ဘုရား ဒါယကာ၊ ကုသိုလ်ရှင်အချို့သည် မိမိတို့ကောင်းမှုကုသိုလ်နှင့်စပ်လျဉ်း၍ မော်ကွန်းကျောက်စာ များ ရေထိုးထားခဲ့ကြသည်။ ခေတ်အဆက်ဆက် ရေးထိုးထားခဲ့သည့် ကျောက်ထွင်းအက္ခရာများကို နှိုင်းယှဉ်လေ့လာခြင်းဖြင့် ခေတ်အသီးသီး၌ ရေးသားခဲ့ကြသည့် အက္ခရာပုံသဏ္ဌာန်တို့ကို သိနိုင်သည်။

၅။ **မင်စာ။** ။ ရှေးဂူဘုရားများတွင် အတွင်းဘက် အုတ်နံရံများ၌ မင်ဖြင့်ရေးထားသော စာများရှိတတ်သည်။ ဗုဒ္ဓဝင်၊ ဇာတ်နိပါတ် ပန်းချီသရုပ်ဖော်ပုံများနှင့်ဆိုင်သည့် စာတန်းများ၊ မူလ ကုသိုလ်ရှင်၏ ဆုတောင်းစာများ၊ နောက်ထပ်ပြုပြင်မွမ်းမံသူတို့၏ ဖြည့်စွက်မှတ်တမ်းများ၊ ထိုခေတ်ကမွေးဖွားသူတို့၏ ဇာတာခွင်များ စသည်ကို မင်ဖြင့်ရေးခဲ့ကြသဖြင့် ထိုစာတို့ကို မင်စာဟု ခေါ်သည်။ ပုဂံမြို့ လောကထိပ်ပန်ဂူဘုရားမှ ဇာတ်ကြီးဆယ်ဘွဲ့မင်စာများမှာ ထင်ရှား ကျော်ကြား သည်။ သက္ကရာဇ်အခိုင်အမာပါသော မင်စာများရှိသကဲ့သို့ သက္ကရာဇ်မပါသော မင်စာများလည်း ရှိသည်။ ပင်းယ၊ အင်းဝ၊ တောင်ငူ၊ ညောင်ရမ်း၊ ကုန်းဘောင်ခေတ်တိုင်အောင် မင်စာများကို တွေ့ရသည်။ ကျောက်စာများနည်းတူ ထိုမင်စာတို့မှလည်း ခေတ်အဆက်ဆက် အက္ခရာပုံသဏ္ဌာန် တို့ကို လေ့လာနိုင်သည်။

၆။ **ပေစာ၊ ပုရပိုက်စာ။** ။ ပေ၊ ပုရပိုက်တို့ကို စာရေးကိရိယာအဖြစ် ပုဂံခေတ်ကပင်စတင် အသုံးပြုခဲ့ကြမည်ဟု ယုံကြည်ရသည်။ သို့သော် နှစ်ကာလအလွန်ကြာညောင်းပြီဖြစ်၍ ထိုခေတ်က ပေ၊ ပုရပိုက်တို့ကို တွေ့နိုင်ရန် မလွယ်ကူတော့ချေ။ အစောဆုံးအနေနှင့် မြန်မာသက္ကရာဇ် ၁၀၀၀– ခန့် (အေဒီ ၁၇–ရာစု)က ရေးခဲ့သည့် ပေများကိုမူ တွေ့နိုင်ပေသေးသည်။ ထို့ကြောင့် သက္ကရာဇ် ၁၀၀၀ မှ ယနေ့ ၁၃၀၀ ကျော်အထိ၊ နှစ်ပေါင်း ၃၀၀–ကျော်အတွင်း ရေးသားခဲ့သည့် အက္ခရာတို့၏ ပုံသဏ္ဌာန်ကို ထို ပေ၊ ပုရပိုက်များတွင်လည်း တွေ့နိုင်သည်။

၇။ **ခေါင်းလောင်းစာ။** ။ ခေတ်အဆက်ဆက် စေတီပုထိုးများတွင် သွန်းလုပ် လှူဒါန်း ခဲ့သော သတ္တုခေါင်းလောင်းများ၌ ကုသိုလ်ရှင်၏ ကမ္ပည်းမှတ်တမ်းပါရှိတတ်သည်။ ယင်းစာများ သည်လည်း မူလအရေးအသားများဖြစ်၍ အက္ခရာပုံလေ့လာရာတွင် အသုံးဝင်သည်။

၈။ **ပုံနှိပ်စာ။** ။ ပထမမြန်မာပုံနှိပ်စာအုပ်ကို သက္ကရာဇ် ၁၁၃၈–ခု (အေဒီ–၁၇၇၆) တွင် ရောမမြို့၌ ပုံနှိပ်ခဲ့သည်။ အောက်မြန်မာနိုင်ငံ ရန်ကုန်မြို့တွင် သက္ကရာဇ် ၁၁၇၉–ခု (အေဒီ–၁၈၁၇) ၌ ပုံနှိပ်လုပ်ငန်း စတင်ပြီး အထက်မြန်မာနိုင်ငံ မန္တလေးရတနာပုံမြို့တော်တွင်လည်း သက္ကရာဇ် ၁၂၂၆–ခု (အေဒီ–၁၈၆၄)၌ စာပုံနှိပ်လုပ်ငန်း ပေါ်ပေါက်လာကာ ပုံနှိပ်စာများ ထွန်းကားလာသည်။

၉။ **အက္ခရာများ၏ ယေဘုယျပုံသဏ္ဌာန်။** ။ မြန်မာစာ အထင်အရှားတွေ့ရသည်မှစ၍ ယနေ့အထိ အနှစ် ၉၀၀–ခန့် ကြာမြင့်ခဲ့သည့် ကာလတစ်လျှောက် အက္ခရာတို့၏ပုံသဏ္ဌာန်သည် ပြောင်းလဲတန်သရွေ့ ပြောင်းလဲခဲ့ကြသည်။ သို့ရာတွင် ခြုံ၍ကြည့်ပါလျှင်မူ မြန်မာအက္ခရာ အများစု၏ ပုံသဏ္ဌာန်သည် ပုံဖမ်းမရလောက်အောင် ပြောင်းလဲခြင်းမရှိချေ။

မြန်မာသက္ကရာဇ် ၄၅၀–၅၀၀ ခန့် (အေဒီ ၁၀၉၀–၁၁၄၀ခန့်) မှစ၍ လေးထောင့် ဆန်သော အက္ခရာတို့ကို သုံးစွဲခဲ့ကြသည်။ လေးထောင့်အက္ခရာ **ခရာထောင့်**ကို ကျောက်စာများ၊ မင်စာများတွင် အမြောက်အမြား တွေ့ရသည်။ ပေရွက်ပေါ်တွင် မင်၊ စုတ်တံဖြင့် ရေးသည့် ပေစာများတွင်လည်း ခရာထောင့်ကိုပင် သုံးစွဲခဲ့ကြဟန် တူသည်။

ခရာထောင့်သည် လှပသေသပ်သလိုရှိသည်။ သို့သော် လက်တွေ့ရေးသားရာ၌မူ မထောင့်ထောင့်အောင် အားထုတ်ရသည်။ ထို့အတွက် အချိန်ယူရသည်။ ခပ်သွက်သွက်ရေးလျှင် ထောင့်မကျချေ။ ဤသို့ဖြင့် ထောင့်မကျသော၊ ခပ်ဝန်းဝန်းသဏ္ဌာန်ရှိသော အက္ခရာတို့ကိုလည်း ပြည်သူများသည် ခရာထောင့်နှင့်ယှဉ်တွဲလျက် သုံးစွဲခဲ့ကြသည်။ သက္ကရာဇ် ၈၁၁–ခုက အက္ခရာဝိုင်းဖြင့်

ရေးခဲ့သည့် မင်စာအချို့ကို ပုဂံ၊ မင်းနန်းသူရှိ ဘုရားသုံးဆူတွင်တွေ့နိုင်သည်။ ဤကာလ၌ အက္ခရာအဝိုင်း **ခရာဝန်း** နှင့် လေးထောင့်အက္ခရာ **ခရာထောင့်** ဟူ၍ နှစ်မျိုး ရှိနေသည်ကို တွေ့ရသည်။

တစ်ဖန် ပေရွက်၊ ထန်းရွက်တွင် စုတ်၊ ဆေးဖြင့်ရေးသည့်အခါ ထောင့်သောအက္ခရာကို အဆင်ပြေစွာ ရေးနိုင်သော်လည်း ကညစ်ဖြင့် ရေးသားသည့်အခါ ထောင့်သောအက္ခရာတို့ကို ရေးဆွဲရာ၌ အဆင်မပြေလှချေ။ ဝိုင်းဝိုင်းဆွဲမှသာ အဆင်ပြေသည်။ ဤသို့ဖြင့် အက္ခရာအဝိုင်း **ခရာဝန်း**ဘက်မှ အားသာလာခဲ့ဟန်ရှိသည်။

အချုပ်အားဖြင့်ဆိုသော် မြန်မာသက္ကရာဇ် ၄၅၀–၅၀၀မှ ၁၀၀၀–ခန့်အထိ အက္ခရာအထောင့်သုံးသည်ကိုတွေ့ရပြီး မြန်မာသက္ကရာဇ် ၈၀၀–မှစ၍ အက္ခရာအဝန်းသုံးသည်ကို တွေ့ရသည်။ သက္ကရာဇ် ၈၀၀–မှ ၁၀၀၀–အတွင်း၌မူ အက္ခရာအထောင့်ရော အဝန်းပါ သုံးကြသည်ဟု ဆိုနိုင်သည်။

၁၀။ **သဏ္ဌာန်ပြောင်းအက္ခရာများ။** ။ မြန်မာဗျည်းသရ အက္ခရာတို့တွင် မသိမသာ ပြောင်းလဲသော အက္ခရာများနှင့် သိသိသာသာ ပြောင်းလဲသော အက္ခရာများဟု နှစ်မျိုး နှစ်စား တွေ့ရသည်။ မသိမသာပြောင်းသော အက္ခရာတို့၏ ရေးသဏ္ဌာန်ကိုမြင်လျှင် မှတ်မိနိုင်သည်။ သာဓကအားဖြင့် ၊ ကို မြင်လျှင် **က** ဟုသိနိုင်သည်။ သိသိသာသာ ပြောင်းလဲသော အက္ခရာတို့မှာ **ဆ၊ ဇ၊ ည၊ ဒ၊ န၊ ဘ၊ ရ၊ သ၊ အ၊ ဣ၊ ဤ၊ ဦ၊ ဧ** တို့ ဖြစ်ကြသည်။

၁၁။ **ဆလိမ်ပြောင်းလဲပုံ။** ။ **ဆလိမ်**သည် မူလက အကြီးအသေး မညီသော ကွင်းလိမ် သဏ္ဌာန်ရှိသည်။ ထို့နောက်မှ ရှေ့ပိုင်းသည် **ခ** သဏ္ဌာန် ပြောင်းလာပြီး ယနေ့ပုံသို့ ရောက်လာသည်။

၁၂။ **ဇကွဲပြောင်းလဲပုံ။** ။ **ဇကွဲ** သည် မူလက ** င**၏ မျက်နှာဝအလယ်တွင် လျှာတိုကလေး ပါသည်။ ယင်းကမှ ထိုလျှာကလေးသည် အထက်ပိုင်းနှင့်ဆက်မိပြီး တစ်စတစ်စရှည်ထွက်လာသည်။ ထို့နောက် ပြန်တိုသွားကာ ယနေ့ပုံဖြစ်လာသည်။

၁၃။ **ညပြောင်းလဲပုံ။** ။ **ည**သည် မူလက ယနေ့ **သ**နှင့်ဆင်တူသည်။ ဦးခေါင်း၌ အတွန့်ပါတတ်သည်။ ဘယ်ဘက်အောက်တွင် အညှောက်တိုကလေးရှိသည်။ ထိုအညှောက်တိုသည် ရှည်ထွက်လာပြီး ယနေ့ပုံမျိုး ဖြစ်လာသည်။

၁၄။ **ဒထွေးပြောင်းလဲပုံ။** ။ **ဒထွေး**ကို ရှေးအုတ်ခွက်စာ၊ စဉ့်ကွင်းစာများ၌ သဏ္ဌာန်ဖြင့် တွေ့ရသည်။ ကျောက်စာများတွင်မူ ၊ ၊ သဏ္ဌာန်သုံးမျိုးဖြင့် တွေ့ရသည်။ ကျောက်စာတစ်ချပ်တည်းမှာပင် သဏ္ဌာန်သုံးမျိုးလုံးတွေ့သည့်အခါ တွေ့ရသည်။ နောင် ခရာဝန်းတွင်ကျယ်လာသောအခါ ဒ ပုံတည်တံ့လာခဲ့သည်။

၁၅။ **နငယ်ပြောင်းလဲပုံ။** ။ **နငယ်**သည် မူလက အမြီးတိုသည်။ ခေါင်းရောအမြီးပါ မထင်ရှားလှသော ပုံမျိုးလည်းရှိသည်။ နောင်သော် ခေါင်းထင်ရှားလာပြီး အမြီးရှည်ထွက်ကာ ယနေ့ပုံဖြစ်လာသည်။

၁၆။ **ဘကုန်းပြောင်းလဲပုံ**။ ။ **ဘကုန်း**သည် လေးထောင့်ဂငယ် ၏ ဘယ်ဘက်ထိပ်၌ အစွန်းငယ်ပါသည့် သဏ္ဌာန်ရှိသည်။ ခရာဝန်း ရေးသည့်အခါ ယနေ့ပုံဖြစ်လာသည်။

၁၇။ **ရကောက်ပြောင်းလဲပုံ**။ ။ **ရကောက်** သည် မူလက ညာဘက်သို့ လှည့်၍တိုသည့် ပုံရှိသည်။ အမြီး၊ ခေါင်း မထင်ရှားသော တုတ်ချောင်းတိုပုံလည်း တွေ့ရသည်။ သို့သော် အင်းဝခေတ်၌မူ ဤ သဏ္ဌာန် ဖြစ်လာသည်။ ထိုမှခေါင်းအဝိုက်သည် အောက်သို့ တစ်စတစ်စ ရှည်ဆင်းလာသည်။ ထို ကမှ ယနေ့ ရကောက် ဖြစ်လာသည်။

၁၈။ **သပြောင်းလဲပုံ**။ ။**သ** သည် ခရာထောင့် တွင်ကျယ်ချိန်၌ လေးထောင့် **ပ** တွင် ဘယ်ဘက်အောက်မှ အငုတ်ကလေးပါရုံမျှ သဏ္ဌာန်ရှိသည်။ ခရာဝန်း ရေးလာသောအခါ ယနေ့ပုံဖြစ်ပေါ်လာသည်။

၁၉။ **အ ပြောင်းလဲ ပုံ**။ ။ **အ** ကို ခရာထောင့် ရေးသည့်အခါ၌ ၊ ၊ ပုံသဏ္ဌာန်ဖြင့် တွေ့ရသည်။ ခရာဝန်း ရေးစ၌ ၊ သဏ္ဌာန်မျိုးလည်း တွေ့ရသည်။ ထိုမှတစ်ဆင့် ယနေ့ပုံဖြစ်လာသည်။

၂၀။ **အက္ခရာ ဣ ပြောင်းလဲပုံ**။ ။ အက္ခရာ **ဣ** သည် မူလက လိုင်းတွန့်နှစ်ခုသဏ္ဌာန် အက္ခရာဖြစ်သည်။ အခြေမပါ။ အခြားအက္ခရာများနှင့် မျဉ်းတစ်ညီတည်း ရေးလေ့ရှိသည်။ ထိုပုံမှ **က** နှစ်ဆင့်သဏ္ဌာန်၊ ထိုမှ အခြေထွက်၍ ယနေ့ပုံသို့ ကူးပြောင်းလာသည်။

၂၁။ **အက္ခရာ ဤ ပြောင်းလဲပုံ**။ ။အက္ခရာ **ဤ** သည် မူလက လိုင်းတွန့်တစ်ခုနှင့် ၎င်းအောက်မှ ညာဘက်ကိုဝိုက်၍ တက်သွားသော မျဉ်းတစ်ကြောင်းပါရှိသည်။ ထိုမျဉ်း အစွန်းနှစ်ဖက် ကွေ့ဝိုက်သွားရာမှ ယနေ့ပုံဖြစ်လာသည်။

၂၂။ **အက္ခရာ ဦ ပြောင်းလဲပုံ**။ ။အက္ခရာ **ဦ** သည် မူလက အက္ခရာ **ဉ** ၏ ဦးခေါင်း၌ အသတ်ပြောင်းပြန် သဏ္ဌာန်အမောက်ငယ်ပါသည်။ ထိုအမောက်ငယ်သည် နောင်သော် လုံးကြီးတင် သဏ္ဌာန်ထိ ပိတ်သွားပြီး အဆန်ခတ်ကာ ယနေ့ပုံဖြစ်လာသည်။

၂၃။ **အက္ခရာ ဧ ပြောင်းလဲပုံ**။ ။ အက္ခရာ **ဧ** သည် မူလက အရွယ်ပုံ အသေးအကြီးနှစ်မျိုးတွေ့ရသည်။ ခရာဝန်းရေးသည့်အခါ အခြားအက္ခရာများနှင့် အရွယ်တူပြီး အောက်ပိုင်းအစွန်း ကွေးဝင်သွားသည်။

၂၄။ မြန်မာအက္ခရာပုံသဏ္ဌာန် အဆင့်ဆင့်ပြောင်းလဲပုံကို အကျဉ်းမျှဖော်ပြခဲ့ပြီ။ ယခု ဖော်ပြခဲ့သော အက္ခရာများ၏ ပြောင်းလဲပုံနှင့် အခြားအက္ခရာများ၏ ပြောင်းလဲပုံတို့ကို အက္ခရာပုံ နှိုင်းယှဉ်ပြ ဓာတ်ပုံဇယား၌ လေ့လာကြည့်ရှုနိုင်သည်။ ယခုထက် ကျယ်ကျယ်ဝန်းဝန်း လေ့လာ ဖွယ်များနှင့် ယခု ဖော်ပြမထားသော သရသင်္ကေတများ၊ သံပြောင်းသင်္ကေတများ၊ ဗျည်းတွဲများ၊ ပါဌ်ဆင့် အက္ခရာများ၊ ဂဏန်းများ၏ ပုံသဏ္ဌာန်ပြောင်းလဲပုံတို့ကို အဆင့်မြင့် မြန်မာစာ လေ့လာသူတို့ ဆက်လက်လေ့လာကြရသည်။

# အက္ခရာပုံနှိုင်းယှဉ်ပြ ဓာတ်ပုံဇယား

| ပုဂံခေတ် | | အင်းဝခေတ် | ကုန်းဘောင်ခေတ် | | ယခုခေတ် |
|---|---|---|---|---|---|
| အုတ်ခွက်စာ | ကျောက်စာ | ကျောက်စာ | ကျောက်စာ | ပေ၊ပုရပိုက်စာ | ပုံနှိပ်စာ |
| က | က | က | က | က | က |
| ခ | ခ | ခ | ခ | ခ | ခ |
| ဂ | ဂ | ဂ | ဂ | ဂ | ဂ |
|  | ဃ | ဃ | ဃ | ဃ | ဃ |
| င | င | င | င | င | င |
| စ | စ | စ | စ | စ | စ |
| ဆ | ဆ | ဆ | ဆ | ဆ | ဆ |

# အက္ခရာပုံနှိုင်းယှဉ်ပြ ဓာတ်ပုံဇယား

| ပုဂံခေတ် | | အင်းဝခေတ် | ကုန်းဘောင်ခေတ် | | ယခုခေတ် |
|---|---|---|---|---|---|
| အုတ်ခွက်စာ | ကျောက်စာ | ကျောက်စာ | ကျောက်စာ | ပေ၊ပုရပိုက်စာ | ပုံနှိပ်စာ |
| | | | | | ဇ |
| | | | | | ဈ |
| | | | | | ည |
| | | | | | ဋ |
| | | | | | ဌ |
| | | | | | ဍ |
| | | | | | ဎ |

# အက္ခရာပုံနှိုင်းယှဉ်ပြ ခေတ်ပုံဇယား

| ပုဂံခေတ် | | အင်းဝခေတ် | ကုန်းဘောင်ခေတ် | | ယခုခေတ် |
|---|---|---|---|---|---|
| အုတ်ခွက်စာ | ကျောက်စာ | ကျောက်စာ | ကျောက်စာ | ပေ၊ပုရပိုက်စာ | ပုံနှိပ်စာ |
| | | | | | |
| | | | | | |
| | | | | | |
| | | | | | |
| | | | | | |
| | | | | | |
| | | | | | |

# အက္ခရာပုံနှိုင်းယှဉ်ပြ ဓာတ်ပုံဇယား

| ပုဂံခေတ် | | အင်းဝခေတ် | ကုန်းဘောင်ခေတ် | | ယခုခေတ် |
|---|---|---|---|---|---|
| အုတ်ခွက်စာ | ကျောက်စာ | ကျောက်စာ | ကျောက်စာ | ပေ၊ပုရပိုက်စာ | ပုံနှိပ်စာ |
| | | | | | ဖ |
| | | | | | ဗ |
| | | | | | ဘ |
| | | | | | မ |
| | | | | | ယ |
| | | | | | ရ |
| | | | | | လ |

# အက္ခရာပုံနှိုင်းယှဉ်ပြ ခေတ်ပုံဇယား

| ပုဂံခေတ် | | အင်းဝခေတ် | ကုန်းဘောင်ခေတ် | | ယခုခေတ် |
|---|---|---|---|---|---|
| အုတ်ခွက်စာ | ကျောက်စာ | ကျောက်စာ | ကျောက်စာ | ပေ၊ပုရပိုက်စာ | ပုံနှိပ်စာ |
| | | | | | ဝ |
| | | | | | သ |
| | | | | | ဟ |
| | | | | | ဠ |
| | | | | | အ |
| | | | | | အာ |
| | | | | | ဣ |

# အက္ခရာပုံနှိုင်းယှဉ်ပြ ဓာတ်ပုံဇယား

| ပုဂံခေတ် | | အင်းဝခေတ် | ကုန်းဘောင်ခေတ် | | ယခုခေတ် |
|---|---|---|---|---|---|
| အုတ်ခွက်စာ | ကျောက်စာ | ကျောက်စာ | ကျောက်စာ | ပေ၊ပုရပိုက်စာ | ပုံနှိပ်စာ |
| | | | | | ဤ |
| | | | | | ဥ |
| | | | | | ဦ |
| | | | | | ဧ |
| | | | | | ဩ |

# ဌာန်၊ ကရိုဏ်း၊ ပယတ်

## ဌာန်၊ ကရိုဏ်း၊ ပယတ်

၂၅။ **ဌာန်**။ ။ စကားသံဖြစ်ပေါ်ရာ နေရာကို **ဌာန်** ဟုခေါ်သည်။

၂၆။ **ကရိုဏ်း**။ ။ စကားသံဖြစ်ပေါ်စေရန် အကူအညီပေးသော အသုံးခံဝတ္ထုကို **ကရိုဏ်း** ဟုခေါ်သည်။

၂၇။ **ပယတ်**။ ။ စကားသံဖြစ်ပေါ်စေရန် အားထုတ်ရွတ်ဆိုမှုကို **ပယတ်** ဟုခေါ်သည်။

၂၈။ စကားသံသည် ဌာန်၊ ကရိုဏ်း၊ ပယတ်ရှိမှသာဖြစ်ပေါ်သည်။ စကားသံဖြစ်ပေါ်မှုသည် စောင်းကြိုးကို လက်နှင့်တီးခတ်ခြင်းဖြင့် စောင်းသံဖြစ်ပေါ်မှုနှင့်တူသည်။ စောင်းကြိုးသည် အသံဖြစ်ပေါ်ရာ နေရာဖြစ်၍ ဌာန်နှင့်တူသည်။ လက်သည် စောင်းသံဖြစ်ပေါ်လာစေရန် အကူအညီပေးသော အသုံးခံဝတ္ထုဖြစ်၍ ကရိုဏ်းနှင့်တူသည်။ စောင်းသံ ဖြစ်ပေါ်လာရန် တီးခတ်မှုသည် ပယတ်နှင့်တူသည်။

၂၉။ စကားသံသည် ခံစားချက်၊ စိတ်ကူးစိတ်သန်းစသည်ကို ထုတ်ဖော်ပြောဆိုလိုသည့် ဆန္ဒတစ်ခုတည်းဖြင့် နှုတ်မှ ထွက်ပေါ်လာခြင်း မဟုတ်ပေ။ ထုတ်ဖော်ပြောဆိုလိုသည့် ဆန္ဒကြောင့် အဆုတ်အတွင်း၌ စကားသံဖြစ်နိုင်မည့် လေတစ်မျိုးသည် ရှေးဦးစွာ ဖြစ်ပေါ်လာရသည်။ ထိုလေသည် အတက်သို့တက်လာရာ လည်မျိုရှိ အသံအိုးသို့ ရောက်သည်။ အသံအိုးသို့ ရောက်လာသည်နှင့် တစ်ပြိုင်နက် ထိုလေသည် စကားသံဖြစ်နိုင်မည့်အသံ တစ်နည်းအားဖြင့် **မူလသံ** အဖြစ်သို့ ပြောင်းသွားသည်။ မူလသံသည် ဗျည်းသံ၊ သရသံဟူ၍ မကွဲပြားသေးပေ။ ထိုအခါ ပြောလိုသူက ပြောလိုသည့် စကားသံဖြစ်ပေါ်လာစေရန် စကားသံဖြစ်အင်္ဂါအစိတ်အပိုင်းတို့နှင့် တွေ့ထိစေသော အခါမှ မူလသံသည် စကားသံအဖြစ် ထွက်ပေါ်လာသည်။

၃၀။ **စကားသံဖြစ်အင်္ဂါ**။ ။ စကားသံများဖြစ်အောင် ဖန်တီး နိုင်သော အင်္ဂါအစိတ်အပိုင်းများကို **စကားသံဖြစ်အင်္ဂါ**ဟုခေါ်သည်။ စကားသံဖြစ်အင်္ဂါကို အောက်ပါအတိုင်း အဓိကအားဖြင့် ၂ မျိုး ပိုင်းခြားထားသည်။

(က) မလှုပ်ရှားနိုင်သော စကားသံဖြစ်အင်္ဂါ

(ခ) လှုပ်ရှားနိုင်သော စကားသံဖြစ်အင်္ဂါ

၃၁။ **မလှုပ်ရှားနိုင်သော စကားသံဖြစ်အင်္ဂါ**။ ။ မလှုပ်ရှားနိုင်သော စကားသံဖြစ်အင်္ဂါမှာ ဌာန်ဖြစ်သည်။ မလှုပ်ရှားနိုင်သော စကားသံဖြစ်အင်္ဂါ ၇ မျိုးရှိသည်။ ယင်းအင်္ဂါ ၇ မျိုးတို့မှာ–

(က) လည်ချောင်း

(ခ) အာခေါင်ပျော့

(ဂ) အာခေါင်မာ

(ဃ) အာထိပ်

(င) သွား

(စ) အထက်နှုတ်ခမ်း

(ဆ) နှာခေါင်း တို့ဖြစ်ကြသည်။

၃၂။ **လှုပ်ရှားနိုင်သောစကားသံဖြစ်အင်္ဂါ။** ။ လှုပ်ရှားနိုင်သော စကားသံဖြစ်အင်္ဂါမှာ ကရိုဏ်းဖြစ်သည်။ လှုပ်ရှားနိုင်သော စကားသံဖြစ်အင်္ဂါ ၇ မျိုးရှိသည်။ ယင်းအင်္ဂါ ၇ မျိုးတို့မှာ–

(က) လျှာရင်း

(ခ) လျှာနောက်

(ဂ) လျှာလယ်

(ဃ) လျှာရှေ့ (လျှာဖျားအနီး)

(င) လျှာဖျား

(စ) အောက်နှုတ်ခမ်း

(ဆ) လျှာခင် တို့ဖြစ်ကြသည်။

၃၃။ **ဌာန်နှင့်ကရိုဏ်း။** ။ ဌာန် ၇ နေရာကို ကရိုဏ်း ၇ မျိုးဖြင့် ထိပေးလိုက်ခြင်းဖြင့် သက်ဆိုင်ရာ အက္ခရာတို့၏ အသံများဖြစ် လာသည်။ ထို့ကြောင့် ဌာန်ကို သီးခြားပြလေ့မရှိဘဲ ကရိုဏ်းနှင့်တွဲ၍ ပြလေ့ရှိသည်။ အက္ခရာတို့၏ အသံများဖြစ်ပေါ်လာစေသော ဌာန်နှင့် ကရိုဏ်းအတွဲ ၇ မျိုးရှိသည်။ ယင်းဌာန်နှင့်ကရိုဏ်းအတွဲ ၇ မျိုးတို့မှာ–

(က) လည်ချောင်းဌာန်–လျှာရင်းကရိုဏ်း

(ခ) အာခေါင်ပျော့ဌာန်–လျှာနောက်ကရိုဏ်း

(ဂ) အာခေါင်မာဌာန်–လျှာလယ်ကရိုဏ်း

(ဃ) အာထိပ်ဌာန်–လျှာဖျားအနီးကရိုဏ်း

(င) သွားဌာန်–လျှာဖျားကရိုဏ်း

(စ) နှုတ်ခမ်းဌာန်–နှုတ်ခမ်းကရိုဏ်း

(ဆ) နှာခေါင်းဌာန်–လျှာခင်ကရိုဏ်း တို့ဖြစ်ကြသည်။

၃၄။ **လည်ချောင်းဌာန်–လျှာရင်းကရိုဏ်း။** ။ လည်ချောင်းဌာန် နှင့် လျှာရင်းကရိုဏ်းတို့ ထိရာနေရာကို **လည်ချောင်းဌာန်–လျှာရင်းကရိုဏ်း**ဟုခေါ်သည်။

၃၅။ **အာခေါင်ပျော့ဌာန်–လျှာနောက်ကရိုဏ်း။** ။ အာခေါင်ပျော့ဌာန်နှင့် လျှာနောက်ပိုင်း ကရိုဏ်းတို့ ထိရာနေရာကို **အာခေါင်ပျော့ဌာန်–လျှာနောက်ကရိုဏ်း**ဟုခေါ်သည်။

၃၆။ **အာခေါင်မာဌာန်–လျှာလယ်ကရိုဏ်း။** ။ အာခေါင်မာဌာန်နှင့် လျှာလယ်ကရိုဏ်းတို့ ထိရာနေရာကို **အာခေါင်မာဌာန်–လျှာလယ်ကရိုဏ်း**ဟုခေါ်သည်။

၃၇။ **အာထိပ်ဌာန်–လျှာဖျားအနီးကရိုဏ်း။** ။ အာထိပ်ဌာန်နှင့် လျှာဖျားအနီး (လျှာရှေ့) ကရိုဏ်းတို့ ထိရာနေရာကို **အာထိပ်ဌာန်–လျှာဖျားအနီးကရိုဏ်း**ဟုခေါ်သည်။

၃၈။ **သွားဌာန်–လျှာဖျားကရိုဏ်း။** ။ သွားဖျားဌာန်နှင့် လျှာဖျားကရိုဏ်းတို့ ထိရာနေရာကိုလည်းကောင်း၊ သွားရင်းသွားဖုံးဌာန်နှင့် လျှာဖျားကရိုဏ်းတို့ ထိရာနေရာကိုလည်းကောင်း **သွားဌာန်–လျှာဖျားကရိုဏ်း** ဟုခေါ်သည်။

# စကားသံဖြစ်အင်္ဂါပြပုံ



၃၉။ **နှုတ်ခမ်းဌာန်–နှုတ်ခမ်းကရိုဏ်း**။ ။ အထက်နှုတ်ခမ်းဌာန်နှင့် အောက်နှုတ်ခမ်းကရိုဏ်းတို့ ထိရာနေရာကို **နှုတ်ခမ်းဌာန်–နှုတ်ခမ်းကရိုဏ်း**ဟုခေါ်သည်။

၄၀။ **နှာခေါင်းဌာန်–လျှာခင်ကရိုဏ်း**။ ။ သက်ဆိုင်ရာကရိုဏ်းသည် သက်ဆိုင်ရာဌာန်ကို ထိစဉ် လျှာခင်အောက်သို့ နှိမ့်ချလိုက်ခြင်းဖြင့် ဖြစ်လာသော ဌာန်ကရိုဏ်းသည် နှာခေါင်းဌာန်–လျှာခင်ကရိုဏ်းဖြစ်သည်။ လျှာနောက်ကရိုဏ်းသည် အာခေါင်ပျော့ဌာန်ကို ထိစဉ်၊ လျှာလယ်ကရိုဏ်းသည် အာခေါင်မာဌာန်ကို ထိစဉ်၊ လျှာဖျားအနီးကရိုဏ်းသည် အာထိပ်ဌာန်ကို ထိစဉ်၊ အောက်နှုတ်ခမ်းကရိုဏ်းသည် အထက်နှုတ်ခမ်းဌာန်ကို ထိစဉ် လျှာခင်ကို အောက်သို့ နှိမ့်ချလိုက်သောအခါ မူလသံသည် နှာခေါင်းပေါက်မှ အပြင်သို့ ထွက်သွားသည်။

၄၁။ ဖော်ပြပါ ဌာန် ၇ မျိုးနှင့် ကရိုဏ်း ၇ မျိုးတို့ထိ၍ သက်ဆိုင်ရာအသံနှင့် အက္ခရာတို့ ဖြစ်ပေါ်လာပုံကို အောက်ပါဇယားတွင် ဖော်ပြထားသည်။

**ဌာန်နှင့်ကရိုဏ်းထိ၍ ဖြစ်ပေါ်လာသော အသံနှင့်တကွ အက္ခရာပြဇယား**

| စဉ် | ဌာန်နှင့်ကရိုဏ်း | အသံ | အက္ခရာ | အသံတူအက္ခရာ |
|---|---|---|---|---|
| ၁။ | လည်ချောင်း–လျှာရင်း | အ၊ အာ၊ ဟ။ | အ၊ အာ၊ ဟ။ | |
| ၂။ | အာခေါင်ပျော့–လျှာနောက် | က၊ ခ၊ ဂ၊ င။ | က၊ ခ၊ ဂ၊ ဃ၊ င။ | ဂ = ဃ |
| ၃။ | အာခေါင်မာ–လျှာလယ် | အိ၊အီ၊အေ၊အဲ၊ည၊ယ၊ | ဣ၊ဤ၊ဧ၊အဲ၊ည၊ယ၊ရ။ | ယ = ရ |
| ၄။ | အာထိပ်–လျှာဖျားအနီး | တ၊ ထ၊ ဒ၊ န၊ လ။ | ဋ၊ ဌ၊ ဍ၊ ဎ၊ ဏ၊ | ဋဝဂ် = တဝဂ် |
| | | | တ၊ ထ၊ ဒ၊ ဓ၊ န | |
| | | | လ၊ ဠ။ | လ = ဠ |
| ၅။ | သွား–လျှာဖျား | စ၊ ဆ၊ ဇ၊ သ။ | စ၊ ဆ၊ ဇ၊ ဈ၊သ။ | ဇ = ဈ |
| ၆။ | နှုတ်ခမ်း–နှုတ်ခမ်း | အု၊ အူ၊အော၊အော်၊အို၊ | ဥ၊ဦ၊ဩ၊ဪ၊အို၊ | |
| | | ပ ဖ ဗ မ ဝ၊ | ပ ဖ ဗ ဘ မ ဝ၊ | ဗ = ဘ |
| ၇။ | နှာခေါင်း–လျှာခင် | င၊ ည၊ န၊ မ။ | င၊ ည၊ ဏ၊န၊မ၊ | ဏ = န |

၄၂။ **ပယတ်**။ ။ စကားသံဖြစ်ပေါ်စေရန် အားထုတ်ရွတ်ဆိုမှုကို **ပယတ်**ဟုခေါ်သည်။ ပယတ် ၄ မျိုးရှိသည်။ ယင်းပယတ် ၄ မျိုးတို့မှာ–

(က) ပိတ်ရွတ်ပယတ်

(ခ) ဖွင့်ရွတ်ပယတ်

(ဂ) ထိရွတ်ပယတ်

(ဃ) စဉ်းငယ်ထိရွတ်ပယတ် တို့ဖြစ်ကြသည်။

၄၃။ ပယတ် ၄ မျိုးအနက် ပိတ်ရွတ်ပယတ်နှင့် ဖွင့်ရွတ်ပယတ်တို့သည် သရရွတ်ဆိုမှုနှင့် သက်ဆိုင်သည်။ ထိရွတ်ပယတ်နှင့် စဉ်းငယ်ထိရွတ်ပယတ်တို့သည် ဗျည်းရွတ်ဆိုမှုနှင့် သက်ဆိုင်သည်။

၄၄။ အသံအိုးတွင် အဆုတ်မှတက်လာသောလေကို ပိတ်နိုင်၊ ဖွင့်နိုင်သော အသံကြိုး ၂ ချောင်းရှိသည်။ ယင်းအသံကြိုး ၂ ချောင်းကို ပိတ်၍သော်လည်းကောင်း၊ ဖွင့်၍သော်လည်းကောင်း သရများကို ရွတ်နိုင်သည်။ ဗျည်းများကိုမူဌာန်နှင့် ကရိုဏ်းတို့ကို ထိ၍သော်လည်းကောင်း၊ စဉ်းငယ်ထိ၍သော်လည်းကောင်း ရွတ်နိုင်သည်။ ဤသို့အားဖြင့်–

(က) ပိတ်ရွတ်သရ

(ခ) ဖွင့်ရွတ်သရ

(ဂ) ထိရွတ်ဗျည်း

(ဃ) စဉ်းငယ်ထိရွတ်ဗျည်း တို့ဖြစ်ပေါ်လာသည်။

၄၅။ **ပိတ်ရွတ်သရ**။ ။ အသံကြိုး ၂ ချောင်းကို ပိတ်၍ ရွတ်ရာမှ ဖြစ်ပေါ်လာသည့် သရကို **ပိတ်ရွတ်သရ**ဟုခေါ်သည်။

၄၆။ **ဖွင့်ရွတ်သရ**။ ။ အသံကြိုး ၂ ချောင်းကို ဖွင့်၍ ရွတ်ရာမှ ဖြစ်ပေါ်လာသည့် သရကို **ဖွင့်ရွတ်သရ**ဟုခေါ်သည်။

၄၇။ **ထိရွတ်ဗျည်း**။ ။ ဌာန်နှင့်ကရိုဏ်းတို့ကို ထိ၍ ရွတ်ရာမှ ဖြစ်ပေါ်လာသည့် ဗျည်းကို **ထိရွတ်ဗျည်း** ဟုခေါ်သည်။

၄၈။ **စဉ်းငယ်ထိရွတ်ဗျည်း**။ ။ဌာန်နှင့်ကရိုဏ်းတို့ကို စဉ်းငယ် ထိ၍ ရွတ်ရာမှဖြစ်ပေါ်လာသည့် ဗျည်းကို **စဉ်းငယ်ထိရွတ်ဗျည်း** ဟုခေါ်သည်။

၄၉။ ပယတ် ၄ မျိုးအလိုက် ဖြစ်ပေါ်လာသည့် သရနှင့်ဗျည်းတို့ကို အောက်ပါဇယားတွင် ပြထားသည်။

## ပယတ် ၄ မျိုးဆိုင်ရာ သရနှင့်ဗျည်းပြဇယား

| စဉ် | ပယတ် | သရနှင့်ဗျည်း |
|---|---|---|
| ၁။ | ပိတ်ရွတ်သရ | – အ၊ အိ၊ အု၊ |
| | | – အေ့၊ အဲ့၊ အော့၊ အို့၊ |
| | | – အင့်၊ အဉ့်၊ အည့်၊ အန့်၊ အမ့်၊ |
| | | – အက်၊ အောက်၊ အိုက်၊ |
| | | အစ် |
| | | အတ်၊ အိတ်၊ အုတ်၊ |
| | | အပ်၊ အိပ်၊ အုပ်။ |
| ၂။ | ဖွင့်ရွတ်သရ | – အာ၊ အီ၊ အူ၊ အေ၊ အဲ၊ အော၊ အော်၊ အို၊ |
| | | – အင်၊ အဉ်၊ အည်၊ အန်၊ အမ်၊ အယ် |
| | | – အား၊ အီး၊ အူး၊ အေး၊ အိုး၊ |
| | | – အင်း၊ အဉ်း၊ အည်း၊ အန်း၊ အမ်း။ |
| ၃။ | ထိရွတ်ဗျည်း | – က၊ ခ၊ ဂ၊ ဃ၊ င၊ |
| | | စ၊ ဆ၊ ဇ၊ ဈ၊ ည၊ |
| | | ဋ၊ ဌ၊ ဍ၊ ဎ၊ ဏ၊ |
| | | တ၊ ထ၊ ဒ၊ ဓ၊ န၊ |
| | | ပ၊ ဖ၊ ဗ၊ ဘ၊ မ၊ |
| | | – သ။ |
| ၄။ | စဉ်းငယ်ထိရွတ်ဗျည်း | – ယ၊ ရ၊ လ၊ ဠ၊ ဝ။ |

# ပါဠိဆင့်ရေးနည်းနှင့်ဖတ်နည်း

## ပါဠိဆင့်ရေးနည်းနှင့်ဖတ်နည်း

၅၀။ အက္ခရာ ၂ လုံးဆင့်၍ ရေးထားသော အက္ခရာတွဲကို **ပါဠိဆင့်**ဟုခေါ်သည်။

၅၁။ မြန်မာဘာသာစကားနှင့် စာပေ၌ **မေတ္တာ၊ ဝိဇ္ဇာ၊ ဒုက္ခ၊ ကိစ္စ** စသည့်ပါဠိစကားလုံးများ၊ **တက္ကသိုလ်၊ အဓိဋ္ဌာန်၊ သဏ္ဌာန်၊ တိရစ္ဆာန်** စသည့် ပါဠိသက်စကားလုံးများ၊ **ယောက္ခမ၊ လက်ျာ** စသည့် မြန်မာစကားလုံးများပါဝင်ကြသည်။ ဤစကားလုံးတို့၌ **တ္တ၊ ဇ္ဇ၊ က္ခ၊ စ္စ၊ က္က၊ ဋ္ဌ၊ ဏ္ဌ၊ စ္ဆ** စသည့် ပါဠိဆင့်များပါဝင်ကြသည်။ ဤပါဠိဆင့်တို့ကို စနစ်တကျ မည်သို့ရေးရသည်၊ မှန်ကန်စွာ မည်သို့ဖတ်ရသည်ကို သိရှိရန်လိုသည်။

၅၂။ ပါဠိဆင့်ရေးနည်းနှင့် ဖတ်နည်းကိုမလေ့လာမီ **ဃောသ၊ အဃောသ၊ သိထိလ၊ ဓနိတ၊ ဝဂ်ဗျည်း၊ အဝဂ်ဗျည်း**တို့အကြောင်းကို ကြိုတင်သိရှိထားရန်လိုသည်။ ဤအကြောင်းတို့ကို မြန်မာသဒ္ဒါ၊ အတွဲ ၁၊ အခန်း ၄ ၌ ဖော်ပြခဲ့ပြီးဖြစ်၍ ဤ၌ ဇယားဖြင့်ဖော်ပြမည်။

**ဝဂ်ဗျည်းပြဇယား**

| | အဃောသ | | ဃောသ | | |
|---|---|---|---|---|---|
| | သိထိလ | ဓနိတ | သိထိလ | ဓနိတ | သိထိလ |
| | ပထမ အက္ခရာ | ဒုတိယ အက္ခရာ | တတိယ အက္ခရာ | စတုတ္ထ အက္ခရာ | ပဉ္စမ အက္ခရာ(ဝဂ္ဂန္တ) |
| က–ဝဂ် ၅–လုံး | က | ခ | ဂ | ဃ | င |
| စ–ဝဂ် ၅–လုံး | စ | ဆ | ဇ | ဈ | ည |
| ဋ–ဝဂ် ၅–လုံး | ဋ | ဌ | ဍ | ဎ | ဏ |
| တ–ဝဂ် ၅–လုံး | တ | ထ | ဒ | ဓ | န |
| ပ–ဝဂ် ၅–လုံး | ပ | ဖ | ဗ | ဘ | မ |

## အ–ဝဂ်ဗျည်းပြဇယား

| ဃောသ | | | | အဃောသ |
|---|---|---|---|---|
| ယ | ရ | လ | ဝ | သ |
| | ဟ | ဠ | အံ | |

**မှတ်ချက်**။ ။ "ဃ၊ ဈ၊ ဎ၊ ဓ၊ ဘ"အက္ခရာတို့ကို မြန်မာတို့က "ဂ၊ ဇ၊ ဍ၊ ဒ၊ ဗ"တို့နှင့် အတူ သံလျော့(သိထိလ)အဖြစ် ရွတ်ဖတ် ပြောဆိုကြသော်လည်း ပါဠိဘာသာ၌ သံတင်း(ဓနိတ)များဖြစ်သဖြင့် ဇယားတွင် "ဓနိတ" ဟု ပြသည်။

၅၃။ ပါဌ်ဆင့်ရေးနည်းနှင့်ဖတ်နည်း ၂ မျိုးရှိသည်။ ယင်း ၂ မျိုးတို့မှာ–

(က) ပါဠိပါဌ်ဆင့်ရေးနည်းနှင့်ဖတ်နည်း

(ခ) မြန်မာပါဌ်ဆင့်ရေးနည်းနှင့် ဖတ်နည်းတို့ဖြစ်ကြသည်။

### ပါဠိပါဌ်ဆင့်ရေးနည်းနှင့်ဖတ်နည်း

၅၄။ **ပါဠိပါဌ်ဆင့်ရေးနည်း**။ ။ ပါဠိပါဌ်ဆင့်ရေးနည်း ၂ မျိုးရှိသည်။ ယင်း ၂ မျိုး တို့မှာ–

(က) အက္ခရာတူနှစ်လုံးဆင့်နည်း

(ခ) အက္ခရာကွဲနှစ်လုံးဆင့်နည်းတို့ဖြစ်ကြသည်။

၅၅။ **အက္ခရာတူနှစ်လုံးဆင့်နည်း**။ ။ ဝဂ်ဗျည်း ၂၅ လုံးအနက် ပထမအက္ခရာ ၅ လုံး၊ တတိယအက္ခရာ ၅ လုံး၊ **င** မှတစ်ပါး ကျန်ပဉ္စမအက္ခရာ ၄ လုံး (ဉ၊ ဏ၊ န၊ မ) တို့ကို အက္ခရာတူ ဆင့်နိုင်သည်။

## အက္ခရာတူနှစ်လုံးဆင့်ပြဇယား

| သိထိလ | | သိထိလ | | သိထိလ |
|---|---|---|---|---|
| ပထမ အက္ခရာ | | ဒုတိယ အက္ခရာ | | ပဥ္စမအက္ခရာ (ဝဂ္ဂန္တ) |
| က္က | | ဂ္ဂ | | |
| စ္စ | | ဇ္ဇ | | ည |
| ဋ္ဋ | | ဍ္ဍ | | ဏ္ဏ |
| တ္တ | | ဒ္ဒ | | န္န |
| ပ္ပ | | ဗ္ဗ | | မ္မ |

က + က = က္က **သာဓက**။ ။ တက္ကသိုလ်၊ ဥက္ကဋ္ဌ။

ဂ + ဂ = ဂ္ဂ **သာဓက**။ ။ ပုဂ္ဂိုလ်၊ မဂ္ဂင်။

စ + စ = စ္စ **သာဓက**။ ။ သစ္စာ၊ ကိစ္စ။

ဇ + ဇ = ဇ္ဇ **သာဓက**။ ။ ဝိဇ္ဇာ၊ အာဝဇ္ဇန်း

ဉ + ဉ = ည **သာဓက**။ ။ ပညာ၊ အညမည။

ဋ + ဋ = ဋ္ဋ **သာဓက**။ ။ ဝဋ္ဋ။

ဍ + ဍ = ဍ္ဍ **သာဓက**။ ။ ခိဍ္ဍာ။

ဏ + ဏ = ဏ္ဏ **သာဓက**။ ။ အဏ္ဏဝါ၊ ပဏ္ဏာ။

တ + တ = တ္တ **သာဓက**။ ။ သတ္တဝါ၊ သတ္တိ။

ဒ + ဒ = ဒ္ဒ **သာဓက**။ ။ သမုဒ္ဒရာ၊ သဒ္ဒါ။

န + န = န္န **သာဓက**။ ။ သန္နိဋ္ဌာန်။

ပ + ပ = ပ္ပ **သာဓက**။ ။ ကပ္ပိယ၊ သပ္ပာယ်

ဗ + ဗ = ဗ္ဗ **သာဓက**။ ။ နိဗ္ဗာန်၊ ဒိဗ္ဗစက္ခု။

မ + မ = မ္မ **သာဓက**။ ။ ဓမ္မ၊ ကမ္မဋ္ဌာန်း။

**မှတ်ချက်**။ ။ပါဠိဘာသာ၌ **ဉ** (ညကလေး) နှစ်လုံးဆင့် **ည** (ညကြီး)ကို မြန်မာဘာသာ၌ ရိုးရိုး **ည** အဖြစ် အသုံးပြုသည်။

၅၆။ အဝဂ်ဗျည်း(၈)လုံးတို့အနက် **ယ၊ လ၊ သ** တို့သည် အက္ခရာတူချင်း ဆင့်နိုင်သည်။
ယျ လ္လ သ္သ

ယ + ယ = ယျ **သာဓက**။ ။ ဇေယျ၊ ဉယျာဉ်။
လ + လ = လ္လ **သာဓက**။ ။ ဒုလ္လဘ၊ သလ္လာဝတီ။
သ + သ = သ္သ **သာဓက**။ ။ ဝဿာန်၊ မနုဿ။

**မှတ်ချက်**။ ။ ယ နှစ်လုံးဆင့်လျှင် အောက်က **'ယ'**သည် ယပင့် ( ျ)ဖြစ်လာသည်။ သ နှစ်လုံးဆင့်လျှင် **ဿ** ဖြစ်လာသည်။

၅၇။ **အက္ခရာကွဲနှစ်လုံးဆင့်နည်း**။ ။ သိထိလ (သံလျော့) အက္ခရာကို ဓနိတ (သံတင်း) အက္ခရာပေါ်၌ ဆင့်နိုင်သည်။ ထိုသို့ ဆင့်ရာ၌ အဃောသအက္ခရာအချင်းချင်း၊ ဃောသအက္ခရာအချင်းချင်းသာ ဆင့်နိုင်သည်။ ထို့ကြောင့် အဃောသအက္ခရာ အချင်းချင်း ဖြစ်သော သိထိလ ပဌမအက္ခရာကို ဓနိတဒုတိယအက္ခရာအပေါ်၌ ဆင့်နိုင်သည်။ ဃောသအက္ခရာအချင်းချင်းဖြစ်သော သိထိလတတိယအက္ခရာကို ဓနိတစတုတ္ထအက္ခရာပေါ်၌ ဆင့်နိုင်သည်။

**အဃောသ၊ ဃောသ၊ ဝဂ်ဗျည်းပြဇယား**

| အဃောသ | | ဃောသ | | |
|---|---|---|---|---|
| သိထိလ | ဓနိတ | သိထိလ | ဓနိတ | သိထိလ |
| ပထမအက္ခရာ | ဒုတိယအက္ခရာ | တတိယအက္ခရာ | စတုတ္ထအက္ခရာ | ပဥ္စမအက္ခရာ (ဝဂ္ဂန္တ) |
| က | ခ | ဂ | ဃ | င |
| စ | ဆ | ဇ | ဈ | ည |
| ဋ | ဌ | ဍ | ဎ | ဏ |
| တ | ထ | ဒ | ဓ | န |
| ပ | ဖ | ဗ | ဘ | မ |

က + ခ = က္ခ **သာဓက**။ ။ နက္ခတ်၊ စက္ခု။
ဂ + ဃ = ဂ္ဃ **သာဓက**။ ။ အနဂ္ဃ။
စ + ဆ = စ္ဆ **သာဓက**။ ။ ပုစ္ဆာ၊ တိရစ္ဆာန်။
ဇ + ဈ = ဇ္ဈ **သာဓက**။ ။ မဇ္ဈိမ၊ ဥပဇ္ဈာယ်။
ဋ + ဌ = ဋ္ဌ **သာဓက**။ ။ ဒိဋ္ဌိ၊ အဓိဋ္ဌာန်။
ဍ + ဎ = ဍ္ဎ **သာဓက**။ ။ ဂုဏဝုဍ္ဎိ၊ အာယုဝဍ္ဎန။
တ + ထ = တ္ထ **သာဓက**။ ။ ဝတ္ထု၊ ကြတ္တိလင်။

ဒ + ဓ = ဒ္ဓ **သာဓက**။ ။ သိဒ္ဓိ၊ သဒ္ဓါ။

ပ + ဖ = ပ္ဖ **သာဓက**။ ။ ဇာတိပ္ဖိုလ်။

ဗ + ဘ = ဗ္ဘ **သာဓက**။ ။ အဗ္ဘန္တရ။

**မှတ်ချက်**။ ။ **ဌ** တွင် **ဍ** ဆင့်လျှင် လည်ရစ်ပါသော ဌဝမ်းဘဲ **ဍ္ဌ** ဖြစ်လာသည်။

၅၈။ ပဉ္စမအက္ခရာ(ဝဂ္ဂန္တဗျည်း) ၅ လုံး (င၊ ဉ၊ ဏ၊ န၊ မ)တို့သည် ယင်းတို့နှင့် ဝဂ်တူဖြစ်သော ကျန်အက္ခရာ ၄ လုံးအပေါ်၌ ဆင့်နိုင်သည်။

င **သာဓက**။ ။ လင်္ကာ၊ သင်္ခါရ၊ အင်္ဂါ၊ သင်္ဃာ။

ဉ **သာဓက**။ ။ ပဉ္စမ၊ လဉ္ဆ၊ ခဉ္ဇ၊ သဉ္ဈာ။

ဏ **သာဓက**။ ။ ကဏ္ဍကောစ၊ သဏ္ဌာန်၊ ပဏ္ဍိတ။

န **သာဓက**။ ။ ကန္တာရ၊ ဂန္ထဝင်၊ စန္ဒာ၊ ဂန္ဓမာ။

မ **သာဓက**။ ။ အလမ္ပာယ်၊ သမ္ဖပ္ပလာပ၊ ကမ္ဗလာ၊ ကမ္ဘာ။

**မှတ်ချက်**။ ။ **င** ကိုဝဂ်တူဖြစ်သော ကျန်အက္ခရာ ၄ လုံးအပေါ်၌ဆင့်သောအခါ **င** သည် ကင်းစီး (င်္) ဖြစ်လာသည်။

၅၉။ အက္ခရာတူနှစ်လုံးဆင့်ရာ၌ သိထိလ (သံလျော့) ဗျည်းများသည် အချင်းချင်းလည်း ဆင့်နိုင်သည်။ ဓနိတ(သံတင်း)ဗျည်းများအပေါ်၌လည်း ဆင့်နိုင်သည်။ သို့ရာတွင် ဓနိတ(သံတင်း) ဗျည်းများကား အချင်းချင်းမဆင့်နိုင်ချေ။

**မှတ်ချက်**။ ။ (က) အက္ခရာကွဲ နှစ်လုံးဆင့်ရာ၌ ဓနိတ (သံတင်း) ဗျည်းသည် အမြဲတမ်း အောက်ကသာနေရသည်။

(ခ) ဝဂ်ဗျည်း နှစ်လုံးဆင့်ရာ၌ ဝဂ်တူဗျည်းချင်းသာ ဆင့်ရသည်။ ဝဂ် မတူက မဆင့်ရ။

၆၀။ **ပါဋ်ပါဌ်ဆင့်ဖတ်နည်း**။ ။ အက္ခရာနှစ်လုံးဆင့်ထားသော အခါ၌ အပေါ်အက္ခရာကို အသတ်အဖြစ် ဖတ်ရသည်။

| **သာဓက**။ ။ | | **ပုဒ်** | **ဖတ်နည်း** |
|---|---|---|---|
| | (က) | တက္က | တက်က |
| | (ခ) | သဒ္ဒ | သဒ်ဒ |
| | (ဂ) | အညမည | အဉ်ဉမဉ်ဉ |
| | (ဃ) | သစ္စာ | သစ်စာ |
| | (င) | သတ္တိ | သတ်တိ |
| | (စ) | စက္ခု | စက်ခု |

၆၁။ **က္လ**သရ၏နောက်၌ က–သတ်၊ ဂ–သတ်၊ စ–သတ်၊ ဇ–သတ်ရှိလျှင် ယင်းအသတ်တို့ကို တ–သတ်(တ်) သံဖတ်ရသည်။

| **သာဓက**။ ။ | | **ပုဒ်** | **ဖတ်နည်း** |
|---|---|---|---|
| | (က) | သိက္ခာ | သိတ်ခါ |
| | (ခ) | နိဂ္ဂဟိတ် | နိတ်ဂဟိတ် |

| | | |
|---|---|---|
| (ဂ) | ကိစ္စ | ကိတ်စ |
| (ဃ) | ဝိဇ္ဇာ | ဝိတ်ဇာ |

၆၂။ **ဥ** သရ၏နောက်၌ က–သတ်၊ ဂ–သတ်၊ စ–သည်၊ ဇ–သတ်ရှိလျှင် ယင်းအသတ်တို့ကို တ–သတ်(တ်)သံ ဖတ်ရသည်။

| **သာဓက။** ။ | **ပုဒ်** | **ဖတ်နည်း** |
|---|---|---|
| (က) | ဒုက္ခ | ဒုတ်ခ |
| (ခ) | ပုဂ္ဂိုလ် | ပုတ်ဂိုလ် |
| (ဂ) | ဥစ္စ | ဥတ်စ |
| (ဃ) | ပုထုဇ္ဇန | ပုထုတ်ဇန |

၆၃။ **ဣ** သရ၏နောက်၌ င–သတ်၊ ဉ–သတ်၊ ယ–သတ်ရှိလျှင် ယင်းအသတ်တို့ကို န–သတ်(န်)သံဖတ်ရသည်။

| **သာဓက။** ။ | **ပုဒ်** | **ဖတ်နည်း** |
|---|---|---|
| (က) | သိင်္ဂီ | သိန်ဂီ |
| (ခ) | ဝိညာဏ | ဝိန်ညာဏ |
| (ဂ) | ဘိယျော | ဘိန်ယော |

၆၄။ **ဥ** သရ၏နောက်၌ င–သတ်၊ ဉ–သတ်၊ ယ–သတ်ရှိလျှင် ယင်းအသတ်တို့ကို န–သတ်(န်)သံဖတ်ရသည်။

| **သာဓက။** ။ | **ပုဒ်** | **ဖတ်နည်း** |
|---|---|---|
| (က) | ပုင်္ဂဝ | ပုန်ဂဝ |
| (ခ) | သုညှ | သုန်ဉ |
| (ဂ) | ယေဘုယျ | ယေဘုန်ယ |

၆၅။ **လ**–သတ်ကို န–သတ်(န်)သံ ဖတ်ရသည်။

| **သာဓက။** ။ | **ပုဒ်** | **ဖတ်နည်း** |
|---|---|---|
| (က) | ဒုလ္လဘ | ဒုန်လဘ |
| (ခ) | သလ္လာဝတီ | သန်လာဝတီ |
| (ဂ) | ဝေပုလ္လ | ဝေပုန်လ |

၆၆။ **သ** နှစ်လုံးဆင့်ကို သကြီး(**ဿ**)ဟု ရေး၍ ရှေ့**သ**ကို တ–သတ်(တ်)သံ ဖတ်ရသည်။

| **သာဓက။** ။ | **ပုဒ်** | **ဖတ်နည်း** |
|---|---|---|
| (က) | ကဿပ | ကတ်သပ |
| (ခ) | မနုဿ | မနုတ်သ |
| (ဂ) | နိဿယ | နိတ်သယ |

၆၇။ **ေ** သရပါသော က–သတ်၊ ဋ–သတ်၊ တ–သတ်တို့ကို စ–သတ်(စ်)သံ ဖတ်ရသည်။

| **သာဓက။** ။ | **ပုဒ်** | **ဖတ်နည်း** |
|---|---|---|
| (က) | ဥပေက္ခာ | ဥပစ်ခါ |

(ခ)  ဇေဇ္ဈ  ဇစ်ဈ
(ဂ)  မေတ္တာ  မစ်တာ

၆၈။ င်္ သရပါသော င-သတ်၊ ဉ-သတ်၊ ဏ-သတ်၊ န-သတ်၊ မ-သတ်တို့ကို င-သတ်(င်)သံ ဖတ်ရသည်။

**သာဓက**။ ။ **ပုဒ်**  **ဖတ်နည်း**
(က)  မဏ္ဍူက  မင်ဍူက
(ခ)  ဝိနာသမဏ္ဋု  ဝိနာသမင်တု

၆၉။ ဩ သရပါသော စ-သတ်၊ ဇ-သတ်၊ ဋ-သတ်၊ တ-သတ်၊ ဒ-သတ်၊ ပ-သတ်တို့ကို ဝဆွဲတ-သတ်(ွတ်)သံ ဖတ်ရသည်။

**သာဓက**။ ။ **ပုဒ်**  **ဖတ်နည်း**
(က)  အက္ကောစ္ဆိ  အက်ကွတ်ဆိ
(ခ)  ပါမောဇ္ဇ  ပါမွတ်ဇ
(ဂ)  ဩဇ္ဈ  အွတ်ဈ
(ဃ)  ကောဋ္ဌာသ  ကွတ်ဌာသ
(င)  ဖောဋ္ဌဗ္ဗ  ဖွတ်ဌဗ်ဗ
(စ)  သောတ္ထာနံ  သွတ်ထာနံ
(ဆ)  လောဒ္ဒ  လွတ်ဒ
(ဇ)  သောပ္ပ  သွတ်ပ
(ဈ)  ယောဗ္ဗန  ယွတ်ဗန

၇၀။ ဩ ပါသော ဉ-သတ်၊ ဏ-သတ်၊ န-သတ်၊ မ-သတ် တို့ကို ဝဆွဲန-သတ် (ွန်)သံ ဖတ်ရသည်။

**သာဓက**။ ။ **ပုဒ်**  **ဖတ်နည်း**
(က)  သောဏ္ဍ  သွန်ဍ
(ခ)  ဘောန္တော  ဘွန်တော
(ဂ)  သောမ္မ  သွန်မ

၇၁။ ဟထိုးဗျည်းပေါ်ရှိ အက္ခရာသည် အသတ်သဖွယ် တာဝန်ယူရသည့်အပြင် ဟထိုးနှင့် ပူးတွဲ၍လည်း အသံထွက်ရသည်။

**သာဓက**။ ။ **ပုဒ်**  **ဖတ်နည်း**
(က)  အမှ  အမ်မှ
(ခ)  မယှံ  မယ်ယှံ
(ဂ)  ပဉှာ  ပဉ်ဉှာ
(ဃ)  ဒဠှီ  ဒဠ်ဠှီ
(င)  ဥဏှ  ဥဏ်ဏှ
(စ)  တုမှ  တုမ်မှ

၇၂။ ယပင့်၊ ရရစ်၊ ဝဆွဲပါသော ဗျည်းတွဲ၏ အပေါ်အက္ခရာသည် အသတ်သဖွယ် တာဝန်ယူရသည့်အပြင် ယပင့်၊ ရရစ်၊ ဝဆွဲတို့နှင့် ပူးတွဲ၍လည်း အသံထွက်ရသည်။

| **သာဓက။** | ။ | **ပုဒ်** | **ဖတ်နည်း** |
|---|---|---|---|
| | (က) | သက္ယ | သက်ကျ |
| | (ခ) | စကြာ | စက်ကြာ |
| | (ဂ) | သောကြာ | သောက်ကြာ |
| | (ဃ) | ဒတွာ | ဒတ်တွာ |

## မြန်မာပါဠိဆင့်ရေးနည်းနှင့်ဖတ်နည်း

၇၃။ ရှေးခေတ်မြန်မာတို့သည် ပါဠိဘာသာစာပေနှင့် ရင်းနှီးခဲ့ကြသဖြင့် ပါဠိစကားလုံးများကို ကြားညှပ်ပြောဆိုခြင်း၊ ရေးသားခြင်း ပြုခဲ့ကြသည်။ ပါဠိပါဌ်ဆင့်ရေးနည်းများကို အတုယူ၍ မြန်မာနှစ်လုံးဆင့် ရေးသားမှုများကို ပြုလာခဲ့ကြသည်။ ထို့ပြင် ကျောက်စာ၊ ပေစာများရေးသားရာ၌ နေရာအကျဉ်းချုံးရာမှစ၍ မြန်မာနှစ်လုံးဆင့် ရေးနည်းကို သုံးခဲ့ကြသည်။ ယင်းသို့ရေးသားခဲ့ကြသော မြန်မာဝေါဟာရများအနက် အချို့ကို ဤခေတ်တိုင်အောင် နှစ်လုံးဆင့် ဆက်လက်ရေးသားကြ၍ အချို့ကို ဤခေတ်တွင် လက်ခံသုံးစွဲခြင်း မပြုကြတော့ချေ။ အောက်ဖော်ပြပါ မြန်မာဝေါဟာရ နှစ်လုံးဆင့်ရေးပုံများကို ဤခေတ်၌ ဆက်လက်လက်ခံအသုံးပြုလျက်ပင် ရှိကြသေးသည်။

| **သာဓက။** | ။ | **ပုဒ်** | **ဖတ်နည်း** |
|---|---|---|---|
| | (က) | ယောက္ခမ | ယောက်ခမ |
| | (ခ) | လက္ခံ | လက်ခံ |
| | (ဂ) | လက်ျာ | လက်ယာ |
| | (ဃ) | မိတ္တူ | မိတ်တူ |
| | (င) | လိမ္မာ | လိမ်မာ |
| | (စ) | သေတ္တာ | သစ်တာ |

# ဝါစင်္ဂဆိုင်ရာသိမှတ်ဖွယ်များ

၇၄။ မြန်မာသဒ္ဒါ၊ အတွဲ ၁ နှင့် အတွဲ ၂၊ အခန်း ၅ တို့၌ ဝါစင်္ဂ ၉ မျိုး၏ အဓိပ္ပာယ်ကို သာဓကများနှင့်တကွ ရှင်းလင်းဖော်ပြခဲ့သည်။ ဝါစင်္ဂအချို့ကိုမူ အနက်အဓိပ္ပာယ်အရနှင့် ဖွဲ့စည်းတည်ဆောက်ပုံအရ အမျိုးအမည်များခွဲခြားကာ သာဓကများနှင့်တကွ ရှင်းလင်းဖော်ပြ ထားသည်။ ဤအခန်း၌ အာမေဍိတ်မှတစ်ပါး ကျန်သော ဝါစင်္ဂ ၈ မျိုးဆိုင်ရာ သိမှတ်ဖွယ် များကို ဖော်ပြမည်ဖြစ်သည်။ ဝါစင်္ဂဆိုင်ရာသိမှတ်ဖွယ်များနှင့် ဆက်စပ်လေ့လာနိုင်ရန် ဝါစင်္ဂ အသီးသီးအကြောင်းကိုလည်း သာဓကများနှင့်တကွ အကျဉ်းမျှ ဖော်ပြထားသည်။

၇၅။ **နာမ်**။ ။ သက်ရှိသက်မဲ့၊ ဒြပ်ရှိဒြပ်မဲ့တို့၏ အမည်ဟူသမျှကို **နာမ်** ဟုခေါ်သည်။

၇၆။ အနက်အဓိပ္ပာယ်အရ နာမ် ၄ မျိုးနှင့်ဖွဲ့စည်းတည်ဆောက်ပုံအရ နာမ် ၄ မျိုးရှိသည်။

၇၇။ အနက်အဓိပ္ပာယ်အရ နာမ် ၄ မျိုးမှာ အောက်ပါအတိုင်းဖြစ်သည်-

| **အမျိုးအစား** | **သာဓက** |
|---|---|
| (က) တစ်ဦးဆိုင်နာမ် | မောင်မောင်၊ ရန်ကုန်၊ ဧရာဝတီ။ |
| (ခ) အများဆိုင်နာမ် | လူ၊ မြို့၊ နွား၊ စာအုပ်။ |
| (ဂ) စိတ္တဇနာမ် | ပညာ၊ မေတ္တာ၊ အောင်မြင်ခြင်း။ |
| (ဃ) အစုပြနာမ် | အသင်း၊ အဖွဲ့၊ မိသားစု။ |

၇၈။ ဖွဲ့စည်းတည်ဆောက်ပုံအရ နာမ် ၄ မျိုးမှာ အောက်ပါအတိုင်းဖြစ်သည်-

| **အမျိုးအစား** | **သာဓက** | | |
|---|---|---|---|
| (က) ပင်ကိုနာမ် | နေ၊ မေတ္တာ၊ ဒါရိုက်တာ။ | | |
| (ခ) ပေါင်းစပ်နာမ် | **ပေါင်းစပ်နာမ်** | **ပေါင်းစပ်ပုံ** | **ဝါစင်္ဂ** |
| | (၁) ရေအိုး | ရေ+အိုး | နာမ်+နာမ် |
| | (၂) လက်စွပ် | လက်+စွပ် | နာမ်+ကြိယာ |
| | (၃) လူငယ် | လူ+ငယ် | နာမ်+နာမဝိသေသန |
| | (၄) ထမ်းပိုး | ထမ်း+ပိုး | ကြိယာ+ကြိယာ |
| | (၅) လွယ်အိတ် | လွယ်+အိတ် | ကြိယာ+နာမ် |
| (ဂ) ကြိယာနာမ် | အစား၊ စားခြင်း၊ စွမ်းဆောင်ချက်၊ ကူညီမှု၊ စားဖွယ်။ | | |
| (ဃ) ဂုဏ်ရည်ပြနာမ် | အကောင်း၊ ထူးချွန်မှု၊ သက်သာခြင်း။ | | |

၇၉။ **လိင်**။ ။ အထီး၊ အမ သဘာဝကို **လိင်**ဟုခေါ်သည်။ နာမ်၊ နာမ်စားတို့ကို ယောက်ျား၊ မိန်းမ၊ အထီး၊ အမ စသည်ဖြင့် ခွဲခြားခြင်းသည် လိင်သဘောဖြစ်သည်။

၈၀။ လိင် ၄ မျိုးရှိသည်။

| **အမျိုးအစား** | | **သာဓက** |
|---|---|---|
| (က) ပုလ္လိင် | - | အဘိုး၊ အဖေ၊ သား၊ ကျွန်တော်။ |
| | - | ဦးမြ၊ ကျောင်းသား၊ ကြီးဖို၊ ကြက်ဖ၊ နွားထီး။ |
| | - | ဆရာ၊ ညီ၊ တူ။ |

(ခ) ကတ္တိလိင် – အဘွား၊ အမေ၊ သမီး၊ ကျွန်မ။
– ဒေါ်လှ၊ ကျောင်းသူ၊ ကျီးမ၊ ကြက်မ၊ နွားမ။
– ဆရာမ၊ ညီမ၊ တူမ။
(ဂ) နပုလ္လိင် – စာအုပ်၊ မျက်မှန်၊ ပေတံ၊ သင်္ဘော။
(ဃ) ဒွိလိင် – လူ၊ ငှက်၊ ဝတ်ဆံ၊ ငါ၊ သင်၊ ကျုပ်။

၈၁။ **ကိန်း**။ ။ အရေအတွက်ကို **ကိန်း**ဟု ခေါ်သည်။

၈၂။ ကိန်း ၂ မျိုးရှိသည်။

| | **အမျိုးအစား** | **သာဓက** |
|---|---|---|
| (က) | ဧကဝုစ်ကိန်း | ဆရာ၊ ကျောင်းသား၊ ဈေးသည်။ |
| (ခ) | ဗဟုဝုစ်ကိန်း | ဆရာများ၊ ဆရာတို့၊ ကျောင်း သားများ၊ ကျောင်းသားတို့၊ ဈေးသည်များ၊ ဈေးသည်တို့။ |

## နာမ်ဆိုင်ရာသိမှတ်ဖွယ်များ

၈၃။ နာမ်သည် အချင်းချင်း ပေါင်းစပ်သောအခါ ရှေ့နာမ်က နောက်နာမ်ကိုဖြစ်စေ နောက်နာမ်က ရှေ့နာမ်ကိုဖြစ်စေ နာမဝိသေသနအဖြစ် အထူးပြုသည်။

**သာဓက**။ ။
(က) ရေအိုး (ရှေ့နာမ် **ရေ** က နောက်နာမ် **အိုး**ကို အထူးပြုသည်။)
(ခ) တောင်ကလပ် (နောက်နာမ် **ကလပ်** က ရှေ့နာမ် **တောင်**ကို အထူးပြုသည်။)

၈၄။ ဂုဏ်ရည်ပြနာမ်အချို့ကို နာမဝိသေသနအဖြစ် အသုံးပြုနိုင်သည်။
**သာဓက**။ ။
(က) အမြန် (ဂုဏ်ရည်ပြနာမ်)
(ခ) အမြန်ရထား (**အမြန်** သည် **ရထား** ဟူသောနာမ်ကို အထူးပြုသည့် နာမဝိသေသနဖြစ်သည်။)

၈၅။ ကြိယာနာမ်အချို့ကို နာမဝိသေသနအဖြစ် အသုံးပြုနိုင်သည်။
**သာဓက**။ ။
(က) အငှား (ကြိယာနာမ်)
(ခ) အငှားကား (**အငှား** သည် **ကား** ဟူသောနာမ်ကို အထူးပြုသည့် နာမဝိသေသနဖြစ်သည်။)

၈၆။ နာမ်သည် သက်ဆိုင်ရာ ဝိဘတ်ကိုလိုက်၍ ကတ္တား၊ ကံ စသည့် ပုဒ်အမျိုးမျိုး ဖြစ်လာသည်။

**သာဓက**။ ။

| | **ပုဒ်** | **ဝိဘတ်** | **ပုဒ်အမည်** |
|---|---|---|---|
| (က) | မောင်မောင်သည် | သည် | ကတ္တား |
| (ခ) | စာအုပ်ကို | ကို | ကံ |
| (ဂ) | မန္တလေးသို့ | သို့ | ဂရုးရှုရာပြ |

| | | | |
|---|---|---|---|
| (ဃ) | ရထားဖြင့် | ဖြင့် | အသုံးခံပြ |
| (င) | ညီငယ်အား | အား | လက်ခံပြ |

၈၇။ နာမ်သည် နာမ်အချင်းချင်းဖြစ်စေ၊ ကြိယာ၊ နာမဝိသေသန၊ ကြိယာဝိသေသနတို့နှင့် ဖြစ်စေ ပေါင်းစပ်ခြင်းဖြင့် ပေါင်းစပ်နာမ်၊ ပေါင်းစပ်နာမဝိသေသန၊ ပေါင်းစပ်ကြိယာ၊ ပေါင်းစပ် ကြိယာဝိသေသနပုဒ်များ ဖြစ်လာသည်။

**သာဓက**။ ။

| **ပေါင်းစပ်နာမဝိသေသန** | **ပေါင်းစပ်ပုံ** | **ဝါစင်္ဂ** |
|---|---|---|
| မျက်နှာချို (သော) | မျက်နှာ+ချို | နာမ်+နာမဝိသေသန |
| **ပေါင်းစပ်ကြိယာ** | **ပေါင်းစပ်ပုံ** | **ဝါစင်္ဂ** |
| ဆေးခြယ်(သည်) | ဆေး+ခြယ် | နာမ်+ကြိယာ |
| **ပေါင်းစပ်ကြိယာဝိသေသန** | **ပေါင်းစပ်ပုံ** | **ဝါစင်္ဂ** |
| စိတ်မြန်လက်မြန် | စိတ်+မြန်+လက်+မြန် | နာမ်+နာမဝိသေသန + နာမ် + နာမဝိသေသန |

၈၈။ အချို့သော နာမ်များကို အများပြကိန်းညွှန်းပစ္စည်း **တို့** နှင့် တွဲ၍သုံးလျှင် ယင်းနာမ်သည် အပေါင်းအစုကို ရည်ညွှန်းဖော်ပြသည်။

**သာဓက**။ ။

(က) ဦးမြ**တို့**ပြန်လာပြီ။

( ခ ) အမေ**တို့** ရောက်ပြီလား။

၈၉။ ကတ္တားဝိဘတ် **မှာ**၊ ကံဝိဘတ် **ကို**၊ လက်ခံပြဝိဘတ် **အား**၊ အကြောင်းပြဝိဘတ် **ကြောင့်**၊ ရည်စူးချက်ပြဝိဘတ် **အတွက်**၊ **ဖို့** စသည်တို့ကို သံရှည်အဆုံးရှိသော နာမ်တို့နှင့်တွဲ၍ သုံးသောအခါ သံရှည်အချို့ကို အောက်မြစ်ထည့်၍ ပြောလေ့၊ ရေးလေ့ ရှိသည်။

**သာဓက**။ ။

| | **နာမ်** | **နာမ်ဝိဘတ်** | |
|---|---|---|---|
| (က) | မောင်မောင် | မှာ | **မောင်မောင့်မှာ** |
| ( ခ ) | အမေ | မှာ | **အမေ့မှာ** |

၉၀။ မူလက **အ** ပါသော **အသီး**၊ **အခန်း**၊ **အတွင်း**၊ **အဖျား**၊ **အထဲ** စသည့် နာမ်အချို့ကို အခြားနာမ်တစ်ခုနှင့်ပေါင်းစပ်သောအခါ **အ** ကိုမြုပ်လေ့ရှိသည်။

**သာဓက**။ ။

| | **ပေါင်းစပ်ပုံ** | |
|---|---|---|
| (က) | စပျစ် + အသီး | စပျစ်သီး |
| ( ခ ) | ရုံး + အခန်း | ရုံးခန်း |
| ( ဂ ) | အိမ် + အတွင်း | အိမ်တွင်း |

၉၁။ **နာမ်စား**။ ။ နာမ်၏အစားသုံးသောပုဒ်ကို **နာမ်စား**ဟု ခေါ်သည်။

၉၂။ နာမ်စား ၄ မျိုး ရှိသည်။

| အမျိုးအစား | သာဓက |
|---|---|
| (က) ပုဂ္ဂလနာမ်စား | |
| (၁) ပြောသူနာမ်စား | ကျွန်တော်၊ ကျွန်မ၊ ကျွန်ုပ်၊ ကျုပ်၊ ငါ။ |
| (၂) ကြားနာသူနာမ်စား | သင်၊ မင်း၊ ခင်ဗျား၊ ညည်း၊ နင်။ |
| (၃) အပြောခံနာမ်စား | သူ၊ သင်း။ |
| (ခ) အညွှန်းနာမ်စား | ဤ၊ ထို၊ ဟို၊ ယင်း၊ ၎င်း၊ သည်။ |
| (ဂ) အမေးနာမ်စား | မည်သည်၊ မည်သူ၊ ဘယ်သူ၊ ဘယ်၊ အဘယ်။ |
| (ဃ) သင်္ချာနာမ်စား | |
| (၁) အရေအတွက်ပြ သင်္ချာနာမ်စား | ငါးခု၊ နှစ်ကောင်၊ သုံးစင်း။ |
| (၂) ပမာဏပြသင်္ချာ နာမ်စား | အချို့၊ အားလုံး၊ အနည်းငယ်။ |

**နာမ်စားဆိုင်ရာသိမှတ်ဖွယ်များ**

၉၃။ ပုဂ္ဂလနာမ်စားများကို ယောက်ျား၊ သို့မဟုတ် မိန်းမ၊ အသက်အရွယ်၊ အဆင့်အတန်း၊ ယဉ်ကျေးမှုအလိုက် ဆီလျော်အောင် အသုံးပြုရသည်။

**သာဓက**။ ။

(က) ကျွန်တော် (နှိမ့်ချသည့်သဘော၊ ယဉ်ကျေးသည့်သဘော)

(ခ) ကျွန်မ (နှိမ့်ချသည့်သဘော၊ ယဉ်ကျေးသည့်သဘော)

(ဂ) ငါ (ရိုင်းသည့်သဘော၊ ရင်းနှီးသည့်သဘော)

၉၄။ **သူ** ဟူသော နာမ်စားကို ယောက်ျား၊ မိန်းမ၊ တိရစ္ဆာန် စသည့် နာမ်တို့အစား သုံးနိုင်သည်။

**သာဓက**။ ။

(က) မောင်မောင်သည် ကျောင်းသားဖြစ်သည်။ **သူ**သည် စာကြိုးစားသည်။

(ခ) မမြသည် ကျောင်းသူဖြစ်သည်။ **သူ**သည် လိမ္မာသည်။

(ဂ) အောင်နက်သည် **သူ**၏သခင်အပေါ် သစ္စာရှိသော ခွေးဖြစ်သည်။

၉၅။ **ဤ၊ ထို၊ ယင်း၊ ၎င်း၊ သည်** တို့ကို ဝါကျ၌အသုံးကိုလိုက်၍ အညွှန်းနာမ်စားအဖြစ်လည်းကောင်း၊ အညွှန်းနာမဝိသေသနအဖြစ်လည်းကောင်း သုံးနိုင်သည်။

**သာဓက**။ ။

(က) မဟာမြိုင်**တော**၌ ကျားရဲပေါ၏။ **ထို**သို့သွားလျှင် သတိဝီရိယရှိပါ။ (အညွှန်းနာမ်စား)

(ခ) **ထိုတော**သို့သွားလျှင် သတိဝီရိယရှိပါ။ (အညွှန်းနာမဝိသေသန)

၉၆။ **မည်သည်၊ ဘယ်၊ ဘာ** တို့ကို ဝါကျ၌ အသုံးကိုလိုက်၍ အမေးနာမ်စား အဖြစ်လည်းကောင်း၊ အမေးနာမဝိသေသနအဖြစ်လည်းကောင်း သုံးနိုင်သည်။

**သာဓက**။ ။

(က) (၁) **မည်သည်**ကို သင်စားလိုသနည်း။ (အမေးနာမ်စား)

(၂) **မည်သည့်မုန့်**ကို သင်စားလိုသနည်း။ (အမေးနာမဝိသေသန)

(ခ) (၁) သူ **ဘယ်**ကပြန်လာသနည်း။ (အမေးနာမ်စား)
(၂) သူ **ဘယ်မြို့**ကပြန်လာသနည်း။ (အမေးနာမဝိသေသန)

၉၇။ **နှစ်ခု၊ နှစ်ကောင်၊ သုံးပင်** စသည့် အရေအတွက်ကို ဖော်ပြသည့်ပုဒ်တို့ကို ဝါကျ၌ အသုံးကိုလိုက်၍ အရေအတွက်ပြ သချ်ာနာမ်စားအဖြစ်လည်းကောင်း၊ အရေအတွက်ပြ သချ်ာ နာမဝိသေသနအဖြစ်လည်းကောင်း သုံးနိုင်သည်။

**သာဓက**။ ။

(က) သူသည် **ငါး**များဝယ်လာသည်။ **နှစ်ကောင်**သည် ငါးကြင်းများဖြစ်ကြသည်။ (အရေအတွက်ပြ သချ်ာနာမ်စား)

(ခ) **ငါးနှစ်ကောင်**သည် ငါးကြင်းများဖြစ်ကြသည်။ (အရေအတွက်ပြသချ်ာ နာမဝိသေသန)

၉၈။ **အချို့၊ အားလုံး၊ အနည်းငယ်** စသည့် ပမာဏကို ဖော်ပြသည့်ပုဒ်တို့ကို ဝါကျ၌ အသုံးကိုလိုက်၍ ပမာဏပြသချ်ာနာမ်စား အဖြစ်လည်းကောင်း၊ ပမာဏပြသချ်ာနာမဝိသေသန အဖြစ်လည်းကောင်း သုံးနိုင်သည်။

**သာဓက**။ ။

(က) ဥယျာဉ်အတွင်း၌ **ပန်းပင်**များရှိသည်။ **အချို့**သည် နှင်းဆီပင်များဖြစ်ကြသည်။ (ပမာဏပြသချ်ာနာမ်စား)

(ခ) **ပန်းပင်အချို့**သည် နှင်းဆီပင်များဖြစ်ကြသည်။ (ပမာဏပြသချ်ာနာမဝိသေသန)

၉၉။ နာမ်စားကို နာမ်ဝိဘတ်များနှင့်တွဲနိုင်သည်။

**သာဓက**။ ။

| | **နာမ်ဝိဘတ်** | **နာမ်စားနှင့်နာမ်ဝိဘတ်** |
|---|---|---|
| (က) | သည်၊ က၊ မှာ | သူ**သည်**၊ သူ**က**၊ သူ့**မှာ** |
| (ခ) | ကို | သူ့**ကို** |
| (ဂ) | အား | သူ့**အား** |

၁၀၀။ ကတ္တားဝိဘတ် **မှာ**၊ ကံဝိဘတ် **ကို**၊ လက်ခံပြဝိဘတ် **အား**၊ အကြောင်းပြဝိဘတ် **ကြောင့်**၊ ရည်စူးချက်ပြဝိဘတ် **အတွက်၊ ဖို့** စသည်တို့ကို သံရှည်အဆုံးရှိသော နာမ်စားတို့နှင့် တွဲ၍ သုံးသောအခါ သံရှည်အချို့ကို အောက်မြစ်ထည့်၍ ပြောလေ့၊ ရေးလေ့ရှိသည်။

**သာဓက**။ ။

| **နာမ်စား** | **နာမ်ဝိဘတ်** | **နာမ်စားနှင့်နာမ်ဝိဘတ်** |
|---|---|---|
| ကျွန်တော် | မှာ၊ ကို၊ အား၊ | **ကျွန်တော့်**မှာ |
| | ကြောင့်၊ | **ကျွန်တော့်**ကို |
| | အတွက်၊ ဖို့။ | **ကျွန်တော့်**အား |
| | | **ကျွန်တော့်**ကြောင့် |
| | | **ကျွန်တော့်**အတွက် |
| | | **ကျွန်တော့်**ဖို့ |

၁၀၁။ နာမ်စားကို အများပြပစ္စည်း **တို့** နှင့် တွဲ၍သုံးသည်။

**သာဓက။** ။

| | **နာမ်စား** | **ပစ္စည်း** | **နာမ်စားနှင့်ပစ္စည်း** |
|---|---|---|---|
| (က) | ကျွန်တော် | တို့ | ကျွန်တော်**တို့** |
| (ခ) | ခင်ဗျား | တို့ | ခင်ဗျား**တို့** |
| (ဂ) | သူ | တို့ | သူ**တို့** |

၁၀၂။ **တို့** ဟူသော အများပြပစ္စည်းကို ပြောသူနာမ်စားအဖြစ် သုံးနိုင်သည်။

**သာဓက။** ။

(က) **တို့**ကို သူက အထင်မှားနေတယ်။

(ခ) **တို့** ပြန်ရောက်ပြီ။

၁၀၃။ **နာမဝိသေသန**။ ။ နာမ်ကို အထူးပြုသော ပုဒ်ကို **နာမဝိသေသန** ဟု ခေါ်သည်။ အထူးပြုခြင်းခံရသောနာမ်ကို **ဝိသေသျ**ဟု ခေါ်သည်။

၁၀၄။ အနက်အဓိပ္ပာယ်အရ နာမဝိသေသန ၄ မျိုးနှင့် ဖွဲ့စည်းတည်ဆောက်ပုံအရ နာမဝိသေသန ၂ မျိုးရှိသည်။

၁၀၅။ အနက်အဓိပ္ပာယ်အရ နာမဝိသေသန ၄ မျိုးမှာ အောက်ပါအတိုင်းဖြစ်သည်။

| | **အမျိုးအစား** | **သာဓက** |
|---|---|---|
| (က) | ဂုဏ်ရည်ပြနာမဝိသေသန | လိမ္မာသော၊ ဝေးသော၊ နီးသော၊ မြင့်သော၊ ကျဉ်းသော၊ ထူးဆန်းသော။ |
| (ခ) | အညွှန်းနာမဝိသေသန | ဤ၊ ထို၊ ယင်း၊ ၎င်း၊ သည်၊ အခြား။ |
| (ဂ) | သင်္ချာနာမဝိသေသန | |
| | (၁) အရေအတွက်ပြသင်္ချာ နာမဝိသေသန | သုံးယောက်၊ သုံးခု။ |
| | (၂) အစဉ်ပြသင်္ချာ နာမဝိသေသန | ဒုတိယအကြိမ်၊ အမှတ် (၃)၊ ၁၀ နှစ်မြောက်။ |
| | (၃) ပမာဏပြသင်္ချာ နာမဝိသေသန | အားလုံး၊ အချို့။ |
| (ဃ) | အမေးနာမဝိသေသန | ဘယ်၊ ဘယ်လောက်၊ မည်သည့်၊ မည်မျှ၊ မည်သို့သော။ |

၁၀၆။ ဖွဲ့စည်းတည်ဆောက်ပုံအရ နာမဝိသေသန ၂ မျိုးမှာ အောက်ပါအတိုင်းဖြစ်သည်။

| | **အမျိုးအစား** | **သာဓက** |
|---|---|---|
| (က) | ပင်ကိုနာမဝိသေသန | ကောင်း၊ မြင့်၊ မြန်၊ အေး၊ နီ၊ ချို၊ ကြမ်း။ |
| (ခ) | ပေါင်းစပ်နာမဝိသေသန | သတ္တိကောင်း၊ သန့်ရှင်း၊ ယဉ်ကျေးသိမ်မွေ့။ |

၁၀၇။ နာမဝိသေသနအဆင့် ၃ မျိုးမှာ အောက်ပါအတိုင်းဖြစ်သည်။

| | **အမျိုးအစား** | **သာဓက** |
|---|---|---|
| (က) | သာမန်အဆင့် | ကောင်းသော |

(ခ) သာလွန်အဆင့် သာ၍/ပို၍ကောင်းသော
(ဂ) အသာလွန်ဆုံးအဆင့် အကောင်းဆုံး

**နာမဝိသေသနဆိုင်ရာသိမှတ်ဖွယ်များ**

၁၀၈။ နာမဝိသေသနကို **အ၊ မှု၊ ခြင်း** ဟူသော ပစ္စည်းများနှင့် ဆက်၍ ဂုဏ်ရည်ပြနာမ်အဖြစ် ဖွဲ့စည်းနိုင်သည်။

| **သာဓက။** ။ | **နာမဝိသေသန** | **ဂုဏ်ရည်ပြနာမ်** |
|---|---|---|
| | ကောင်း | **အ**ကောင်း |
| | | ကောင်း**မှု** |
| | | ကောင်း**ခြင်း** |

၁၀၉။ နာမဝိသေသနများကို **နှစ်ကြိမ်ထပ်**ခြင်းဖြင့်လည်းကောင်း၊ **ပစ္စည်းဆက်**ခြင်းဖြင့် လည်းကောင်း၊ **ကာရန်လိုက်**ခြင်းဖြင့်လည်းကောင်း ကြိယာဝိသေသနအဖြစ် ဖွဲ့စည်းနိုင်သည်။

| **သာဓက။** ။ | **နာမဝိသေသန** | **ကြိယာဝိသေသန** |
|---|---|---|
| | မြန် | မြန်မြန် |
| | ချိုသာ | ချိုသာစွာ |
| | နီ | နီတီတီ |

၁၁၀။ နာမဝိသေသနကို နာမ်၊ နာမ်စားတို့၏ ရှေ့တွင် ထားလို သောအခါ ယင်းနာမဝိသေသနကို **သော၊ သည့်၊ မည့်** ဟူသော နာမဝိသေသနပုဒ်ပြောင်းပစ္စည်း တစ်ခုခုနှင့်တွဲ၍ သုံးနိုင်သည်။

| **သာဓက။** ။ | **နာမဝိသေသန** | |
|---|---|---|
| | အေး | **အေးသော**ရေ |
| | ရိုင်း | **ရိုင်းသည့်**ဆင် |
| | ထူးချွန် | **ထူးချွန်မည့်**ကလေး |

၁၁၁။ အချို့သောနာမဝိသေသနများသည် နာမ်နောက်တွင်ကပ်လျက် ကြား၌ မည်သည့် **ဝိဘတ်၊ ပစ္စည်း၊ သမ္ဗန္ဓ** မျှမပါဘဲ ရှေ့နာမ်ကိုအထူးပြုသည်။

| **သာဓက။** ။ | **နာမဝိသေသန** | |
|---|---|---|
| | ရိုင်း | ဆင်**ရိုင်း** |
| | အနည်းငယ် | ရေ**အနည်းငယ်** |
| | တစ်စီး | လှည်း**တစ်စီး** |

၁၁၂။ အချို့သော ကြိယာတို့ကို နာမဝိသေသနအဖြစ် အသုံးပြုလိုသောအခါ ထိုကြိယာတို့ကို **သော၊ သည့်၊ မည့်**ဟူသော နာမဝိသေသနပုဒ်ပြောင်းပစ္စည်းတစ်ခုခုနှင့်တွဲ၍ သုံးရသည်။

| **သာဓက။** ။ | **ကြိယာ** | |
|---|---|---|
| | စား | **စားသော**အစာ၊ **စားသည့်**အစာ၊ **စားမည့်**အစာ |

၁၁၃။ အချို့သော နာမဝိသေသနတို့ကို ကြိယာအဖြစ် အသုံးပြုလိုသောအခါ ထိုနာမဝိသေသန တို့ကို **သည်၊ ၏၊ မည်၊ လိမ့်မည်** စသည့် ကြိယာဝိဘတ်တစ်ခုခုနှင့်တွဲရသည်။

| **နာမဝိသေသန** | **ဝိဘတ်** | **ကြိယာ** |
|---|---|---|
| (က) နီ | သည် | နီ**သည်**။ |
| (ခ) မွေး | ၏ | မွေး**၏**။ |
| (ဂ) စိတ်ချမ်းသာ | မည် | စိတ်ချမ်းသာ**မည်**။ |
| (ဃ) ရိုးသားဖြောင့်မတ် | လိမ့်မည် | ရိုးသားဖြောင့်မတ်**လိမ့်မည်**။ |

၁၁၄။ နာမဝိသေသနကို (နာမ်၊ နာမဝိသေသန၊ နာမ်၊ နာမဝိသေသနဟူသောအစဉ်ဖြင့်) ပေါင်းစပ်၍ ကြိယာဝိသေသနအဖြစ် အသုံးပြုနိုင်သည်။

**သာဓက**။ ။

| **နာမ်** | **+** | **နာမဝိသေသန** | **+** | **နာမ်** | **+** | **နာမဝိသေသန** | **=** | **ကြိယာဝိသေသန** |
|---|---|---|---|---|---|---|---|---|
| (က) မျက်စိ | + | အေး | + | နား | + | အေး | = | မျက်စိအေး နားအေး |
| (ခ) စိတ် | + | ရှည် | + | လက် | + | ရှည် | = | စိတ်ရှည်လက်ရှည် |

၁၁၅။ နာမ်အချင်းချင်း ပေါင်းစပ်သော ပေါင်းစပ်နာမ်၌ ရှေ့နာမ်၊ သို့မဟုတ် နောက်နာမ်သည် ဝိသေသျဖြစ်သည်။

**သာဓက**။ ။

| **ပေါင်းစပ်နာမ်** | **အထူးပြုနာမ် နာမဝိသေသန** | **အထူးပြုခံနာမ် ဝိသေသျ** |
|---|---|---|
| (က) ရေအိုး | ရေ | အိုး |
| (ခ) တောင်ကလပ် | ကလပ် | တောင် |

၁၁၆။ **က** ဝိဘတ် ပါသော နေရာပြပုဒ်နှင့် အချိန်ပြပုဒ်၊ **နှင့်** ဝိဘတ်ပါသော ယှဉ်တွဲပြပုဒ်၊ **၏** ဝိဘတ်ပါသော ပိုင်ဆိုင်ခြင်းပြပုဒ်တို့သည် ယင်းပုဒ်တို့၏ နောက်တွင်ရှိသော နာမ်ကို အထူးပြုကြသည်။

**သာဓက**။ ။

| **အထူးပြုနှင့် အထူးပြုခံပုဒ်** | **အထူးပြုပုဒ် နာမဝိသေသန** | **အထူးပြုခံပုဒ် ဝိသေသျ** |
|---|---|---|
| (က) မန္တလေးကဆရာသည် | မန္တလေး**က** | ဆရာ |
| (ခ) ယမန်နှစ်ကပြက္ခဒိန်ကို | ယမန်နှစ်**က** | ပြက္ခဒိန် |
| (ဂ) မျက်မှန်နှင့်ကျောင်းသားအား | မျက်မှန်**နှင့်** | ကျောင်းသား |
| (ဃ) သူ၏ကူညီမှုကြောင့် | သူ**၏** | ကူညီမှု |

၁၁၇။ အသာလွန်ဆုံးအဆင့် နာမဝိသေသနကို နာမဝိသေသနအဖြစ် သာမက နာမ်အဖြစ်လည်း အသုံးပြုနိုင်သည်။

**သာဓက**။ ။

(က) ဤအတန်း၌ မြသည် **အတော်ဆုံး** ကျောင်းသူဖြစ်သည်။ (နာမဝိသေသန)

(ခ) ဤအတန်း၌ **အတော်ဆုံး**သည် မြဖြစ်သည်။ (နာမ်)

(ဂ) ဤအတန်း၌ မြသည် **အတော်ဆုံး**ဖြစ်သည်။ (နာမ်)

၁၁၈။ **တစ်ယောက်၊ နှစ်ကောင်၊ သုံးထည်** စသည့် သင်္ချာပြပုဒ်တို့ကို အရေအတွက်ပြ သင်္ချာ နာမဝိသေသနအဖြစ်လည်းကောင်း၊ အရေအတွက်ပြသင်္ချာနာမ်စားအဖြစ်လည်းကောင်း အသုံးပြုနိုင်သည်။

**သာဓက။** ။

| | **အရေအတွက်ပြ သင်္ချာနာမဝိသေသန** | **အရေအတွက်ပြ သင်္ချာနာမ်စား** |
| --- | --- | --- |
| (က) | နွား**နှစ်ကောင်** | ဦးမြမှာ နွားသုံးကောင်ရှိသည်။ **နှစ်ကောင်**မှာ နို့စားနွားများ ဖြစ်ကြသည်။ |
| (ခ) | ပုဆိုး**သုံးထည်** | ဦးမြမှာ ပုဆိုးလေးထည်ရှိသည်။ **သုံးထည်**မှာ ချည်ပုဆိုးများ ဖြစ်ကြသည်။ |

၁၁၉။ **အချို့၊ အားလုံး၊ အနည်းငယ်** စသည့် သင်္ချာပြပုဒ်တို့ကို ပမာဏပြသင်္ချာနာမဝိသေသန အဖြစ်လည်းကောင်း၊ ပမာဏပြသင်္ချာနာမ်စားအဖြစ်လည်းကောင်း အသုံးပြုနိုင်သည်။

**သာဓက။** ။

| | **ပမာဏပြ သင်္ချာနာမဝိသေသန** | **ပမာဏပြ သင်္ချာနာမ်စား** |
| --- | --- | --- |
| (က) | စပျစ်သီး**အချို့** | စပျစ်သီးအချို့မှာ ချဉ်သည်။ **အချို့**မှာ ချိုသည်။ |
| (ခ) | ရွာသား**အားလုံး** | ဤရွာ၌ ရွာသား(၂၀၀)ရှိသည်။ **အားလုံး** စာတတ်ကြသည်။ |

၁၂၀။ **မည်သည်၊ ဘယ်၊ ဘာ** စသည့် အမေးပုဒ်တို့ကို အမေးနာမဝိသေသနအဖြစ်လည်းကောင်း၊ အမေးနာမ်စားများအဖြစ်လည်းကောင်း အသုံးပြုနိုင်သည်။

**သာဓက။** ။

| | **အမေးနာမဝိသေသန** | **အမေးနာမ်စား** |
| --- | --- | --- |
| (က) | **မည်သည့်**မုန့် | ကြောင်အိမ်ထဲ၌ မုန့်မျိုးစုံ ရှိသည်။ **မည်သည်**ကို သင် စားလိုသနည်း။ |
| (ခ) | **ဘယ်**မြို့ | သူသည်မြို့က ပြန်လာသည်။ သူ **ဘယ်က**ပြန်လာသနည်း။ |

၁၂၁။ **ဤ၊ ထို၊ ယင်း၊ ၎င်း၊ သည်** တို့ကို အညွှန်းနာမဝိသေသနအဖြစ်လည်းကောင်း၊ အညွှန်းနာမ်စားအဖြစ်လည်းကောင်း အသုံးပြုနိုင်သည်။

**သာဓက။** ။

| | **အညွှန်းနာမဝိသေသန** | **အညွှန်းနာမ်စား** |
| --- | --- | --- |
| (က) | **ယင်းတရား**ကားကိုယ်ချင်းစာတရားပင်ဖြစ်သည်။ | **ယင်း**ကား ကိုယ်ချင်းစာတရားပင်ဖြစ်သည်။ |
| (ခ) | **သည်မြက်ခင်း**ပေါ်မှာမထိုင်ပါနှင့်။ | **သည်**မှာ ထိုင်ပါ။ |

၁၂၂။ **မည်မျှ၊ ဘယ်လောက်** စသည့် အမေးပုဒ်တို့ကို အမေးနာမဝိသေသနအဖြစ်လည်းကောင်း၊ အမေးကြိယာဝိသေသနအဖြစ်လည်းကောင်း အသုံးပြုနိုင်သည်။

**သာဓက။** ။

| | **အမေးနာမဝိသေသန** | **အမေးကြိယာဝိသေသန** |
| --- | --- | --- |
| (က) | ဤကျောင်း၌ ကျောင်းသား **မည်မျှ** ရှိသနည်း။ | မောင်ထွေးသည် စာကို **မည်မျှ** ကြိုးစားသနည်း။ |

| | | |
|---|---|---|
| (ခ) | သင်သည် တစ်နှစ်လျှင် စာအုပ် **ဘယ်လောက်** ဖတ်သနည်း။ | သင်သည် တစ်နေ့လျှင် ရေကို **ဘယ်လောက်** သောက်သနည်း။ |

၁၂၃။ **ကြိယာ**။ ။ ပြုခြင်းကိုဖြစ်စေ၊ ဖြစ်ခြင်းကိုဖြစ်စေ၊ ရှိခြင်းကိုဖြစ်စေ ပြသောပုဒ်ကို ကြိယာဟုခေါ်သည်။

၁၂၄။ အနက်အဓိပ္ပာယ်အရ ကြိယာ ၃ မျိုးနှင့် ဖွဲ့စည်းတည်ဆောက်ပုံအရ ကြိယာ ၃ မျိုး ရှိသည်။

၁၂၅။ အနက်အဓိပ္ပာယ်အရ ကြိယာ ၃ မျိုးမှာ အောက်ပါအတိုင်းဖြစ်သည်။

| | **အမျိုးအစား** | **သာဓက** |
|---|---|---|
| (က) | ပြုခြင်းပြကြိယာ | ရေး၊ ဖတ်၊ စား၊ ပြော။ |
| (ခ) | ဖြစ်ခြင်းပြကြိယာ | ဖြစ်(သည်)၊ ပြို(၏)၊ ကျက်(ပြီ)။ ပျော်(သည်)၊ နီ(သည်)။ |
| (ဂ) | ရှိခြင်းပြကြိယာ | ရှိ(သည်)၊ တည်ရှိ(သည်)။ |

၁၂၆။ ဖွဲ့စည်းတည်ဆောက်ပုံအရ ကြိယာ(၃)မျိုးမှာ အောက်ပါအတိုင်းဖြစ်သည်။

**သာဓက**။ ။

| | **အမျိုးအစား** | **သာဓက** |
|---|---|---|
| (က) | ပင်ကိုကြိယာ | ရေး၊ ဖြစ်၊ ကစား၊ ပူဇော်၊ ရှိခိုး။ |
| (ခ) | ဂုဏ်ရည်ပြကြိယာ | လှ (သည်)၊ ချို (သည်)၊ သာယာ (သည်)၊ |
| (ဂ) | ပေါင်းစပ်ကြိယာ | စားသောက် (သည်)၊ ဆေးခြယ် (သည်)။ လျှင်မြန်(သည်)။ |

## ကြိယာဆိုင်ရာသိမှတ်ဖွယ်များ

၁၂၇။ အချို့သော ကြိယာကို ကြိယာထောက်ပစ္စည်းအဖြစ် အသုံးပြုနိုင်သည်။

**သာဓက**။ ။

| | **ကြိယာ** | **ကြိယာထောက်ပစ္စည်း** | **အဓိပ္ပာယ်** |
|---|---|---|---|
| (က) | ကြည့် | စား**ကြည့်**သည်။ | စူးစမ်းသည့်သဘော |
| (ခ) | ပေး | ပြော**ပေး**သည်။ | သူတစ်ပါးကို ကူညီသည့်သဘော |
| (ဂ) | နိုင် | မ**နိုင်**သည်။ | စွမ်းဆောင်နိုင်သည့်သဘော |

၁၂၈။ ကြိယာအချင်းချင်း ပေါင်းစပ်ရာ၌ ကြိယာနှစ်ခုမက ပေါင်းစပ်နိုင်သည်။

**သာဓက**။ ။

| | **ဝါစင်္ဂ** | **ပေါင်းစပ်ပုံ** | **ပေါင်းစပ်ကြိယာ** |
|---|---|---|---|
| (က) | ကြိယာ+ကြိယာ+ကြိယာ | ကြွရောက် + အားပေး + ချီးမြှင့် | ကြွရောက်အားပေးချီးမြှင့် (သည်) |
| (ခ) | ကြိယာ+ကြိယာ+ကြိယာ +ကြိယာ | ဝင်+ထွက်+ သွား+ လာ | ဝင်ထွက်သွားလာ (သည်) |

၁၂၉။ **ကြ၊ ကုန်** စသည့် အများပြကြိယာပစ္စည်းတို့ကို ကြိယာနှင့်တွဲ၍ သုံးနိုင်သကဲ့သို့ မြှုပ်၍လည်း သုံးနိုင်သည်။

**သာဓက**။ ။

(က) (၁) ကျောင်းသားများကစားနေ**ကြ**သည်။

(၂) ကျောင်းသားများ ကစားနေသည်။

(ခ) (၁) သူတို့ လာ**ကုန်**ပြီ။

(၂) သူတို့ လာပြီ။

၁၃၀။ လုပ်ငန်းတစ်ခုပြီးတစ်ခု ဆောင်ရွက်ကြောင်း ဖော်ပြလိုသောအခါ ကြိယာနှစ်ခုကိုတွဲ၍ သုံးလေ့ရှိသည်။

**သာဓက**။ ။

(က) ကလေးသည် ဖခင်ကို **ပြေးဖက်**သည်။

(ခ) သူသည် ကောင်းကင်ကို **မော့ကြည့်**သည်။

၁၃၁။ ကြိယာနှစ်ခု၊ သို့မဟုတ် ကြိယာအဖြစ် အသုံးပြုသော နာမဝိသေသနနှစ်ခုတို့၏ကြား၌ **လည်း၊ မြ၊ သာ** စသည့် ပစ္စည်းတို့ကိုထား၍ ကြိယာအဖြစ် အသုံးပြုနိုင်သည်။

**သာဓက**။ ။

(က) သူသည် ငွေကိုရှာ**လည်း**ရှာသည်။ လှူ**လည်း**လှူသည်။

(ခ) သူသည် လှ**လည်း**လှသည်။ ယဉ်**လည်း**ယဉ်သည်။

(ဂ) သူသည် စာကြိုးစား**မြ**ကြိုးစားသည်။

(ဃ) သူသည် စာကိုဖတ်**သာ**ဖတ်သည်။ အဓိပ္ပာယ်ကို သဘောမပေါက်ပေ။

၁၃၂။ **ဖြစ်သည်**ဟူသောကြိယာဖြင့် ဖွဲ့သောဝါကျ၌ တစ်ခါတစ်ရံ ယင်းကြိယာကိုမြှုပ်၍ ဝါကျဖွဲ့တတ်သည်။

**သာဓက**။ ။

(က) ဤသည်ကား ပညာရှိတို့၏ အဆိုအမိန့် ( )တည်း။

(ခ) သူသည် လူတော်တစ်ယောက် ( )တည်း။

၁၃၃။ **ကြိယာဝိသေသန**။ ။ ကြိယာကို အထူးပြုသောပုဒ်ကို **ကြိယာဝိသေသန** ဟု ခေါ်သည်။ အထူးပြုခြင်းခံရသောကြိယာကို **ဝိသေသျ**ဟုခေါ်သည်။

၁၃၄။ အနက်အဓိပ္ပာယ်အရ ကြိယာဝိသေသန ၅ မျိုးနှင့် ဖွဲ့စည်းတည်ဆောက်ပုံအရ ကြိယာဝိသေသန ၃ မျိုးရှိသည်။

၁၃၅။ အနက်အဓိပ္ပာယ်အရ ကြိယာဝိသေသန ၅ မျိုးမှာ အောက်ပါအတိုင်းဖြစ်သည်။

| **အမျိုးအစား** | **သာဓက** |
|---|---|
| (က) အချိန်ပြကြိယာဝိသေသန | ယနေ့၊ နက်ဖြန်၊ ယခု၊ မကြာမီ၊ အစဉ်။ |
| (ခ) အမူအရာပြကြိယာဝိသေသန | ဒယိမ်းဒယိုင်၊ တရိုတသေ၊ ညီညီညာညာ၊ အလျင်အမြန်။ |
| (ဂ) အခြေအနေပြကြိယာဝိသေသန | သည်းထန်စွာ၊ ဖရိုဖရဲ၊ စင်စစ်၊ မုချ။ |
| (ဃ) ပမာဏပြကြိယာဝိသေသန | အနည်းငယ်၊ အကုန်၊ လုံးဝ၊ အလွန်၊ များစွာ။ |
| (င) အမေးကြိယာဝိသေသန | မည်သို့၊ မည်ကဲ့သို့၊ မည်မျှ။ |

၁၃၆။ ဖွဲ့စည်းတည်ဆောက်ပုံအရ ကြိယာဝိသေသန ၃ မျိုးမှာ အောက်ပါအတိုင်းဖြစ်သည်။

| **အမျိုးအစား** | **သာဓက** |
|---|---|
| (က) နှစ်ကြိမ်ထပ်ကြိယာဝိသေသန | မြန်မြန်၊ ခင်ခင်မင်မင်၊ ချိုချို သာသာ။ |
| (ခ) ပစ္စည်းဆက်ကြိယာဝိသေသန | ခင်မင်စွာ၊ အလှ၊ တမှိုင်မှိုင်၊ တရွေ့ရွေ့၊ တရကြမ်း၊ ခပ်မြန်မြန်၊ အပူတပြင်း၊ မထိတထိ၊ တက်လိုက် ဆင်းလိုက်။ |
| (ဂ) ကာရန်လိုက်ကြိယာဝိသေသန | စီရရီ၊ ဆာတာတာ၊ နီတီတီ။ |

၁၃၇။ ကြိယာဝိသေသနအဆင့် ၃ မျိုးမှာ အောက်ပါအတိုင်းဖြစ်သည်။

| **အမျိုးအစား** | **သာဓက** |
|---|---|
| (က) သာမန်အဆင့် | ကောင်းစွာ |
| (ခ) သာလွန်အဆင့် | သာ၍/ပို၍ကောင်းစွာ |
| (ဂ) အသာလွန်ဆုံးအဆင့် | အကောင်းဆုံး |

## ကြိယာဝိသေသနဆိုင်ရာ သိမှတ်ဖွယ်များ

၁၃၈။ နာမ်အချင်းချင်းကိုဖြစ်စေ၊ နာမ်နှင့် နာမဝိသေသနကိုဖြစ်စေ၊ ကြိယာအချင်းချင်းကို ဖြစ်စေ ပေါင်းစပ်ခြင်းဖြင့် ကြိယာဝိသေသန ဖြစ်လာသည်။

**သာဓက**။ ။

| | **ဝါစင်္ဂ** | **ပေါင်းစပ်ပုံ** | **ကြိယာဝိသေသန** |
|---|---|---|---|
| (က) | နာမ် + နာမ် + နာမ် + နာမ် | ခြေ + (အ)ဆုံး + ခေါင်း + (အ)ဆုံး | ခြေဆုံးခေါင်းဆုံး (ကြည့်သည်) |
| (ခ) | နာမ်+နာမဝိသေန နာမ်+နာမဝိသေသန | စိတ်+မြန်+ လက်+မြန် | စိတ်မြန်လက်မြန် (ပြုတတ်သည်) |
| (ဂ) | ကြိယာ+ကြိယာ | အားရ+ဝမ်းသာ | အားရဝမ်းသာ (ကြိုဆိုသည်) |

၁၃၉။ စကားတစ်လုံးတည်းရှိသော ကြိယာနှင့် နာမဝိသေသနတို့ကို ရှေ့က **အ** ပစ္စည်းဆက်၍ ကြိယာဝိသေသနအဖြစ် အသုံးပြုနိုင်သည်။

**သာဓက**။

| **ကြိယာ** | **ပစ္စည်း** | **ကြိယာဝိသေသန** |
|---|---|---|
| ရ | အ | အရ (ယူသည်) |
| **နာမဝိသေသန** | **ပစ္စည်း** | **ကြိယာဝိသေသန** |
| လှ | အ | အလှ (ပြင်သည်) |

၁၄၀။ ဥပစာစကားတို့ကို ကြိယာဝိသေသနအဖြစ် အသုံးပြုသည်။

**သာဓက**။ ။

| **ဥပစာစကား** | **ကြိယာဝိသေသန** |
|---|---|
| (က) ခရေစေ့တွင်းကျ | ခရေစေ့တွင်းကျ (သိသည်) |
| (ခ) ဆင်ကန်းတောတိုး | ဆင်ကန်းတောတိုး (လုပ်သည်) |

၁၄၁။ **မိ–ရာ** ဟူသော ပစ္စည်းနှင့် **တွေး၊ ငေး၊ ထင်၊ ပြော** စသည့် အချို့ကြိယာတို့ကို ပေါင်းစပ်၍ ကြိယာဝိသေသနအဖြစ် အသုံးပြုနိုင်သည်။

**သာဓက**။ ။

| **ကြိယာ** | **ပစ္စည်း** | **ကြိယာဝိသေသန** |
|---|---|---|
| တွေး | မိ–ရာ | တွေးမိတွေးရာ (တွေးသည်) |

၁၄၂။ အချို့သော နာမ်နှင့်ကြိယာ ပေါင်းစပ်သောပုဒ်တို့ကို ကြိယာဝိသေသနအဖြစ် အသုံးပြုနိုင်သည်။

**သာဓက**။ ။

| **ပုဒ်** | **ပေါင်းစပ်ပုံ** | **ကြိယာဝိသေသန** |
|---|---|---|
| (က) နာမ်+ကြိယာ | အညောင်း+ပြေ | အညောင်းပြေ (လျှောက်သည်) |
| (ခ) နာမ်+ကြိယာ | လက်+တွေ့ | လက်တွေ့(သင်ပြသည်) |

၁၄၃။ နာမဝိသေသနကိုလည်းကောင်း၊ အသံပြုပုဒ်ကိုလည်းကောင်း **ခနဲ** ဟူသော ပစ္စည်းနှင့်ဆက်၍ ကြိယာဝိသေသနအဖြစ် အသုံးပြုနိုင်သည်။

**သာဓက**။ ။

| **နာမဝိသေသနနှင့် အသံပြုပုဒ်** | **ပစ္စည်း** | **ကြိယာဝိသေသန** |
|---|---|---|
| (က) ပူ | ခနဲ | ပူခနဲ (ဖြစ်သည်) |
| (ခ) ဝုန်း | ခနဲ | ဝုန်းခနဲ (ကျသည်) |

၁၄၄။ သံရှည်ကြိယာနှင့် သံရှည်နာမဝိသေသနတို့ကို **မ–တ** ပစ္စည်းနှင့်တွဲခြင်းဖြင့် ဖြစ်လာသော ကြိယာဝိသေသနတို့၌ **မ** ၏နောက်တွင်ရှိသော သံရှည်ကို သံတိုဖြစ်စေရန် အောက်မြစ် ထည့်ပေးရသည်။

**သာဓက**။ ။

| **ပုဒ်** | **ပစ္စည်း** | **ကြိယာဝိသေသန** |
|---|---|---|
| (က) ယုံ | မ–တ | **မ**ယုံ့**တ**ယုံ(ဖြစ်သည်) |
| (ခ) နိုင် | မ–တ | **မ**နိုင့်**တ**နိုင်(မသည်) |

၁၄၅။ **မည်မျှ၊ ဘယ်လောက်** စသည့် အမေးပုဒ်တို့ကို အမေးကြိယာဝိသေသနအဖြစ်လည်းကောင်း၊ အမေးနာမဝိသေသနအဖြစ်လည်းကောင်း အသုံးပြုနိုင်သည်။

**သာဓက**။ ။

(က) မောင်ထွေးသည် စာကို**မည်မျှ**ကြိုးစားသနည်း။ (အမေးကြိယာဝိသေသန)

(ခ) ဤကျောင်း၌ ကျောင်းသား **မည်မျှ**ရှိသနည်း။ (အမေးနာမဝိသေသန)

၁၄၆။ စကားတစ်လုံးပါ အချို့ကြိယာကို နှစ်ကြိမ်ထပ်၍ ကြိယာဝိသေသနအဖြစ် အသုံးပြုနိုင်သည်။

**သာဓက**။ ။

(က) သူသည် ကောင်းကင်ကို **မော့မော့** ကြည့်သည်။

(ခ) မစောမြင့်သည် သူ၏မုန့်ကို သူငယ်ချင်းများအား **ဝေဝေ** ပေးသည်။

၁၄၇။ အသာလွန်ဆုံးအဆင့်ကိုဖော်ပြသော ပုဒ်တို့ကို ကြိယာဝိသေသနအဖြစ်လည်းကောင်း၊ နာမ်အဖြစ်လည်းကောင်း၊ နာမဝိသေသနအဖြစ်လည်းကောင်း အသုံးပြုနိုင်သည်။

**သာဓက**။ ။

(က) မီးသတ်ကားသည် မီးလောင်ရာသို့ **အမြန်ဆုံး** ရောက်လာသည်။ (ကြိယာဝိသေသန)

(ခ) မောင်အေးချမ်းသည် ကျောင်းသားများအနက် **အသွက်လက်ဆုံး**ဖြစ်သည်။ (နာမ်)

(ဂ) မောင်အေးချမ်းသည် **အသွက်လက်ဆုံး** ကျောင်းသားဖြစ်သည်။(နာမဝိသေသန)

၁၄၈။ **ဝိဘတ်**။ ။ နာမ်၊ နာမ်စားတို့၏ နောက်၌တည်၍ ၎င်းတို့သည် ကတ္တားဖြစ်သည်၊ ကံဖြစ်သည် စသည်ကိုလည်းကောင်း၊ ကြိယာ၏နောက်၌တည်၍ ၎င်းကြိယာ၏ကာလနှင့် အမျိုးအစားကိုလည်းကောင်း ဝေဖန်ပိုင်းခြားပြသော စကားလုံးကို **ဝိဘတ်**ဟုခေါ်သည်။

၁၄၉။ နာမ်ဝိဘတ်နှင့် ကြိယာဝိဘတ်ဟူ၍ ၂ မျိုးရှိသည်။ နာမ်ဝိဘတ် ၁၇ မျိုး၊ ကြိယာဝိဘတ် ၂ မျိုးရှိသည်။

၁၅၀။ နာမ်ဝိဘတ် ၁၇ မျိုးမှာ အောက်ပါအတိုင်းဖြစ်သည်။

| | **အမျိုးအစား** | **သာဓက** |
|---|---|---|
| (က) | ကတ္တားဝိဘတ် | သည်၊ က၊ မှာ။ |
| (ခ) | ကံဝိဘတ် | ကို။ |
| (ဂ) | ထွက်ခွာရာပြဝိဘတ် | မှ၊ က။ |
| (ဃ) | ရှေးရှုရာပြဝိဘတ် | သို့။ |
| (င) | ဆိုက်ရောက်ရာပြဝိဘတ် | သို့၊ ထိ၊ အထိ၊ ထိအောင်၊ တိုင်အောင်။ |
| (စ) | အသုံးခံပြဝိဘတ် | ဖြင့်၊ နှင့်။ |
| (ဆ) | အကြောင်းပြဝိဘတ် | ကြောင့်၊ ဖြင့်။ |
| (ဇ) | လက်ခံပြဝိဘတ် | အား။ |
| (ဈ) | နေရာပြဝိဘတ် | ၌၊ မှာ၊ တွင်၊ ဝယ်၊ က။ |
| (ည) | အချိန်ပြဝိဘတ် | ၌၊ မှာ၊ တွင်၊ ဝယ်၊ က။ |
| (ဋ) | ပိုင်ဆိုင်ခြင်းပြဝိဘတ် | ၏။ |
| (ဌ) | လိုက်လျောပြဝိဘတ် | အလိုက်၊ အရ၊ အတိုင်း၊ အလျောက်၊ အားလျော်စွာ၊ နှင့်အညီ၊ နှင့်အမျှ။ |
| (ဍ) | ယှဉ်တွဲပြဝိဘတ် | နှင့်၊ နှင့်အတူ၊ နှင့်တကွ။ |
| (ဎ) | ခွဲထုတ်ရာပြဝိဘတ် | တွင်၊ အနက်၊ အထဲမှ၊ အထဲမှာ။ |
| (ဏ) | ရည်စူးချက်ပြဝိဘတ် | ငှာ၊ အလို့ငှာ၊ ဖို့၊ အဖို့၊ အတွက်။ |
| (တ) | နေရာဆက်တိုက်ပြဝိဘတ် | တိုင်တိုင်၊ တိုင်အောင်။ |
| (ထ) | အချိန်ဆက်တိုက်ပြဝိဘတ် | တိုင်တိုင်၊ တိုင်အောင်၊ ပတ်လုံး၊ လုံးလုံး။ |

၁၅၁။ ကြိယာဝိဘတ် ၂ မျိုးမှာ အောက်ပါအတိုင်းဖြစ်သည်။

| | | | **အမျိုးအစား** | **သာဓက** |
|---|---|---|---|---|
| (က) | ကာလပြကြိယာဝိဘတ် | | | |
| | (၁) | ပစ္စုပ္ပန်ကာလပြကြိယာဝိဘတ် | | သည်၊ ၏၊ ပြီ။ |
| | (၂) | အတိတ်ကာလပြကြိယာဝိဘတ် | | သည်၊ ၏၊ ပြီ။ |
| | (၃) | အနာဂတ်ကာလပြကြိယာဝိဘတ် | | မည်၊ လိမ့်မည်၊ အံ့၊ လတ္တံ့။ |
| (ခ) | အမျိုးအစားပြကြိယာဝိဘတ် | | | |
| | (၁) | စေခိုင်းဝိဘတ် | | လော့။ |
| | (၂) | ညွှန်ကြားဝိဘတ် | | စို့၊ ရအောင်။ |
| | (၃) | ဆန္ဒညွှန်ဝိဘတ် | | ပါစေ၊ ပါရစေ။ |
| | (၄) | အမိန့်ချဝိဘတ် | | စေ။ |

## ဝိဘတ်ဆိုင်ရာသိမှတ်ဖွယ်များ

၁၅၂။ **က၊ သို့၊ မှာ၊ ဖြင့်၊ နှင့်၊ ၌၊ တွင်၊ ဝယ်၊ တိုင်တိုင်၊ တိုင်အောင်** စသည့် နာမ်ဝိဘတ်တို့သည် ဝါကျတွင် အသုံးကိုလိုက်၍ အမျိုးအစားကွဲပြားကြသည်။

**သာဓက**။ ။

| | **ဝိဘတ်** | **အသုံး** | **ဝိဘတ်အမည်** |
|---|---|---|---|
| (က) | **က** | - သူ**က** ပြောသည်။ | ကတ္တားဝိဘတ် |
| | | - ဆိပ်ကမ်း**က**ခွာသည်။ | ထွက်ခွာရာပြဝိဘတ် |
| | | - အိမ်ဝ**က**စောင့်သည်။ | နေရာပြဝိဘတ် |
| | | - နံနက်**က**ရောက်သည်။ | အချိန်ပြဝိဘတ် |
| (ခ) | **သို့** | - မောင်ချစ်ညိုသည် ကျောင်း**သို့**သွားသည်။ | ရွေးရှုရာပြဝိဘတ် |
| | | - မောင်ချစ်ညိုသည် ၅ နာရီ၌ အိမ်**သို့**ပြန်ရောက်သည်။ | ဆိုက်ရောက်ရာပြဝိဘတ် |
| (ဂ) | **တိုင်တိုင်** | - ၁၀ မိုင်**တိုင်တိုင်** မနားဘဲ လျှောက်ကြသည်။ | နေရာဆက်တိုက်ပြဝိဘတ် |
| | | - ၂ နာရီ**တိုင်တိုင်** ရေထဲ၌ နေနိုင်သည်။ | အချိန်ဆက်တိုက်ပြဝိဘတ် |

၁၅၃။ **သည်၊ ကို၊ က** စသည့်အချို့သောနာမ်ဝိဘတ်တို့ကို ဝါကျ၌ တစ်ခါတစ်ရံ မြှုပ်၍သုံးနိုင်သည်။

**သာဓက**။ ။

(က) (၁) သူ**သည်**ကား ပညာရှိတည်း။

(၂) သူကားပညာရှိတည်း။

(ခ) (၁) ရွာသားများက လမ်း**ကို**ပြင်ကြသည်။

(၂) ရွာသားများက လမ်းပြင်ကြသည်။

(ဂ) (၁) သူ**က**လည်း ကူညီပါသည်။
(၂) သူလည်း ကူညီပါသည်။

၁၅၄။ **နှင့်** ဝိဘတ်ပါသော အသုံးခံပြုပုဒ်ကို ဆိုလိုသည့်အဓိပ္ပာယ်အပြင် အခြားအဓိပ္ပာယ်တစ်မျိုးမျိုး မဖြစ်ပေါ်စေရန် ကြိယာရှေ့၌ထား၍ သုံးလေ့ရှိသည်။

**သာဓက**။ ။

– ထန်းသမားသည် **လှေကားနှင့်** ထန်းပင်ပေါ်သို့တက်သည်။
– ထန်းသမားသည် ထန်းပင်ပေါ်သို့ **လှေကားနှင့်** တက်သည်။

၁၅၅။ ကြိယာဝိဘတ် **သည်၊ ပြီ၊ မည်** တို့သည် အချို့သော အမေးပစ္စည်းတစ်ခုခုနှင့် တွဲ၍ သုံးသောအခါ **သည်** သည် **သ**၊ **ပြီ** သည် **ပ**၊ **မည်** သည် **မ** နှင့် **မှာ** တို့သို့ ပြောင်းတတ်သည်။

**သာဓက**။ ။

| | |
|---|---|
| (က) ပြော**သည်**။ | ပြော**သ**လား။ |
| (ခ) လာ**ပြီ**။ | လာ**ပ**လား။ |
| (ဂ) သွား**မည်**။ | သွား**မ**လား။ |
| | သွား**မှာ**လား။ |

၁၅၆။ နာမဝိသေသနကို ကြိယာအဖြစ် အသုံးပြုသောအခါ ကြိယာဝိဘတ်တစ်ခုခုနှင့် တွဲရသည်။

**သာဓက**။ ။

| **နာမဝိသေသန** | **ဝိဘတ်** | **ကြိယာ** |
|---|---|---|
| (က) နီ | သည် | နီသည်။ |
| (ခ) မွှေး | ၏ | မွှေး၏။ |

၁၅၇။ **သမ္ဗန္ဓ**။ ။ ပုဒ်အချင်းချင်းကိုဖြစ်စေ၊ ဝါကျအချင်းချင်းကိုဖြစ်စေ၊ အဓိပ္ပာယ် အချင်းချင်းကိုဖြစ်စေ ဆက်စပ်ပေးသော စကားလုံးကို **သမ္ဗန္ဓ**ဟု ခေါ်သည်။

၁၅၈။ ဆက်စပ်ပုံအရ သမ္ဗန္ဓ ၃ မျိုးနှင့် အနက်အဓိပ္ပာယ်အရ သမ္ဗန္ဓ ၁၁ မျိုးရှိသည်။

၁၅၉။ ဆက်စပ်ပုံအရ သမ္ဗန္ဓ ၃ မျိုးမှာ အောက်ပါအတိုင်းဖြစ်သည်။

| **အမျိုးအစား** | **သာဓက** |
|---|---|
| (က) ပုဒ်ဆက်သမ္ဗန္ဓ | နှင့်၊ သို့မဟုတ်၊ မှတစ်ပါး၊ ဖြစ်စေ...ဖြစ်စေ၊ သော်လည်းကောင်း... သော်လည်းကောင်း။ |
| (ခ) ဝါကျဆက်သမ္ဗန္ဓ | ၍၊ လျက်၊ လျှင်၊ သကဲ့သို့၊ နှင့်တစ်ပြိုင်နက်။ |
| (ဂ) အဓိပ္ပာယ်ဆက်သမ္ဗန္ဓ | ထို့ကြောင့်၊ ထို့ပြင်၊ ထိုအခါ၊ သို့ရာတွင်။ |

၁၆၀။ အနက်အဓိပ္ပာယ်အရ သမ္ဗန္ဓ ၁၁ မျိုးမှာ အောက်ပါအတိုင်းဖြစ်သည်။

| **အမျိုးအစား** | **သာဓက** |
|---|---|
| (က) ဆန့်ကျင်ပြသမ္ဗန္ဓ | သို့ရာတွင်၊ သော်လည်း၊ စေကာမူ၊ မ...ဘဲလျက်။ |
| (ခ) အချိန်ပြသမ္ဗန္ဓ | နှင့်တစ်ပြိုင်နက်၊ တိုင်း၊ မှ၊ ရင်း၊ မ...မီ။ |
| (ဂ) အကျိုးမျှော်ပြသမ္ဗန္ဓ | အောင်၊ ရန်၊ ဖို့၊ ရန်အလို့ငှာ။ |
| (ဃ) အကြောင်းပြသမ္ဗန္ဓ | ၍၊ နှင့်၊ သဖြင့်၊ ထို့ကြောင့်။ |
| (င) နှိုင်းယှဉ်ပြသမ္ဗန္ဓ | သကဲ့သို့၊ သလို၊ ထက်။ |

| | | |
|---|---|---|
| (စ) | ပေါင်းစည်းပြသမ္ဗန္ဓ နှင့်၊ | လည်း.........လည်း၊ အပြင်......လည်း၊ သာမက .........လည်း။ |
| (ဆ) | ရွေးချယ်ပြသမ္ဗန္ဓ | သို့မဟုတ်။ |
| (ဇ) | ကန့်သတ်ချက်ပြသမ္ဗန္ဓ | လျှင်၊ မှ၊ က။ |
| (ဈ) | ကန့်သတ်မဲ့ပြသမ္ဗန္ဓ | ဖြစ်စေ......ဖြစ်စေ၊ သော်လည်းကောင်း......... သော်လည်းကောင်း။ |
| (ည) | တစ်ပြိုင်နက်ပြသမ္ဗန္ဓ | လျက်၊ ကာ၊ ရင်း။ |
| (ဋ) | တစ်ခုပြီးတစ်ခုပြသမ္ဗန္ဓ | ကာ၊ ၍။ |

**သမ္ဗန္ဓဆိုင်ရာသိမှတ်ဖွယ်များ**

၁၆၁။ **၍၊ က၊ နှင့်** စသည့် သမ္ဗန္ဓတို့သည် ဝါကျတွင် အသုံးကိုလိုက်၍ သမ္ဗန္ဓအမျိုးအစား ကွဲပြားသည်။

**သာဓက**။ ။

| | **သမ္ဗန္ဓ** | **အသုံး** | **သမ္ဗန္ဓအမျိုးအစား** |
|---|---|---|---|
| (က) | **၍** | – သူကျွေး**၍**ကျွန်တော်စားသည်။ | အကြောင်းပြသမ္ဗန္ဓ |
| | | – လူဆိုးကို ရဲကဖမ်း**၍** စခန်းသို့ ခေါ်ဆောင်သွားသည်။ | တစ်ခုပြီးတစ်ခုပြသမ္ဗန္ဓ |
| (ခ) | **က** | – သီတင်းကျွတ်လရောက်**က** ကြာပန်းများပွင့်ကြမည်။ | အချိန်ပြသမ္ဗန္ဓ |
| | | – လူက ငွေကိုချစ်**က** ငွေက လူကိုချစ်မည်။ | ကန့်သတ်ချက်ပြသမ္ဗန္ဓ |
| (ဂ) | **နှင့်** | – မိုးရွာသည်**နှင့်** သစ်ပင်များ လန်းဆန်းလာသည်။ | အကြောင်းပြသမ္ဗန္ဓ |
| | | – ရေ**နှင့်** ကြာသည် ပနံရသည်။ | ပေါင်းစည်းပြသမ္ဗန္ဓ |

၁၆၂။ ဝါကျရိုးတို့ကို ဝါကျဆက်သမ္ဗန္ဓနှင့်ဆက်သောအခါ ရှေ့ဝါကျတို့၏ ကြိယာဝိဘတ်သည် တစ်ခါတစ်ရံ ကျေပျောက်သည်။

**သာဓက**။ ။

(က) သီတင်းကျွတ်လ ရောက်**ပြီ**။ (ဝါကျရိုး)

(ခ) ကြာပန်းများ ပွင့်ကြသည်။ (ဝါကျရိုး)

(ဂ) သီတင်းကျွတ်လရောက်**၍** ကြာပန်းများပွင့်ကြသည်။

၁၆၃။ **ပြီး၊ ပြီးလျှင်၊ ပြီးသော်** တို့ကို သမ္ဗန္ဓအဖြစ် အသုံးပြုနိုင်သည်။

**သာဓက**။ ။

အလောင်းမင်းတရားသည် ဒဂုံမြို့ကို သိမ်း**ပြီး**/ **ပြီးလျှင်**/**ပြီးသော်** ရန်ကုန်မြို့ဟု အမည်ပေးတော်မူသည်။

၁၆၄။ **တိုင်၊ တိုင်အောင်၊ အခါတိုင်း** စသည့် အချို့သော သမ္ဗန္ဓတို့နှင့် ဝါကျရိုးနှစ်ခုကို ဆက်သောအခါ ရှေ့ဝါကျရှိ **သည်** ဝိဘတ်တွင် အောက်မြစ်ထည့်လေ့ရှိသည်။

**သာဓက**။ ။

(က) သူပြန်လာ**သည်**။ (ဝါကျရိုး)

(ခ) ကျွန်တော် စောင့်မည်။ (ဝါကျရိုး)

(ဂ) သူ ပြန်လာ**သည့်တိုင်/တိုင်အောင်/အခါတိုင်း** ကျွန်တော်စောင့်မည်။

၁၆၅။ **ပစ္စည်း**။ ။ နာမ်၊ နာမ်စား၊ နာမဝိသေသန၊ ကြိယာ၊ ကြိယာဝိသေသနတို့၏ အဓိပ္ပာယ်ကို ထူးခြားလေးနက်အောင် ကူညီထောက်ပံ့သောစကားလုံးကို **ပစ္စည်း**ဟု ခေါ်သည်။

၁၆၆။ နာမ်ပစ္စည်း၊ ကြိယာပစ္စည်း၊ ပုဒ်ပြောင်းပစ္စည်းဟူ၍ ၃ မျိုးရှိသည်။ နာမ်ပစ္စည်းကို ၉ မျိုး၊ ကြိယာပစ္စည်းကို ၅ မျိုး၊ ပုဒ်ပြောင်းပစ္စည်းကို ၃ မျိုး ခွဲပြထားသည်။

၁၆၇။ နာမ်ပစ္စည်း ၉ မျိုးမှာ အောက်ပါအတိုင်းဖြစ်သည်။

| **အမျိုးအစား** | **သာဓက** |
|---|---|
| (က) မျိုးပြပစ္စည်း | (နှစ်)ပင်၊ (သုံး)ယောက်၊ (လေး)ခု။ |
| (ခ) လိင်ညွှန်းပစ္စည်း | (ကျောင်း)သား၊ (ကျောင်း)သူ၊ (ဝက်ဆံ)ဖို၊ (ဝက်ဆံ)မ၊ ဦး(မြ)၊ ဒေါ်(လှ)။ |
| (ဂ) ကိန်းညွှန်းပစ္စည်း | များ၊ တို့။ |
| (ဃ) သင်္ချာပစ္စည်း | ကျစီ၊ ခန့်၊ ကြိမ်၊ မြောက်။ |
| (င) နာမ်ထောက်ပစ္စည်း | သာလျှင်၊ တော့၊ လည်း၊ ပါ၊ များ။ |
| (စ) ဥပမာပစ္စည်း | ကဲ့သို့၊ နှယ်၊ လို၊ အတိုင်း။ |
| (ဆ) ရူပကပစ္စည်း | တည်းဟူသော။ |
| (ဇ) အာလုပ်ပစ္စည်း | အို၊ ဟယ်၊ ရှင်၊ ခင်ဗျာ၊ ဟေ့။ |
| (ဈ) ဝိစ္ဆာပစ္စည်း | တိုင်း၊ တကာ၊ အ(မြို့မြို့)။ |

၁၆၈။ ကြိယာပစ္စည်း ၅ မျိုးမှာ အောက်ပါအတိုင်းဖြစ်သည်။

| **အမျိုးအစား** | **သာဓက** |
|---|---|
| (က) အမေးပစ္စည်း | နည်း၊ လော၊ လား၊ လဲ၊ တုံး။ |
| (ခ) ကိန်းညွှန်းပစ္စည်း | ကြ၊ ကုန်၊ ကြကုန်။ |
| (ဂ) ကြိယာထောက်ပစ္စည်း | နိုင်၊ ဝံ့၊ ခဲ့၊ မိ၊ ပါ။ |
| (ဃ) အငြင်းပြပစ္စည်း | မ၊ မ.........ဘူး။ |
| (င) ဝါကျနောက်လိုက်ပစ္စည်းကွယ်၊ နော်၊ ပေါ့၊ လေ၊ ပေါ့လေ။ | |

၁၆၉။ ပုဒ်ပြောင်းပစ္စည်း ၃ မျိုးမှာ အောက်ပါအတိုင်းဖြစ်သည်။

| **အမျိုးအစား** | **သာဓက** |
|---|---|
| (က) နာမ်ပုဒ်ပြောင်းပစ္စည်း | အာ၊ ခြင်း၊ ချက်၊ စရာ၊ မှု၊ အ–အ။ |
| (ခ) နာမဝိသေသန ပုဒ်ပြောင်းပစ္စည်း | သော၊ သည့်၊ မည့်။ |

(ဂ) ကြိယာဝိသေသန ပုဒ်ပြောင်းပစ္စည်း — စွာ၊ အ၊ တ–တ၊ ချည်–ချည်။

**ပစ္စည်းဆိုင်ရာသိမှတ်ဖွယ်များ**

၁၇၀။ နာမ်၊ နာမ်စား၊ ကြိယာတို့ကို အချို့သောပစ္စည်းတို့နှင့် တွဲသောအခါ ပစ္စည်းတစ်မျိုးမက တွဲနိုင်သည်။

**သာဓက**။ ။ (က) ကလေး**တိုင်း သာလျှင်မက**။
(ခ) သူ**တို့ သာလျှင်**။
(ဂ) မရ**နိုင်တော့ ပေ**။

၁၇၁။ အချို့သော နာမ်တို့နှင့် မျိုးပြပစ္စည်း တစ်မျိုးမက တွဲနိုင်သည်။

**သာဓက**။ ။

| | **နာမ်** | **ပစ္စည်း** |
|---|---|---|
| (က) | ထီး | တစ်**လက်**၊ တစ်**ချောင်း**၊ တစ်**စင်း**။ |
| (ခ) | ဆင် | တစ်**ကောင်**၊ တစ်**စီး**။ |

၁၇၂။ အချို့သော နာမ်တို့ကို မျိုးပြပစ္စည်းအဖြစ် သုံးလေ့ရှိသည်။

**သာဓက**။ ။

| | **နာမ်** | **ပစ္စည်း** |
|---|---|---|
| (က) | ကျောင်း | ကျောင်းနှစ်**ကျောင်း** |
| (ခ) | မြို့ | မြို့သုံး**မြို့** |

၁၇၃။ **ကို** ဟူသော စကားလုံးကို ကြိယာတူ နှစ်ခုကြား၌ထား၍လည်းကောင်း၊ နာမ်၊ နာမ်စား၏ နောက်တွင်ထား၍လည်းကောင်း ပစ္စည်းအဖြစ် သုံးလေ့ရှိသည်။

**သာဓက**။ ။

(က) သွား**ကို**သွားမယ်။
(ခ) ငါ့**ကို**က ညံ့တာပါ။

၁၇၄။ **များ** ပစ္စည်းသည် အချို့နေရာ၌ အရေအတွက်ကို မရည်ညွှန်းဘဲ တွဲဖက်သော နာမ်၊ နာမ်စား၊ ကြိယာ၏ လေးနက်မှုကို ရည်ညွှန်းသည်။

**သာဓက**။ ။

(က) မောင်ဝင်း**များ** ပထမရလျှင် သူ့မိဘက အံ့သြလိမ့်မည်။
(ခ) သူ**များ** ပြန်ရောက်ပြီလားလို့။

၁၇၅။ နာမ်စားကို အများပြပစ္စည်း **တို့** နှင့်တွဲ၍သုံးသည်။

**သာဓက**။ ။

| | **နာမ်စား** | **ပစ္စည်း** | **နာမ်စားနှင့်ပစ္စည်း** |
|---|---|---|---|
| (က) | သူ | တို့ | သူ**တို့** |
| (ခ) | ယင်း | တို့ | ယင်း**တို့** |

၁၇၆။ ပုဒ်ပြောင်းပစ္စည်းသည် ကြိယာနှင့် နာမဝိသေသနတို့ကို နာမ်၊ နာမဝိသေသန၊ ကြိယာဝိသေသနအဖြစ် ပြောင်းပေးနိုင်သည်။

**သာဓက**။ ။

| | မူလပုဒ် | ပုဒ်ပြောင်းပစ္စည်း | ပြောင်းသောပုဒ် | ပုဒ်အမည် |
|---|---|---|---|---|
| (က) | ကောင်း | မှု | ကောင်းမှု | နာမ် |
| (ခ) | ဝယ် | သော | ဝယ်သော | နာမဝိသေသန |
| (ဂ) | ခင်မင် | စွာ | ခင်မင်စွာ | ကြိယာဝိသေသန |

၁၇၇။ ဝါကျ၌ ကြိယာကိန်းညွှန်းပစ္စည်းကို မြှုပ်၍ သုံးလေ့ရှိသည်။

**သာဓက**။ ။

(က) (၁) ကျောင်းသားများ လာ**ကြ**ပြီ။

(၂) ကျောင်းသားများ လာပြီ။

(ခ) (၁) ကလေးတို့ လာ**ကုန်**၏။

(၂) ကလေးတို့ လာ၏။

(ဂ) (၁) သူတို့ လာ**ကြကုန်**၏။

(၂) သူတို့လာ၏။

၁၇၈။ **သာ၊ ချည်း၊ တော့၊ ပင်၊ တောင်** စသည့် အချို့သောပစ္စည်းတို့ကို နာမ်ထောက်ပစ္စည်းအဖြစ်သာမက ကြိယာထောက်ပစ္စည်းအဖြစ်လည်း အသုံးပြုနိုင်သည်။

**သာဓက**။ ။

| | | ပစ္စည်း | အမျိုးအစား |
|---|---|---|---|
| (က) | (၁) | လူ**သာ** ပဓာနဖြစ်သည် | နာမ်ထောက်ပစ္စည်း |
| | (၂) | သိ**သာ**သိစေ မမြင်စေနှင့်။ | ကြိယာထောက်ပစ္စည်း |
| (ခ) | (၁) | သူသည် စာ**ချည်း**ဖတ်နေသည်။ | နာမ်ထောက်ပစ္စည်း |
| | (၂) | သူသည် အိပ်**ချည်း**နေသည်။ | ကြိယာထောက်ပစ္စည်း |

## လေ့ကျင့်ခန်း
## (က)

၁။ (က) အောက်ပါ နာမ်အသီးသီးသည် အနက်အဓိပ္ပာယ်အရ မည်သည့်နာမ် ဖြစ်သနည်း။
ပြည်သူ၊ သစ္စာ၊ ငါး၊ ရွှေဘို၊ ပန်း၊ အစည်းအရုံး၊ မောင်အေးချမ်း၊ သတ္တိ။

(ခ) အောက်ပါ နာမ်အသီးသီးသည် ဖွဲ့စည်းတည်ဆောက်ပုံအရ မည်သည့်နာမ် ဖြစ်သနည်း။
ကောင်စီ၊ ဣန္ဒြေ၊ မှန်တင်ခုံ၊ ပေးကမ်းခြင်း၊ ကြမ်းတမ်းခြင်း၊ လက်ရွေးစင်၊ တွယ်တာစရာ၊ အအေး။

(ဂ) အောက်ပါနာမ်အသီးသီး၏ လိင်အမျိုးအစားကို ဖော်ပြပါ။
ဦးအောင်ဇေယျ၊ မဒ္ဒီဒေဝီ၊ ရေ၊ မြွေ၊ ကျွန်မ၊ အစ်ကို၊ မီး၊ ထန်း။

(ဃ) အောက်ပါ နာမ်အသီးသီး၏ ကိန်းကိုဖော်ပြပါ။
ညှော့သည်များ၊ စာအုပ်၊ ထီး၊ ငါးတို့၊ စားပွဲများ။

၂။ အောက်ပါ ပေါင်းစပ်နာမ်တို့တွင် မည်သည့်နာမ်က မည်သည့် နာမ်ကို အထူးပြုသနည်း။
ကွမ်းကလပ်၊ ဝါးလက်ခုပ်၊ ဝါးခမောက်၊ မုန့်လက်ကောက်။

၃။ (က) အောက်ပါ ဂုဏ်ရည်ပြနာမ်အသီးသီးကို ကွက်လပ်တွင် ဆီလျော်အောင် ဖြည့်ပါ။
အထူး၊ အနွေး၊ အနေး၊ အကျဉ်း၊ အနု။
......ယာဉ်၊ ......အစည်းအဝေး၊ ......ပညာ၊ ......ထည်၊ ......ထောင်။

(ခ) အောက်ပါ ကြိယာနာမ်အသီးသီးကို ကွက်လပ်တွင် ဆီလျော်အောင်ဖြည့်ပါ။
အစုန်၊ အပြန်၊ အမှာ၊ အစမ်း၊ အလုပ်။
......ခရီး၊ ......ရထား၊ ......စကား၊ ......စာမေးပွဲ၊ ......သမား။

၄။ အချို့နာမ်သည် မည်သည့်ပစ္စည်းနှင့် တွဲခြင်းဖြင့် အပေါင်းအစုကို ရည်ညွှန်းဖော်ပြသနည်း။ သာဓက ၂ ခုပြပါ။

၅။ **ကို၊ အား၊ ကြောင့်၊ အတွက်၊ ဖို့** ဝိဘတ်တစ်ခုခုနှင့် တွဲခြင်းဖြင့် သံရှည်အဆုံးရှိသော နာမ်တွင် အောက်မြစ်ထည့်လေ့ရှိပုံကို သာဓကပြပါ။

၆။ အောက်ပါ နာမ်အသီးသီးကို အခြားနာမ်တစ်ခုခုနှင့် ပေါင်းစပ်သောအခါ **အ** မြှုပ်လေ့ရှိပုံကို သာဓကပြပါ။
အရောင်၊ အပင်၊ အရွက်၊ အသား၊ အရုပ်၊ အနံ့၊ အကြော။

## (ခ)

၁။(က) အောက်ပါ နာမ်စားအသီးသီးသည် နာမ်စား ၄ မျိုးအနက် မည်သည့် အမျိုးအစားဖြစ်သနည်း။
အချို့၊ အဘယ်၊ ထို၊ ကျွန်ုပ်၊ သည်၊ သင်း၊ အားလုံး၊ မည်သူ။

(ခ) အောက်ပါနာမ်စားအသီးသီးသည် ပုဂ္ဂလနာမ်စား ၃ မျိုးအနက် မည်သည့် အမျိုးအစားဖြစ်သနည်း။
ကျွန်မ၊ သူ၊ သင်၊ ငါ၊ ညည်း၊ သင်း။

(ဂ) အောက်ပါနာမ်စားအသီးသီးသည် သဗ္ဗာနာမ်စား ၂ မျိုးတွင် မည်သည့် အမျိုးအစားဖြစ်သနည်း။
ခြောက်ယောက်၊ အနည်းငယ်၊ အားလုံး၊ သုံးချပ်။

၂။ **သူ** ဟူသော နာမ်စားကို ယောက်ျား၊ မိန်းမ၊ တိရစ္ဆာန်တို့ အစားသုံးနိုင်ကြောင်း သာဓကပြပါ။

၃။ အောက်တွင်ပေးထားသော စကားလုံးအသီးသီးကို ကွက်လပ်တွင် ဆီလျော်အောင် ဖြည့်ပါ။ ဖြည့်သောစကားလုံးသည် မည်သည့်နာမ်စား၊ သို့မဟုတ် မည်သည့်နာမဝိသေသန ဖြစ်ကြောင်း ဖော်ပြပါ။
အချို့၊ ဘာ၊ မည်သည့်၊ ယင်း၊ အားလုံး၊ နှစ်ကောင်၊ ၎င်း။

(က) ခေါင်းဆောင်ဖြစ်ချင်ရင်...... ကျင့်ဝတ်ကိုစောင့်ထိန်းရမလဲ။
(ခ) ကျွဲ......ခတ်ရာ မြေစာပင်မခံနိုင်။
(ဂ) ကျောင်းသား......အတန်းထဲ၌ ငြိမ်သက်စွာ ထိုင်နေကြသည်။

(ဃ) ......သည် ကြင်နာသနားတတ်သည်။
(င) ......ကား ပညာရှိတို့၏ အဆိုအမိန့်တည်း။
(စ) ......က ဒူးရင်းသီးကို မကြိုက်ပေ။
(ဆ) မြန်မာနိုင်ငံတွင် ......အရပ်၌ မိုးအများဆုံး ရွာသနည်း။

၄။ နာမ်စား ၅ ခုကို နာမ်ဝိဘတ်တစ်ခုစီနှင့် တွဲပြပါ။

၅။ မည်သည့်ဝိဘတ်နှင့်တွဲလျှင် အောက်ပါနာမ်စားတို့၌ အောက်မြစ်ထည့်လေ့ရှိသနည်း။
(က) ငါ
(ခ) သင်
(ဂ) ရှင်
(ဃ) နင်
(င) သူ

၆။ အောက်ပါ ဝါကျများ၌ ပါဝင်သော **တို့** ဟူသော စကားလုံးသည် ပစ္စည်း၊ သို့မဟုတ် နာမ်စားဖြစ်ကြောင်း ဖော်ပြပါ။
(က) **တို့**ကော မလိုက်ရဘူးလား။
(ခ) ငါ**တို့**လည်း ရောက်ဖူးပါတယ်။
(ဂ) **တို့** သိသမျှကို ပြောပြမယ်။
(ဃ) ကျွန်တော်**တို့** အစွမ်းကုန် ကြိုးစားကြရမယ်။

(ဂ)

၁။ (က) အောက်ပါ နာမဝိသေသနအသီးသီးသည် အနက်အဓိပ္ပာယ်အရ မည်သည့် နာမဝိသေသနဖြစ်သနည်း။
အခြား၊ ပေါများသော၊ စတုတ္ထအကြိမ်၊ ခြောက်ယောက်၊ ထို၊ ရိုးသားသော။
(ခ) အောက်ပါ နာမဝိသေသနအသီးသီးသည် မည်သည့်သင်္ချာနာမဝိသေသန ဖြစ်သနည်း။
များစွာသော၊ အကြိမ် ၂၀ မြောက်၊ နှစ်ခု။
(ဂ) အောက်ပါ နာမဝိသေသနအသီးသီးသည် ဖွဲ့စည်းတည်ဆောက်ပုံအရ မည်သည့် နာမဝိသေသန ဖြစ်သနည်း။
နူးညံ့ပျော့ပျောင်း၊ ဖွဲ့ကောင်း၊ နွေး၊ မွေး။
(ဃ) အောက်ပါ နာမဝိသေသနအသီးသီးသည် မည်သည့် နာမဝိသေသနအဆင့်တွင် ပါဝင်သနည်း။
အလှဆုံး၊ သာယာသော၊ ပို၍ဆန်းသစ်သော၊ ကြမ်းတမ်းသော။

၂။ အောက်ပါနာမဝိသေသနအသီးသီးကို **အ၊ မှု၊ ခြင်း** ဟူသော ပစ္စည်း တစ်ခုခုနှင့် ဆက်၍ ဂုဏ်ရည်ပြနာမ်ဖြစ်အောင် ဖွဲ့စည်းပြပါ။
ငြိမ်းချမ်း၊ ချော၊ နီ၊ သွက်လက်၊ ဖြောင့်၊ ပါးနပ်၊ ကြမ်း၊ ရှည်။

၃။ အောက်ပါ နာမဝိသေသနအသီးသီးကို နှစ်ကြိမ်ထပ်ခြင်းဖြင့်ဖြစ်စေ၊ **စွာ၊ တရ၊ အတ၊ ရရွန်း** ပစ္စည်းတစ်ခုခုဆက်ခြင်းဖြင့်ဖြစ်စေ၊ ကာရန်လိုက်ခြင်းဖြင့်ဖြစ်စေ ကြိယာဝိသေသနဖြစ်အောင် ဖွဲ့စည်းပြပါ။

ပူပြင်း၊ ကောင်း၊ လှပ၊ ကြမ်း၊ ရွှန်း၊ စိမ်း၊ ပြာ။

၄။(က) အောက်ပါ နာမဝိသေသန အသီးသီးကို **သော၊ သည့် ၊ မည့်** ပစ္စည်းတစ် ခုခုနှင့်တွဲ၍ နာမ် သို့မဟုတ် နာမ်စားတစ်ခုစီ၏ရှေ့တွင် သုံးပြပါ။

မြင့်မား၊ ကျဉ်းမြောင်း၊ လိမ္မာ၊ ရိုးသား၊ ရှည်လျား၊ စိမ်းလန်း။

( ခ ) အောက်ပါ ကွက်လပ်အသီးသီး၌ ဆီလျော်သော နာမ်ကိုဖြည့်ပါ။

......အချို့၊ ......ယဉ်ကျေး၊ ......နှစ်စင်း၊ ......အားလုံး။

( ဂ ) အောက်ပါ ကွက်လပ်အသီးသီးတွင် ဆီလျော်သောကြိယာကို ဖြည့်ပါ။

(၁) တမာရွက်သည်......။

(၂) ယဉ်ကျေးသောသူ၏ အမူအရာသည်......။

(၃) ယနေ့တိုက်ခတ်သော လေမုန်တိုင်းသည်......။

(၄) ဤမြက်ခင်းပြင်သည်......။

(၅) စံပယ်ပန်း၏ ရနံ့သည်......။

၅။(က) အောက်ပါ ပေါင်းစပ်နာမ်အသီးသီးတွင် မည်သည်က နာမဝိသေသန၊ မည်သည်က ဝိသေသျဖြစ်ကြောင်း ခွဲခြားပြပါ။

ဆန်အိတ်၊ ခွေးဘီလူး၊ တောဝက်၊ ညောင်မှတ်ဆိတ်။

( ခ ) အောက်ပါ အသာလွန်ဆုံးအဆင့် နာမဝိသေသနအသီးသီးကို နာမ်အဖြစ်လည်းကောင်း၊ နာမဝိသေသနအဖြစ်လည်းကောင်း ဝါကျ၌သုံးပြပါ။

အသွက်လက်ဆုံး၊ အငယ်ဆုံး၊ အလှဆုံး။

၆။(က) အောက်ပါ ပုဒ်အသီးသီးကို နာမဝိသေသနအဖြစ်လည်းကောင်း၊ နာမ်စားအဖြစ်လည်းကောင်း ဝါကျ၌သုံးပြပါ။

နှစ်ခု၊ အနည်းငယ်၊ ဘာ၊ ဤ။

( ခ ) အောက်ပါ ပုဒ်အသီးသီးကို နာမဝိသေသနအဖြစ်လည်းကောင်း၊ ကြိယာဝိသေသနအဖြစ် လည်းကောင်း ဝါကျ၌သုံးပြပါ။

အဘယ်မျှလောက်၊ မည်မျှ၊ ဘယ်လောက်။

## (ဃ)

၁။(က) အောက်ပါ ကြိယာအသီးသီးသည် အနက်အဓိပ္ပာယ်အရ မည်သည့်ကြိယာ ဖြစ်သနည်း။

ရှို၊ ဆွတ်ခြွေ၊ တိုက်ခတ်၊ နှိမ်နင်း၊ တည်ရှိ။

( ခ ) အောက်ပါ ကြိယာအသီးသီးသည် ဖွဲ့စည်းတည်ဆောက်ပုံအရ မည်သည့်ကြိယာ ဖြစ်သနည်း။

ခုန်(သည်)၊ ငြိမ့်ညောင်း(သည်)၊ ပြေးလွှား(သည်)၊ စက်ချုပ်(သည်)၊ ဖြောင့်တန်း (သည်)။

၂။ အောက်ပါ ကြိယာအသီးသီးကို ကြိယာထောက်ပစ္စည်းအဖြစ် ဝါကျ၌သုံးပြပါ။

ထား၊ ပစ်၊ သွား၊ သင့်၊ မိ။

၃။ အောက်ပါကြိယာတို့မှ ပေါင်းစပ်နိုင်သောကြိယာတို့ကို ပေါင်းစပ်၍ ဝါကျ၌ ဆီလျော်အောင် ဖြည့်ပါ။

ဆုံးမ၊ ဝေဖန်၊ ဆင်ခြင်၊ သွန်သင်၊ အားပေး၊ သုံးသပ်၊ ရှိသေ၊ လွှမ်းဆွတ်၊ လေးစား၊ တမ်းတ၊ အားထား၊ သတိရ။

(က) ခွဲခွာခဲ့ရသော သူငယ်ချင်းများကို ကျွန်တော်......သည်။

(ခ) မိမိပြုခဲ့သည့် အမှားမျိုးကို နောင်တွင် မပြုမိစေရန် ......ရမည်။

(ဂ) ဦးကြီးသည် ရပ်ကွက်အတွင်းရှိ လူငယ်များကို အမြဲပင် ......သည်။

(ဃ) လူငယ်များက ဦးကြီးကို......ကြသည်။

၄။ **ကြ၊ ကုန်၊ ကြကုန်**ဟူသော အများပြုကြိယာပစ္စည်းအသီးသီးကို ဝါကျ၌သုံးပြပါ။

၅။ လုပ်ငန်းတစ်ခုပြီးတစ်ခု ဆောင်ရွက်ကြောင်း ဖော်ပြသည့် ကြိယာနှစ်ခုတွဲကို ကွက်လပ်၌ ဆီလျော်အောင် ဖြည့်ပါ။

(က) မောင်မောင်သည် မုန့်ဟင်းခါး......သည်။

(ခ) မစံပယ်က သူ ရရှိသော ဆုတံဆိပ်များကို ကျွန်တော့် အား ဗီရိုထဲ မှ......သည်။

(ဂ) သူသည် ရေကို......သည်။

(ဃ) မိဘကို သားသမီးများက......သည်။

၆။ အောက်ပါ ကြိယာ ၂ ခုစီကြား၌ **လည်း၊ မြဲ၊ သာ** ပစ္စည်းတစ်ခုခုကိုထည့်၍ ကွက်လပ်အသီးသီး၌ ဆီလျော်အောင်ဖြည့်ပါ။

– ချစ်......ချစ်၊ သနား......သနား။
ကြီး......ကြီး။

– သွက်လက်......သွက်လက်။

– ဟောင်......ဟောင်။

– ကြောက်......ကြောက်၊ ရွံ့......ရွံ့။

(က) မလှသည် မြွေကို ......သည်။ ......သည်။

(ခ) ဤခွေးသည် ......သည်။ မကိုက်ပေ။

(ဂ) ဤမာလကာသီးသည် ......သည်။ အရသာမရှိပေ။

(ဃ) ဘကြီးဖြိုးသည် ငယ်စဉ်ကကဲ့သို့ပင်......သည်။

(င) ဒေါ်မြသည် ခြေမသန်သော တူမငယ်ကို ......သည်။ ......သည်။

၇။ **ဖြစ်သည်** ဟူသောကြိယာဖြင့်ဖွဲ့သော ဝါကျ၌ ယင်းကြိယာမပါဘဲ ဖွဲ့နိုင်ပုံကို သာဓက ဝါကျသုံးခုဖြင့်ပြပါ။

## (င)

၁။(က) အောက်ပါကြိယာဝိသေသန အသီးသီးသည် အနက်အဓိပ္ပာယ်အရ မည်သည့်ကြိယာဝိသေသန ဖြစ်သနည်း။

ယဉ်ကျေးစွာ၊ ပြင်းထန်စွာ၊ များစွာ၊ အဘယ်မျှ၊ ခဏ။

(ခ) အောက်ပါကြိယာဝိသေသနအသီးသီးသည် ဖွဲ့စည်းတည်ဆောက်ပုံအရ မည်သည့် ကြိယာဝိသေသနဖြစ်သနည်း။

တိုင်တိုင်ပင်ပင်၊ အံ့တုံ့တုံ့၊ ခပ်သွက်သွက်။

(ဂ) အောက်ပါကြိယာဝိသေသနအသီးသီးသည် မည်သည့်ကြိယာဝိသေသနအဆင့်၌ ပါဝင်သနည်း။

သာ၍လေးစားစွာ၊ ပျော်ရွှင်စွာ၊ အခင်မင်ဆုံး။

၂။ အောက်ပါကြိယာဝိသေသနအသီးသီး၌ မည်သည့်ပုဒ်များ ပါဝင်သနည်း။

မြှောက်ထိုးပင့်ကော်၊ မေးထူးခေါ်ပြော၊ ခုန်ပေါက်ပြေးလွှား၊ ရေဆုံးရေဖျား။

၃။ အောက်ပါတို့ကို ကြိယာဝိသေသနအဖြစ် ဝါကျတစ်ခုစီ၌ သုံးပြပါ။

အမိ၊ အမြင့်၊ အလွတ်၊ အထူး၊ အရောက်။

၄။ အောက်ပါတို့ကို ကြိယာဝိသေသနအဖြစ် ဝါကျ၌သုံးပြပါ။

တောင်စဉ်ရေမရ၊ ကျိုးကန်းတောင်းမှောက်၊ ခြေမွေးမီးမလောင် လက်မွေးမီးမလောင်၊ ခွက်ထိုးခွက်လန်။

၅။ အောက်ပါပေါင်းစပ်ပုဒ်အသီးသီး၌ မည်သည့်ပုဒ်များပါဝင်ကြသနည်း။

ယင်းပေါင်းစပ်ပုဒ်အသီးသီးကို ကြိယာဝိသေသနအဖြစ် ဝါကျတစ်ခုစီ၌သုံးပြပါ။

မျှောက်ကာ၊ မုဆိုးထိုင်၊ ကိုယ်တွေ့။

၆။(က) အောက်ပါ ပုဒ်အသီးသီးကို **ခနဲ** ဟူသော ပစ္စည်းနှင့်ဆက်၍ ကြိယာဝိသေသနအဖြစ် ဝါကျတစ်ခုစီ၌ သုံးပြပါ။

အေး၊ လက်၊ ပုန်း၊ ဝေါ။

(ခ) အောက်ပါ နာမ်အသီးသီးကို **လိုက်၊** သို့မဟုတ် **အလိုက်** ပစ္စည်းတစ်ခုခုနှင့်ဆက်၍ ကြိယာဝိသေသနအဖြစ် ဝါကျတစ်ခုစီ၌ သုံးပြပါ။

အိတ်၊ ကျောင်း၊ ရပ်ကွက်၊ အကောင်။

၇။ အောက်ပါ ကြိယာဝိသေသနအသီးသီး၌ လိုအပ်သောစကားလုံးတွင် အောက်မြစ်ထည့်၍ ဝါကျတစ်ခုစီ၌ သုံးပြပါ။

မလုံတလုံ၊ မခိုင်တခိုင်၊ မထင်တထင်၊ မမှောင်တမှောင်။

၈။ အောက်ပါပုဒ်အသီးသီးကို အမေးကြိယာဝိသေသနအဖြစ်လည်းကောင်း၊ အမေးနာမဝိသေသန အဖြစ်လည်းကောင်း ဝါကျတစ်ခုစီ၌ သုံးပြပါ။

ဘယ်လောက်၊ မည်မျှ။

၉။ အောက်ပါကြိယာအသီးသီးကို နှစ်ကြိမ်ထပ်၍ ကြိယာဝိသေသနအဖြစ် ဝါကျ၌သုံးပြပါ။

ချောင်း၊ ငုံ့၊ သွား၊ ထိုင်။

၁၀။ အောက်ပါပုဒ်အသီးသီးကို ကြိယာဝိသေသန၊ နာမ်၊ နာမဝိသေသန တစ်ခုခုအဖြစ် ဝါကျ၌ သုံးပြပါ။

အငယ်ဆုံး၊ အနီးဆုံး၊ အလှဆုံး၊ အခါးဆုံး၊ အမြင့်ဆုံး။

၁၁။ အောက်ပါကြိယာဝိသေသနအသီးသီးကို ဝါကျတစ်ခုစီ၌ သုံးပြပါ။

ထာဝစဉ်၊ အလွန်၊ ဒယိမ်းဒယိုင်၊ လှိုက်လှဲစွာ၊ ပျူပျူငှာငှာ။

## (စ)

၁။(က) အောက်ပါဝိဘတ်အသီးသီးသည် မည်သည့်နာမ်ဝိဘတ် ဖြစ်သနည်း။

က၊ တိုင်တိုင်၊ ဖြင့်၊ မှာ။

(ခ) အောက်ပါဝိဘတ်အသီးသီးသည် မည်သည့်ကာလပြကြိယာဝိဘတ် ဖြစ်သနည်း။
သည်၊ ၏၊ ပြီ၊ လိမ့်မည်။

(ဂ) အောက်ပါဝိဘတ်အသီးသီးသည် မည်သည့်အမျိုးအစားပြ ကြိယာဝိဘတ်ဖြစ်သနည်း။
စေ၊ ပါရစေ၊ လော့၊ စို့။

၂။ အောက်ပါနာမ်ဝိဘတ်အသီးသီးကို ဝါကျ၌ ဆီလျော်အောင်ဖြည့်ပါ။ ဖြည့်သော ဝိဘတ်သည် မည်သည့်နာမ်ဝိဘတ်ဖြစ်ကြောင်းကို ဝိုက်ကွင်း၌ထည့်သွင်းပြပါ။

တိုင်အောင်၊ သို့၊ တွင်၊ နှင့်။

(က) သစ်ခုတ်သမားတို့သည် သစ်ပင်ကို လွှ......ဖြတ်ကြသည်။ ( )
(ခ) ကျောက်မျက်ရတနာတို့...... စိန်သည် အမာဆုံးဖြစ်သည်။ ( )
(ဂ) ရန်ကုန်–မန္တလေးအမြန်ရထားသည် ပဲခူးဘူတာ...... ခေတ္တ ရပ်သည်။ ( )
(ဃ) ကျွန်တော်တို့သည် ည ၆ နာရီ၌ အိမ်...... ပြန်ရောက်ကြသည်။ ( )
(င) ပင်နီအင်္ကျီ...... လူကြီးသည် စကားပြော အလွန်ကောင်း သည်။ ( )
(စ) မောင်ချစ်ညိုသည် ည ၁၁ နာရီ ......စာဖတ်လေ့ရှိသည်။ ( )

၃။ အောက်ပါဝါကျအသီးသီး၌ တစ်ခါတစ်ရံ မြှုပ်၍သုံးနိုင်သည့် နာမ်ဝိဘတ်ကို မျဉ်းသားပြပါ။

(က) လသည် သာသည်။
(ခ) ပထမဆုကို သူကချည်း နှစ်စဉ်ရပါသည်။
(ဂ) ကျွန်မသည် နံနက်တိုင်း ပန်းကိုခူးသည်။
(ဃ) သည်းခံခြင်းသည်သာလျှင် သင့်အတွက် အားကိုးရာဖြစ်ပါလိမ့်မည်။

၄။ အသုံးခံဖြစ်ကြောင်း ဖော်ပြလိုသည့်အခါတွင် **နှင့်** ဝိဘတ်ပါသော အသုံးခံပြပုဒ်ကို ဝါကျ၌ မည်သည့်နေရာတွင် ထားလေ့ရှိသနည်း။ သာဓကဝါကျ ၂ ခုပြပါ။

၅။ အောက်ပါ ကြိယာအသီးသီးရှိ ဝိဘတ်ကို အမေးပစ္စည်း **လား၊ လဲ၊ တုံး၊ နည်း၊ လို့လဲ** တစ်ခုခုနှင့်တွဲ၍သုံးပြပါ။ အသွင်ပြောင်းလဲသွားသည့် ကြိယာဝိဘတ်ကို မျဉ်းသားပြပါ။

(က) ပြောသည်။
(ခ) ဆာပြီ။
(ဂ) လာမည်။
(ဃ) ကစားသည်။
(င) ရောက်မည်။

## (ဆ)

၁။ (က) အောက်ပါ သမ္ဗန္ဓအသီးသီးသည် ဆက်စပ်ပုံအရ မည်သည့်သမ္ဗန္ဓဖြစ်သနည်း။
နှင့်၊ ထို့ပြင်၊ သကဲ့သို့၊ ၍။

(ခ) အောက်ပါ သမ္ဗန္ဓအသီးသီးသည် အနက်အဓိပ္ပာယ်အရ မည်သည့်သမ္ဗန္ဓဖြစ်သနည်း။
သော်လည်း၊ သဖြင့်၊ နှင့်တစ်ပြိုင်နက်၊ သို့မဟုတ်။

၂။ အောက်ပါကွက်လပ်အသီးသီး၌ ဆီလျော်သော သမ္ဗန္ဓဖြည့်ပါ။ ဖြည့်သောသမ္ဗန္ဓသည် မည်သည့်သမ္ဗန္ဓဖြစ်ကြောင်းကို ဝိုက်ကွင်း၌ဖော်ပြပါ။

(က) အဝါရောင်......အပြာရောင်ကို ရောစပ်လျှင် အစိမ်းရောင်ဖြစ်လာသည်။ (  )
(ခ) ကျားသနား...... နွားချမ်းသာမည်။ (  )
(ဂ) သူသည် ဗီရိုကို ဖွင့်......အင်္ကျီကိုရှာသည်။ (  )
(ဃ) လူဆိုးများသည် ရဲများကိုမြင်သည်......ထွက်ပြေးကြသည်။ (  )
(င) ဘောလုံးပွဲများကို မိုးရာသီရောက်......ကြည့်ကြရမည်။ (  )
(စ) ကြောင်တစ်ကောင်သည် ရေအိုးစင်အနီး၌ ဝပ်......ကြွက်ကို ချောင်းနေသည်။ (  )

၃။ အောက်ပါ ဝါကျရိုး ၂ ခုစီကို ဆီလျော်သောသမ္ဗန္ဓဖြင့် ဆက်ပြပါ။
(က) (၁) မောင်လှ၏ မိဘများသည် ဆင်းရဲကြသည်။
(၂) သူတို့သည် တင်းတိမ်ရောင့်ရဲကြသည်။
(ခ) (၁) မောင်ညိုလှသည် ကူညီတတ်သည်။
(၂) မောင်နီကလည်း ကူညီတတ်ပါသည်။
(ဂ) (၁) မြန်မာနိုင်ငံသည် နယ်ချဲ့တို့၏လက်အောက်သို့ တစ်ခါက ကျရောက်ခဲ့သည်။
(၂) မြန်မာနိုင်ငံ၏ လူမှုရေး၊ စီးပွားရေး၊ ယဉ်ကျေးမှုနှင့် စာပေတို့သည် မှေးမှိန်ခဲ့ရဖူးသည်။

## (၈)

၁။(က) အောက်ပါ ပစ္စည်းအသီးသီးသည် မည်သည့်နာမ်ပစ္စည်း ဖြစ်သနည်း။
ကဲ့သို့၊ ဖို၊ ယောက်၊ များ၊ ခန့်၊ ဟယ်၊ တကာ၊ တည်း ဟူသော၊ ပါ။
(ခ) အောက်ပါ ပစ္စည်းအသီးသီးသည် မည်သည့်ကြိယာပစ္စည်း ဖြစ်သနည်း။
နည်း၊ မ၊ မိ၊ ကုန်၊ နော်။
(ဂ) အောက်ပါ ပစ္စည်းအသီးသီးသည် မည်သည့်ပုဒ်ပြောင်းပစ္စည်းဖြစ်သနည်း။
မှု၊ မည့်၊ ချည်–ချည်။

၂။ အောက်ပါ ဝါကျအသီးသီးရှိ နာမ်၊ နာမ်စား၊ ကြိယာတစ်ခုခုနှင့်တွဲထားသော ပစ္စည်းအသီးသီးကို မျဉ်းသားပြပါ။
(က) ဤအခန်း၌ လူ ၅၀ ကျော်လောက်သာဆံ့သည်။
(ခ) သူတို့မျှသာမကသေးပေ။
(ဂ) မိဘမေတ္တာသည် မြင်းမိုရ်တောင်မက ကြီးမားလှပါပေတော့သည်။

၃။ အောက်ပါနာမ်အသီးသီးကို တွဲနိုင်သော မျိုးပြပစ္စည်းနှစ်မျိုးစီနှင့် တွဲပြပါ။
မြား၊ ဓား၊ လူ၊ စားပွဲ၊ ကြိုး။

၄။ အောက်ပါနာမ်အသီးသီးကို မျိုးပြပစ္စည်းအဖြစ် သုံးပြပါ။
ရွာ၊ အိမ်၊ ကန်၊ မြစ်။

၅။ **ကို** ဟူသောစကားလုံးကို ကြိယာတူ ၂ ခုကြား၌ထား၍လည်းကောင်း၊ နာမ်၊ နာမ်စားတို့၏ နောက်တွင်ထား၍လည်းကောင်း ပစ္စည်းအဖြစ်သုံးပြပါ။

၆။ **များ** သည် နာမ်၊ နာမ်စား၊ ကြိယာအသီးသီး၏လေးနက်မှုကို ရည်ညွှန်းနိုင်ကြောင်း သာဓကဝါကျတစ်ခုစီဖြင့်ပြပါ။

၇။ **တို့** ပစ္စည်းကို နာမ်စား ၄ ခုနှင့်တွဲ၍သုံးပြပါ။

၈။ ပုဒ်ပြောင်းပစ္စည်းသည် ကြိယာနှင့် နာမဝိသေသနတို့ကို နာမ်၊ နာမဝိသေသန၊ ကြိယာဝိသေသနအဖြစ် ပြောင်းနိုင်ကြောင်း သာဓကပြပါ။

၉။ ဝါကျ၌ ကြိယာကိန်းညွှန်းပစ္စည်းမျှပ်၍ သုံးနိုင်ပုံကို သာဓက ၃ ခုပြပါ။

၁၀။ အောက်ပါ ဝါကျအသီးသီး၌ မျဉ်းသားထားသည့် ပစ္စည်းသည် နာမ်ထောက်ပစ္စည်းလော၊ ကြိယာထောက်ပစ္စည်းလော ဖြေပါ။

(က) (၁) သူသည် ဆေးကိုတော့ သောက်ရမှာကြောက်သည်။
(၂) ကလေးသည် မုန့်ရမှ အငိုတိတ်တော့သည်။
(ခ) (၁) လူတိုင်းပင် ချမ်းသာလိုကြသည်။
(၂) သူတို့ ပြန်သွားသည်ကို သိပင်မသိလိုက်ပါ။
(ဂ) (၁) သူ့ကိုတောင် မှာလိုက်ပါသေးသည်။
(၂) ကော်ဖီတွေ အေးတောင်ကုန်ပြီ။

# ဝါကျဆိုင်ရာသိမှတ်ဖွယ်များ

၁၇၉။ မြန်မာသဒ္ဒါ၊ အတွဲ ၁၊ အခန်း ၂ နှင့် ၃ တို့၌ ကတ္တားတစ်ခုနှင့် ကြိယာတစ်ခုပါဝင် သော ဝါကျရိုးတို့တွင် သင့်လျော်သောပုဒ်တို့ကိုဖြည့်စွက်၍ ဝါကျရိုးဖွဲ့နည်းများကို သာဓက များနှင့်တကွ ရှင်းလင်းဖော်ပြခြင်း၊ အတွဲ ၁၊ အခန်း ၄ ၌ အနက်အဓိပ္ပာယ်အရ ဝါကျ ၅ မျိုးတို့ကို သာဓကများနှင့်တကွ ရှင်းလင်းဖော်ပြခြင်း၊ အတွဲ ၁၊ အခန်း ၄ နှင့် အတွဲ ၂၊ အခန်း ၅ တို့၌ ဝါကျရောဖွဲ့နည်းနှင့် ဝါကျကဏ္ဍများအကြောင်းကို သာဓကများနှင့်တကွ ရှင်းလင်းဖော်ပြခြင်း ပြုခဲ့ပြီးဖြစ်သည်။ ဤအခန်း၌မူ အောက်ပါဝါကျဆိုင်ရာ သိမှတ်ဖွယ်များကို ဖော်ပြမည်။

(က) ဝါကျရိုး
(ခ) ဝါကျရော
(ဂ) ဝါကျခွဲခြမ်းစိတ်ဖြာခြင်း
(ဃ) စကားအထားအသို

၁၈၀။ **ဝါကျရိုး**။ ။ ကတ္တားတစ်ခုနှင့် ကြိယာတစ်ခုပါဝင်သော ဝါကျသည် ဝါကျရိုးဖြစ်သည်။

၁၈၁။ ကတ္တားနှင့် ကြိယာကြား၌ ကံ၊ အချိန်ပြ၊ အကြောင်းပြစသည့် ပုဒ်တို့ကို ဖြည့်စွက်၍ ဝါကျရိုးဖွဲ့နည်းများကို ဖော်ပြခဲ့ပြီးဖြစ်သည်။ ဤအခန်း၌ အောက်ပါနည်းများဖြင့်လည်း ဝါကျရိုး ဖွဲ့လေ့ရှိပုံကို ဖော်ပြမည်။

(က) နာမဝိသေသနနှင့် ကြိယာဝိသေသနထည့်သွင်း၍ဖွဲ့နည်း
(ခ) ပုဒ်စုထည့်သွင်း၍ဖွဲ့နည်း
(ဂ) ပုဒ်များကိုရှေ့နောက် အစီအစဉ်ပြောင်း၍ဖွဲ့နည်း
(ဃ) ကတ္တားမြှုပ်၍ဖွဲ့နည်း
(င) ကြိယာမြှုပ်၍ဖွဲ့နည်း
(စ) ကတ္တားဝိဘတ်မြှုပ်၍ဖွဲ့နည်း
(ဆ) ကံဝိဘတ်မြှုပ်၍ဖွဲ့နည်း

၁၈၂။ **နာမဝိသေသနနှင့် ကြိယာဝိသေသနထည့်သွင်း၍ဖွဲ့နည်း** ။ ။ ဝါကျရိုး၌ ကတ္တား၊ ကံ၊ နေရာပြ၊ အချိန်ပြ၊ အကြောင်းပြ စသည့်ပုဒ်တို့၏ရှေ့တွင် နာမဝိသေသနပုဒ်ကို ထား၍လည်းကောင်း၊ ကြိယာ၏ရှေ့တွင် ကြိယာဝိသေသနပုဒ်ကိုထား၍လည်းကောင်း ဖွဲ့နိုင်သည်။

**သာဓက**။ ။

(က) **ကတ္တား + နာမဝိသေသန + နေရာပြ + ကြိယာဝိသေန + ကြိယာ**
လသည် + ကြည်လင်သော + ကောင်းကင်၌ + ရွှန်းရွှန်းပပ + သာနေသည်။

(ခ) **နာမဝိသေသန+ကတ္တား+နာမဝိသေသန+ကံ+ကြိယာဝိသေသန+ကြိယာ**
တာဝန်သိသော + ရွာသားများသည် + ပျက်စီးနေသော + လမ်းကို+ အင်တိုက်အားတိုက် + ပြင်ကြသည်။

၁၈၃။ **ပုဒ်စုထည့်သွင်း၍ဖွဲ့နည်း။** ။ ပုဒ်စုကို ကတ္တား၊ နေရာပြ၊ အချိန်ပြ၊ အသုံးခံပြ စသည့် ပုဒ်စုတစ်ခုခုအဖြစ် ဝါကျရိုး၌ ထည့်သွင်း၍ဖွဲ့နိုင်သည်။

(က) **ကတ္တားပုဒ်စု + နေရာပြပုဒ် + ကြိယာပုဒ်**
ဦးဘ၏သားသည် + ရန်ကုန်မြို့၌ + နေသည်။

(ခ) **ကတ္တားပုဒ် + ကံပုဒ် + နေရာပြပုဒ်စု + ကြိယာ**
ကျွန်တော်သည်+ အချိန်စာရင်းကို + မှတ်စုစာအုပ်တွင် + ကူးယူမှတ်သားထားသည်။

(ဂ) **ကတ္တားပုဒ် + အချိန်ပြပုဒ်စု + ကြိယာ**
မိန်းကလေးများသည် + လသာသောညတွင် + ထုပ်ဆီးတိုးကြသည်။

(ဃ) **ကတ္တား + ကံပုဒ် + အသုံးခံပြပုဒ်စု + ကြိယာ**
ရွာသားများသည် + ကျွန်တော်တို့ကို + ကျောက်ပန်းတောင်းက ထန်းလျက်ဖြင့် + ဧည့်ခံကြသည်။

၁၈၄။ **ပုဒ်များကို ရှေ့နောက်အစီအစဉ်ပြောင်း၍ဖွဲ့နည်း။** ။ ကတ္တားကို ဝါကျ၏အစ၌လည်းကောင်း၊ ကြိယာကို ဝါကျ၏အဆုံး၌လည်းကောင်း၊ အကြောင်းပြ၊ ကံ၊ နေရာပြ စသည့် ပုဒ်တို့ကို ကတ္တားနှင့် ကြိယာကြား၌လည်းကောင်း ထား၍ ဝါကျရိုးဖွဲ့လေ့ရှိသော်လည်း ကြိယာမှတစ်ပါး ကျန်သောပုဒ်တို့အနက် အလေးထားလိုသည့် ပုဒ်တစ်ခုခုကို ဝါကျ၏အစ၌ထား၍ ဝါကျရိုးဖွဲ့နိုင်သည်။

**သာဓက။** ။

(က) (၁) **ကတ္တား + ကံ + အကြောင်းပြ + ကြိယာ**
မဟာဇနကသည် + ထီးနန်းကို + လုံ့လကြောင့် + ရသည်။

(၂) **အကြောင်းပြ + ကတ္တား + ကံ + ကြိယာ**
လုံ့လကြောင့် + မဟာဇနကသည် + ထီးနန်းကို + ရသည်။

(ခ) (၁) **ကတ္တား + ကံ + လက်ခံပြ + ကြိယာ**
ဆရာဝန်သည် + ဆေးကို + လူနာအား + ပေးသည်။

(၂) **ကံ + ကတ္တား + လက်ခံပြ + ကြိယာ**
ဆေးကို + ဆရာဝန်သည် + လူနာအား + ပေးသည်။

(ဂ) (၁) **ကတ္တား + နေရာပြ + ကြိယာ**
သူသည် + ရန်ကုန်၌ + နေသည်။

(၂) **နေရာပြ + ကတ္တား + ကြိယာ**
ရန်ကုန်၌ + သူ(သည်) + နေသည်။

၁၈၅။ **ကတ္တားမြှုပ်၍ဖွဲ့နည်း။** ။ အချို့သောဝါကျရိုးတို့ကို ကတ္တားမြှုပ်၍ ဖွဲ့နိုင်သည်။
**သာဓက။** ။

(က) **ကတ္တား + ကံ + နေရာပြ + ကြိယာ**
(   ) + အဝတ်ကို + ကန်ပေါင်ပေါ်၌ + မလျှော်ရ။

(ခ) **ကတ္တား + ကြိယာ**
( ) + သွားကြစို့။

(ဂ) **ကတ္တား + နေရာပြ + ကြိယာ**
( ) + ဘယ်မှာ + နေသလဲ။

၁၈၆။ **ကြိယာမြှုပ်၍ဖွဲ့နည်း။** ။

(က) ကတ္တားအဖြည့်ထည့်သွင်း၍ ဝါကျရိုးဖွဲ့ရာ၌ ကြိယာမြှုပ်၍ဖွဲ့နိုင်သည်။ အများအားဖြင့် ဝါကျနောက်လိုက်ပစ္စည်းကိုထည့်၍ ဖွဲ့လေ့ရှိသည်။

**သာဓက။** ။

**ကတ္တား+ ကတ္တားအဖြည့် + ကြိယာ + ဝါကျနောက်လိုက်ပစ္စည်း**

(၁) သူကား + ပညာရှိ + ( ) + တည်း။
(၂) ဦးလှက + ဆရာဝန် + ( ) + ပေါ့။

(ခ) နေရာပြကိုထည့်သွင်း၍ ဝါကျရိုးဖွဲ့ရာ၌ ကြိယာမြှုပ်၍ဖွဲ့နိုင်သည်။ အများအားဖြင့် ဝါကျနောက်လိုက်ပစ္စည်းကို ထည့်၍ ဖွဲ့လေ့ရှိသည်။

**သာဓက။** ။

**ကတ္တား + နေရာပြ + ကြိယာ + ဝါကျနောက်လိုက်ပစ္စည်း**

(၁) ကျွန်တော်က+ ရန်ကုန်က + ( ) + ပါ။
(၂) သူက + မန္တလေးက + ( ) + ပေါ့။

(ဂ) အမေးနာမ်စားကိုထည့်သွင်း၍ ဝါကျရိုးဖွဲ့ရာ၌ ကြိယာမြှုပ်၍ ဖွဲ့နိုင်သည်။ အများအားဖြင့် အမေးပစ္စည်းကိုထည့်၍ ဖွဲ့လေ့ရှိသည်။

**သာဓက။** ။

**ကတ္တား + အမေးနာမ်စား + ကြိယာ + အမေးပစ္စည်း**

(၁) သင်ကား + မည်သူ + ( ) + နည်း။
(၂) မင်း + ဘယ်သူ + ( ) + လဲ။

(ဃ) အမေးဝါကျရိုးနှင့် အဖြေဝါကျရိုးဖွဲ့ရာ၌ လိုရင်းပုဒ်ကိုထည့်ကာ ကြိယာမြှုပ်၍ ဖွဲ့နိုင်သည်။

**သာဓက။** ။

(၁) **ကတ္တား + ကြိယာ + အမေးပစ္စည်း**
သူ + ( ) + လား။

(၂) **ကံ + ကြိယာ + ဝါကျနောက်လိုက်ပစ္စည်း**
သူ့ကို + ( ) + ပေါ့။

(၃) **အကြောင်းပြ + ကြိယာ + ဝါကျနောက်လိုက်ပစ္စည်း**
မိုးကြောင့် + ( ) + ပေါ့။

၁၈၇။ **ကတ္တားဝိဘတ်မြှုပ်၍ဖွဲ့နည်း။** ။ ကတ္တားတစ်ခုနှင့် ကြိယာတစ်ခုတို့ဖြင့်သာ ဝါကျရိုးဖွဲ့သောအခါ၌လည်းကောင်း၊ ကတ္တားကို ကြိယာရှေ့၌ထား၍ ကံ၊ အချိန်ပြ၊ နေရာပြ၊ အသုံးခံပြ

စသည့်ပုဒ်များပါသော ဝါကျရိုးဖွဲ့သောအခါ၌လည်းကောင်း၊ ကတ္တားဝိဘတ်ကို မြုပ်လေ့ရှိသည်။ (မြုပ်နိုင်သော ကတ္တားဝိဘတ်များကို ဝိုက်ကွင်းဖြင့်ပြထားသည်။)

**သာဓက။** ။

| | | | | | | |
|---|---|---|---|---|---|---|
| (က) | | **ကတ္တား** | + | **ကြိယာ** | | |
| | (၁) | သူ (သည်) | + | ပြေးသည်။ | | |
| | (၂) | ကျွန်တော် (သည်) | + | အိပ်မည်။ | | |
| (ခ) | (၁) | **ကံ** | + | **ကတ္တား** | + | **ကြိယာ** |
| | | မိဘကို | + | သူ(သည်) | + | ကူညီသည်။ |
| | (၂) | **အချိန်ပြ** | + | **ကတ္တား** | + | **ကြိယာ** |
| | | သောကြာနေ့၌ | + | ကျွန်တော်တို့(သည်) | + | လာကြမည်။ |

၁၈၈။ **ကံဝိဘတ်မြုပ်၍ဖွဲ့နည်း။** ။ ကံကို ကြိယာရှေ့၌ကပ်၍ ဝါကျရိုးဖွဲ့သောအခါ၌ ကံဝိဘတ်ကို တစ်ခါတစ်ရံ မြုပ်လေ့ရှိသည်။ (မြုပ်နိုင်သော ကံဝိဘတ်များကို ဝိုက်ကွင်းဖြင့်ပြထားသည်။)

**သာဓက။** ။

| | | | | | | |
|---|---|---|---|---|---|---|
| | **ကတ္တား** | + | **ကံ** | + | **ကြိယာ** |
| (က) | သူသည် | + | သတင်းစာ(ကို) | + | ဖတ်နေသည်။ |
| (ခ) | ရွာသားများသည် | + | လမ်း(ကို) | + | ပြင်ကြသည်။ |

၁၈၉။ **ဝါကျရော။** ။ ဝါကျရိုး ၂ ခု၊ သို့မဟုတ် ၂ ခုထက်ပိုသော ဝါကျရိုးများကို ဝါကျတစ်ခုတည်းဖြစ်စေရန် ဝိဘတ်၊ ပစ္စည်း၊ သမ္ဗန္ဓတစ်ခုခုနှင့်ဆက်၍ ရေးသောဝါကျသည် ဝါကျရောဖြစ်သည်။

၁၉၀။ ဝါကျရောဖွဲ့နည်းနှင့် ဝါကျကဏ္ဍများအကြောင်းကို ဖော်ပြခဲ့ပြီးဖြစ်သည်။ ဤအခန်း၌ အောက်ပါနည်းများဖြင့်လည်း ဝါကျရော ဖွဲ့လေ့ရှိပုံကို ဖော်ပြမည်။

(က) ကတ္တား၊ ကံစသည့်ပုဒ်အချို့ကိုမြုပ်၍ဖွဲ့နည်း

( ခ ) ဝါကျရိုး ၂ ခုထက်ပို၍ပါဝင်သော ဝါကျရောဖွဲ့နည်း

၁၉၁။ **ကတ္တား၊ ကံစသည့်ပုဒ်အချို့ကို မြုပ်၍ဖွဲ့နည်း။** ။ ဝါကျ၏ဆိုလိုသည့် အဓိပ္ပာယ်ရောက်အောင် ကတ္တား၊ ကံ စသည့်ပုဒ်တို့ကို နေရာတကျထားမှသာလျှင် ဝါကျကောင်းတစ်ခု ဖြစ်နိုင်သည်။ သို့ဖြစ်၍ ဝါကျတစ်ခုကိုဖွဲ့ရာတွင် ဝါကျ၌လိုအပ်သောပုဒ်တို့ကို ပြည့်ပြည့်စုံစုံ ဖော်ပြရသည်။ တစ်ခါတစ်ရံ၌မူ ဝါကျ၏ ဆိုလိုသည့်အဓိပ္ပာယ်မပျက်ပါက ကတ္တား၊ ကံ စသည့်ပုဒ်အချို့ကို မြုပ်၍ ဖွဲ့လေ့ရှိသည်။

၁၉၂။ ဝါကျ၏ဆိုလိုသည့် အဓိပ္ပာယ်မပျက်ပါက ကတ္တား၊ ကံ စသည့်ပုဒ်အချို့ကို မြုပ်၍လည်း ဝါကျရောဖွဲ့နိုင်သည်။ ဤသို့ဖွဲ့ရာ၌ အောက်ပါအချက်အလက်များနှင့် ပြည့်စုံမှသာ ယင်းပုဒ်တို့ကို ဝါကျရော၌ မြုပ်ရသည်။

(က) ဝါကျရောတစ်ခု၌ အမှီခံဝါကျကဏ္ဍ၏ ကတ္တားနှင့် အမှီဝါကျကဏ္ဍ၏ ကတ္တားတို့ တူညီနေလျှင် ဝါကျကဏ္ဍတစ်ခုခု၌ ကတ္တားကို မြုပ်နိုင်သည်။

**သာဓက။ ။**

| | **အမှီဝါကျကဏ္ဍ** | **အမှီခံဝါကျကဏ္ဍ** |
|---|---|---|
| (၁) | (လေ့ထိုးသားတို့သည်) လှေကိုကမ်း၌ဆိုက်ကာ | လှေထိုးသားတို့သည် ပျော်ရွှင်စွာ ချက်ပြုတ်စားကြသည်။ |
| (၂) | ဒေါ်ကြည်ခင်သည် ညှော်သည်များကို ကျွေးရန် | (သူသည်) အုန်းထမင်းချက်နေသည်။ |

သာဓက (၁)၌ အမှီခံဝါကျကဏ္ဍနှင့် အမှီဝါကျကဏ္ဍတို့၏ ကတ္တားသည် အတူတူပင်ဖြစ်သည်။ သို့ဖြစ်၍ **လှေထိုးသားတို့သည်**ဟူသော ကတ္တားကို အမှီခံ ဝါကျကဏ္ဍ၌ဖြစ်စေ၊ အမှီဝါကျကဏ္ဍ၌ဖြစ်စေ မြှုပ်နိုင်သည်။

သာဓက (၂)၌ အမှီခံဝါကျကဏ္ဍ၏ ကတ္တား **သူသည်** သည် အမှီဝါကျကဏ္ဍ၏ ကတ္တား **ဒေါ်ကြည်ခင်သည်** နှင့် အတူတူပင်ဖြစ်သည်။ သို့ဖြစ်၍ **သူသည်** ဟူသော ကတ္တားကို အမှီခံဝါကျကဏ္ဍ၌ မြှုပ်နိုင်သည်။ အကယ်၍ အမှီဝါကျ ကဏ္ဍ၏ ကတ္တား **ဒေါ်ကြည်ခင်သည်**ကို မြှုပ်လိုပါက အမှီခံဝါကျကဏ္ဍ၏ကတ္တား ၌ ပါရှိသော **သူ** ဟူသော နာမ်စားကို **ဒေါ်ကြည်ခင်** ဟူသော တစ်ဦးဆိုင်နာမ် အဖြစ်သို့ ပြောင်းရသည်။

(ခ) ဝါကျရောတစ်ခု၌ အမှီဝါကျကဏ္ဍ၏ ကံသည် အမှီခံဝါကျကဏ္ဍ၏ ကတ္တား ဖြစ်လာပါက ယင်းကတ္တားကို အမှီခံဝါကျကဏ္ဍ၌ မြှုပ်နိုင်သည်။ အကယ်၍ ယင်းကတ္တားကို မူလအတိုင်း အမှီခံဝါကျကဏ္ဍ၌ ထားလိုပါက အမှီဝါကျကဏ္ဍ၏ ကံကို မြှုပ်နိုင်သည်။

**သာဓက။ ။**

| | **အမှီဝါကျကဏ္ဍ** | **အမှီခံဝါကျကဏ္ဍ** |
|---|---|---|
| (၁) | ဆရာဝန်က လူနာကို ဂရုတစိုက် ကုသဖြင့် | (လူနာသည်) ၃ ရက်အတွင်း ကျန်းမာလာသည်။ |
| (၂) | ကျွန်တော်က သူ့ကို ကြိမ်းမောင်းပြောဆိုသော်လည်း | (သူသည်) စိတ်မဆိုးပေ။ |

သာဓက (၁)၌ **လူနာကို** ဟူသောပုဒ်သည် အမှီဝါကျကဏ္ဍ၏ ကံဖြစ်သည်။ ယင်းပုဒ်သည် အမှီခံဝါကျကဏ္ဍ၌မူ ကတ္တားဖြစ်လာသည်။ သို့ဖြစ်၍ အမှီခံဝါကျ ကဏ္ဍ၌ **လူနာသည်**ဟူသော ကတ္တားကို မြှုပ်နိုင်သည်။ အကယ်၍ အမှီခံဝါကျကဏ္ဍ၏ ကတ္တားကို မူလအတိုင်းထားလိုပါက **လူနာကို**ဟူသော ကံကို အမှီဝါကျကဏ္ဍ၌ မြှုပ်နိုင်သည်။

သာဓက(၂)၌ **သူ့ကို** ဟူသောပုဒ်သည် အမှီဝါကျကဏ္ဍ၏ ကံဖြစ်သည်။ ယင်းပုဒ်သည် အမှီခံကဏ္ဍဝါကျ၌မူ ကတ္တားဖြစ်လာသည်။ သို့ဖြစ်၍ အမှီခံဝါကျ ကဏ္ဍ၌ **သူသည်** ဟူသောကတ္တားကို မြှုပ်နိုင်သည်။ အကယ်၍ အမှီခံဝါကျ ကဏ္ဍ၏ ကတ္တားကို မူလအတိုင်းထားလိုပါက **သူ့ကို** ဟူသောကံကို အမှီဝါကျ ကဏ္ဍ၌ မြှုပ်နိုင်သည်။

(ဂ) ဝါကျရောတစ်ခုတွင် အမှီဝါကျကဏ္ဍ၌ ကတ္တား၊ ကံ၊ ထွက်ခွာရာပြ၊ ရှေးရှုရာပြ၊ အသုံးခံပြ စသည့်ပုဒ်တို့ ပါဝင်ပါက ဝါကျ၏ ဆိုလိုသည့်အဓိပ္ပာယ်မပျက်လျှင် အမှီခံဝါကျကဏ္ဍ၌ ယင်းပုဒ်တို့ကို မြှုပ်၍ဖွဲ့နိုင်သည်။

**သာဓက**။ ။

(၁) (ကက) ကျောင်းသားများသည် နွေရာသီ၌ ချောင်းထဲကငါးများကို ဖမ်းကြသည်။

(ခခ) ကျောင်းသားများသည် နွေရာသီ၌ ချောင်းထဲကငါးများကို မြစ်ထဲသို့ လွှတ်ကြသည်။

အထက်ပါ ဝါကျရိုး ၂ ခုတို့ကို အောက်ပါအတိုင်း ဝါကျရောဖွဲ့နိုင်သည်။

| **အမှီဝါကျကဏ္ဍ** | **အမှီခံဝါကျကဏ္ဍ** |
|---|---|
| ကျောင်းသားများသည် နွေရာသီ ၌ ချောင်းထဲက ငါးများကို ဖမ်း၍ | မြစ်ထဲသို့ လွှတ်ကြသည်။ |

အမှီခံဝါကျကဏ္ဍ၌ **ကျောင်းသားများသည်**(ကတ္တား)၊ **နွေရာသီ၌** (အချိန်ပြ)၊ **ချောင်းထဲက**(နေရာပြ)၊ **ငါးများကို**(ကံ) ဟူသော ပုဒ်တို့ကို မြှုပ်နိုင်သည်။

(၂)(ကက) သူသည် ရန်ကုန်မှ ပဲခူးသို့ကားဖြင့် နံနက်က သွားသည်။

(ခခ) သူသည် ပဲခူးမှ ရန်ကုန်သို့ ကားဖြင့် ညနေ၌ ပြန်လာသည်။

အထက်ပါ ဝါကျရိုး ၂ ခုတို့ကို အောက်ပါအတိုင်း ဝါကျရော ဖွဲ့နိုင်သည်။

| **အမှီဝါကျကဏ္ဍ** | **အမှီခံဝါကျကဏ္ဍ** |
|---|---|
| သူသည် ရန်ကုန်မှ ပဲခူးသို့ ကားဖြင့် နံနက်က သွား၍ | ညနေ၌ ပြန်လာသည်။ |

အမှီခံဝါကျ ကဏ္ဍ၌ **သူသည်**(ကတ္တား)၊ **ပဲခူးမှ**(ထွက်ခွာရာပြ)၊ **ရန်ကုန်သို့**(ရှေးရှုရာပြ)၊ **ကားဖြင့်**(အသုံးခံပြ)ဟူသောပုဒ်တို့ကို မြှုပ်နိုင်သည်။

၁၉၃။ **ဝါကျရိုး ၂ ခုထက်ပို၍ပါဝင်သော ဝါကျရောဖွဲ့နည်း**။ ။ ဝါကျရိုး ၂ ခုကို ဝိဘတ်၊ ပစ္စည်း၊ သမ္ဗန္ဓတစ်ခုခုဖြင့် ဆက်၍ ဝါကျရောဖွဲ့နည်းများကို မြန်မာသဒ္ဒါ၊ အတွဲ ၁၊ အခန်း ၄ နှင့် မြန်မာသဒ္ဒါ၊ အတွဲ ၂၊ အခန်း ၅တို့၌ ဖော်ပြခဲ့ပြီးဖြစ်သည်။ ဤ၌ ဝါကျရိုး ၃ ခု၊ ၄ ခု၊ ၅ ခု စသည်တို့ကို ဝိဘတ်၊ ပစ္စည်း၊ သမ္ဗန္ဓတစ်ခုခုနှင့်ဆက်၍ ဝါကျရောဖွဲ့နည်း ကို ဖော်ပြမည်။ ဤသို့ ဝါကျရိုး ၂ ခုထက်ပို၍ပါဝင်သော ဝါကျရောတစ်ခုကိုဖွဲ့ရာ၌ အထက်တွင် ဖော်ပြခဲ့သကဲ့သို့ အချို့ပုဒ်တို့ကို မြှုပ်သင့်သည့်နေရာ၌ မြှုပ်ရသည်။

**သာဓက**။ ။

(က) (၁) ဖခင်က မြန်မာ့သူရဲကောင်းများအကြောင်းကို ပြောပြသည်။

(၂) မြန်မာ့သူရဲကောင်းများအကြောင်းကို ကျွန်တော်က သူငယ်ချင်းများကို ပြန်ပြောပြသည်။

(၃) သူငယ်ချင်းများက အလွန်သဘောကျကြပါသည်။

သာဓက(က)ကို အောက်ပါအတိုင်း ဝါကျရောဖွဲ့နိုင်သည်။

ဖခင်က မြန်မာ့သူရဲကောင်းများအကြောင်းကိုပြောပြ**၍** ကျွန်တော်က သူငယ်ချင်း များကို ပြန်ပြောပြ**ရာ** သူငယ်ချင်းများက အလွန်သဘောကျကြပါသည်။

(ခ) (၁) ကျောင်းမှ မောင်မောင်ပြန်လာသည်။
(၂) သူ့ကို ကျွန်တော် တွေ့သည်။
(၃) သူ့ကို ကျွန်တော် လှမ်းခေါ်လိုက်သည်။

သာဓက (ခ) ကို အောက်ပါအတိုင်း ဝါကျရောဖွဲ့နိုင်သည်။

ကျောင်းမှ မောင်မောင်ပြန်လာသည်**ကို** ကျွန်တော် တွေ့**သောအခါ** လှမ်းခေါ် လိုက်သည်။

(ဂ) (၁) မောင်အေးချမ်းသည် အိမ်သို့ ပြန်ရောက်ပြီ။
(၂) သူသည် နာရီဝက်ခန့်နားသည်။
(၃) သူ ရေချိုးသည်။

သာဓက (ဂ)ကို အောက်ပါအတိုင်း ဝါကျရောဖွဲ့နိုင်သည်။

မောင်အေးချမ်းသည် အိမ်သို့ပြန်ရောက်**လျှင်** နာရီဝက်ခန့်နား**ကာ** ရေချိုးသည်။

(ဃ) (၁) တောတောင်ပတ်ဝန်းကျင် သာယာလှသည်။
(၂) နွေဦးရာသီ၌ လေရူးကလေးများ ဝန်းဝှေ့တိုက်ခတ်လာသည်။
(၃) ရွက်ဟောင်းများ ကြွေသည်။
(၄) ရွက်သစ်၊ ရွက်ညွန့်၊ ပုရစ်ဖူးကလေးများ အစီအရီ ထွက်ပေါ်လာကြသည်။

သာဓက (ဃ)ကို အောက်ပါအတိုင်း ဝါကျရောဖွဲ့နိုင်သည်။

တောတောင်ပတ်ဝန်းကျင် သာယာလှ**သော** နွေဦးရာသီ၌ လေရူးကလေးများ ဝန်းဝှေ့တိုက်ခတ်လာသည်**နှင့်တစ်ပြိုင်နက်** ရွက်ဟောင်းများကြွေ**ကာ** ရွက်သစ်၊ ရွက်ညွန့်၊ ပုရစ်ဖူးကလေးများ အစီအရီ ထွက်ပေါ်လာကြသည်။

(င) (၁) ဘောလုံးသည် မောင်ချစ်ညို၏ရှေ့သို့ ကျလာသည်။
(၂) မောင်ချစ်ညိုသည် ဘောလုံးကို ဂိုးပေါက်ဆီသို့ တစ်ရှိန်ထိုး သယ်သွားသည်။
(၃) မောင်ချစ်ညိုသည် ဂိုးဧရိယာအတွင်းသို့ ရောက်သည်။
(၄) သူသည် ဘောလုံးကို ဂိုးပေါက်ထဲသို့ တအားကုန် ကန်သွင်းလိုက်သည်။
(၅) ဘောလုံးသည် ဂိုးပေါက်ထဲသို့ တည့်တည့်မတ်မတ် ဝင်သွားသည်။

သာဓက (င)ကို အောက်ပါအတိုင်း ဝါကျရောဖွဲ့နိုင်သည်။

ဘောလုံးသည် မောင်ချစ်ညို၏ရှေ့သို့ ကျလာသည်**နှင့်တစ်ပြိုင်နက်** သူသည် ဘောလုံးကို ဂိုးပေါက်ဆီသို့ တစ်ရှိန်ထိုး သယ်သွား**ကာ** ဂိုးဧရိယာအတွင်းသို့ရောက်**လျှင်** ဂိုးပေါက်ထဲသို့ တအားကုန် ကန်သွင်းလိုက်**ရာ** တည့်တည့်မတ်မတ် ဝင်သွားသည်။

၁၉၄။ **ဝါကျခွဲခြမ်းစိတ်ဖြာခြင်း။** ။ ဝါကျတစ်ခုကို ဝါကျ အမျိုးအစား၊ ဝါကျအတွင်းရှိပုဒ်နှင့် ပုဒ်စုအမျိုးအစားတို့ကို ခွဲခြားပြခြင်းသည် ဝါကျခွဲခြမ်းစိတ်ဖြာခြင်း ဖြစ်သည်။

၁၉၅။ ဝါကျအမျိုးအစား၊ ပုဒ်နှင့် ပုဒ်စုအမျိုးအစားတို့ကို သိရှိမှသာ ဝါကျကိုလည်းကောင်း၊ ပုဒ်နှင့် ပုဒ်စုတို့ကိုလည်းကောင်း ခွဲခြားဖော်ပြနိုင်မည် ဖြစ်သည်။ သို့ဖြစ်၍ ဤ၌ ယင်းတို့ကို အကျဉ်းမျှ ပြန်လည်ဖော်ပြမည်။

၁၉၆။ **ဝါကျအမျိုးအစား။** ။အနက်အဓိပ္ပာယ်အရ ဝါကျ ၅ မျိုးရှိသည်။ ယင်းဝါကျ ၅ မျိုးတို့မှာ–

(က) ထုတ်ဖော်ဝါကျ
(ခ) မေးခွန်းဝါကျ
(ဂ) ငြင်းပယ်ဝါကျ
(ဃ) တိုက်တွန်းဝါကျ
(င) ဆန္ဒဝါကျ တို့ဖြစ်ကြသည်။

၁၉၇။ ဖွဲ့စည်းတည်ဆောက်ပုံအရ ဝါကျ ၂ မျိုးရှိသည်။ ယင်း ဝါကျ ၂ မျိုးတို့မှာ–
(က) ဝါကျရိုး
(ခ) ဝါကျရောာ တို့ဖြစ်ကြသည်။

၁၉၈။ ဝါကျရောတွင် အမှီခံဝါကျကဏ္ဍနှင့် အမှီဝါကျကဏ္ဍဟူ၍ ဝါကျကဏ္ဍ ၂ မျိုးရှိသည်။

၁၉၉။ **ပုဒ်အမျိုးအစား။** ။ ပုဒ် ၄ မျိုးရှိသည်။ ယင်းပုဒ် ၄ မျိုးတို့မှာ–
(က) ပုဒ်ရိုး
(ခ) ပေါင်းစပ်ပုဒ်
(ဂ) ပစ္စည်းရောပုဒ်
(ဃ) ဝိဘတ်သွယ်ပုဒ်တို့ဖြစ်ကြသည်။

၂၀၀။ ပစ္စည်းရောပုဒ်တွင် နာမဝိသေသနပုဒ်၊ ကြိယာဝိသေသနပုဒ်တို့ ပါဝင်ကြသည်။

၂၀၁။ ဝိဘတ်သွယ်ပုဒ်တွင် အောက်ပါ ပုဒ် ၁၇ မျိုး ပါဝင်သည်။
(က) ကတ္တားပုဒ်
(ခ) ကံပုဒ်
(ဂ) ထွက်ခွာရာပြပုဒ်
(ဃ) ရှေးရှုရာပြပုဒ်
(င) ဆိုက်ရောက်ရာပြပုဒ်
(စ) အသုံးခံပြပုဒ်
(ဆ) အကြောင်းပြပုဒ်
(ဇ) လက်ခံပြပုဒ်
(ဈ) နေရာပြပုဒ်
(ည) အချိန်ပြပုဒ်
(ဋ) ပိုင်ဆိုင်ခြင်းပြပုဒ်
(ဌ) လိုက်လျောပြပုဒ်
(ဍ) ယှဉ်တွဲပြပုဒ်
(ဎ) ခွဲထုတ်ရာပြပုဒ်
(ဏ) ရည်စူးချက်ပြပုဒ်
(တ) နေရာဆက်တိုက်ပြပုဒ်
(ထ) အချိန်ဆက်တိုက်ပြပုဒ်

၂၀၂။ **ပုဒ်စုအမျိုးအစား။** ။ ပုဒ်စု ၃ မျိုးရှိသည်။ ယင်းပုဒ်စု ၃ မျိုးတို့မှာ–

(က) ဝိဘတ်ဆက်ပုဒ်စု

(ခ) ပစ္စည်းဆက်ပုဒ်စု

(ဂ) သမ္ဗန္ဓဆက်ပုဒ်စု တို့ဖြစ်ကြသည်။

၂၀၃။ ပုဒ်စုအသီးသီး၏ နောက်တွင်ဆက်သော ဝိဘတ်ကို လိုက်၍ ပုဒ်စုတစ်ခုကို ကတ္တားပုဒ်စု၊ ကံပုဒ်စု၊ နေရာပြပုဒ်စု၊ အချိန်ပြပုဒ်စု စသည်ဖြင့် ခေါ်သည်။

၂၀၄။ ဝါကျကို အောက်ပါ အစီအစဉ်အတိုင်း ခွဲခြမ်းစိတ်ဖြာ ရသည်။

(က) အနက်အဓိပ္ပာယ်အရ ဝါကျအမျိုးအစား

(ခ) ဖွဲ့စည်းတည်ဆောက်ပုံအရ ဝါကျအမျိုးအစား

(ဂ) ဝါကျရိုးဖြစ်ပါက ပုဒ်အမျိုးအစား၊ ပုဒ်စုအမျိုးအစား

(ဃ) ဝါကျရောဖြစ်ပါက ဝါကျကဏ္ဍအမျိုးအစား

(င) အမှီခံဝါကျကဏ္ဍ၌ ပုဒ်အမျိုးအစား၊ ပုဒ်စုအမျိုးအစား

(စ) အမှီဝါကျကဏ္ဍ၌ ပုဒ်အမျိုးအစား၊ ပုဒ်စုအမျိုးအစား

၂၀၅။ ဝါကျခွဲခြမ်းစိတ်ဖြာပုံကို အောက်ပါသာဓကများ၌ လေ့လာနိုင်သည်။

**သာဓက။** ။

(က) **သူသည် နံနက်စာကို သူငယ်ချင်းများနှင့်အတူ ကျောင်း၌ စားသည်။**

| | |
|---|---|
| – သူသည် နံနက်စာကို သူငယ်ချင်းများနှင့်အတူ ကျောင်း၌ စားသည်။ | – ထုတ်ဖော်ဝါကျ |
| | – ဝါကျရိုး |
| – သူသည် | – ကတ္တားပုဒ် |
| – နံနက်စာကို | – ကံပုဒ် |
| – သူငယ်ချင်းများနှင့်အတူ | – ယှဉ်တွဲပြပုဒ် |
| – ကျောင်း၌ | – နေရာပြပုဒ် |
| – စားသည် | – ကြိယာပုဒ် |

(ခ) **သင် ဘယ်က ပြန်လာသနည်း။**

| | |
|---|---|
| – သင် ဘယ်က ပြန်လာသနည်း။ | – မေးခွန်းဝါကျ |
| | – ဝါကျရိုး |
| – သင် | – ကတ္တားပုဒ် |
| – ဘယ်က | – ထွက်ခွာရာပြပုဒ် |
| – ပြန်လာသနည်း | – ကြိယာပုဒ် |

(ဂ) **စာအုပ်ကို ကျွန်တော် မငှားနိုင်ပါ။**

| | |
|---|---|
| – စာအုပ်ကို ကျွန်တော် မငှားနိုင်ပါ။ | – ငြင်းပယ်ဝါကျ |
| | – ဝါကျရိုး |
| – ကျွန်တော် | – ကတ္တားပုဒ် |
| – စာအုပ်ကို | – ကံပုဒ် |

– မငှားနိုင်ပါ – ကြိယာပုဒ်

(ဃ) **သင်တို့သည် မြန်မာ့သတ္တိကို ပြကြလော့။**

–သင်တို့သည် မြန်မာ့သတ္တိကို ပြကြလော့။ – တိုက်တွန်းဝါကျ
– ဝါကျရိုး

– သင်တို့သည် – ကတ္တားပုဒ်
– မြန်မာ့သတ္တိကို – ကံပုဒ်စု
– ပြကြလော့ – ကြိယာပုဒ်

(င) **သတ္တဝါအားလုံး ကျန်းမာကြပါစေ။**

– သတ္တဝါအားလုံး ကျန်းမာကြပါစေ။ – ဆန္ဒဝါကျ
– ဝါကျရိုး

– သတ္တဝါအားလုံး – ကတ္တားပုဒ်
– ကျန်းမာကြပါစေ – ကြိယာပုဒ်

(စ) **သူ ရေကူးနေသည်ကို ကျွန်တော် မြင်သည်။**

– သူ ရေကူးနေသည်ကို ကျွန်တော် မြင်သည်။ – ထုတ်ဖော်ဝါကျ
– ဝါကျရော

– ကျွန်တော်မြင်သည်။ – အမှီခံဝါကျကဏ္ဍ
– ကျွန်တော် – ကတ္တားပုဒ်
– မြင်သည် – ကြိယာပုဒ်
– သူ ရေကူးနေသည်(ကို) – အမှီဝါကျကဏ္ဍ
– သူ – ကတ္တားပုဒ်
– ရေကူးနေသည် – ကြိယာပုဒ်

(ဆ) **သူပေးသော လက်ဆောင်ကို ကျွန်မ အမြတ်တနိုး သိမ်းထားသည်။**

– သူပေးသော လက်ဆောင်ကို ကျွန်မ
အမြတ်တနိုး သိမ်းထားသည်။ – ထုတ်ဖော်ဝါကျ
– ဝါကျရော

– လက်ဆောင်ကို ကျွန်မ အမြတ်တနိုး
သိမ်းထားသည်။ – အမှီခံဝါကျကဏ္ဍ
– လက်ဆောင်ကို – ကံပုဒ်
– ကျွန်မ – ကတ္တားပုဒ်
– အမြတ်တနိုး – ကြိယာဝိသေသန
– သိမ်းထားသည် – ကြိယာပုဒ်
– သူပေး(သော) – အမှီဝါကျကဏ္ဍ
– သူ – ကတ္တားပုဒ်
– ပေး – ကြိယာပုဒ်

(ဇ) **တိုင်းရင်းသားအားလုံး စည်းလုံးညီညွတ်မှ တိုင်းပြည် တိုးတက်မည်။**

| | |
|---|---|
| – တိုင်းရင်းသားအားလုံး စည်းလုံး ညီညွတ်မှ တိုင်းပြည် တိုးတက်မည်။ | – ထုတ်ဖော်ဝါကျ |
| | – ဝါကျရော |
| – တိုင်းပြည် တိုးတက်မည်။ | – အမှီခံဝါကျကဏ္ဍ |
| – တိုင်းပြည် | – ကတ္တားပုဒ် |
| – တိုးတက်မည်။ | – ကြိယာပုဒ် |
| – တိုင်းရင်းသားအားလုံး စည်းလုံးညီညွတ်(မှ) | – အမှီဝါကျကဏ္ဍ |
| – တိုင်းရင်းသားအားလုံး | – ကတ္တားပုဒ် |
| – စည်းလုံးညီညွတ် | – ကြိယာပုဒ် |

၂၀၆။ **စကားအထားအသို**။ ။ဝါကျဖွဲ့ရာ၌ ပုဒ်အသီးသီးကို နေထားတကျ စီစဉ်ဖွဲ့စည်းရသည်။ ဝါကျတွင်ရှိသော ပုဒ်တို့သည် နေထားတကျမရှိပါက ဆိုလိုသည့်အဓိပ္ပာယ်သို့ မရောက်ရုံမျှမက လွဲမှားသွားတတ်သည်။ သို့ဖြစ်၍ ဝါကျဖွဲ့ရာ၌ ပုဒ်တို့ကို နေသားတကျ ထားသိုရန်လိုသည်။ ဝါကျဖွဲ့ရာ၌ အောက်ပါအချက်အလက်များကို သတိပြုရမည်။

(က) ကတ္တားအထားအသို

( ခ ) နာမဝိသေသနအထားအသို

( ဂ ) ကြိယာဝိသေသနအထားအသို

၂၀၇။ **ကတ္တားအထားအသို**။ ။

(က) ကတ္တားကို ဝါကျ၏အစ၌ဖြစ်စေ၊ ကြိယာ၏ရှေ့၌ ကပ်လျက်ဖြစ်စေ ထားလေ့ရှိသည်။

**သာဓက**။ ။ (၁) **မောင်ညိုလှ**သည် သတင်းစာကို ဖတ်သည်။

(၂) သတင်းစာကို **မောင်ညိုလှ** ဖတ်သည်။

( ခ ) ကတ္တားသည် အခြားပုဒ်များကြောင့် ကြိယာနှင့် ကွာလှမ်းသောအခါ ဆိုလိုသည့် အဓိပ္ပာယ်သို့ မရောက်ဘဲ လွဲမှားသွားတတ်သည်။ ယင်းသို့သော ဝါကျမျိုးတွင် ကတ္တားကို ကြိယာနှင့် နီးကပ်စွာထားရသည်။

**သာဓက**။ ။

(၁) (ကက) **ဆရာကြီးက** တစ်နှစ်ပတ်လုံး မှန်မှန်ကြိုးစားသောကြောင့် စာမေးပွဲကို ဂုဏ်ထူးဖြင့်အောင်မြင်သည့် မောင်မောင်ကို ချီးကျူးသည်။

( ခခ ) တစ်နှစ်ပတ်လုံး မှန်မှန်ကြိုးစားသောကြောင့် စာမေးပွဲကို ဂုဏ်ထူးဖြင့် အောင်မြင်သည့် မောင်မောင်ကို **ဆရာကြီးက** ချီးကျူးသည်။

"ကြိုးစား၍ ဂုဏ်ထူးဖြင့်အောင်မြင်သော မောင်မောင်ကို ဆရာကြီးက ချီးကျူးသည်" ဟူသောအဓိပ္ပာယ်ဖြင့် ဝါကျဖွဲ့ရာ၌ သာဓကဝါကျ (၁) (ကက)တွင် ဖော်ပြထားသကဲ့သို့ **ဆရာကြီးက** ဟူသော ကတ္တားကို ၎င်းနှင့်တိုက်ရိုက်ဆက်စပ်ရမည့် **ချီးကျူးသည်** ဟူသော ကြိယာအနီး၌ မထားခြင်းကြောင့်

ကတ္တားသည် ၎င်းနှင့်နီးကပ်သည့် **ကြိုးစား** ဟူသော ကြိယာနှင့် ဆက်စပ်မိသည်။ ထို့ကြောင့် ကြိုးစား၍ ဂုဏ်ထူးဖြင့် အောင်မြင်သူမှာ မောင်မောင်ဖြစ်ကြောင်း အဓိပ္ပာယ်သက်ရောက်ရမည့်အစား ဆရာကြီးဖြစ်သည်ဟု လွဲမှားစွာ အဓိပ္ပာယ်သက်ရောက်သွားသည်။ သို့ဖြစ်၍ ဆိုလိုသည့် အဓိပ္ပာယ်သက်ရောက်စေရန် သာဓကဝါကျ (၁) (ခခ)တွင် ဖော်ပြထားသကဲ့သို့ ကတ္တားကို ၎င်းနှင့်တိုက်ရိုက်ဆက်စပ်ရမည့် ကြိယာနှင့် နီးကပ်စွာထားရသည်။

(၂) (ကက) **ဘကြီးက** ဘောလုံးကန်၍ ခြေထောက်နာနေသဖြင့် ကျောင်းမသွားနိုင်သော မြေးငယ်ကို ဆေးလိမ်းပေးသည်။

(ခခ) ဘောလုံးကန်၍ ခြေထောက်နာနေသဖြင့် ကျောင်းမသွားနိုင်သော မြေးငယ်ကို **ဘကြီးက** ဆေးလိမ်းပေးသည်။

"ဘောလုံးကန်၍ ခြေထောက်နာနေသော မြေးငယ်ကို ဘကြီးက ဆေးလိမ်းပေးသည်" ဟူသော အဓိပ္ပာယ်ဖြင့် ဝါကျ ဖွဲ့ရာ၌ သာဓကဝါကျ (၂) (ကက) တွင် ဖော်ပြထားသကဲ့သို့ **ဘကြီးက** ဟူသော ကတ္တားကို ၎င်းနှင့် တိုက်ရိုက်ဆက်စပ်ရမည့် **ဆေးလိမ်းပေးသည်** ဟူသော ကြိယာအနီး၌ မထားခြင်းကြောင့် ကတ္တားသည် ၎င်းနှင့်နီးကပ်သည့် **ဘောလုံးကန်** ဟူသော ကြိယာနှင့် ဆက်စပ်မိသည်။ ထို့ကြောင့် ဘောလုံးကန်၍ ခြေထောက်နာသူမှာ မြေးငယ်ဖြစ်ကြောင်း အဓိပ္ပာယ်သက်ရောက်ရမည့်အစား ဘကြီးဖြစ်သည်ဟု လွဲမှားစွာ အဓိပ္ပာယ် သက်ရောက်သွားသည်။ သို့ဖြစ်၍ ဆိုလိုသည့် အဓိပ္ပာယ် သက်ရောက်စေရန် သာဓကဝါကျ (၂) (ခခ)တွင် ဖော်ပြထားသကဲ့သို့ ကတ္တားကို ၎င်းနှင့် တိုက်ရိုက်ဆက်စပ်ရမည့် ကြိယာနှင့် နီးကပ်စွာထားရသည်။

(၃) (ကက) **ဆရာဝန်ကြီးက** ဆေးကို မှန်မှန်မသောက်သည့်အတွက် လူနာများ ဆေးကိုမှန်မှန်သောက်ကြရန် သတိပေးသည်။

(ခခ) ဆေးကို မှန်မှန်မသောက်သည့်အတွက် လူနာများ ဆေးကို မှန်မှန်သောက်ကြရန် **ဆရာဝန်ကြီးက** သတိပေးသည်။

"ဆေးမှန်မှန်မသောက်သည့် လူနာများကို ဆရာဝန်ကြီးက ဆေးမှန်မှန်သောက်ရန် သတိပေးသည်" ဟူသောအဓိပ္ပာယ်ဖြင့် ဝါကျဖွဲ့ရာ၌ သာဓကဝါကျ (၃) (ကက) တွင် ဖော်ပြထားသကဲ့သို့ **ဆရာဝန်ကြီးက** ဟူသောကတ္တားကို ၎င်းနှင့်တိုက်ရိုက် ဆက်စပ်ရမည့် **သတိပေးသည်** ဟူသော ကြိယာအနီး၌ မထားခြင်းကြောင့် ကတ္တားသည် ၎င်းနှင့်နီးကပ်သည့် **မသောက်** ဟူသော ကြိယာနှင့် ဆက်စပ်မိသည်။ ထို့ကြောင့် ဆေးကို

မှန်မှန်မသောက်သူမှာ လူနာများဖြစ်ကြောင်း အဓိပ္ပာယ် သက် ရောက်ရမည့်အစား ဆရာဝန်ကြီးဖြစ်သည်ဟု လွဲမှားစွာ အဓိပ္ပာယ် သက်ရောက်သွားသည်။ သို့ဖြစ်၍ ဆိုလိုသည့် အဓိပ္ပာယ် သက်ရောက်စေရန် သာဓကဝါကျ (၃) (ခခ)တွင် ဖော်ပြထားသကဲ့သို့ ကတ္တားကို ၎င်းနှင့် တိုက်ရိုက်ဆက်စပ်ရမည့် ကြိယာနှင့် နီးကပ်စွာထားရသည်။

၂၀၈။ **နာမဝိသေသနအထားအသို။** ။

(က) **သော** ပစ္စည်းပါသည့် နာမဝိသေသနကို အထူးပြုခံရမည့် နာမ်၏ရှေ့တွင် ကပ်ထားရသည်။

**သာဓက။** ။

(၁) ဆရာသည် **လိမ်မာသော** တပည့်ကို ချစ်သည်။

(၂) သူသည် **လတ်ဆတ်သော** အသီးအနှံကို နှစ်သက်သည်။

(ခ) **သော၊ သည့်** ပစ္စည်းပါသော နာမဝိသေသန၊ နာမဝိသေသနအဖြစ်သုံးသည့် **က**ဝိဘတ်ပါသော နေရာပြပုဒ်၊ အစဉ်ပြသင်္ချာနာမဝိသေသနတို့ကို အထူးပြုခံ နာမ်၏ရှေ့တွင် ကပ်၍ထားရသည်။

**သာဓက။** ။

(၁) (ကက) **ပေ ၂၀ ရှည်သော** ကလေးများရေကူးရန် ကန်တစ်ခုကို အမြန် တူးနေသည်။

(ခခ) ကလေးများရေကူးရန် **ပေ ၂၀ ရှည်သော** ကန်တစ်ခုကို အမြန်တူးနေသည်။

"ကလေးများ ရေကူးရန်အတွက် ပေ၂၀ ရှည်သော ကန်တစ်ခု တူးနေသည်" ဟူသော အဓိပ္ပာယ်ဖြင့် ဝါကျဖွဲ့ရာ၌ သာဓကဝါကျ (၁)(ကက)တွင် ဖော်ပြထားသကဲ့သို့ **ပေ ၂၀ ရှည်သော** ဟူသော နာမဝိသေသနကို ၎င်းနှင့် တိုက်ရိုက်ဆက်စပ် အထူးပြုရမည့် **ကန်** ဟူသော နာမ်၏ရှေ့၌ ကပ်မထားဘဲ **ကလေး**ဟူသော အခြားနာမ်တစ်ခု၏ရှေ့၌ ကပ်ထားခြင်းကြောင့် ပေ၂၀ ရှည်သည့် ကန်ဟု အဓိပ္ပာယ်သက်ရောက်ရမည့် အစား ပေ၂၀ ရှည်သည့် ကလေးဟူ၍ လွဲမှားစွာ အဓိပ္ပာယ် သက်ရောက်သွားသည်။ သို့ဖြစ်၍ ဆိုလိုသည့်အဓိပ္ပာယ် သက်ရောက်စေရန် သာဓကဝါကျ (၁) (ခခ)တွင် ဖော်ပြထား သကဲ့သို့ နာမဝိသေသနကို ၎င်းနှင့် တိုက်ရိုက်ဆက်စပ်ရမည့် နာမ်နှင့် နီးကပ်စွာထားရသည်။

(၂) (ကက) ကျွန်တော်သည် **ကြောင်အိမ်ထဲက** အစ်ကိုကြီးအား ငါးကြော် တစ်ကောင်ကို ပေးလိုက်ပါသည်။

(ခခ) ကျွန်တော်သည် အစ်ကိုကြီးအား **ကြောင်အိမ်ထဲက** ငါးကြော် တစ်ကောင်ကို ပေးလိုက်ပါသည်။

"ကျောင်းအိမ်ထဲတွင်ရှိသော ငါးကြော်တစ်ကောင်ကို အစ်ကိုကြီးအား ပေးလိုက်ပါသည်"ဟူသော အဓိပ္ပာယ်ဖြင့် ဝါကျဖွဲ့ရာ၌ သာဓကဝါကျ(၂) (ကက)တွင် ဖော်ပြထားသကဲ့သို့ **ကျောင်းအိမ်ထဲက** ဟူသော နာမဝိသေသနအဖြစ်သုံးသည့် နေရာပြပုဒ်ကို ၎င်းနှင့် တိုက်ရိုက်ဆက်စပ် အထူးပြုရမည့် **ငါးကြော်**ဟူသော နာမ်၏ရှေ့၌ ကပ်မထားဘဲ **အစ်ကိုကြီး** ဟူသော နာမ်၏ရှေ့၌ ကပ်ထားခြင်း ကြောင့် ကျောင်းအိမ်ထဲတွင်ရှိသည့် ငါးကြော်ဟု အဓိပ္ပာယ် သက်ရောက်ရမည့်အစား ကျောင်းအိမ်ထဲတွင် ရှိသည့် အစ်ကိုကြီးဟူ၍ လွဲမှားစွာ အဓိပ္ပာယ် သက်ရောက်သွားသည်။ သို့ဖြစ်၍ ဆိုလိုသည့်အဓိပ္ပာယ် သက်ရောက်စေရန် သာဓကဝါကျ (၂) (ခခ)တွင် ဖော်ပြထားသကဲ့သို့ နာမဝိသေသနကို ၎င်းနှင့်တိုက်ရိုက်ဆက်စပ်ရမည့်နာမ်နှင့် နီးကပ်စွာ ထားရသည်။

(၃) (ကက) **ငါးကြိမ်မြောက်** မသန်မစွမ်းသူများ၏ အားကစားပြိုင်ပွဲကို ယနေ့ ကျင်းပသည်။

(ခခ) မသန်မစွမ်းသူများ၏ **ငါးကြိမ်မြောက်** အားကစားပြိုင်ပွဲကို ယနေ့ ကျင်းပသည်။

"မသန်မစွမ်းသူများ၏ ငါးကြိမ်မြောက် အားကစားပြိုင်ပွဲကို ကျင်းပသည်"ဟူသော အဓိပ္ပာယ်ဖြင့် ဝါကျဖွဲ့ရာ၌ သာဓကဝါကျ (၃) (ကက) တွင် ဖော်ပြထားသကဲ့သို့ **ငါးကြိမ်မြောက်**ဟူသော နာမဝိသေသနကို ၎င်းနှင့်တိုက်ရိုက်ဆက်စပ် အထူးပြုရမည့် **အားကစားပြိုင်ပွဲ**ဟူသော နာမ်၏ရှေ့၌ ကပ်မထားဘဲ **မသန်မစွမ်းသူ**ဟူသော အခြားပုဒ်တစ်ခု၏ရှေ့၌ ကပ်ထားခြင်း ကြောင့် ငါးကြိမ်မြောက် အားကစားပြိုင်ပွဲဟု အဓိပ္ပာယ် သက်ရောက်ရမည့်အစား ငါးကြိမ်မြောက် မသန်မစွမ်းသူများ ဟူ၍ လွဲမှားစွာ အဓိပ္ပာယ်သက်ရောက်သွားသည်။ သို့ဖြစ်၍ ဆိုလိုသည့် အဓိပ္ပာယ် သက်ရောက်စေရန် သာဓကဝါကျ (၃) (ခခ)တွင် ဖော်ပြထားသကဲ့သို့ နာမဝိသေသနကို ၎င်းနှင့်တိုက်ရိုက် ဆက်စပ်ရမည့် နာမ်နှင့် နီးကပ်စွာထားရသည်။

၂၀၉။ **ကြိယာဝိသေသနအထားအသို။** ။

(က) ကြိယာဝိသေသနကို ကြိယာ၏ ရှေ့တွင်ထားလေ့ ရှိသည်။

**သာဓက။** ။ (၁) သူသည် ဈေးမှ **အမြန်** ပြန်လာသည်။

(၂) သူသည် စက်ဘီးကို **လျင်မြန်စွာ** စီးသည်။

(ခ) ကြိယာဝိသေသနအဖြစ်သုံးသော **က** ဝိဘတ်ပါသည့် အချိန်ပြပုဒ်နှင့် နေရာပြပုဒ်၊ **တွင်** ဝိဘတ်ပါသည့် နေရာပြပုဒ်၊ **နှင့်** ဝိဘတ်ပါသည့် အသုံးခံပြပုဒ်၊ **စွာ** ပစ္စည်းပါသည့် ကြိယာဝိသေသနပုဒ်တို့ကို ကြိယာ၏ ရှေ့တွင်ကပ်၍ ထားရသည်။

**သာဓက။** ။

(၁) (ကက) မလှသည် **မနေ့က** ပေါင်မုန့်ကို စားသည်။

(ခခ) မလှသည် ပေါင်မုန့်ကို **မနေ့က** စားသည်။

"မလှသည် ပေါင်မုန့်ကို ယနေ့ စားခြင်းမဟုတ်ဘဲ မနေ့ကစားခြင်း ဖြစ်သည်" ဟူသော အဓိပ္ပာယ်ဖြင့် ဝါကျဖွဲ့ရာ၌ သာဓကဝါကျ(၁) (ကက)တွင် ဖော်ပြထားသကဲ့သို့ **မနေ့က** ဟူသော အချိန်ပြပုဒ်ကို ၎င်းနှင့်တိုက်ရိုက်ဆက်စပ်ရမည့် **စားသည်** ဟူသော ကြိယာ၏ရှေ့၌ ကပ်မထားဘဲ **ပေါင်မုန့်ကို** ဟူသော အခြားပုဒ်တစ်ခု၏ရှေ့၌ ကပ်ထားခြင်းကြောင့် မလှသည် ပေါင်မုန့်ကို မနေ့က စားသည်ဟု အဓိပ္ပာယ်သက်ရောက်ရမည့်အစား မလှသည် မနေ့က ကျန်သော ပေါင်မုန့်ကို စားသည်ဟူ၍ လွဲမှားစွာ အဓိပ္ပာယ်သက်ရောက်သွားသည်။ သို့ဖြစ်၍ ဆိုလိုသည့် အဓိပ္ပာယ် သက်ရောက် စေရန် သာဓကဝါကျ(၁) (ခခ)တွင် ဖော်ပြထား သကဲ့သို့ ကြိယာဝိသေသနကို ၎င်းနှင့်တိုက်ရိုက် ဆက်စပ်ရမည့် ကြိယာနှင့် နီးကပ်စွာထားရသည်။

(၂) (ကက) **လေ့ပေါ်က** ကြာပန်းကိုခူးသည်။

( ခခ ) ကြာပန်းကို **လေ့ပေါ်က**ခူးသည်။

"ကန်ထဲ၌ ပေါက်နေသော ကြာပန်းကို လေ့ပေါ်ကလှမ်း၍ ခူးသည်" ဟူသော အဓိပ္ပာယ်ဖြင့် ဝါကျဖွဲ့ရာ၌ သာဓကဝါကျ (၂) (ကက)တွင် ဖော်ပြထားသကဲ့သို့ **လေ့ပေါ်က** ဟူသော နေရာပြပုဒ်ကို ၎င်းနှင့် တိုက်ရိုက်ဆက်စပ်ရမည့် **ခူးသည်** ဟူသော ကြိယာ၏ရှေ့၌ ကပ်မထားဘဲ **ကြာပန်းကို**ဟူသော အခြားပုဒ် တစ်ခု၏ရှေ့၌ ကပ်ထားခြင်းကြောင့် ကန်ထဲ၌ ပေါက်နေသော ကြာပန်းကိုခူးသည်ဟု အဓိပ္ပာယ်သက်ရောက်ရမည့်အစား လေ့ပေါ်၌ ပေါက်နေသောကြာပန်းကို ခူးသည်ဟူ၍ လွဲမှားစွာ အဓိပ္ပာယ်သက်ရောက်သွားသည်။ သို့ဖြစ်၍ ကြိယာ ဝိသေသနကို ၎င်းနှင့် တိုက်ရိုက်ဆက်စပ်ရမည့် ကြိယာနှင့် နီးကပ်စွာထားရသည်။

(၃) (ကက) **စာသင်ခန်းတွင်** လိမ်မပြောရန် တပည့်များကို ဆရာကဆုံးမ သည်။

(ခခ) လိမ်မပြောရန် တပည့်များကို ဆရာက **စာသင်ခန်းတွင်** ဆုံးမ သည်။

"လိမ်မပြောရန် တပည့်များကို ဆရာက စာသင်ခန်းတွင် ဆုံးမသည်" ဟူသော အဓိပ္ပာယ်ဖြင့် ဝါကျဖွဲ့ရာ၌ သာဓကဝါကျ (၃) (ကက)တွင် ဖော်ပြထားသကဲ့သို့ **စာသင်ခန်းတွင်**ဟူသော နေရာပြပုဒ်ကို ၎င်းနှင့် တိုက်ရိုက်ဆက်စပ်ရမည့် **ဆုံးမသည်**ဟူသော ကြိယာ၏ရှေ့၌ ကပ်မထားဘဲ **လိမ်မပြောရန်**ဟူသော အခြားပုဒ်တစ်ခု၏ရှေ့၌ ကပ်ထားခြင်းကြောင့် လိမ်မပြောရန် စာသင်ခန်းတွင် ဆရာက ဆုံးမသည်ဟု အဓိပ္ပာယ် သက်ရောက်ရမည့်အစား အခြားနေရာတွင် လိမ်ပြောနိုင်သည်၊ စာသင်ခန်း တွင်သာ လိမ်မပြောရန် ဆုံးမသည်ဟူ၍ လွဲမှားစွာ အဓိပ္ပာယ်

သက်ရောက်သွားသည်။ သို့ဖြစ်၍ ဆိုလိုသည့်အဓိပ္ပာယ် သက်ရောက်စေရန် သာဓကဝါကျ (၃) (ခခ)တွင် ဖော်ပြထားသကဲ့သို့ ကြိယာဝိသေသနကို ၎င်းနှင့်တိုက်ရိုက်ဆက်စပ်ရမည့်ကြိယာနှင့် နီးကပ်စွာထားရသည်။

(၄) (ကက) မောင်ဘက **တုတ်နှင့်** မောင်လှကို ရိုက်သည်။
(ခခ) မောင်ဘက မောင်လှကို **တုတ်နှင့်** ရိုက်သည်။
"မောင်ဘက သူ၏တုတ်ဖြင့် မောင်လှကို ရိုက်သည်"ဟူသော အဓိပ္ပာယ်ဖြင့် ဝါကျဖွဲ့ရာ၌ သာဓကဝါကျ(၄) (ကက)တွင် ဖော်ပြထားသကဲ့သို့ **တုတ်နှင့်** ဟူသော အသုံးခံပြုပုဒ်ကို ၎င်းနှင့်တိုက်ရိုက် ဆက်စပ်ရမည့် **ရိုက်သည်**ဟူသော ကြိယာ၏ရှေ့၌ကပ်မထားဘဲ **မောင်လှကို** ဟူသော အခြားပုဒ်တစ်ခု၏ ရှေ့၌ ကပ်ထားခြင်းကြောင့် မောင်ဘက မောင်လှကို တုတ်ဖြင့် ရိုက်သည်ဟု အဓိပ္ပာယ်သက်ရောက်ရမည့်အစား တုတ်ကိုင်ထားသော မောင်လှကို မောင်ဘက ရိုက်သည်ဟူ၍ သက်ရောက်သွားသည်။ သို့ဖြစ်၍ ဆိုလိုသည့်အဓိပ္ပာယ် သက်ရောက်စေရန် သာဓကဝါကျ(၄) (ခခ)တွင် ဖော်ပြထားသကဲ့သို့ ကြိယာဝိသေသနကို ၎င်းနှင့်တိုက်ရိုက်ဆက်စပ်ရမည့်ကြိယာနှင့် နီးကပ်စွာထားရသည်။

(၅) (ကက) သူသည် **လျင်မြန်စွာ** ထမင်းစား၍ ကျောင်းသို့သွားသည်။
(ခခ) သူသည် ထမင်းစား၍ ကျောင်းသို့ **လျင်မြန်စွာ** သွားသည်။
"သူသည် ထမင်းစားပြီးမှ ကျောင်းသို့ လျင်မြန်စွာသွား သည်"ဟူသော အဓိပ္ပာယ်ဖြင့် ဝါကျဖွဲ့ရာ၌ သာဓကဝါကျ(၅) (ကက)တွင် ဖော်ပြထားသကဲ့သို့ **လျင်မြန်စွာ**ဟူသော ကြိယာဝိသေသနကို ၎င်းနှင့်တိုက်ရိုက်ဆက်စပ်ရမည့် **သွားသည်**ဟူသော ကြိယာ၏ရှေ့၌ ကပ်မထားဘဲ **ထမင်းစား၍** ဟူသော အခြားပုဒ်တစ်ခု၏ရှေ့၌ ကပ်ထားခြင်းကြောင့် သူသည် ထမင်းစားပြီးမှ ကျောင်းသို့ လျင်မြန်စွာသွားသည်ဟု အဓိပ္ပာယ် သက်ရောက်ရမည့်အစား သူသည် ထမင်းကို လျင်မြန်စွာစားပြီးမှ ကျောင်းသို့သွားသည်ဟူ၍ လွဲမှားစွာ အဓိပ္ပာယ်သက်ရောက်သွားသည်။ သို့ဖြစ်၍ ဆိုလိုသည့်အဓိပ္ပာယ် သက်ရောက်စေရန် သာဓက ဝါကျ(၅)(ခခ)တွင် ဖော်ပြထားသကဲ့သို့ ကြိယာဝိသေသနကို ၎င်းနှင့်တိုက်ရိုက်ဆက်စပ်ရမည့် ကြိယာနှင့် နီးကပ်စွာထားရသည်။ အကယ်၍ "သူသည် ထမင်းကို ရှေးဦးစွာ လျင်လျင်မြန်မြန် စားပြီးမှ ကျောင်းသို့သွားသည်" ဟူသော အဓိပ္ပာယ်ဖြင့် ဝါကျဖွဲ့လိုပါက သာဓကဝါကျ(၅)(ကက)၏ ပုဒ်အနေအထားသည် မှန်သည်။

## လေ့ကျင့်ခန်း

## (က)

၁။ အောက်ပါ နာမဝိသေသနနှင့် ကြိယာဝိသေသနအသီးသီးကို ဝါကျရိုးတစ်ခုစီ၌သုံးပြပါ။

အေးမြသော၊ ပျော်ရွှင်စွာ၊ တဖြည်းဖြည်း၊ မြင့်မားသော၊ တရင်းတနှီး။

၂။ အောက်ပါ ပုဒ်စုအသီးသီးကို ဝါကျရိုးတစ်ခုစီ၌ သုံးပြပါ။ မည်သည့်ပုဒ်စုအဖြစ် သုံးသည်ကိုလည်း ဖော်ပြပါ။

ကျွန်တော်၏အစ်ကို၊ သာယာသောညနေခင်း၊ မြန်မာ့ကျွန်းသစ်၊ ရေးဖို့ခဲတံ။

၃။ အောက်ပါဝါကျအသီးသီးရှိ ပုဒ်တို့အနက် မိမိအလေးထားလိုသည့်ပုဒ်ကို ဝါကျ၏ အစ၌ ထားပြပါ။

(က) ပုသိမ်သင်္ဘောသည် ရန်ကုန်ဆိပ်ကမ်းသို့ နံနက် ၅ နာရီခန့်၌ ဆိုက်ကပ်သည်။

(ခ) မောင်နီသည် ကျောင်းသို့ စက်ဘီးဖြင့် သွားသည်။

(ဂ) လူတို့သည် စားဝတ်နေရေးအတွက် အလုပ်ကို ကြိုးကြိုးပမ်းပမ်း ဆောင်ရွက်ကြသည်။

(ဃ) မိဘတိုင်းသည် သားသမီးကို လိမ္မာရန် နေ့စဉ် ဆုံးမသည်။

(င) ဝေလငါးသည် ရေသတ္တဝါတို့တွင် အကြီးဆုံးဖြစ်သည်။

၄။ ကတ္တားမြှုပ်၍ ဝါကျရိုးဖွဲ့ပုံကို သာဓကပြပါ။

၅။ ကြိယာမြှုပ်၍ ဝါကျရိုးဖွဲ့ပုံကို သာဓကပြပါ။

၆။ ကတ္တားဝိဘတ်မြှုပ်၍ ဝါကျရိုးဖွဲ့ပုံကို သာဓကပြပါ။

၇။ ကံဝိဘတ်မြှုပ်၍ ဝါကျရိုးဖွဲ့ပုံကို သာဓကပြပါ။

## (ခ)

၁။ အောက်ပါ ဝါကျရောများမှ မြှုပ်ထားသည့် ကတ္တားပုဒ်နှင့် ကံပုဒ်တို့ကို ဖော်ပြပါ။

(က) လူတို့သည် ချီးမွမ်းမှုကို နှစ်သက်သော်လည်း ကဲ့ရဲ့မှုကို စက်ဆုပ်ကြသည်။

(ခ) တောင်သူလယ်သမားတို့သည် ယခင်ကထက် စနစ်တကျ စိုက်ပျိုးလာကြသဖြင့် ကောက်ပဲသီးနှံများသည် အထွက်တိုးလာသည်။

(ဂ) ပြည်သူတို့သည် လမ်း၏ တစ်ဖက်တစ်ချက်တွင် ရပ်ကာ အောင်ပွဲရစစ်သည်များကို ဝမ်းပန်းတသာ ကြိုဆိုနေကြသည်။

(ဃ) ဦးလေးသည် ကွင်းထဲက ကောက်ရိုးများကို လှည်းပေါ်သို့တင်၍ ရွာသို့ ပြန်လာသည်။

(င) သူ အကြိမ်ကြိမ် သွေးသဖြင့် ဓားသည် အလွန်ထက်လာသည်။

(စ) သူငယ်ချင်းများက မကြာခဏ စတတ်သော်လည်း ကျွန်တော်က စိတ်မဆိုးမိပါ။

၂။ အောက်ပါဝါကျရောအသီးသီးရှိ အမှီခံဝါကျကဏ္ဍ၌ မည်သည့်ပုဒ်တို့ကို မြှုပ်နိုင်သနည်း။

(က) ငှက်တို့သည် နေ့အခါ၌ အသိုက်မှ အစာရှိသော အရပ်သို့ အစာရှာ ထွက်ကြ၍ ငှက်တို့သည် ညနေ၌ အစာရှိသော အရပ်မှ အသိုက်သို့ ပြန်လာကြသည်။

(ခ) ဗေဒါပင်များသည် မြစ်ထဲ မှ ချောင်းအတွင်းသို့ ဒီရေနှင့်အတူ မျောပါလာ၍ ဗေဒါပင်များသည် ဒီရေနှင့်အတူ ချောင်းအတွင်းမှ မြစ်ထဲသို့ မျောပါသွားကြသည်။

(ဂ) မလှသည် တောင်းထဲက သရက်သီးများကိုထုတ်၍ မလှသည် တောင်းထဲက သရက်သီးများကို စက္ကူအိတ်ထဲသို့ ထည့်သည်။

၃။ အောက်ပါ ဝါကျရိုးတစ်ခုစီတွင် မြှုပ်သင့်သည့်ပုဒ်တို့ကိုမြှုပ်၍ ဝါကျရောတစ်ခု ဖြစ်အောင် ဖွဲ့ပြပါ။

(က) – ရေခိုးရေငွေ့တို့သည် အပူရှိန်ကြောင့် အထက်သို့တက်ကြသည်။
– ရေခိုးရေငွေ့တို့သည် အအေးဓာတ်နှင့် ထိတွေ့ကြသည်။
– ရေခိုးရေငွေ့တို့သည် တိမ်များဖြစ်လာသည်။

(ခ) – မိုးဥတု ကုန်ဆုံးပြီ။
– ဦးကြီးသည် ဆောင်းရာသီ သီးနှံပင်များကို စတင်စိုက်ပျိုးသည်။
– ဦးကြီးသည် မြက်ပင်ချုံပင်များကို ခုတ်ထွင် ရှင်းလင်းသည်။
– ဦးကြီးသည် မြေကို ပြုပြင်သည်။

(ဂ) – ဖခင် ရုံးမှ ပြန်လာသည်။
– ဖခင်ကို သားသမီးများက တွေ့ကြသည်။
– သားသမီးများသည် ဖခင်ဆီသို့ ပြေးသွားကြသည်။
– သားသမီးများသည် ဖခင်၏ လွယ်အိတ်နှင့် စာအုပ်များကို သယ်ကြသည်။
– သားသမီးများသည် ဖခင်နှင့်အတူ အိမ်ထဲသို့ ပျော်ရွှင်စွာ ဝင်လာကြသည်။

## (ဂ)

၁။ အောက်ပါ ဝါကျရိုးအသီးသီးကို ဝါကျခွဲခြမ်းစိတ်ဖြာနည်းအရ ခွဲခြမ်းစိတ်ဖြာပြပါ။

(က) သူတော်စင်တို့သည် တိတ်ဆိတ်အေးချမ်းသော အရပ်ကို နှစ်သက်ကြကုန်၏။

(ခ) ဦးလှသည် ကိစ္စတစ်ခုကြောင့် ရန်ကုန်မှမန္တလေးသို့ အမြန်ရထားဖြင့် ယမန်နေ့က ရုတ်တရက် သွားသည်။

(ဂ) သူတို့သည် ဘောလုံးကွင်းထိအောင် လမ်းလျှောက်ကြသည်။

(ဃ) ရွာသားများသည် လယ်ကွင်းမှ ချောင်းတိုင်အောင် ရေနုတ်မြောင်း တူးကြသည်။

(င) တောင်တက်သမားများသည် အေးမြသော နံနက်ခင်း၌ မြင့်မားသောတောင်ထိပ်သို့ ပျော်ရွှင်စွာ တက်ကြသည်။

၂။ အောက်ပါ ဝါကျရောတို့ကို ဝါကျခွဲခြမ်းစိတ်ဖြာနည်းအရ ခွဲခြမ်းစိတ်ဖြာပြပါ။

(က) သူသည် ရန်ကုန်မှ ပဲခူးသို့ ကားဖြင့် နံနက်ကသွား၍ ညဉ့် ပြန်လာသည်။

(ခ) တောတောင်ပတ်ဝန်းကျင် သာယာလှသော နွေဦးရာသီ၌ လေရူးကလေးများ ဝန်းဝေ့တိုက်ခတ်လာသည် နှင့်တစ်ပြိုင်နက် ရွက်ဟောင်းများကြွေကာ ရွက်သစ်၊ ရွက်ညွန့်၊ ပုရစ်ဖူးကလေးများ အစီအရီ ထွက်ပေါ်လာကြသည်။

(ဂ) ဘောလုံးသည် မောင်ချစ်ညို၏ ရှေ့သို့ ကျလာသည် နှင့်တစ်ပြိုင်နက် သူသည် ဘောလုံးကို ဂိုးပေါက်ဆီသို့ တစ်ရှိန်ထိုး သယ်သွားကာ ဂိုးရေိယာအတွင်းသို့ ရောက်လျှင် ဂိုးပေါက်ထဲသို့ တအားကုန် ကန်သွင်းလိုက်ရာ တည့်တည့်မတ်မတ် ဝင်သွားသည်။

## (ဃ)

၁။ ဝါကျ၌ ကတ္တားကို မည်သည့်နေရာတို့၌ ထားလေ့ရှိသနည်း။

၂။ ဝါကျ၌ ကတ္တားသည် ကြိယာနှင့် ကွာလှမ်းသောအခါ မည်သို့ဖြစ်လာနိုင်သနည်း။

၃။ အောက်ပါ ဝါကျအသီးသီးရှိ ကတ္တားကို အထားအသို အစီအစဉ် သင့်အောင်ပြင်ဖွဲ့ပါ။

(က) ဖိုးသာအောင်က တွေ့ရာကို ချိုဖြင့် လိုက်လံခတ်ကာ ရွာသားများကို အနှောင့်အယှက် ပေးနေသော ကျွဲရိုင်းကို ဖမ်းဆီးလိုက်သည်။

(ခ) ဆရာဝန်ကြီးများက ဆေးလိပ်ကို အလွန်အကျွံသောက်၍ အဆုတ်ရောဂါဖြစ်ကြ သဖြင့် ဆေးလိပ်ကို မသောက်ကြရန် တားမြစ်ကြသည်။

(ဂ) ဒိုင်လူကြီးက ကြမ်းတမ်းစွာကစားသည့်အပြင် ပြိုင်ဘက်ကစားသမားများကို ဆဲဆိုရန်စတတ်သော ဘောလုံးသမားဖိုးတုတ်ကို ပြင်းထန်စွာ သတိပေးလိုက် သည်။

၄။ အောက်ပါ ဝါကျအသီးသီးရှိ နာမဝိသေသနပုဒ်ကို အထားအသို အစီအစဉ် သင့်အောင် ပြင်ဖွဲ့ပါ။

(က) ပေ ၃၀၀၀ မြင့်သော ပန်းသီးပင်များ စိုက်ပျိုးရန် တောင်တန်းတစ်ခုကို သက်ဆိုင်ရာက ရှာဖွေနေသည်။

(ခ) ကျွန်တော်သည် မော်လမြိုင်က ဆရာ့ကို ဒူးရင်းသီးဖြင့် ကန်တော့သည်။

(ဂ) ၁၀ ကြိမ်မြောက် ရပ်ကွက်လူငယ်များ စာကြည့်တိုက်၏ စာပေဟောပြောပွဲကို ယခုနှစ်တွင် ကျင်းပမည်။

၅။ အောက်ပါ ဝါကျအသီးသီးရှိ ကြိယာဝိသေသနပုဒ်ကို အထားအသို အစီအစဉ်သင့်အောင် ပြင်ဖွဲ့ပါ။

(က) မလှသည် မမြအား ယမန်နှစ်က သဇင်ပန်းများကို လက်ဆောင်အဖြစ်ပေးသည်။

(ခ) ကျွန်တော်သည် သစ်ပင်ပေါ်က လယ်ကွင်းများကို လှမ်းမြင်ရသည်။

(ဂ) အိမ်တွင် မြန်မာ့ယဉ်ကျေးမှုကို အစဉ်ထိန်းသိမ်းရမည်ဟု မိဘနှစ်ပါးက သင်ကြား သည်။

(ဃ) မမသည် အပ်ချည်နှင့် ခရေပွင့်များကို သီသည်။

(င) ဘင်ခရာအဖွဲ့က တေးသီချင်းများကို အောင်မြင်စွာ သီဆိုတီးမှုတ်၍ အခမ်းအနားကို ရုပ်သိမ်းလိုက်သည်။

# အပိုင်း ၁

# အသံ၊ စကားသံ

- ဤအပိုင်းတွင် မြန်မာဘာသာစကား၏ စကားသံနှင့်ပတ်သက်၍ သိသင့်သိထိုက်သော အခြေခံအချက်အလက်များကို အကျဉ်းမျှ ဖော်ပြထားသည်။
- ယင်းသို့ဖော်ပြရာတွင် အခြေခံပညာအလယ်တန်း၊ အခြေခံပညာအထက်တန်း တို့၌ ဖော်ပြခဲ့ပြီးသော အချက်အလက်များကို အကျဉ်းအားဖြင့် ပြန်လည်စုစည်း ဖော်ပြရုံမျှမက တက္ကသိုလ်အဆင့်နှင့် သင့်လျော်မည့် အချက်အလက်အချို့ကိုလည်း ဖြည့်စွက် ဖော်ပြထားသည်။
- အသံနှင့် စကားသံတို့၏ အခြေခံသဘော၊ ဗျည်းသရတို့၏ အဓိပ္ပာယ်၊ အရေအတွက်၊ အမျိုးအမည်၊ ဗျည်းသရတို့ ပေါင်းစပ်၍ စကားသံဖွဲ့ပုံ၊ ပြောဆိုရွတ်ဖတ်ရာ၌ စကားသံပြောင်းလဲတတ်ပုံတို့ကို သာဓကများဖြင့် ရှင်းလင်းဖော်ပြထားသည်။
- ဤအပိုင်းကို လေ့လာခြင်းဖြင့် မြန်မာဘာသာစကား၏ စကားသံစနစ်ကို အကြမ်းဖျင်း သိရှိနိုင်သည်။

၁။ **အသံ**။ ။ နားဖြင့်ကြားသမျှကို **အသံ** ဟု ခေါ်သည်။

၂။ အသံသည် ဥတုကြောင့်လည်း ဖြစ်သည်။ စိတ်ကြောင့်လည်း ဖြစ်သည်။
လေသံ၊ မိုးသံ၊ လှိုင်းသံ၊ စမ်းရေစီးသံ စသည်တို့သည် ဥတုကိုအကြောင်းပြု၍ ပေါ်ထွက်လာသောအသံများ ဖြစ်ကြသည်။
စကားသံ၊ ဆိုင်းသံ၊ ဗုံသံ၊ ကြေးစည်သံ စသည်တို့သည် စိတ်၏လှုံ့ဆော်မှုနှင့် လူ့အားထုတ်မှုကို အကြောင်းပြု၍ ပေါ်ထွက်လာသည့်အသံများ ဖြစ်ကြသည်။

၃။ လူ့နှုတ်မှထွက်၍ လူအချင်းချင်း အပြန်အလှန်ဆက်သွယ်နိုင်သော အနက်အဓိပ္ပာယ်ရှိသည့်အသံကို **စကားသံ**ဟု ခေါ်သည်။

၄။ စကားသံ၏ အဓိကလက္ခဏာ ၃ ရပ်မှာ–
(က) လူ့နှုတ်ထွက်သံဖြစ်ခြင်း
(ခ) လူအချင်းချင်း အပြန်အလှန် ဆက်သွယ်နိုင်ခြင်း
(ဂ) အနက်အဓိပ္ပာယ်ရှိခြင်းတို့ ဖြစ်ကြသည်။

၅။ **စကားသံ ၂ မျိုး**။ ။ ဖြစ်ပေါ်ပုံကို အခြေခံ၍ စကားသံများကို အမျိုးအစားခွဲလျှင် ၂ မျိုးရသည်။ ၎င်းတို့မှာ–
(က) ဗျည်းသံ
(ခ) သရသံတို့ ဖြစ်ကြသည်။

၆။ **ဗျည်းသံ**။ ။ အဆုတ်မှတက်လာသောလေသည် ခံတွင်းရှိ စကားသံဖြစ် အင်္ဂါအစိတ်အပိုင်း (နှုတ်ခမ်း၊ သွား၊ လျှာ၊ အာခေါင်မာ၊ အာခေါင်ပျော့) တစ်ခုခု၏ ပိတ်ဆို့တားဆီးခြင်းကို ခံရပြီး ခံတွင်းပေါက်၊ နှာတွင်းပေါက်မှ ပြင်ပသို့ ထွက်ခိုက်ဖြစ်သောအသံကို **ဗျည်းသံ**ဟု ခေါ်သည်။

၇။ ဗျည်းသံဖြစ်ရန် အဓိကအချက် ၃ ချက်လိုအပ်သည်။

ထို ၃ ချက်မှာ–

(က) အဆုတ်မှတက်လာသောလေသည် ခံတွင်းသို့ ရောက်ရှိခြင်း။

(ခ) အဆိုပါလေသည် စကားသံဖြစ်အင်္ဂါအစိတ်အပိုင်းတစ်ခုခု၏ ပိတ်ဆို့တားဆီးမှုကို ခံရခြင်း။

(ဂ) စကားသံဖြစ် အင်္ဂါအစိတ်အပိုင်းတစ်ခုခု၏ ပိတ်ဆို့တားဆီးမှုကို ခံရသောလေသည် ခံတွင်းပေါက်မှဖြစ်စေ၊ နှာတွင်းပေါက်မှဖြစ်စေ ပြင်ပသို့ ထွက်သွားခြင်းတို့ ဖြစ်ကြသည်။

၈။ **ဗျည်းသံဖြစ်ပုံ။** ။ အဆုတ်မှတက်လာသောလေ ခံတွင်း၌ရှိနေခိုက် အပေါ်နှုတ်ခမ်းနှင့် အောက်နှုတ်ခမ်းကို စေ့ထားပြီး ရုတ်တရက်ဖွင့်လိုက်သောအခါ ထိုလေသည် နှုတ်ခမ်းနှစ်ခုကြားမှ ရုန်းထွက်သွားပြီး (ပ်) ဗျည်းသံဖြစ်လာသည်။

(ဖ်) ဗျည်းသံ၊ (မ်) ဗျည်းသံတို့လည်း ဤနည်းအတိုင်း ဖြစ်လာသည်။

၉။ အဆုတ်မှတက်လာသောလေ ခံတွင်း၌ ရှိနေခိုက် လျှာထိပ်ဖျားကိုအပေါ်သွား၏နောက်၌ အသာထောက်ထားပြီး ရုတ်တရက်ဆန့်ထုတ်လိုက်သောအခါ ထိုလေသည် လျှာထိပ်နှင့် သွားနောက်ကြားမှ တိုးထွက်သွားပြီး (တ်) ဗျည်းသံဖြစ်လာသည်။

(ထ်) ဗျည်းသံ၊ (ဒ်) ဗျည်းသံတို့လည်း ဤနည်းအတိုင်းဖြစ်လာသည်။

၁၀။ အဆုတ်မှတက်လာသောလေ ခံတွင်း၌ရှိနေခိုက် လျှာထိပ်ဖျားကို အပေါ်သွားနှင့် အောက်သွားနှစ်ခုကြား၌ အသာညှပ်ထားပြီး ရုတ်တရက်ပြန်ခွာလိုက်သောအခါ ထိုလေသည် လျှာဖျားနှင့် သွားကြားမှ တိုးထွက်သွားပြီး (သ်) ဗျည်းသံ ဖြစ်လာသည်။

၁၁။ အဆုတ်မှတက်လာသောလေ ခံတွင်း၌ရှိနေခိုက် လျှာအလယ်ပိုင်းကို အာခေါင်၏အလယ်ပိုင်းနှင့် ထိအောင် လျှာကို အပေါ်ဘက်သို့ မြှင့်တင်လိုက်ပြီး ရုတ်တရက် ပြန်ခွာလိုက်သောအခါ ထိုလေသည် လျှာလယ်နှင့်အာခေါင်ကြားမှ တိုးထွက်သွားပြီး (က်) ဗျည်းသံ ဖြစ်လာသည်။

(ခ်) ဗျည်းသံ၊ (ဂ်) ဗျည်းသံတို့လည်း ဤနည်းအတိုင်း ဖြစ်လာသည်။

၁၂။ ဤကား မြန်မာဗျည်းအချို့၏ အသံထွက်ပုံတည်း။ ဗျည်းတို့၏ အသံထွက်ပုံအကျယ်ကို မြန်မာသဒ္ဒါ၊ အတွဲ ၂၊ အခန်း ၆ ဌာန်၊ ကရိုဏ်း၊ ပယတ်အကြောင်း၌ ဖော်ပြခဲ့ပြီ။

၁၃။ **ဗျည်းအရေအတွက်။** ။ မြန်မာဗျည်းအရေအတွက်ကို အချို့က ၃၃ လုံးဟုလည်းကောင်း၊ အချို့က ၃၄ လုံးဟုလည်းကောင်း၊ အချို့က ၃၅ လုံးဟုလည်းကောင်း သတ်မှတ်ကြသည်။ ဤသတ်မှတ်ချက်နှင့်ပတ်သက်၍ အကျဉ်းမျှဖော်ပြမည်။

၁၄။ ပါဠိဘာသာရေးရိုးရေးစဉ်အတိုင်း ရေးမှတ်လိုသူတို့က "က–ဠ"အဆုံးတွင် **အ** အက္ခရာထက်၌ နိဂ္ဂဟိတ်တင်သော (အံ)ကို ဖြည့်၍ "က–ဠ၊ အံ"ဟူ၍ ဗျည်း ၃၃ လုံး သတ်မှတ်ကြသည်။

၁၅။ မြန်မာမှုအတိုင်း ရေးမှတ်လိုသူတို့က **အ**ကို သင်ရိုးဗျည်းအဖြစ်ထား၍ "က–ဠ၊ အ"ဟူ၍ ဗျည်း ၃၃ လုံးသတ်မှတ်ကြသည်။

၁၆။ ရှေးပညာရှင်အချို့က ဗျည်း ၃၃ လုံးတွင် ဝိသဇ္ဇနီ(း)ကို ဖြည့်၍ "က–ဠ၊ အံ၊ အား"ဟူ၍ ဗျည်း ၃၄ လုံး သတ်မှတ်ကြသည်။

၁၇။ ရှေးပညာရှင်အချို့ကမူ အောက်မြစ်(့)ကိုပါ ထည့်သွင်း၍ "က–ဠ၊ အံ၊ အံ့၊ အား" ဟူ၍ ဗျည်း ၃၅ လုံး သတ်မှတ်ကြသည်။

၁၈။ **(အ)သည် ဗျည်း၊ သရနှစ်မျိုးစလုံး၌ ပါဝင်နေပုံ။ ။** မြန်မာဗျည်း ၃၃ လုံးတွင် နောက်ဆုံးဗျည်းသည် **အံ** ဖြစ်သင့်သည်၊ **အ** ဖြစ်သင့်သည်ဟု အယူအဆနှစ်မျိုးရှိကြောင်း အထက်၌ ဖော်ပြခဲ့ပြီ။ ယင်းအယူအဆနှစ်မျိုးနှင့် စပ်လျဉ်း၍ အကျဉ်းမျှ ရှင်းလင်းဖော်ပြမည်။

၁၉။ နောက်ဆုံးဗျည်းသည် **အံ** ဖြစ်သင့်သည်ဟူသော အယူအဆမှာ–

"ပါဠိဘာသာ၌ က–ဠ၊ အံဟူ၍သာ ရှိသည်။ **အ** ဟုမရှိ။ **အ** သည် စင်စစ်ဗျည်းမဟုတ်၊ သရသာဖြစ်သည်။ မြန်မာဗျည်းအက္ခရာတို့ကို ပါဠိဘာသာရေးရိုးအတိုင်းသာ ရေးသင့်သည်။"

ဟူသော အကြောင်းပြချက်ကို အခြေခံသည်။ (**မှတ်ချက်။ ။ အံ** ဟူရာ၌ နိဂ္ဂဟိတ် (ံ)ကိုသာ ဗျည်းဟုယူသည်။ သို့သော် (ံ)ဗျည်းသက်သက် အသံထွက်မရ၍ အသံထွက်ရစေခြင်းငှာ အခြားဗျည်းများကို အသံထွက်စေသည့်နည်းတူ **အ** သရနှင့် ယှဉ်၍ **အံ** ဟု ပြသည်။)

၂၀။ နောက်ဆုံးဗျည်းသည် **အ** ဖြစ်သင့်သည်ဟူသော အယူအဆမှာ–

"**အ** သည် စင်စစ်သရပင်ဖြစ်သည်။ သို့သော် ရှေးရှေးကာလ မြန်မာစာစတင်ရေးစကပင် **အ** ကို ဗျည်းသဖွယ်လည်း သဘောထားပြီး အခြားဗျည်းများနည်းတူ သရလက္ခဏာများနှင့်တွဲ၍ **အိ၊ အို** စသည်ဖြင့် ရေးလာခဲ့ကြသည်။ မြန်မာစာ စတင်ရေးစက **အ** ကို အခြားဗျည်းများကဲ့သို့ အသတ်တစ်ခုအဖြစ် ရေးခဲ့ကြသည်။ (**သာဓက**။ ။ ပ္လဒ်၊ သုံခဒ်၊ ဖေိဒ်၊ ဓဒ် စသည်) အောက်မြစ်သင်္ကေတ(့)ကို ရှေးပညာရှိအချို့က ဗျည်းတစ်လုံးအဖြစ် ယူဆခဲ့ကြသည်။ အောက်မြစ် သင်္ကေတ၏ မူလရင်းမြစ်မှာ **အ** ပင်ဖြစ်သည်။ (**သာဓက**။ ။ နှင်္ဂ=နှင့်)။ ဤသို့ **အ** ကို ဗျည်း အဖြစ် သုံးသည့်သာဓကများ ရှိခဲ့သည်။ **အ** ကို သင်ရိုးဗျည်းအဖြစ်ရော သရအဖြစ်ပါ ထားခြင်း သည် မြန်မာ့လိုအပ်ချက်၊ မြန်မာမှုအရဖြစ်သည်။"

ဟူသော အကြောင်းများကို အခြေခံသည်။

၂၁။ **ဗျည်းအမည်များ**။ ။ မြန်မာဗျည်း ၃၃ လုံးကို ၎င်းတို့၏ ပုံသဏ္ဌာန်၊ အခြင်းအရာအလိုက် အမည်အသီးသီးပေးကြသည်။ အမည်အချို့မှာ–

(က) လုံးချင်းဗျည်း

(ခ) ဗျည်းတွဲ

(ဂ) ဝဂ်ဗျည်း

(ဃ) အဝဂ်ဗျည်း

(င) ဝဂ္ဂန္တဗျည်း

(စ) အဃောသဗျည်း

(ဆ) ဃောသဗျည်း

(ဇ) သိထိလဗျည်း

(ဈ) ဓနိတဗျည်း

(ည) အသတ်ဗျည်းတို့ ဖြစ်ကြသည်။

၂၂။ **လုံးချင်းဗျည်း**။ ။ ယပင့်၊ ရရစ်၊ ဝဆွဲ၊ ဟထိုး သင်္ကေတများ မယှဉ်တွဲသေးသော **က** အစ **အ** အဆုံး ၃၃ လုံးသော မူလဗျည်းတို့ကို **လုံးချင်းဗျည်း**ဟု ခေါ်သည်။

၂၃။ **ဗျည်းတွဲ**။ ။ **က၊ ခ** စသည့် လုံးချင်းဗျည်းတို့နှင့် ယပင့်၊ ရရစ်၊ ဝဆွဲ၊ ဟထိုး သင်္ကေတအက္ခရာများ ယှဉ်တွဲထားသောဗျည်းတို့ကို **ဗျည်းတွဲ**ဟု ခေါ်သည်။

| **သာဓက**။ ။ **မူလဗျည်း** | **သင်္ကေတများ** | **ဗျည်းတွဲ** |
|---|---|---|
| က | ျ (ယပင့်) | ကျ |
| က | ြ (ရရစ်) | ကြ |
| လ | ွ (ဝဆွဲ) | လွ |
| လ | ှ (ဟထိုး) | လှ |
| ခ | ျ (ယပင့်) + ွ (ဝဆွဲ) | ချွ |
| ခ | ြ (ရရစ်) + ွ (ဝဆွဲ) | ခြွ |
| လ | ျ (ယပင့်) + ှ (ဟထိုး) | လျှ |
| င | ြ (ရစ်) + ှ (ဟထိုး) | ငြှ |
| ရ | ွ (ဝဆွဲ) + ှ (ဟထိုး) | ရွှ |
| မ | ြ(ရရစ်) + ွ (ဝဆွဲ) + ှ (ဟထိုး) | မြွှ |

၂၄။ **ဝဂ်ဗျည်း** ။ ။ အသံဖြစ်ရာနေရာ (ဌာန်)တူရာတူရာ အစု ၅ စုဖွဲ့၍ ရွတ်ဆိုရသော ဗျည်း ၂၅ လုံးကို **ဝဂ်ဗျည်း**ဟု ခေါ်သည်။

| **ဝဂ်အမည်** | **ဗျည်း** | | | | |
|---|---|---|---|---|---|
| ကဝဂ် | က | ခ | ဂ | ဃ | င |
| စဝဂ် | စ | ဆ | ဇ | ဈ | ည |
| ဋဝဂ် | ဋ | ဌ | ဍ | ဎ | ဏ |
| တဝဂ် | တ | ထ | ဒ | ဓ | န |
| ပဝဂ် | ပ | ဖ | ဗ | ဘ | မ |

၂၅။ **အဝဂ်ဗျည်း**။ ။ အသံဖြစ်ရာနေရာ (ဌာန်)မတူသဖြင့် အစုမဖွဲ့ဘဲ တစ်လုံးချင်း သီးခြားရွတ်ဆိုရသော ဗျည်း ၈ လုံးတို့ကို **အဝဂ်ဗျည်း**ဟု ခေါ်သည်။

ယ၊ ရ၊ လ၊ ဝ၊ သ၊ ဟ၊ ဠ၊ အ။

၂၆။ **ဝဂ္ဂန္တဗျည်း**။ ။ ဝဂ်ဗျည်း ၅ လုံးအစုတစ်ခုစီ၏ အဆုံး၌ရှိသော ဗျည်း ၅ လုံးတို့ကို **ဝဂ္ဂန္တဗျည်း** ဟု ခေါ်သည်။

င၊ ည၊ ဏ၊ န၊ မ။

၂၇။ **အဃောသဗျည်း**။ ။ ပင်ကိုအားဖြင့် မပြင်းသောအသံရှိ၍ ရွတ်ဆိုသောအခါ အသံညင်းညင်းထွက်သည့်ဗျည်းတို့ကို **အဃောသ(သံညင်း)ဗျည်း**ဟု ခေါ်သည်။

အဃောသဗျည်း ၁၂ လုံးရှိသည်။ ၎င်းတို့မှာ–

ပထမအက္ခရာ ၅ လုံး (က ၊ စ၊ ဋ၊ တ၊ ပ)

ဒုတိယအက္ခရာ ၅ လုံး (ခ၊ ဆ၊ ဌ၊ ထ၊ ဖ)

အဝဂ်အက္ခရာ ၂ လုံး (သ၊ ဟ)တို့ ဖြစ်ကြသည်။

၂၈။ **ဃောသဗျည်း**။ ။ ပင်ကိုအားဖြင့် ပြင်းသောအသံရှိ၍ ရွတ်ဆိုသောအခါ အသံပြင်းပြင်း ထွက်သည့်ဗျည်းတို့ကို **ဃောသ (သံပြင်း)ဗျည်း**ဟု ခေါ်သည်။

ဃောသဗျည်း အလုံး ၂၀ ရှိသည်။ ၎င်းတို့မှာ–

တတိယအက္ခရာ ၅ လုံး (ဂ၊ ဇ၊ ဍ၊ ဒ၊ ဗ)

စတုတ္ထအက္ခရာ ၅ လုံး (ဃ၊ ဈ၊ ဎ၊ ဓ၊ ဘ)

ပဉ္စမအက္ခရာ ၅ လုံး (င၊ ည၊ ဏ၊ န၊ မ)

အဝဂ်အက္ခရာ ၅ လုံး (ယ၊ ရ၊ လ၊ ဝ၊ ဠ)တို့ ဖြစ်ကြသည်။

၂၉။ **သိထိလဗျည်း**။ ။ အင်အားများများ မစိုက်ထုတ်ဘဲ အသံလျော့လျော့ ရွတ်ဆိုအပ်သော ဗျည်းတို့ကို **သိထိလ (သံလျော့)ဗျည်း** ဟု ခေါ်သည်။

သိထိလဗျည်းအလုံး ၂၀ ရှိသည်။ ၎င်းတို့မှာ–

ပထမအက္ခရာ ၅ လုံး (က၊ စ၊ ဋ၊ တ၊ ပ)

တတိယအက္ခရာ ၅ လုံး (ဂ၊ ဇ၊ ဍ၊ ဒ၊ ဗ)

စတုတ္ထအက္ခရာ ၅ လုံး (ဃ၊ ဈ၊ ဎ၊ ဓ၊ ဘ)

ပဉ္စမအက္ခရာ ၅ လုံး (င၊ ည၊ ဏ၊ န၊ မ)တို့ ဖြစ်ကြသည်။

၃၀။ **ဓနိတဗျည်း**။ ။ အင်အားစိုက်ထုတ်၍ အသံတင်းတင်း ရွတ်ဆိုအပ်သော ဗျည်းတို့ကို **ဓနိတ (သံတင်း)ဗျည်း**ဟု ခေါ်သည်။

ဓနိတဗျည်း ၅ လုံးရှိသည်။ ၎င်းတို့မှာ–

ဒုတိယအက္ခရာ ၅ လုံး (ခ၊ ဆ၊ ဌ၊ ထ၊ ဖ)တို့ဖြစ်ကြသည်။

**ဝဂ်ဗျည်းများ**

| **သံညင်း (အဃောသ)** | | **သံပြင်း (ဃောသ)** | | |
|---|---|---|---|---|
| သံလျော့ (သိထိလ) | သံတင်း (ဓနိတ) | သံလျော့ (သိထိလ) | သံလျော့ (သိထိလ) | သံလျော့ (သိထိလ) |
| ပထမအက္ခရာ | ဒုတိယအက္ခရာ | တတိယအက္ခရာ | စတုတ္ထအက္ခရာ | ပဉ္စမအက္ခရာ |
| က | ခ | ဂ | ဃ | င |
| စ | ဆ | ဇ | ဈ | ည |
| ဋ | ဌ | ဍ | ဎ | ဏ |
| တ | ထ | ဒ | ဓ | န |
| ပ | ဖ | ဗ | ဘ | မ |

| **သံပြင်း (ဃောသ)** | | | | | **သံညင်း (အဃောသ)** | |
|---|---|---|---|---|---|---|
| ယ | ရ | လ | ဝ | ဠ | သ | ဟ |

(အဃောသ၊ ဃောသ၊ သိထိလ၊ ဓနိတတို့၏ အကြောင်းကို မြန်မာသဒ္ဒါ၊ အတွဲ ၁၊ အခန်း ၄ ၌ မှတ်ချက်နှင့်တကွ ရှင်းလင်းရေးသားပြီးဖြစ်သည်။)

၃၁။ **အသတ်ဗျည်း**။ ။ သံရပ်ကို ဖော်ပြနိုင်သောအသတ်ဗျည်း ၄ မျိုး (က်၊ စ်၊ တ်၊ ပ်)၊ နှာသံကို ဖော်ပြနိုင်သော အသတ်ဗျည်း ၄ မျိုး (င်၊ ဉ်၊ န်၊ မ်) နှင့် မူလသံရှည်ကို ဖော်ပြနိုင်သော အသတ်ဗျည်း ၂ မျိုး (ည်၊ ယ်) စုစုပေါင်း အသတ်ဗျည်း ၁၀ မျိုးရှိသည်။

**သာဓက**။ ။

| **သရ** | **+** | **အသတ်ဗျည်း** | **=** | **သံရပ်သရ** |
|---|---|---|---|---|
| အ | + | က် | = | အက် |
| အ | + | စ် | = | အစ် |
| အ | + | တ် | = | အတ် |
| အ | + | ပ် | = | အပ် |

| **သရ** | | **အသတ်ဗျည်း** | | **နှာသံသရ** |
|---|---|---|---|---|
| အ | + | င် | = | အင် |
| အ | + | ဉ် | = | အဉ် |
| အ | + | န် | = | အန် |
| အ | + | မ် | = | အမ် |

| **သရ** | | **အသတ်ဗျည်း** | | **မူလသရ** |
|---|---|---|---|---|
| အ | + | ည် | = | အည် |
| အ | + | ယ် | = | အယ် |

၃၂။ ရှေးအခါက ယင်းအသတ်ဗျည်းများကို အဆုံးဗျည်းသံ ပါဝင်ရွတ်ဆိုခဲ့သော်လည်း နောင်အခါ အဆုံးဗျည်းသံငုပ်၍ သံရပ်ဗျည်းနှင့်ဆုံးလျှင် သံရပ်သရဖြစ်လာသည်၊ နှာသံဗျည်းနှင့် ဆုံးလျှင် နှာသံသရ ဖြစ်လာသည်ဟု ယူဆကြသည်။

၃၃။ **သရသံ**။ ။ အဆုတ်မှ တက်လာသောလေသည် ခံတွင်းရှိစကားသံဖြစ် အင်္ဂါအစိတ်အပိုင်း (နှုတ်ခမ်း၊ သွား၊ လျှာ၊ အာခေါင်မာ၊ အာခေါင်ပျော့)တစ်ခုခု၏ ပိတ်ဆို့တားဆီးခြင်း မခံရဘဲ ခံတွင်းပေါက်၊ နှာတွင်းပေါက်မှ ပြင်ပသို့ ဖြောင့်ဖြောင့်ဖြူးဖြူးထွက်သွားစဉ် ဖြစ်လာသောအသံကို **သရသံ**ဟု ခေါ်သည်။

၃၄။ သရသံဖြစ်ရန် အဓိကအချက် ၃ ချက် လိုအပ်သည်။

ထို ၃ ချက်မှာ–

(က) အဆုတ်မှတက်လာသော လေသည် ခံတွင်းသို့ ရောက်ရှိခြင်း

(ခ) အဆိုပါလေသည် စကားသံဖြစ်အင်္ဂါအစိတ်အပိုင်းတစ်ခုခု၏ ပိတ်ဆို့တားဆီးမှုကို မခံရခြင်း

(ဂ) အဆိုပါလေသည် ခံတွင်းပေါက်မှဖြစ်စေ၊ နှာတွင်းပေါက်မှဖြစ်စေ ပြင်ပသို့ ဖြောင့်ဖြောင့်ဖြူးဖြူး ထွက်သွားခြင်းတို့ဖြစ်ကြသည်။

၃၅။ **သရသံဖြစ်ပုံ**။ ။ အဆုတ်မှတက်လာသောလေကို အပေါ်နှုတ်ခမ်းနှင့် အောက်နှုတ်ခမ်း စုပြီး ခံတွင်း အပြင်ဘက်သို့ ဖြည်းဖြည်းချင်း ထုတ်လိုက်လျှင် **အော်** ဟူသော သရသံဖြစ်လာသည်။

**အော်** အသံဖြစ်လာသည့်နည်းအတိုင်း **အို၊ အူ** အသံ ဖြစ်လာသည်။

၃၆။ အဆုတ်မှ တက်လာသောလေကို အပေါ်နှုတ်ခမ်းနှင့် အောက်နှုတ်ခမ်းဖြန့်ပြီး ခံတွင်းအပြင်ဘက်သို့ ဖြည်းဖြည်းချင်းထုတ်လိုက်လျှင် **အီ** ဟူသော သရသံဖြစ်လာသည်။

**အီ** အသံဖြစ်လာသည့်နည်းအတိုင်း **အေ၊ အယ်** အသံဖြစ်လာသည်။

၃၇။ အဆုတ်မှတက်လာသောလေကို ခံတွင်းဖွင့်ပြီး အပြင်ဘက်သို့ ဖြည်းဖြည်းချင်း ထုတ်လိုက်လျှင် **အာ**ဟူသော သရသံဖြစ်လာသည်။

၃၈။ **သရအရေအတွက်**။ ။ မြန်မာသရအရေအတွက်ကို အချို့က ၁၀ လုံးဟုလည်းကောင်း၊ အချို့က ၁၁ လုံးဟုလည်းကောင်း၊ အချို့က ၁၂ လုံးဟုလည်းကောင်း သတ်မှတ်ကြသည်။ ဤသတ်မှတ်ချက်နှင့် ပတ်သက်၍ အကျဉ်းအားဖြင့် ဖော်ပြမည်။

၃၉။ မြန်မာသရအရေအတွက်နှင့်ပတ်သက်သော သတ်မှတ်ချက်မှာ အောက်ပါအတိုင်း ဖြစ်သည်။

(က) ပါဠိသရရိုးရိုး ၈ လုံး (အ၊ အာ၊ ဣ၊ ဤ၊ ဥ၊ ဦ၊ ဧ၊ ဩ)တွင် **အဲ၊ အော်** သရနှစ်လုံးဖြည့်၍ မြန်မာသရ ၁၀ လုံး သတ်မှတ်ကြသည်။

(ခ) အဆိုပါ သရ ၁၀ လုံးတွင် **အို** သရဖြည့်၍ မြန်မာအခြေခံသရ ၁၁ လုံး သတ်မှတ်ကြသည်။

(ဂ) အဆိုပါသရ ၁၀ လုံးတွင် **အံ၊ အား** သရနှစ်လုံးဖြည့်၍ မြန်မာသင်ရိုးသရ ၁၂ လုံး သတ်မှတ်ကြသည်။

၄၀။ **သရအမည်များ**။ ။ မြန်မာသရတို့ကို ၎င်းတို့၏အခြင်းအရာအလိုက် အမည်ပေးကြသည်။ အမည်အချို့မှာ–

(က) အခြေခံသရ

(ခ) သင်ရိုးသရ

(ဂ) မူလသရ

(ဃ) နှာသံသရ

(င) သံရပ်သရတို့ ဖြစ်ကြသည်။

၄၁။ **အခြေခံသရ**။ ။ မြန်မာဘာသာစကား၌ အခြေခံအဖြစ်ထားသော သရများကို **အခြေခံသရ** ဟု ခေါ်သည်။

၄၂။ အခြေခံသရ ၁၁ လုံးရှိသည်။ ၎င်းတို့မှာ–

အ၊ အာ၊ ဣ၊ ဤ၊ ဥ၊ ဦ

ဧ၊ အဲ၊ ဩ၊ ဪ၊ အို တို့ဖြစ်ကြသည်။

၄၃။ ဖော်ပြပါ သရ ၁၁ လုံးကို အခြေခံထား၍ မြန်မာဘာသာစကားအတွက် လိုအပ်သော သရသံများကို အကျယ်ပွားယူနိုင်ခြင်းကြောင့် ယင်းသရ ၁၁လုံးကို အခြေခံသရဟု ခေါ်ခြင်း ဖြစ်သည်။

၄၄။ **သင်ရိုးသရ**။ ။ သင်ရိုးသင်စဉ်သရများကို **သင်ရိုးသရ** ဟု ခေါ်သည်။

၄၅။ သင်ရိုးသရ ၁၂ လုံးရှိသည်။ ၎င်းတို့မှာ–

အ၊ အာ၊ ဣ၊ ဤ၊ ဥ၊ ဦ

**ဧ၊** အဲ၊ **ဩ၊** **ဪ၊** **အံ၊** **အား** တို့ဖြစ်ကြသည်။

၄၆။ သင်ရိုးသရ ၁၂ လုံးရှိသည့်အနက် **အံ**သည် **အ** သရတွင် နိဂ္ဂဟိတ်(ံ)တင်ထားသော သင်ရိုးသရဖြစ်သည်။ **အား** သည် **အာ** သရတွင် ဝစ္စနှစ်လုံးပေါက် (–း)ထားသော သင်ရိုးသရ ဖြစ်သည်။

၄၇။ **မူလသရ**။ ။ ရပ်သံ၊ နှာသံမပါဘဲ လွတ်လွတ်ရွတ်ဆိုရသော သရများကို **မူလသရ** ဟု ခေါ်သည်။

၄၈။ မူလသရ ၂၂ လုံးရှိသည်။ ရွတ်ဆိုပုံအရ တူရာအစုခွဲလိုက်လျှင် **သံတိုသရ၊ သံရှည်သရ၊ သံလေးသရ** ဟူ၍ ၃ မျိုးရသည်။

| **မူလသရ** | | |
|---|---|---|
| သံတို | သံရှည် | သံလေး |
| အာ့ | အာ | အား |
| အ | | |
| အိ (အည့်) | အီ (အည်) | အီး (အည်း) |
| အု | အူ | အူး |
| အေ့ | အေ | အေး |
| အဲ့ | အယ် | အဲ |
| အော့ | အော် | အော |
| အို့ | အို | အိုး |

**မှတ်ချက်**။ ။

၁။ (အာ့)သည် အသံအပြည့်ရွတ်ရသော သရဖြစ်သည်။

**သာဓက**။ ။ လူနံ့ လူ**အာ့**။
ဒင်္ဂါး**အာ** သည်။

၂။ (အ)သည် အသံတစ်ဝက်သာ ရွတ်ရသော သရဖြစ်သည်။

**သာဓက**။ ။ **အ** ပေး **အ** ယူ။
**အ** ကြီး **အ** သေး။

၃။ အသံပွားမှုကို အခြေခံသော အသံအုပ်စုအစဉ်နှင့် အရေးပွားမှုကို အခြေခံသော အက္ခရာစဉ်ဟူ၍ ၂ မျိုးရှိသည်။

| **အသံပွားမှုကိုအခြေခံသော အသံအုပ်စုအစဉ်** | **အရေးပွားမှုကိုအခြေခံသော အက္ခရာစဉ်** |
|---|---|
| အေ့၊ အေ၊ အေး | အေ၊ အေ့၊ အေး |
| အဲ့၊ အယ်၊ အဲ | အဲ၊ အဲ့ |
| အော့၊ အော်၊ အော | အော၊ အော့၊ အော် |
| အို့၊ အို၊ အိုး | အို၊ အို့၊ အိုး |

၄၉။ **နှာသံသရ**။ ။ နှာသံဖြင့် ရွတ်ဆိုရသောသရများကို **နှာသံသရ** ဟု ခေါ်သည်။

၅၀။ နှာသံသရ ၁၈ လုံးရှိသည်။ ၎င်းတို့မှာ **င်၊ ဉ်၊ န်၊ မ်** အသတ်ဗျည်းအဆုံးရှိသော သရများဖြစ်ကြသည်။ ရွတ်ဆိုပုံအရ တူရာအစုခွဲလိုက်လျှင် **သံတိုသရ၊ သံရှည်သရ၊ သံလေး သရ**ဟူ၍ ၃ မျိုးရသည်။

| **နှာသံသရ** | | |
|---|---|---|
| **သံတို** | **သံရှည်** | **သံလေး** |
| အန့် (အမ့်) | အန် (အမ်) | အန်း (အမ်း) |
| အင့် (အဉ့်) | အင် (အဉ်) | အင်း (အဉ်း) |
| အိန့် (အိမ့်) | အိန် (အိမ်) | အိန်း (အိမ်း) |
| အုန့် (အုမ့်) | အုန် (အုမ်) | အုန်း (အုမ်း) |
| အိုင့် | အိုင် | အိုင်း |
| အောင့် | အောင် | အောင်း |

၅၁။ **သံရပ်သရ**။ ။ ရပ်၍၊ ဖြတ်၍ ရွတ်ဆိုရသော သရများကို **သံရပ်သရ** ဟု ခေါ်သည်။

၅၂။ သံရပ်သရ ၇ လုံးရှိသည်။ ၎င်းတို့မှာ **က်၊ စ်၊ တ်၊ ပ်** အသတ်ဗျည်းအဆုံးရှိသော သရများဖြစ်ကြသည်။ ၎င်းတို့မှာ အက်၊ အစ်၊ အတ် (အပ်)၊ အိတ် (အိပ်)၊ အုတ် (အုပ်)၊ အောက်၊ အိုက်တို့ဖြစ်ကြသည်။

၅၃။ မူလသရ ၂၂ လုံး၊ နှာသံသရ ၁၈ လုံးနှင့် သံရပ်သရ ၇ လုံးစုစုပေါင်းသရ ၄၇ လုံးကို အောက်ပါဇယားတွင် လေ့လာနိုင်သည်။

| စဉ် | မူလသရ | | | သံရပ်သရ | နှာသံသရ | | |
|---|---|---|---|---|---|---|---|
| | သံတို | သံရှည် | သံလေး | | သံတို | သံရှည် | သံလေး |
| ၁ | အ့ | အာ | အား | အတ် | အန့်(အမ့်) | အန်(အမ်) | အန်း(အမ်း) |
| | အ | | | | | | |
| ၂ | အိ(အည့်) | အီ(အည်) | အီး(အည်း) | အစ် | အင့်(အဥ့်) | အင်(အဉ်) | အင်း(အဉ်း) |
| ၃ | အု | အူ | အူး | | | | |
| ၄ | အေ့ | အေ | အေး | အိတ်(အိပ်) | အိန့်(အိမ့်) | အိန်(အိမ်) | အိန်း(အိမ်း) |
| ၅ | အဲ့ | အယ် | အဲ | အက် | | | |
| ၆ | အော့ | အော် | အော | | | | |
| ၇ | အို့ | အို | အိုး | အုတ်(အုပ်) | အုန့်(အုမ့်) | အုန်(အုမ်) | အုန်း(အုမ်း) |
| ၈ | | | | အိုက် | အိုင့် | အိုင် | အိုင်း |
| ၉ | | | | အောက် | အောင့် | အောင် | အောင်း |

**စကားသံဖွဲ့ထုံး**

၅၄။ စကားသံဖွဲ့ထုံးဆိုသည်မှာ သရသံနှင့်ဗျည်းသံ ပေါင်းစပ်ဖွဲ့စည်းပုံစနစ်ဖြစ်သည်။

၅၅။ **မြန်မာစကားသံအဖွဲ့။** ။ မြန်မာစကားသံအဖွဲ့တစ်ခုကို သရတစ်ခုတည်းဖြင့်လည်းကောင်း၊ သရတစ်ခုနှင့် ဗျည်း၊ ဗျည်းတွဲပေါင်းစပ်ခြင်းဖြင့်လည်းကောင်း ဖွဲ့စည်းနိုင်သည်။

၅၆။ သရတွင် ကိုယ်ပိုင်ပီသသော အသံရှိသည်။ သရတစ်ခုတည်းဖြင့် ပီသသောအသံထွက်နိုင်သည်။ ထို့ကြောင့် သရတစ်ခုသည် စကားသံတစ်ခုဖြစ်နိုင်သည်။

သာဓက။ ။ အ၊ အာ၊ အား

အင့်၊ အင်၊ အင်း

အတ်၊ အိတ်၊ အုတ် စသည်

၅၇။ ဗျည်းတွင် ကိုယ်ပိုင်ပီသသောအသံမရှိ၊ သရနှင့်ပေါင်းစပ်မှသာ ပီသသော အသံထွက်နိုင်သည်။ ထို့ကြောင့် ဗျည်းတစ်ခုကို သရတစ်ခုနှင့်ပေါင်းစပ်ခြင်းဖြင့် စကားသံတစ်ခုဖြစ်နိုင်သည်။

**သာဓက**။ ။

| | | | | | | |
|---|---|---|---|---|---|---|
| **က** | ဗျည်း | + | **အ** | သရ | = | က |
| **က** | ဗျည်း | + | **အာ** | သရ | = | ကာ |
| **က** | ဗျည်း | + | **အား** | သရ | = | ကား |
| **ဆ** | ဗျည်း | + | **အင့်** | သရ | = | ဆင့် |
| **ဆ** | ဗျည်း | + | **အင်** | သရ | = | ဆင် |
| **ဆ** | ဗျည်း | + | **အင်း** | သရ | = | ဆင်း |
| **တ** | ဗျည်း | + | **အတ်** | သရ | = | တတ် |
| **တ** | ဗျည်း | + | **အိတ်** | သရ | = | တိတ် |
| **တ** | ဗျည်း | + | **အုတ်** | သရ | = | တုတ် |

၅၈။ **မြန်မာစကားသံဖွဲ့ထုံး**။ ။ မြန်မာဘာသာစကားတွင် အသံဖွဲ့ထုံး ၄ မျိုးရှိသည်။ ၎င်းတို့မှာ–

(က) သရစကားသံအဖွဲ့

(ခ) ဗျည်း၊ ဗျည်းတွဲနှင့် မူလသရတစ်ခု ပေါင်းစပ်ထားသောစကားသံအဖွဲ့

(ဂ) ဗျည်း၊ ဗျည်းတွဲနှင့် နှာသံသရတစ်ခု ပေါင်းစပ်ထားသောစကားသံအဖွဲ့

(ဃ) ဗျည်း၊ ဗျည်းတွဲနှင့် သံရပ်သရတစ်ခု ပေါင်းစပ်ထားသော စကားသံအဖွဲ့တို့ ဖြစ်ကြသည်။

၅၉။ **သရစကားသံအဖွဲ့**။ ။ မူလသရ ၂၂ လုံး၊ နှာသံသရ ၁၈ လုံးနှင့် သံရပ်သရ ၇ လုံး၊ စုစုပေါင်း ၄၇ လုံးတို့သည် သရသံများ ဖြစ်ကြသည်။

**သာဓက**။ ။ အ၊ အာ၊ အား၊ အိ၊ အီ၊ အီး...

အင့်၊ အင်၊ အင်း၊ အန့်၊ အန်၊ အန်း...

အက်၊ အစ်၊ အတ်၊ အိတ်...

၆၀။ **ဗျည်း၊ ဗျည်းတွဲနှင့်မူလသရတစ်ခုပေါင်းစပ်ထားသော စကားသံအဖွဲ့**။ ။ မူလသရ ၂၂ လုံးကို ဗျည်း၊ ဗျည်းတွဲနှင့်ပေါင်းစပ်ပြီး စကားသံဖွဲ့နိုင်သည်။

**သာဓက**။ ။

| | | | | | | |
|---|---|---|---|---|---|---|
| **က** | ဗျည်း | + | **အ** | သရ | = | က |
| **က** | ဗျည်း | + | **အာ** | သရ | = | ကာ |
| **က** | ဗျည်း | + | **အား** | သရ | = | ကား |
| **စ** | ဗျည်း | + | **အိ** | သရ | = | စိ |
| **စ** | ဗျည်း | + | **အီ** | သရ | = | စီ |

| | | | | | | |
|---|---|---|---|---|---|---|
| **စ** | ဗျည်း | + | **အီး** | သရ | = | စီး |
| **တ** | ဗျည်း | + | **အေ့** | သရ | = | တေ့ |
| **တ** | ဗျည်း | + | **အေ** | သရ | = | တေ |
| **တ** | ဗျည်း | + | **အေး** | သရ | = | တေး |
| **ထ** | ဗျည်း | + | **အို့** | သရ | = | ထို့ |
| **ထ** | ဗျည်း | + | **အို** | သရ | = | ထို |
| **ထ** | ဗျည်း | + | **အိုး** | သရ | = | ထိုး |
| **ကျ** | ဗျည်းတွဲ | + | **အ** | သရ | = | ကျ |
| **ကြ** | ဗျည်းတွဲ | + | **အ** | သရ | = | ကြ |
| **ကွ** | ဗျည်းတွဲ | + | **အာ** | သရ | = | ကွာ |
| **မှ** | ဗျည်းတွဲ | + | **အား** | သရ | = | မှား |

၆၁။ **ဗျည်း၊ ဗျည်းတွဲနှင့်နာသံသရတစ်ခုပေါင်းစပ်ထားသော စကားသံအဖွဲ့**။ ။ နာသံသရ ၁၈ လုံးကို ဗျည်း၊ ဗျည်းတွဲနှင့်ပေါင်းစပ်ပြီး စကားသံဖွဲ့နိုင်သည်။

**သာဓက**။ ။

| | | | | | | |
|---|---|---|---|---|---|---|
| **ခ** | ဗျည်း | + | **အင့်** | သရ | = | ခင့် |
| **ခ** | ဗျည်း | + | **အင်** | သရ | = | ခင် |
| **ခ** | ဗျည်း | + | **အင်း** | သရ | = | ခင်း |
| **ဆ** | ဗျည်း | + | **အန့်** | သရ | = | ဆန့် |
| **ဆ** | ဗျည်း | + | **အန်** | သရ | = | ဆန် |
| **ဆ** | ဗျည်း | + | **အန်း** | သရ | = | ဆန်း |
| **ထ** | ဗျည်း | + | **အိန့်** | သရ | = | ထိန့် |
| **ထ** | ဗျည်း | + | **အိန်** | သရ | = | ထိန် |
| **ထ** | ဗျည်း | + | **အိန်း** | သရ | = | ထိန်း |
| **မ** | ဗျည်း | + | **အောင့်** | သရ | = | မောင့် |
| **မ** | ဗျည်း | + | **အောင်** | သရ | = | မောင် |
| **မ** | ဗျည်း | + | **အောင်း** | သရ | = | မောင်း |
| **ကျ** | ဗျည်းတွဲ | + | **အင့်** | သရ | = | ကျင့် |
| **ကြ** | ဗျည်းတွဲ | + | **အင်** | သရ | = | ကြင် |
| **ကွ** | ဗျည်းတွဲ | + | **အင်း** | သရ | = | ကွင်း |
| **မှ** | ဗျည်းတွဲ | + | **အန်** | သရ | = | မှန် |

၆၂။ **ဗျည်း၊ ဗျည်းတွဲနှင့်သံရပ်သရတစ်ခု ပေါင်းစပ်ထားသော စကားသံအဖွဲ့**။ ။ သံရပ်သရ ၇ လုံးကို ဗျည်း၊ ဗျည်းတွဲနှင့်ပေါင်းစပ်ပြီး စကားသံဖွဲ့နိုင်သည်။

**သာဓက**။ ။

| | | | | | | |
|---|---|---|---|---|---|---|
| **စ** | ဗျည်း | + | **အက်** | သရ | = | စက် |
| **စ** | ဗျည်း | + | **အစ်** | သရ | = | စစ် |
| **တ** | ဗျည်း | + | **အတ်** | သရ | = | တတ် |
| **တ** | ဗျည်း | + | **အိတ်** | သရ | = | တိတ် |
| **ပ** | ဗျည်း | + | **အုတ်** | သရ | = | ပုတ် |
| **ကျ** | ဗျည်းတွဲ | + | **အက်** | သရ | = | ကျက် |
| **ကြ** | ဗျည်းတွဲ | + | **အစ်** | သရ | = | ကြစ် |
| **ကွ** | ဗျည်းတွဲ | + | **အတ်** | သရ | = | ကွတ် |
| **မှ** | ဗျည်းတွဲ | + | **အိတ်** | သရ | = | မှိတ် |
| **မျ** | ဗျည်းတွဲ | + | **အောက်** | သရ | = | မျောက် |
| **မြ** | ဗျည်းတွဲ | + | **အိုက်** | သရ | = | မြိုက် |

၆၃။ **မြန်မာစကားသံပြောင်းလဲမှု**။ ။မြန်မာစကားပြောဆိုရာ၌လည်းကောင်း၊ မြန်မာစာ ရွတ်ဖတ်ရာ၌လည်းကောင်း ဗျည်းသံပြောင်းလဲမှု၊ သရသံပြောင်းလဲမှုများ ရှိတတ်သည်။

၆၄။ **ဗျည်းသံပြောင်းလဲမှု**။ ။ ဗျည်းသံပြောင်းလဲမှုဆိုသည်မှာ သံညင်းဗျည်း (အဃောသ) အချို့ကို သံပြင်းဗျည်း(ဃောသ)သို့ ပြောင်းလဲရွတ်ဆိုခြင်း၊ ဟထိုးသံဖြည့်ရွတ်ခြင်း၊ ဟထိုးသံ ချန်ရွတ်ခြင်း၊ ပင့်ရစ်သံဖြည့်ရွတ်ခြင်း၊ ပင့်ရစ်သံချန်ရွတ်ခြင်းတို့ဖြစ်သည်။

၆၅။ သံရပ်အသတ် ၄ လုံး (က်၊ စ်၊ တ်၊ ပ်) နောက်ရှိ သံညင်းဗျည်းများကို သံပြင်းဗျည်းသို့ ပြောင်းလဲရွတ်ဆိုလေ့ မရှိချေ။ သံရှည်အသတ် ၆ လုံး (င်၊ ဉ်၊ ည်၊ န်၊ မ်၊ ယ်)နှင့် မူလသရနောက်ရှိ သံညင်းဗျည်းများကိုမူ သံပြင်းဗျည်းသို့ ပြောင်းလဲရွတ်ဆိုလေ့ရှိသည်။

| အသံမပြောင်း | | အသံပြောင်း | |
|---|---|---|---|
| **စကားလုံး** | **အသံထွက်** | **စကားလုံး** | **အသံထွက်** |
| **တက်ကြ** | တက်ကျ့ | **ဆင်းကြ** | ဆင်းဂျ့ |
| **သွတ်ပြား** | သွတ်ပျား | **ပျဉ်ပြား** | ပျင်ဗျား |
| **အမြောက်ဆန်** | အမျောက်ဆန် | **ကျည်ဆန်** | ကျီဇန် |
| **သစ်စက်** | သစ်စက် | **ဆန်စက်** | ဆန်ဇက် |
| **ပိတ်စ** | ပိတ်စာ့ | **လမ်းစ** | လမ်းဇာ့ |
| **ဂေါက်ကွင်း** | ဂေါက်ကွင်း | **လယ်ကွင်း** | လယ်ဂွင်း |
| **အိပ်တန်း** | အိတ်တန်း | **ဝါးတန်း** | ဝါးဒန်း |
| **သစ်ပင်** | သစ်ပင် | **ဝါးပင်** | ဝါးဗင် |
| **သတ်ပုံ** | သတ်ပုန် | **နေပုံထိုင်ပုံ** | နေဗုန်ထိုင်ဗုန် |
| **ကိုက်တံ** | ဂိုက်တန် | **ပေတံ** | ပေဒန် |
| **ကြက်စာ** | ကျက်စာ | **ဘဲစာ** | ဗဲဇာ |
| **လိပ်စာ** | လိတ်စာ | **နွားစာ** | နွားဇာ |

၆၆။ သံညင်းမှ သံပြင်းသို့ ပြောင်းလဲရွတ်ဆိုသော ဗျည်းအချို့ကို သံရပ်၏နောက်၌ရှိသော်လည်း သံပြင်းအတိုင်းပင် ရွတ်ဆိုလေ့ရှိသည်။

| **စကားလုံး** | **သံပြင်းရွတ်** | **ရှေ့၌ သံရပ်အသတ်ရှိသော်လည်း သံပြင်းအတိုင်းရွတ်** |
|---|---|---|
| **ခေါင်း** | ဂေါင်း | စက်ခေါင်း (ဂေါင်း) |
| **ခေါင်း** | ဂေါင်း | လိပ်ခေါင်း (ဂေါင်း) |

၆၇။ ပစ္စည်းအဖြစ်နှင့်သုံးသော (အ)၏နောက်ရှိ သံညင်းဗျည်းများကို သံပြင်းဗျည်းသို့ ပြောင်းလဲရွတ်ဆိုခြင်းမရှိသော်လည်း အနက်ပြည့်နှင့်သုံးသော(အ)၏နောက်ရှိ သံညင်းဗျည်းများကို သံပြင်းဗျည်းသို့ ပြောင်းလဲရွတ်ဆိုလေ့ရှိသည်။

| အသံမပြောင်း | | အသံပြောင်း | |
|---|---|---|---|
| **စကားလုံး** | **အသံထွက်** | **စကားလုံး** | **အသံထွက်** |
| **အကြီး** | အကျီး | **လူအကြီး** | လူအာ့**ဂျီး** |
| **အသေး** | အသေး | **မင်းအသေးတယ်** | မင်းအာ့**သွေး**ဒယ် |
| **အပေးအယူ** | အပေးအယူ | **အပါပေ့ကွယ်** | အာ့**ဗာဗေ့**ကွယ် |

၆၈။ ရှေ့သံညင်းဗျည်းကို သံပြင်းသို့ ပြောင်းလဲရွတ်ဆိုလျှင် နောက်သံညင်းဗျည်းကိုလည်း သံပြင်းဗျည်းသို့ ပြောင်းလဲရွတ်ဆိုလေ့ရှိသည်။

| **စကားလုံး** | **အသံပြောင်းရွတ်** |
|---|---|
| | **အသံထွက်** |
| စပါး | ဇဗား |
| သတင်းစာ | သုဒင်းစာ |
| စကား | ဇဂါး |
| သပြေ | သုဗျေ |
| တစ်ကောင် | ဒဂေါင် |
| တပို့တွဲ | ဒဗို့တွဲ |

၆၉။ စကားလုံးတစ်လုံး၏ အသုံးကွဲပြားမှုကိုလိုက်၍ သံညင်းဗျည်းတို့ကို သံပြင်းဗျည်းသို့ ပြောင်းလဲ ရွတ်ဆိုလေ့ရှိသည်။

| **စကားလုံး** | **သံညင်းဖြင့်ရွတ်** | **သံပြင်းဖြင့်ရွတ်** |
|---|---|---|
| | **အသံထွက်** | **အသံထွက်** |
| **ချိုင့်** | ချိုင့် (ကြိယာ) | ဂျိုင့် (နာမ်) |
| **ချိတ်** | ချိတ် (ကြိယာ) | ဂျိတ် (နာမ်) |
| **စောက်** | စောက် (ကြိယာ) | ဇောက် (နာမ်) |
| **ချောင်** | ချောင် (ကြိယာ) | ဂျောင် (နာမ်) |
| **ထောင့်** | ထောင့် (ကြိယာ) | ဒေါင့် (နာမ်) |
| **ထောက်** | ထောက် (ကြိယာ) | ဒေါက် (နာမ်) |

၇၀။ ပေါင်းစပ်နာမ်ဖြစ်မှုကို အကြောင်းပြု၍ နာမ်ပုဒ်နှင့် ကြိယာပုဒ် တစ်ဆက်တည်းပုဒ်စပ်၍ ရွတ်ဆိုသောအခါ နောက်က သံညင်းဗျည်းသည် သံပြင်းဗျည်းသို့ ပြောင်းလေ့ရှိသည်။

| **စကားလုံး** | **ပုဒ်ဖြတ်ရွတ်၊ အသံမပြောင်း အသံထွက်** | **ပုဒ်စပ်ရွတ်၊ အသံပြောင်း အသံထွက်** |
|---|---|---|
| **ထမင်းချက်** | ထမင်းချက် (ကြိယာ) | ထမင်းဂျက် (နာမ်) |
| **မြင်းထိန်း** | မျင်းထိန်း (ကြိယာ) | မျင်းဒိန်း (နာမ်) |
| **စာရင်းချုပ်** | စယင်းချုပ် (ကြိယာ) | စယင်းဂျုပ် (နာမ်) |
| **စာရင်းစစ်** | စယင်းစစ် (ကြိယာ) | စယင်းဇစ် (နာမ်) |
| **စာဆို** | စာဆို (ကြိယာ) | စာဇို (နာမ်) |

၇၁။ အချို့စကားလုံးတို့ကို ရွတ်ဆိုသည့်အခါတွင် ဟထိုးသံဖြည့်၍လည်းကောင်း၊ ဟထိုးသံချန်၍လည်းကောင်း၊ ပင့်ရစ်သံဖြည့်၍လည်းကောင်း၊ ပင့်ရစ်သံချန်၍လည်းကောင်း ရွတ်ဆိုလေ့ရှိသည်။

**သာဓက**။ ။

| **စကားလုံး** | **ဟထိုးသံဖြည့်ရွတ်** |
|---|---|
| မင်အိုး | မှင်အိုး |

| **စကားလုံး** | **ဟထိုးသံချန်ရွတ်** |
|---|---|
| ကိုယ်စားလှယ် | ကိုဇလယ် |
| မှုုးမတ် | မူးမတ် |

| **စကားလုံး** | **ပင့်ရစ်သံဖြည့်ရွတ်** |
|---|---|
| ပညာ | ပျင်ညာ |
| ပစ္စည်း | ပျစ်စီး |
| မေတ္တာ | မျစ်တာ |

| **စကားလုံး** | **ပင့်ရစ်သံချန်ရွတ်** |
|---|---|
| နက်ဖြန် | နက်ဖန် |
| မြွေ | မွေ |

၇၂။ **သရသံပြောင်းလဲမှု**။ ။ သရသံပြောင်းလဲမှုဆိုသည်မှာ သရသံ အချို့ကို အသံတစ်ဝက်သာ ရွတ်ရသော (အ)သံသို့ ပြောင်းလဲရွတ်ဆိုခြင်း ဖြစ်သည်။

**သာဓက**။ ။

| **စကားလုံး** | **အသံတစ်ဝက်ရွတ်ရသော (အ)သံဖြင့်ရွတ်** |
|---|---|
| **အာ** | **အ** |
| ဒကာမ | ဒဂမာ့ |
| စာရေး | စယေး |
| **အား** | **အ** |
| ခါးမ | ခမာ့ |

| | |
|---|---|
| နားရွက် | နယွက် |
| ဝါးလုံး | ဝလုံး |
| ပါးဟက် | ဗဟက် |
| ငါးစိမ်း | ငဇိမ်း |
| **အိ** | **အ** |
| ပိတောက် | ဗဒေါက် |
| ဖိနပ် | ဖနတ် |
| သိကြား | သဂျား |
| ပိတုန်း | ဗဒုန်း |
| **အီ** | **အ** |
| သီတင်း | သဒင်း |
| သီချင်း | သချင်း |
| **အု** | **အ** |
| ပုတီး | ဗဒီး |
| ပုဆိုး | ပဆိုး |
| ပုဆိန် | ပဆိန် |
| **အူ** | **အ** |
| သူဌေး | သထေး |
| သူခိုး | သခိုး |
| သူကြီး | သဂျီး |
| **အံ** | **အ** |
| တံခါး | ဒဂါး |
| တံဆိပ် | ဒဇိတ် |
| ဆံပင် | ဇဗင် |
| **အန်း** | **အ** |
| ပန်းပဲ | ဗဗဲ |
| ကမ်းပါး | ဂဗား |
| **အင်း** | **အ** |
| လင်းတ | လဒ |
| လင်းကွင်း | လဂွင်း |
| **အက်** | **အ** |
| ခက်ရင်း | ခယင်း |
| လက်ဖက် | လဖက် |
| ငှက်ပျော | ငပျော |

# အပိုင်း – ၂၊
# စကားလုံး၊ ပုဒ်၊ ပုဒ်စု

- ဤအပိုင်းတွင် စကားလုံး၊ ပုဒ်ဖွဲ့စည်းပုံနှင့် ပတ်သက်၍ သိသင့်သိထိုက်သည့် အခြေခံ အချက်အလက်များကို အကျဉ်းမျှ ဖော်ပြထားသည်။
- စကားလုံးများကို **သီးခြားစကားလုံး**နှင့် **အကူစကားလုံး** ဟူ၍ ၂ မျိုး ခွဲခြားပြီး ပုဒ်ကို **ပုဒ်ရိုး၊ ပေါင်းစပ်ပုဒ်၊ ပစ္စည်းရောပုဒ်၊ ဝိဘတ်သွယ်ပုဒ်** ဟူ၍ ၄ မျိုး ခွဲခြားထားသည်။
- **ပေါင်းစပ်ပုဒ်၊ ပစ္စည်းရောပုဒ်၊ ဝိဘတ်သွယ်ပုဒ်** တို့ကို ဖွဲ့စည်းတည်ဆောက်ပုံအရ လည်းကောင်း၊ အနက်အဓိပ္ပာယ်အရလည်းကောင်း ဖော်ပြထားသည်။
- ဤအပိုင်းကို လေ့လာခြင်းအားဖြင့် မြန်မာဘာသာစကား၏ စကားလုံးဖန်တီးမှုဆိုင်ရာ အခြေခံသဘောကိုလည်းကောင်း၊ ဝါကျဖွဲ့ထုံးဆိုင်ရာအခြေခံသဘောကိုလည်းကောင်း သိနိုင်သည်။

**စကားလုံး**

၇၃။ ဝါကျတစ်ခုကို ခွဲစိတ်ကြည့်လျှင် **ဝါကျကဏ္ဍ၊ ပုဒ်စု၊ ပုဒ်၊ စကားလုံး** ဟူသော သဒ္ဒါအစိတ်အပိုင်း အဆင့်ဆင့်ကို တွေ့ရသည်။ ဝါကျသည် အမြင့်ဆုံးအဆင့်ဖြစ်၍ စကားလုံးသည် အနိမ့်ဆုံးအဆင့်ဖြစ်သည်။ တစ်နည်းဆိုရလျှင် စကားလုံးသည် ဝါကျတည်ဆောက်ရာ၌ အခြေခံကျသော သဒ္ဒါအစိတ်အပိုင်းတစ်ခုဖြစ်သည်။

**သာဓက**။ ။

| | | |
|---|---|---|
| ဝါကျ | = | ဆရာစာသင်သောအခါ မောင်မောင်နှင့် ကျွန်တော်တို့သည် ဂရုတစိုက် နားထောင်မှတ်သားသည်။ |
| ဝါကျကဏ္ဍ | = | ဆရာစာသင်သောအခါ |
| ဝါကျကဏ္ဍ | = | မောင်မောင်နှင့်ကျွန်တော်တို့သည် ဂရုတစိုက်နားထောင် မှတ်သားသည်။ |
| ပုဒ်စု | = | မောင်မောင်နှင့်ကျွန်တော်။ |
| ပုဒ် | = | ဆရာ၊ စာသင်၊ မောင်မောင်၊ ကျွန်တော်၊ ဂရုတစိုက်၊ နားထောင်၊ မှတ်သား။ |
| စကားလုံး | = | ဆရာ၊ စာသင်၊ သောအခါ၊ မောင်မောင်၊ နှင့်၊ ကျွန်တော်၊ တို့၊ သည်၊ ဂရုတစိုက်၊ နားထောင်၊ မှတ်သား၊ သည်။ |

၇၄။ **စကားလုံး ၂ မျိုး**။ ။ စကားလုံးကို **သီးခြားစကားလုံး** နှင့် **အကူစကားလုံး**ဟူ၍ ၂ မျိုး ခွဲခြားထားသည်။

၇၅။ **သီးခြားစကားလုံး**။ ။ သီးခြားစကားလုံးဆိုသည်မှာ အခြားစကားလုံးတစ်လုံးကို အမှီမပြုဘဲ အနက်အဓိပ္ပာယ်ကို ဖော်ဆောင်နိုင်သော၊ ဝေါဟာရအနက်ရှိသော စကားလုံးဖြစ်သည်။ ဝါစင်္ဂသဘောအရ **နာမ်၊ နာမ်စား၊ နာမဝိသေသန၊ ကြိယာ၊ ကြိယာဝိသေသန၊ အာမေဍိတ်** ဟူသော ဝါစင်္ဂ ၆ ပါးဆိုင်ရာ စကားလုံးတို့သည် **သီးခြားစကားလုံး**များ ဖြစ်ကြသည်။

**သာဓက**။ ။ **သီးခြားစကားလုံး**

ဆရာ၊ မောင်မောင် (နာမ်)
ကျွန်တော် (နာမ်စား)
လိမ္မာ (နာမဝိသေသန)
စာသင်၊ နားထောင်၊ မှတ်သား (ကြိယာ)
ဂရုတစိုက် (ကြိယာဝိသေသန)
အမလေး (အာမေဍိတ်)

**မှတ်ချက်**။ ။ အာမေဍိတ်မှာ သီးခြားစကားလုံးဖြစ်သော အာမေဍိတ်လည်း ရှိသည်။ သီးခြားစကားလုံးနှင့် အကူစကားလုံးတွဲသော အာမေဍိတ်လည်း ရှိသည်။

၇၆။ **အကူစကားလုံး**။ ။ အကူစကားလုံးဆိုသည်မှာ ပုဒ်ဖွဲ့ရာ၌ဖြစ်စေ၊ ဝါကျတည်ဆောက်ရာ၌ ဖြစ်စေ အနက်အဓိပ္ပာယ်ကို ကူညီဖော်ဆောင်နိုင်သော၊ သဒ္ဒါအနက်ရှိသော စကားလုံးများ ဖြစ်ကြသည်။ ဝါစင်္ သဘောအရ **ဝိဘတ်၊ သမ္ဗန္ဓ၊ ပစ္စည်း**ဟူသော ဝါစင်္ ၃ ပါးဆိုင်ရာ စကားလုံးတို့သည် **အကူစကားလုံး**များဖြစ်ကြသည်။

**သာဓက**။ ။ **အကူစကားလုံး**

သည် (ဝိဘတ်)
သောအခါ၊ နှင့် (သမ္ဗန္ဓ)
တို့ (ပစ္စည်း)

## ပုဒ်

၇၇။ **သီးခြားစကားလုံး** နှင့် **အကူစကားလုံး**ဟူ၍ စကားလုံး ၂ မျိုးရှိသည့်အနက် သီးခြားစကားလုံးတို့ကိုလည်းကောင်း၊ သီးခြားစကားလုံးနှင့် အကူစကားလုံးတွဲစပ်ထားသော စကားလုံးတို့ကို လည်းကောင်း **ပုဒ်** ဟူ၍ သတ်မှတ်ထားသည်။

၇၈။ **ပုဒ် ၄ မျိုး**။ ။ ပုဒ်ကို **ပုဒ်ရိုး၊ ပေါင်းစပ်ပုဒ်၊ ပစ္စည်းရောပုဒ်၊ ဝိဘတ်သွယ်ပုဒ်** ဟူ၍ ၄ မျိုး ခွဲခြားထားသည်။

၇၉။ ပေါင်းစပ်ပုဒ်သည် ဝါစင်္တူစကားလုံးကိုဖြစ်စေ၊ ဝါစင်္ကွဲစကားလုံးကိုဖြစ်စေ ပေါင်းစပ်ဖွဲ့စည်းထားသည့်ပုဒ်ဖြစ်သည်။ ပစ္စည်းရောပုဒ်နှင့် ဝိဘတ်သွယ်ပုဒ်မှာမူ ဝါစင်္ကွဲသော စကားလုံးတို့ကို ပေါင်းစပ်ဖွဲ့စည်းထားသည့်ပုဒ်ဖြစ်သည်။

၈၀။ **ပေါင်းစပ်ပုဒ်**နှင့် **ပစ္စည်းရောပုဒ်** ၂ မျိုးသည် စကားလုံးဖန်တီးမှုကို အခြေခံ၍ ပွားလာ သော ပုဒ်မျိုးဖြစ်သည်။ **ဝိဘတ်သွယ်ပုဒ်**မှာမူ ဝါကျတည်ဆောက်မှုကိုအခြေခံ၍ လိုအပ်သော ဝိဘတ်များဆက်ထားသည့်ပုဒ်မျိုးဖြစ်သည်။

၈၁။ **ပုဒ်ရိုး**။ ။ ဝိဘတ်၊ ပစ္စည်းတစ်ခုခုမရောဘဲ အနက်အဓိပ္ပာယ်တစ်ခုကို ဖော်ဆောင်နိုင်၍ သီးခြားရပ်တည်နိုင်သော စကားလုံးကို **ပုဒ်ရိုး**ဟုခေါ်သည်။

**သာဓက**။ ။ လူ၊ အိမ်၊ သူ၊ စား၊ အေး၊ ကစား၊ သနား၊ ကဲ့ရဲ့၊ ပင်ပန်း၊ ကောင်းကင်၊ ခမ်းနား၊ ပုတီး။

၈၂။ **ပေါင်းစပ်ပုဒ်**။ ။ ဝိဘတ်၊ ပစ္စည်း၊ သမ္ဗန္ဓတစ်ခုခုကို ကြား၌မခံဘဲ သီးခြားစကားလုံး ၂ လုံး၊ ၃ လုံး စသည်တို့ကို ပေါင်းစပ်ဖွဲ့စည်းထားသည့်ပုဒ်ကို **ပေါင်းစပ်ပုဒ်**ဟု ခေါ်သည်။

**သာဓက**။ ။ ကုန်ရထား (ကုန် + ရထား)
စက်လှေ (စက် + လှေ)
ငါးသေတ္တာ (ငါး + သေတ္တာ)
ပွဲသဘင် (ပွဲ + သဘင်)
လင်မယား (လင် + မယား)
ကာကွယ် (ကာ + ကွယ်)
စေ့စပ် (စေ့ + စပ်)
ဖြူစင် (ဖြူ + စင်)
ရောင်းဝယ် (ရောင်း + ဝယ်)
ဇာတ်မြူး (ဇာတ် + မြူး)
ကျောက်စိမ်း (ကျောက် + စိမ်း)
စင်မြင့် (စင် + မြင့်)

၈၃။ ပေါင်းစပ်ပုဒ်တစ်ခုတွင်ပါဝင်သော စကားလုံးအမျိုးအစားတို့ကို ဖွဲ့စည်းတည်ဆောက်ပုံအရ လေ့လာနိုင်သည်။ ပေါင်းစပ်ပုဒ်တစ်ခုဖြစ်လာစေရန် ဝါစင်္ဂတူစကားလုံးကိုဖြစ်စေ၊ ဝါစင်္ဂကွဲစကားလုံးကိုဖြစ်စေ ပေါင်းစပ်ရသည်။

၈၄။ **ဝါစင်္ဂတူပေါင်းစပ်ခြင်း**။ ။ ဝါစင်္ဂတူပေါင်းစပ်ခြင်းဆိုသည်မှာ နာမ်ပုဒ်ချင်းသော်လည်းကောင်း၊ ကြိယာပုဒ်ချင်းသော်လည်းကောင်း၊ နာမဝိသေသနပုဒ်ချင်းသော်လည်းကောင်း ပေါင်းစပ်ခြင်းဖြစ်သည်။ ယင်းသို့ဝါစင်္ဂတူပုဒ်ချင်းပေါင်းစပ်လိုက်သောအခါ **ပေါင်းစပ်နာမ်၊ ပေါင်းစပ်ကြိယာ၊ ပေါင်းစပ်နာမဝိသေသန**နှင့် **ပေါင်းစပ်ကြိယာဝိသေသန**များဖြစ်လာသည်။

၈၅။ ဝါစင်္ဂတူပေါင်းစပ်သော ပေါင်းစပ်ပုဒ်တစ်ခုတွင် ဝါစင်္ဂ ၂ ခုမှ ၄ ခုအထိ ပါဝင်နိုင်သည်။

(က) **နာမ်ပုဒ်ချင်းပေါင်းစပ်ခြင်း**

**သာဓက**။ ။

(၁)

| | | | |
|---|---|---|---|
| **နာမ်** | **+** | **နာမ်** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နာမ်) |
| ဈေး | + | နှုန်း | ဈေးနှုန်း |
| စစ် | + | မြေ | စစ်မြေ |
| မီး | + | တိုင် | မီးတိုင် |

(၂)

| | | | | | |
|---|---|---|---|---|---|
| **နာမ်** | **+** | **နာမ်** | + | **နာမ်** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နာမ်) |
| ကုန် | + | ဈေး | + | နှုန်း | ကုန်ဈေးနှုန်း |
| စစ် | + | မြေ | + | ပြင် | စစ်မြေပြင် |
| ဆီ | + | မီး | + | တိုင် | ဆီမီးတိုင် |

(ခ) **ကြိယာပုဒ်ချင်းပေါင်းစပ်ခြင်း**

**သာဓက**။ ။

(၁)

| | | | |
|---|---|---|---|
| **ကြိယာ** | + | **ကြိယာ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နာမ်) |
| ဖြတ် | + | ပိုင်း | ဖြတ်ပိုင်း |

| | | | |
|---|---|---|---|
| ပြုတ် | + | ကြော် | ပြုတ်ကြော် |
| အုပ် | + | ဆောင်း | အုပ်ဆောင်း |

(၂) **ကြိယာ + ကြိယာ** **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်ကြိယာ)

| | | | |
|---|---|---|---|
| ကာ | + | ကွယ် | ကာကွယ် |
| ရောင်း | + | ဝယ် | ရောင်းဝယ် |
| ပေါင်း | + | စပ် | ပေါင်းစပ် |

(၃) **ကြိယာ + ကြိယာ + ကြိယာ** **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်ကြိယာ)

| | | | | | |
|---|---|---|---|---|---|
| ပြီး | + | ပြည့် | + | စုံ | ပြီးပြည့်စုံ |
| ပြန် | + | ပေါင်း | + | ထုပ် | ပြန်ပေါင်းထုပ် |
| ပြန် | + | ပေး | + | ဆွဲ | ပြန်ပေးဆွဲ |

(၄) **ကြိယာ + ကြိယာ + ကြိယာ + ကြိယာ** **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်ကြိယာ)

| | | | | | | | |
|---|---|---|---|---|---|---|---|
| ဝယ် | + | ယူ | + | တင် | + | သွင်း | ဝယ်ယူတင်သွင်း |
| ကူး | + | သန်း | + | ရောင်း | + | ဝယ် | ကူးသန်းရောင်းဝယ် |

(၅) **ကြိယာ + ကြိယာ + ကြိယာ +ကြိယာ** **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်ကြိဝိ)

| | | | | | | | |
|---|---|---|---|---|---|---|---|
| ချိုး | + | ချိုး | + | ဖဲ့ | + | ဖဲ့ | ချိုးချိုးဖဲ့ဖဲ့ |
| ဖိ | + | ဖိ | + | စီး | + | စီး | ဖိဖိစီးစီး |

(ဂ) **နာမဝိသေသနပုဒ်ချင်းပေါင်းစပ်ခြင်း**

**သာဓက။** ။

(၁) **နဝိ + နဝိ** **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နဝိ)

| | | | |
|---|---|---|---|
| ခိုင် | + | မာ | ခိုင်မာ |
| ဖြူ | + | စင် | ဖြူစင် |
| အေး | + | ချမ်း | အေးချမ်း |

(၂) **နဝိ + နဝိ** **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်ကြိဝိ)

| | | | |
|---|---|---|---|
| ကောင်း | + | ကောင်း | ကောင်းကောင်း |
| ဖြောင့် | + | ဖြောင့် | ဖြောင့်ဖြောင့် |

(၃) **နဝိ + နဝိ + နဝိ** **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နဝိ)

| | | | | | |
|---|---|---|---|---|---|
| ပါး | + | နပ် | + | လိမ္မာ | ပါးနပ်လိမ္မာ |
| ခမ်းနား | + | ကြီး | + | ကျယ် | ခမ်းနားကြီးကျယ် |

(၄) **နဝိ + နဝိ + နဝိ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်ကြိဝိ)

| | | | | | |
|---|---|---|---|---|---|
| ချစ် | + | ချစ် | + | တောက် | ချစ်ချစ်တောက် |
| စို | + | ထိုင်း | + | ထိုင်း | စိုထိုင်းထိုင်း |

(၅) **နဝိ + နဝိ + နဝိ + နဝိ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နဝိ)

| | | | | | | | |
|---|---|---|---|---|---|---|---|
| တောင့် | + | တင်း | + | ခိုင် | + | မာ | တောင့်တင်းခိုင်မာ |

(၆) **နဝိ + နဝိ + နဝိ + နဝိ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်ကြိဝိ)

| | | | | | | | |
|---|---|---|---|---|---|---|---|
| တန်း | + | တန်း | + | မတ် | + | မတ် | တန်းတန်းမတ်မတ် |
| ကောက် | + | ကောက် | + | ကွေ့ | + | ကွေ့ | ကောက်ကောက်ကွေ့ကွေ့ |
| အေး | + | အေး | + | ချမ်း | + | ချမ်း | အေးအေးချမ်းချမ်း |

၈၆။ **ဝါစင်္ကွဲပေါင်းစပ်ခြင်း။** ။ ဝါစင်္ကွဲပေါင်းစပ်ခြင်းဆိုသည်မှာ ဝါစင် ၉ ပါးရှိသည့်အနက် နာမ်ပုဒ်နှင့် နာမဝိသေသနပုဒ်၊ ကြိယာပုဒ်နှင့် နာမဝိသေသနပုဒ်စသည်ဖြင့် ဝါစင်္ကွဲသောပုဒ်ချင်း ပေါင်းစပ်ခြင်းဖြစ်သည်။ ယင်းသို့ ဝါစင်္ကွဲသောပုဒ်ချင်း ပေါင်းစပ်လိုက်သောအခါ **ပေါင်းစပ်နာမ်၊ ပေါင်းစပ်ကြိယာ၊ ပေါင်းစပ်နာမဝိသေသန** နှင့် **ပေါင်းစပ်ကြိယာဝိသေသန**များ ဖြစ်လာသည်။

၈၇။ ဝါစင်္ကွဲပေါင်းစပ်သော ပေါင်းစပ်ပုဒ်တစ်ခုတွင် ဝါစင် ၂ ခုမှ ၅ ခုအထိ ပါဝင်နိုင်သည်။

(က) **ဝါစင်္ကွဲပေါင်းစပ်နာမ်ပုဒ်များ**

(၁) ပုဒ် ၂ ပုဒ်ပါဝင်သော ဝါစင်္ကွဲ ပေါင်းစပ်နာမ်ပုဒ်တစ်ခုတွင် နာမ်ပုဒ် တစ်ခုပါဝင်၍ ထိုနာမ်ပုဒ်ကို ကြိယာပုဒ်နှင့်ဖြစ်စေ၊ နာမဝိသေသနပုဒ် နှင့်ဖြစ်စေ တွဲဖက်ပေါင်းစပ်ထားသည်။

**သာဓက။** ။

| | | | |
|---|---|---|---|
| **နာမ်** | **+** | **ကြိယာ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နာမ်) |
| ရုံ | + | ပိုင် | ရုံပိုင် |
| ရေ | + | မန်း | ရေမန်း |
| ပွဲ | + | ကိုင် | ပွဲကိုင် |

| | | | |
|---|---|---|---|
| **ကြိယာ** | **+** | **နာမ်** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နာမ်) |
| တိုင် | + | စာ | တိုင်စာ |
| ထွက် | + | ငွေ | ထွက်ငွေ |
| က | + | ဇာတ် | ကဇာတ် |

| | | | |
|---|---|---|---|
| **နာမ်** | **+** | **နဝိ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နာမ်) |
| လူ | + | ငယ် | လူငယ် |
| ရေ | + | မွှေး | ရေမွှေး |

| | | | | |
|---|---|---|---|---|
| ပန်း | + | နီ | | ပန်းနီ |

(၂) ပုဒ် ၃ ပုဒ် ပါဝင်သော ဝါစင်္ကွဲ ပေါင်းစပ်နာမ်ပုဒ်တစ်ခုတွင် နာမ်ပုဒ်တစ်ခု ပါဝင်၍ ထိုနာမ်ပုဒ်ကို ကြိယာပုဒ်တစ်ခု၊ နာမဝိသေသနပုဒ်တစ်ခုတို့နှင့် တွဲဖက် ပေါင်းစပ်ထားသည်။

**သာဓက**။ ။

| **နာမ်** | **+** | **ကြိယာ** | **+** | **နဝိ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နာမ်) |
|---|---|---|---|---|---|
| ဆံ | + | ရစ် | + | ဝိုင်း | ဆံရစ်ဝိုင်း |
| ရှေး | + | ဖြစ် | + | ဟောင်း | ရှေးဖြစ်ဟောင်း |
| လက် | + | လုပ် | + | ချဉ် | လက်လုပ်ချဉ် |

| **နာမ်** | **+** | **နဝိ** | **+** | **ကြိယာ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နာမ်) |
|---|---|---|---|---|---|
| ဆေး | + | ပြင်း | + | လိပ် | ဆေးပြင်းလိပ် |
| မုန့် | + | စိမ်း | + | ပေါင်း | မုန့်စိမ်းပေါင်း |
| မုန့် | + | ချို | + | သွင်း | မုန့်ချိုသွင်း |

(၃) ပုဒ် ၃ ပုဒ်ပါဝင်သော ဝါစင်္ကွဲပေါင်းစပ်နာမ်ပုဒ်တစ်ခုတွင် နာမ်ပုဒ်တစ်ခုပါဝင် ၍ ထိုနာမ်ပုဒ်ကို ကြိယာပုဒ်နှစ်ခုနှင့် တွဲဖက်ပေါင်းစပ်ထားသည်။

**သာဓက**။ ။

| **ကြိယာ** | **+** | **ကြိယာ** | **+** | **နာမ်** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နာမ်) |
|---|---|---|---|---|---|
| ရွေး | + | ကောက် | + | ပွဲ | ရွေးကောက်ပွဲ |
| ကင်း | + | လွတ် | + | ကုန် | ကင်းလွတ်ကုန် |
| ပေါင်း | + | ကူး | + | တံတား | ပေါင်းကူးတံတား |

(၄) ပုဒ် ၃ ပုဒ်ပါဝင်သော ဝါစင်္ကွဲပေါင်းစပ်နာမ်ပုဒ်တစ်ခုတွင် နာမ်ပုဒ် ၂ ခုပါဝင်၍ ထိုနာမ်ပုဒ်တို့ကို ကြိယာပုဒ်တစ်ခုနှင့်ဖြစ်စေ၊ နာမဝိသေသနပုဒ်တစ်ခုနှင့်ဖြစ်စေ တွဲဖက်ပေါင်းစပ်ထားသည်။

**သာဓက**။ ။

| **နာမ်** | **+** | **နာမ်** | **+** | **ကြိယာ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နာမ်) |
|---|---|---|---|---|---|
| ဆား | + | မီး | + | ဖုတ် | ဆားမီးဖုတ် |
| ဘီး | + | ဆံ | + | ပတ် | ဘီးဆံပတ် |
| လေ | + | ယာဉ် | + | ပျံ | လေယာဉ်ပျံ |

| **နာမ်** | **+** | **နာမ်** | **+** | **နဝိ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နာမ်) |
|---|---|---|---|---|---|
| ဆွမ်း | + | ဆန် | + | စိမ်း | ဆွမ်းဆန်စိမ်း |

| | | | | | |
|---|---|---|---|---|---|
| ရွှေ | + | ပုစွန် | + | ခြောက် | ရွှေပုစွန်ခြောက် |
| ရှမ်း | + | ထမင်း | + | ချဉ် | ရှမ်းထမင်းချဉ် |
| **နာမ်** | **+** | **ကြိယာ** | **+** | **နာမ်** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နာမ်) |
| ကမ်း | + | တက် | + | သင်္ဘော | ကမ်းတက်သင်္ဘော |
| အား | + | တိုး | + | ဆေး | အားတိုးဆေး |
| ကာလ | + | ပေါ် | + | ဝတ္ထု | ကာလပေါ်ဝတ္ထု |
| **နာမ်** | **+** | **နဝိ** | **+** | **နာမ်** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နာမ်) |
| ရေ | + | ပူ | + | စမ်း | ရေပူစမ်း |
| ရွက် | + | လှ | + | ပန်း | ရွက်လှပန်း |
| လေ | + | အေး | + | စက် | လေအေးစက် |

(၅) ပုဒ် ၄ ပုဒ်ပါဝင်သော ဝါစင်္ကြံပေါင်းစပ်နာမ်ပုဒ်တစ်ခုတွင် နာမ်ပုဒ် ၂ ခုပါဝင်၍ ထိုနာမ်ပုဒ်တို့ကို ကြိယာပုဒ်၂ ခုနှင့်ဖြစ်စေ၊ ကြိယာပုဒ်၊ နာမဝိသေသနပုဒ် တစ်ခုစီနှင့်ဖြစ်စေ တွဲဖက်ပေါင်းစပ်ထားသည်။

**သာဓက**။ ။

| | | | | | | | |
|---|---|---|---|---|---|---|---|
| **နာမ်** | **+** | **ကြိယာ** | **+** | **နာမ်** | **+** | **ကြိယာ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နာမ်) |
| စာ | + | စီ | + | စာ | + | ကုံး | စာစီစာကုံး |
| ရုပ် | + | မြင် | + | သံ | + | ကြား | ရုပ်မြင်သံကြား |
| ဆေး | + | ပေး | + | မီး | + | ယူ | ဆေးပေးမီးယူ |
| **နာမ်** | **+** | **ကြိယာ** | **+** | **ကြိယာ** | **+** | **နာမ်** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နာမ်) |
| ခါး | + | ပိုက် | + | ဆောင် | + | တပ် | ခါးပိုက်ဆောင်တပ် |
| **နာမ်** | **+** | **နဝိ** | **+** | **ကြိယာ** | **+** | **နာမ်** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နာမ်) |
| လူ | + | နာ | + | တင် | + | ကား | လူနာတင်ကား |

(၆) ပုဒ် ၄ ပုဒ်ပါဝင်သော ဝါစင်္ကြံပေါင်းစပ်နာမ်ပုဒ်တစ်ခုတွင် နာမ်ပုဒ် ၃ ခုပါဝင်၍ ထိုနာမ်ပုဒ်တို့ကို ကြိယာပုဒ်တစ်ခုနှင့် တွဲဖက် ပေါင်းစပ်ထားသည်။

**သာဓက**။ ။

| | | | | | | | |
|---|---|---|---|---|---|---|---|
| **နာမ်** | **+** | **ကြိယာ** | **+** | **နာမ်** | **+** | **နာမ်** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နာမ်) |
| ရုံး | + | သုံး | + | ဘာသာ | + | စကား | ရုံးသုံးဘာသာစကား |

(၇) ပုဒ် ၅ ပုဒ်ပါဝင်သော ဝါစင်္ကွဲပေါင်းစပ်နာမ်ပုဒ်တစ်ခုတွင် နာမ်ပုဒ် ၃ ခုပါဝင်၍ ထိုနာမ်ပုဒ်တို့ကို ကြိယာပုဒ် ၂ ခုနှင့်တွဲဖက်ပေါင်းစပ်ထားသည်။

**သာဓက။ ။**

| | | | | | |
|---|---|---|---|---|---|
| **နာမ်** | **+ ကြိယာ** | **+နာမ်** | **+ကြိယာ** | **+ နာမ်** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နာမ်) |
| ရုပ် | + မြင် | +သံ | +ကြား | + စက် | ရုပ်မြင်သံကြားစက် |

(၈) ပုဒ် ၅ ပုဒ်ပါဝင်သော ဝါစင်္ကွဲပေါင်းစပ်နာမ်ပုဒ်တစ်ခုတွင် နာမ်ပုဒ် ၂ ခုပါဝင်၍ ထိုနာမ်ပုဒ်တို့ကို ကြိယာပုဒ် ၃ ခုတို့နှင့် တွဲဖက်ပေါင်းစပ်ထားသည်။

**သာဓက။ ။**

| | | | | | |
|---|---|---|---|---|---|
| **နာမ်** | **+ကြိယာ** | **+ကြိယာ** | **+ကြိယာ** | **+နာမ်** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နာမ်) |
| မျက်နှာ | +စုံ | +ညီ | +စည်းဝေး | +ပွဲ | မျက်နှာစုံညီစည်းဝေးပွဲ |

(ခ) **ဝါစင်္ကွဲ ပေါင်းစပ်ကြိယာပုဒ်များ**

(၁) ပုဒ် ၂ ပုဒ်ပါဝင်သော ဝါစင်္ကွဲပေါင်းစပ်ကြိယာပုဒ်တစ်ခုတွင် ကြိယာပုဒ်တစ်ခု ပါဝင်၍ ထိုကြိယာပုဒ်ကို နာမ်ပုဒ်တစ်ခုနှင့် တွဲဖက် ပေါင်းစပ်ထားသည်။

**သာဓက။ ။**

| | | | |
|---|---|---|---|
| **နာမ်** | **+** | **ကြိယာ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်ကြိယာ) |
| မဲ | + | ချ | မဲချ |
| သောင် | + | ထွန်း | သောင်ထွန်း |
| လမ်း | + | ပိတ် | လမ်းပိတ် |

(၂) ပုဒ် ၃ ပုဒ်ပါဝင်သော ဝါစင်္ကွဲပေါင်းစပ်ကြိယာပုဒ်တစ်ခုတွင် ကြိယာပုဒ် တစ်ခုပါဝင်၍ ထိုကြိယာပုဒ်ကို နာမ်ပုဒ်တစ်ခု၊ နာမဝိသေသနပုဒ် တစ်ခုနှင့် တွဲဖက်ပေါင်းစပ်ထားသည်။

**သာဓက။ ။**

| | | | | | |
|---|---|---|---|---|---|
| **နာမ်** | **+** | **နဝိ** | **+** | **ကြိယာ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်ကြိယာ) |
| ရေ | + | တိမ် | + | နစ် | ရေတိမ်နစ် |
| စိတ် | + | ကြီး | + | ဝင် | စိတ်ကြီးဝင် |
| ရုပ် | + | လုံး | + | ဖော် | ရုပ်လုံးဖော် |
| **နဝိ** | **+** | **နာမ်** | **+** | **ကြိယာ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်ကြိယာ) |
| မိုက် | + | ကြေး | + | ခွဲ | မိုက်ကြေးခွဲ |
| ပြောင် | + | တလင်း | + | ခါ | ပြောင်တလင်းခါ |

| | | | | | | |
|---|---|---|---|---|---|---|
| ငယ် | + | မူ | + | ပြန် | ငယ်မူပြန် |

(၃) ပုဒ် ၃ ပုဒ်ပါဝင်သော ဝါစင်္ကပြောင်းစပ်ကြိယာပုဒ်တစ်ခုတွင် ကြိယာပုဒ်နှစ်ခု ပါဝင်၍ ထိုကြိယာပုဒ်တို့ကို နာမ်ပုဒ်တစ်ခုနှင့် တွဲဖက်ပေါင်းစပ်ထားသည်။

**သာဓက**။ ။

| **နာမ်** | **+** | **ကြိယာ** | **+** | **ကြိယာ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်ကြိယာ) |
|---|---|---|---|---|---|
| ခြေ | + | လှမ်း | + | ပျက် | ခြေလှမ်းပျက် |
| စကား | + | နိုင် | + | လု | စကားနိုင်လု |
| ကိုယ် | + | လွတ် | + | ရုန်း | ကိုယ်လွတ်ရုန်း |

| **ကြိယာ** | **+** | **နာမ်** | **+** | **ကြိယာ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်ကြိယာ) |
|---|---|---|---|---|---|
| ထိုး | + | စစ် | + | ဆင် | ထိုးစစ်ဆင် |
| မှတ် | + | ကျောက် | + | တင် | မှတ်ကျောက်တင် |
| ကြောက် | + | ဒူး | + | တုန် | ကြောက်ဒူးတုန် |

(၄) ပုဒ် ၄ ပုဒ်ပါဝင်သော ဝါစင်္ကပြောင်းစပ်ကြိယာပုဒ်တစ်ခုတွင် ကြိယာပုဒ် နှစ်ခုပါဝင်၍ ထိုကြိယာပုဒ်တို့ကို နာမ်ပုဒ်နှစ်ခုနှင့် တွဲဖက် ပေါင်းစပ် ထားသည်။

**သာဓက**။ ။

| **နာမ်** | **+** | **နာမ်** | **+** | **ကြိယာ** | **+** | **ကြိယာ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်ကြိယာ) |
|---|---|---|---|---|---|---|---|
| စကား | + | လက် | + | ဆုံ | + | ကျ | စကားလက်ဆုံကျ |

| **နာမ်** | **+** | **ကြိယာ** | **+** | **နာမ်** | **+** | **ကြိယာ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်ကြိယာ) |
|---|---|---|---|---|---|---|---|
| မြေ | + | လျှိုး | + | မိုး | + | ပုံ | မြေလျှိုးမိုးပုံ |
| မြေ | + | စမ်း | + | ခရမ်း | + | ပျိုး | မြေစမ်းခရမ်းပျိုး |
| ပွဲ | + | လန့် | + | ဖျာ | + | ခင်း | ပွဲလန့်ဖျာခင်း |

(ဂ) **ဝါစင်္ကပြောင်းစပ်နာမဝိသေသနပုဒ်များ**

ပုဒ် ၂ ပုဒ်ပါဝင်သော ဝါစင်္ကပြောင်းစပ်နာမဝိသေသနပုဒ်တစ်ခုတွင် နာမဝိသေသန ပုဒ်တစ်ခုပါဝင်၍ ထိုနာမဝိသေသနပုဒ်ကို နာမ်ပုဒ်တစ်ခုနှင့် တွဲဖက် ပေါင်းစပ် ထားသည်။

**သာဓက**။ ။

| **နာမ်** | **+** | **နဝိ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နဝိ) |
|---|---|---|---|
| လက် | + | ဖြောင့် | လက်ဖြောင့် |
| သတင်း | + | ကြီး | သတင်းကြီး |
| ရုပ် | + | ချော | ရုပ်ချော |

(ဃ) **ဝါစင်္ကဲ့ပေါင်းစပ်ကြိယာဝိသေသနပုဒ်များ**

(၁) ပုဒ် ၃ ပုဒ်ပါဝင်သော ဝါစင်္ကဲ့ပေါင်းစပ်ကြိယာဝိသေသနပုဒ်တစ်ခုတွင် နာမ်ပုဒ် တစ်ခုပါဝင်၍ ထိုနာမ်ပုဒ်ကို နာမဝိသေသနပုဒ်၊ ကြိယာပုဒ်တစ်ခုနှင့် တွဲဖက်ပေါင်းစပ်ထားသည်။

**သာဓက**။ ။

| | | | | | |
|---|---|---|---|---|---|
| **နာမ်** | **+** | **နဝိ** | **+** | **ကြိယာ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်ကြိဝိ) |
| ပိုက် | + | စိပ် | + | တိုက် | ပိုက်စိပ်တိုက် |

(၂) ပုဒ် ၃ ပုဒ်ပါဝင်သော ဝါစင်္ကဲ့ပေါင်းစပ်ကြိယာဝိသေသနပုဒ်တစ်ခုတွင် နာမ်ပုဒ် ၂ ခုပါဝင်၍ ထိုနာမ်ပုဒ်တို့ကို ကြိယာပုဒ်တစ်ခုနှင့် တွဲဖက်ပေါင်းစပ်ထားသည်။

**သာဓက**။ ။

| | | | | | |
|---|---|---|---|---|---|
| **နာမ်** | **+** | **နာမ်** | **+** | **ကြိယာ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်ကြိဝိ) |
| သမင် | + | လည် | + | ပြန် | သမင်လည်ပြန် |

(၃) ပုဒ် ၄ ပုဒ်ပါဝင်သော ဝါစင်္ကဲ့ပေါင်းစပ်ကြိယာဝိသေသနပုဒ်တစ်ခုတွင် နာမ်ပုဒ်နှစ်ခု ပါဝင်၍ ထိုနာမ်ပုဒ်တို့ကို ကြိယာပုဒ် ၂ ခုနှင့်တွဲဖက် ပေါင်းစပ်ထားသည်။

**သာဓက**။ ။

| | | | | | | | |
|---|---|---|---|---|---|---|---|
| **နာမ်** | **+** | **ကြိယာ** | **+ နာမ်** | **+** | **ကြိယာ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်ကြိဝိ) |
| ခြေ | + | ပစ် | + လက် | + | ပစ် | ခြေပစ်လက်ပစ် |
| ကိုယ် | + | ဖိ | + ရင် | + | ဖိ | ကိုယ်ဖိရင်ဖိ |
| အိတ် | + | သွန် | + ဖာ | + | မှောက် | အိတ်သွန်ဖာမှောက် |

(၄) ပုဒ် ၄ ပုဒ်ပါဝင်သော ဝါစင်္ကဲ့ပေါင်းစပ်ကြိယာဝိသေသနပုဒ် တစ်ခုတွင် နာမ်ပုဒ် ၃ ခု ပါဝင်၍ ထိုနာမ်ပုဒ်တို့သည် ကြိယာပုဒ်တစ်ခုနှင့် တွဲဖက်ပေါင်းစပ်ထားသည်။

**သာဓက**။ ။

| | | | | | | |
|---|---|---|---|---|---|---|
| **နာမ်** | **+** | **နာမ်** | **+ နာမ်** | **+** | **ကြိယာ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်ကြိဝိ) |
| လှေ | + | နံ | + ဓား | + | ထစ် | လှေနံဓားထစ် |

၈၈။ အထက်ဖော်ပြပါ သာဓကများအရ မြန်မာဘာသာစကားတွင် မျိုးတူဝါစင်္ကတို့ကို ပေါင်းစပ်ခြင်းဖြင့်လည်းကောင်း၊ မျိုးမတူဝါစင်္ကတို့ကို ပေါင်းစပ်ခြင်းဖြင့်လည်းကောင်း ပေါင်းစပ်ပုဒ် (ပေါင်းစပ်နာမ်၊ ပေါင်းစပ်ကြိယာ၊ ပေါင်းစပ်နာမဝိသေသန၊ ပေါင်းစပ်ကြိယာဝိသေသန) ဖန်တီးနိုင်ကြောင်း သိရသည်။

၈၉။ ပေါင်းစပ်ပုဒ်များ ဖန်တီး၍ စကားလုံးပွားပုံ ၂ မျိုးတွေ့ရသည်။ အဆိုပါ ၂ မျိုးမှာ–

(က) မျိုးတူစကားလုံးပွားခြင်း

( ခ ) မျိုးမတူစကားလုံးပွားခြင်းတို့ ဖြစ်ကြသည်။

၉၀။ **မျိုးတူစကားလုံးပွားခြင်း။** ။ မျိုးတူစကားလုံးပွားခြင်းဆိုသည်မှာ ဝါစင်္ဂတူပုဒ်တို့ကို ပေါင်းစပ်ဖန်တီးရာတွင် ရရှိသောပေါင်းစပ်ပုဒ်၏ ဝါစင်္ဂအမျိုးအစား မပြောင်းလဲဘဲ ရှိနေခြင်း ဖြစ်သည်။

**သာဓက။** ။

| | | | | |
|---|---|---|---|---|
| **(က)** | **နာမ်** | **+** | **နာမ်** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နာမ်) |
| | ဈေး | + | နှုန်း | ဈေးနှုန်း |
| **(ခ)** | **ကြိယာ** | **+** | **ကြိယာ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်ကြိယာ) |
| | ကာ | + | ကွယ် | ကာကွယ် |
| **(ဂ)** | **နဝိ** | **+** | **နဝိ** | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နဝိ) |
| | ခိုင် | + | မာ | ခိုင်မာ |

၉၁။ **မျိုးမတူစကားလုံးပွားခြင်း။** ။ မျိုးမတူစကားလုံးပွားခြင်းဆိုသည်မှာ ဝါစင်္ဂတူပုဒ်တို့ကို ပေါင်းစပ်ပုဒ်ဖန်တီးရာတွင် ရရှိသောပေါင်းစပ်ပုဒ်၏ ဝါစင်္ဂအမျိုးအစား ပြောင်းလဲသွားခြင်းဖြစ်သည်။

**သာဓက။** ။

| | | | | | | | | |
|---|---|---|---|---|---|---|---|---|
| (က) | **ကြိယာ** | **+** | **ကြိယာ** | | | | | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်နာမ်) |
| | အုပ် | + | ဆောင်း | | | | | အုပ်ဆောင်း |
| (ခ) | **နဝိ** | **+** | **နဝိ** | | | | | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်ကြိဝိ) |
| | ကောင်း | + | ကောင်း | | | | | ကောင်းကောင်း |
| (ဂ) | **နဝိ** | **+** | **နဝိ** | **+** | **နဝိ** | | | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်ကြိဝိ) |
| | ကြွပ် | + | ဆတ် | + | ဆတ် | | | ကြွပ်ဆတ်ဆတ် |
| (ဃ) | **နဝိ** | **+ နဝိ** | | **+ နဝိ** | | **+ နဝိ** | | **ပေါင်းစပ်ပုဒ်** (ပေါင်းစပ်ကြိဝိ) |
| | ကောက် | + ကောက် | | + ကွေ့ | | + ကွေ့ | | ကောက်ကောက်ကွေ့ကွေ့ |

၉၂။ ပေါင်းစပ်ပုဒ်တစ်ခုတွင်ပါဝင်သော ဝါစင်္ဂတို့၏ အပြန်အလှန်ဆက်စပ်ပုံကို အနက်အဓိပ္ပာယ် အရ လေ့လာနိုင်သည်။

၉၃။ **အထူးပြုပေါင်းစပ်ခြင်း။** ။ အထူးပြုပေါင်းစပ်ခြင်းဆိုသည်မှာ ဝါစင်္ဂအစိတ်အပိုင်းတစ်ခု သည် ကျန်ဝါစင်္ဂအစိတ်အပိုင်းတစ်ခုကို အထူးပြု၍ ပေါင်းစပ်ခြင်းဖြစ်သည်။

(က) ရှေ့၌ရှိသောနာမ်ပုဒ်သည် နောက်၌ရှိသောနာမ်ပုဒ်ကို နာမဝိသေသနအဖြစ် အထူးပြုသည်။

**သာဓက**။ ။

| **နာမ်** | **+** | **နာမ်** | **ပေါင်းစပ်နာမ်** |
|---|---|---|---|
| စက် | + | လှေ | စက်လှေ |
| ကုန် | + | ရထား | ကုန်ရထား |
| မင် | + | အိုး | မင်အိုး |

(ခ) ရှေ့၌ရှိသောကြိယာပုဒ်သည် နောက်၌ရှိသောနာမ်ပုဒ်ကို နာမဝိသေသနအဖြစ် အထူးပြုသည်။

**သာဓက**။ ။

| **ကြိယာ** | **+** | **နာမ်** | **ပေါင်းစပ်နာမ်** |
|---|---|---|---|
| ဆွဲ | + | ကြိုး | ဆွဲကြိုး |
| သောက် | + | ဆေး | သောက်ဆေး |
| မွေး | + | နေ့ | မွေးနေ့ |

(ဂ) နောက်၌ရှိသောနာမ်ပုဒ်သည် ရှေ့၌ရှိသောနာမ်ပုဒ်ကို နာမဝိသေသနအဖြစ် အထူးပြုသည်။

**သာဓက**။ ။

| **နာမ်** | **+** | **နာမ်** | **ပေါင်းစပ်နာမ်** |
|---|---|---|---|
| ခွေး | + | ဘီလူး | ခွေးဘီလူး |
| ငါး | + | ကျီးကန်း | ငါးကျီးကန်း |
| တောင် | + | ကလပ် | တောင်ကလပ် |

(ဃ) နောက်၌ရှိသော ကြိယာပုဒ်သည် ရှေ့၌ရှိသော နာမ်ပုဒ်ကို နာမဝိသေသနအဖြစ် အထူးပြုသည်။

**သာဓက**။ ။

| **နာမ်** | **+** | **ကြိယာ** | **ပေါင်းစပ်နာမ်** |
|---|---|---|---|
| ကိန်း | + | ရော | ကိန်းရော |
| ဇာတ် | + | မြူး | ဇာတ်မြူး |
| ဝါး | + | ခြမ်း | ဝါးခြမ်း |

(င) နောက်၌ရှိသော နာမဝိသေသနပုဒ်သည် ရှေ့၌ရှိသော နာမ်ပုဒ်ကို အထူးပြုသည်။

**သာဓက**။ ။

| **နာမ်** | **+** | **နဝိ** | **ပေါင်းစပ်နာမ်** |
|---|---|---|---|
| ကျောက် | + | စိမ်း | ကျောက်စိမ်း |
| စင် | + | မြင့် | စင်မြင့် |
| ဆရာ | + | ကောင်း | ဆရာကောင်း |

၉၄။ **ဆန့်ကျင်ပေါင်းစပ်ခြင်း**။ ။ ဆန့်ကျင်ပေါင်းစပ်ခြင်းဆိုသည်မှာ **အနက်ဆန့်ကျင်သော** ဝါစင်္ဂတို့ကို ယှဉ်တွဲပေါင်းစပ်ခြင်းဖြစ်သည်။

(က) အနက်ဆန့်ကျင်သော ကြိယာပုဒ်တို့ကို ယှဉ်တွဲပေါင်းစပ်လေ့ရှိသည်။

**သာဓက**။ ။

| **ကြိယာ** | **+** | **ကြိယာ** | **ပေါင်းစပ်ကြိယာ** |
|---|---|---|---|
| ရောင်း | + | ဝယ် | ရောင်းဝယ် |

| | | | |
|---|---|---|---|
| သွား | + | လာ | သွားလာ |
| ဝင် | + | ထွက် | ဝင်ထွက် |

( ခ ) **တွဲဖက်ရိုးဖြစ်သော လိင်မတူနာမ်ပုဒ်** တို့ကို ယှဉ်တွဲပေါင်းစပ်လေ့ရှိသည်။
**သာဓက**။ ။

| **နာမ်** | **+** | **နာမ်** | **ပေါင်းစပ်နာမ်** |
|---|---|---|---|
| မိ | + | ဘ | မိဘ |
| သား | + | သမီး | သားသမီး |
| လင် | + | မယား | လင်မယား |

၉၅။ **ဆင်တူပေါင်းစပ်ခြင်း**။ ။ ဆင်တူပေါင်းစပ်ခြင်းဆိုသည်မှာ **အနက်ဆင်တူသော** ဝါစင်္ဂတို့ကို ယှဉ်တွဲပေါင်းစပ်ခြင်းဖြစ်သည်။

(က) **အနက်ဆင်တူသော** ကြိယာပုဒ်တို့ကို ယှဉ်တွဲပေါင်းစပ်လေ့ရှိသည်။
**သာဓက**။ ။

| **ကြိယာ** | **+** | **ကြိယာ** | **ပေါင်းစပ်ကြိယာ** |
|---|---|---|---|
| ပိုင်း | + | ဖြတ် | ပိုင်းဖြတ် |
| ကာ | + | ကွယ် | ကာကွယ် |
| ရပ် | + | တန့် | ရပ်တန့် |

( ခ ) **အနက်ဆင်တူသော** နာမ်ပုဒ်တို့ကို ယှဉ်တွဲပေါင်းစပ်လေ့ရှိသည်။
**သာဓက**။ ။

| **နာမ်** | **+** | **နာမ်** | **ပေါင်းစပ်နာမ်** |
|---|---|---|---|
| ပွဲ | + | သဘင် | ပွဲသဘင် |
| အမျက် | + | ဒေါသ | အမျက်ဒေါသ |
| ခန္ဓာ | + | ကိုယ် | ခန္ဓာကိုယ် |

၉၆။ **ထောက်ပံ့ပေါင်းစပ်ခြင်း** ။ ။ ထောက်ပံ့ပေါင်းစပ်ခြင်းဆိုသည်မှာ အနက်အဓိပ္ပာယ်ကို ထင်ရှားလေးနက်အောင် ကြိယာအချင်းချင်း ထောက်ပံ့ခြင်းအားဖြင့် ယှဉ်တွဲပေါင်းစပ်ခြင်းဖြစ်သည်။

**သာဓက**။ ။

| **ကြိယာ** | **+** | **ကြိယာ** | **ပေါင်းစပ်ကြိယာ** |
|---|---|---|---|
| သင် | + | ပြ | သင်ပြ |
| ရှင်း | + | ပြ | ရှင်းပြ |
| ရေး | + | သား | ရေးသား |
| ယူ | + | ဆောင် | ယူဆောင် |
| သယ် | + | ယူ | သယ်ယူ |
| လိုက် | + | ရှာ | လိုက်ရှာ |
| ပေး | + | ပို့ | ပေးပို့ |

၉၇။ **အနက်ပွားပေါင်းစပ်ခြင်း**။ ။ အနက်ပွားပေါင်းစပ်ခြင်းဆိုသည်မှာ မူလ အနက်တစ်ခု သာမက ဆင့်ပွားအနက်တစ်ခုကိုပါ ပေးစွမ်းနိုင်သော ပေါင်းစပ်ခြင်းဖြစ်သည်။

**သာဓက**။ ။

| **နာမ်** | **+** | **နဝိ** | **မူလအနက်** | **ဆင့်ပွားအနက်** |
|---|---|---|---|---|
| နှာ | + | စေး | အအေးမိ၍နှာခေါင်းပိတ်သည်။ | မသိဟန်ပြုသည်။ |

| **နာမ်** | **+** | **ကြိယာ** | **မူလအနက်** | **ဆင့်ပွားအနက်** |
|---|---|---|---|---|
| စာ | + | ဖွဲ့ | စာစီကုံးရေးသားသည်။ | ချီးကျူးပြောဆိုသည်။ |

| **နာမ်** | **+** | **နဝိ** | **+** | **နာမ်** | **မူလအနက်** | **ဆင့်ပွားအနက်** |
|---|---|---|---|---|---|---|
| ဟင်း | + | လေး | + | အိုး | ဟင်းမျိုးစုံရောပြွမ်း ချက်ထားသောအိုး | ဗဟုသုတ ကြွယ်ဝသူ |

| **နာမ်** | **+** | **နာမ်** | **မူလအနက်** | **ဆင့်ပွားအနက်** |
|---|---|---|---|---|
| သကြီးန် | + | အမြောက် | သကြီးန်ကျသော အခါအဆန်မပါဘဲ ပစ်ဖောက်သော အမြောက် | ကျယ်လောင်စွာ ကြွားဝါ ပြောသော်လည်း ပြောသည့် အတိုင်းဖြစ်မြောက်အောင် မဆောင်ရွက်သူ |

၉၈။ **ပစ္စည်းရောပုဒ်**။ ။ သီးခြားစကားလုံးတစ်လုံးနှင့် အကူစကားလုံးရောနှောထားသည့်ပုဒ်ကို **ပစ္စည်းရောပုဒ်**ဟု ခေါ်သည်။

**သာဓက**။ ။

| | |
|---|---|
| အကောင်း | (အ + ကောင်း) |
| ကောင်းမှု | (ကောင်း + မှု) |
| အမြန် | (အ + မြန်) |
| ရှိသေစွာ | (ရှိသေ + စွာ) |
| တရှိတသေ | (တ + ရှိ + တ + သေ) |
| တိတ်တဆိတ် | (တိတ် + တ + ဆိတ်) |
| ကျန်းမာရေး | (ကျန်းမာ + ရေး) |
| ရည်မှန်းချက် | (ရည်မှန်း + ချက်) |
| အပေါင်းအသင်း | (အ + ပေါင်း + အ + သင်း) |

၉၉။ ပစ္စည်းရောပုဒ်တစ်ခုတွင်ပါဝင်သော ဝါစင်္ဂအမျိုးအစားတို့ကို ဖွဲ့စည်းပုံအရ လေ့လာနိုင်သည်။ ပစ္စည်းရောပုဒ်တစ်ခုဖြစ်လာစေရန် ကြိယာပုဒ်တစ်ခုကိုဖြစ်စေ၊ နာမဝိသေသနပုဒ်တစ်ခုကိုဖြစ်စေ ပစ္စည်းဆက်ရသည်။ ပစ္စည်းဆက်ရာ၌ ကြိယာပုဒ်၊ နာမဝိသေသနပုဒ်တို့၏ ရှေ့၌ဖြစ်စေ၊ နောက်၌ဖြစ်စေ၊ ကြား၌ဖြစ်စေထား၍ ဆက်နိုင်သည်။

(က) **ကြိယာပုဒ်နှင့်ပစ္စည်းရောပုဒ်ဖွဲ့ခြင်း**

(၁) **အ၊ တ၊ မ**တို့သည် ကြိယာပုဒ်၏ရှေ့တွင် ဆက်နိုင်သော ပစ္စည်းများ ဖြစ်ကြသည်။ **အ၊ တ၊ မ** တို့ကို ဆက်လိုက်သောအခါ **ကြိယာနာမ်၊ ကြိယာဝိသေသန** ဖြစ်လာသည်။

**သာဓက**။ ။

| **ပစ္စည်း** | **+** | **ကြိယာ** | **ပစ္စည်းရောပုဒ်** (ကြိယာနာမ်) |
|---|---|---|---|
| အ | + | စား | အစား |

| | | | |
|---|---|---|---|
| အ | + | လုပ် | အလုပ် |
| အ | + | သွား | အသွား |
| အ | + | ပြော | အပြော |

| **ပစ္စည်း** | **+** | **ကြိယာ** | **ပစ္စည်းရောပုဒ်** (ကြိဝိ) |
|---|---|---|---|
| အ | + | လွန် | အလွန် |
| အ | + | ပိုင် | အပိုင် |
| တ | + | လွဲ | တလွဲ |
| တ | + | ခြား | တခြား |
| မ | + | ပြတ် | မပြတ် |

(၂) **ခြင်း၊ မှု၊ ရေး၊ ချက်၊ ဖွယ်၊ စရာ၊ စွာ** တို့သည် ကြိယာပုဒ်၏ နောက်၌ ဆက်နိုင်သောပစ္စည်းများဖြစ်ကြသည်။ ဆက်လိုက်သော အခါ **ကြိယာနာမ်၊ ကြိယာဝိသေသန** ဖြစ်လာသည်။

**သာဓက**။ ။

| **ကြိယာ** | **+** | **ပစ္စည်း** | **ပစ္စည်းရောပုဒ်** (ကြိယာနာမ်) |
|---|---|---|---|
| ကျန်းမာ | + | ခြင်း | ကျန်းမာခြင်း |
| ကျန်းမာ | + | မှု | ကျန်းမာမှု |
| ကျန်းမာ | + | ရေး | ကျန်းမာရေး |
| ဆုံးဖြတ် | + | ချက် | ဆုံးဖြတ်ချက် |
| စား | + | ဖွယ် | စားဖွယ် |
| စား | + | စရာ | စားစရာ |

| **ကြိယာ** | **+** | **ပစ္စည်း** | **ပစ္စည်းရောပုဒ်** (ကြိဝိ) |
|---|---|---|---|
| လေးစား | + | စွာ | လေးစားစွာ |
| ရိုသေ | + | စွာ | ရိုသေစွာ |
| ခင်မင် | + | စွာ | ခင်မင်စွာ |

(၃) **တ**သည် ပေါင်းစပ်ကြိယာပုဒ်တစ်ခု၌ပါဝင်သော စကားလုံးတို့၏ကြားတွင် ဆက်နိုင်သည့် **ပစ္စည်း**ဖြစ်သည်။ ဆက်လိုက်သောအခါ **ကြိယာဝိသေသန** ဖြစ်လာသည်။

**သာဓက**။ ။

| **ကြိယာ** | **+** | **ပစ္စည်း** | **ပစ္စည်းရောပုဒ်** (ကြိဝိ) |
|---|---|---|---|
| သတိရ | + | –တ– | သတိတရ |
| စနစ်ကျ | + | –တ– | စနစ်တကျ |
| လောဘကြီး | + | –တ– | လောဘတကြီး |

(၄) **အ–အ၊ က–က၊ တ–တ၊ ပ–ပ၊ မ–မ** ဟူသော ပစ္စည်းတို့သည် ပေါင်းစပ်ကြိယာပုဒ်တစ်ခု၌ ပါဝင်သောစကားလုံးတို့၏ ရှေ့နှင့်ကြား၌ ဆက်နိုင်သည်။ ဆက်လိုက်သောအခါ **ကြိယာနာမ်၊ ကြိယာဝိသေသန** ဖြစ်လာသည်။

**သာဓက**။ ။

| **ကြိယာ** | **+** | **ပစ္စည်း** | **ပစ္စည်းရောပုဒ်** (ကြိယာနာမ်) |
|---|---|---|---|
| ကျွေးမွေး | + | အ–အ | အကျွေးအမွေး |
| ကြွင်းကျန် | + | အ–အ | အကြွင်းအကျန် |
| ပေါင်းသင်း | + | အ–အ | အပေါင်းအသင်း |

| **ကြိယာ** | **+** | **ပစ္စည်း** | **ပစ္စည်းရောပုဒ်** (ကြိဝိ) |
|---|---|---|---|
| ပိုင်နိုင် | + | အ–အ | အပိုင်အနိုင် |
| လုယက် | + | အ–အ | အလုအယက် |
| သင့်တင့် | + | အ–အ | အသင့်အတင့် |

| **ကြိယာ** | **+** | **ပစ္စည်း** | **ပစ္စည်းရောပုဒ်** (ကြိဝိ) |
|---|---|---|---|
| လေလွင့် | + | က–က | ကလေကလွင့် |
| တုန်ယင် | + | က–က | ကတုန်ကယင် |
| ပြက်ချော် | + | က–က | ကပြက်ကချော် |

| **ကြိယာ** | **+** | **ပစ္စည်း** | **ပစ္စည်းရောပုဒ်** (ကြိဝိ) |
|---|---|---|---|
| ကွဲပြား | + | တ–တ | တကွဲတပြား |
| စုဝေး | + | တ–တ | တစုတဝေး |
| လူးလဲ | + | ပ–ပ | ပလူးပလဲ |
| ပြုပြင် | + | မ–မ | မပြုမပြင် |
| မောပန်း | + | မ–မ | မမောမပန်း |

(၅) **အ–အ၊ အ–တ၊ တ–တ၊ မ–မ** တို့ကို စကားသံနှစ်သံပါရှိသောကြိယာပုဒ်တို့၏ ရှေ့နှင့်ကြား၌ ဆက်နိုင်သည်။ ဆက်လိုက်သောအခါ **ကြိယာဝိသေသန** ဖြစ်လာသည်။

**သာဓက**။ ။

| **ကြိယာ** | **+** | **ပစ္စည်း** | **ပစ္စည်းရောပုဒ်** (ကြိဝိ) |
|---|---|---|---|
| သေချာ | + | အ–အ | အသေအချာ |

| **ကြိယာ** | **+** | **ပစ္စည်း** | **ပစ္စည်းရောပုဒ်** (ကြိဝိ) |
|---|---|---|---|
| မြတ်နိုး | + | အ–တ | အမြတ်တနိုး |

| | | | |
|---|---|---|---|
| လန့်ကြား | + | အ–တ | အလန့်တကြား |
| **ကြိယာ** | **+** | **ပစ္စည်း** | **ပစ္စည်းရောပုဒ်** (ကြိဝိ) |
| ရှိသေ | + | တ–တ | တရှိတသေ |
| ပင်ပန်း | + | တ–တ | တပင်တပန်း |
| **ကြိယာ** | **+** | **ပစ္စည်း** | **ပစ္စည်းရောပုဒ်** (ကြိဝိ) |
| ရှိသေ | + | မ–မ | မရှိမသေ |
| ပင်ပန်း | + | မ–မ | မပင်မပန်း |
| ဆင်ခြင် | + | မ–မ | မဆင်မခြင် |

(၆) အချို့ကြိယာပုဒ်ရိုးကို နှစ်ထပ်ပြု၍ **မ–တ**ကို ရှေ့နှင့်ကြား၌ ဆက်လိုက်သောအခါ **ကြိယာဝိသေသန**ဖြစ်လာသည်။

**သာဓက**။ ။

| | | | |
|---|---|---|---|
| **ကြိယာ** | **+** | **ပစ္စည်း** | **ပစ္စည်းရောပုဒ်** (ကြိဝိ) |
| လှုပ် | + | မ–တ | မလှုပ်တလှုပ် |
| ကျက် | + | မ–တ | မကျက်တကျက် |
| ဝ | + | မ–တ | မဝတဝ |

**(ခ) နာမဝိသေသနပုဒ်နှင့် ပစ္စည်းရောပုဒ်ဖွဲ့ခြင်း**

(၁) **အ၊ တ** ဟူသောပစ္စည်းတို့ကို နာမဝိသေသနပုဒ်အချို့၏ရှေ့တွင် ဆက်နိုင်သည်။ ဆက်လိုက်သောအခါ **ဂုဏ်ရည်ပြနာမ်၊ ကြိယာဝိသေသန** ဖြစ်လာသည်။

**သာဓက**။ ။

| | | | |
|---|---|---|---|
| **ပစ္စည်း** | **+** | **နဝိ** | **ပစ္စည်းရောပုဒ်** (ဂုဏ်ရည်ပြနာမ်) |
| အ | + | ချို | အချို |
| အ | + | ကောင်း | အကောင်း |
| အ | + | မြတ် | အမြတ် |
| အ | + | ပူ | အပူ |
| **ပစ္စည်း** | **+** | **နဝိ** | **ပစ္စည်းရောပုဒ်** (ကြိဝိ) |
| အ | + | မြန် | အမြန် |
| အ | + | ဝ | အဝ |
| တ | + | ဝ | တဝ |
| တ | + | စောင်း | တစောင်း |

(၂) **ခြင်း၊ မှု၊ ရေး၊ စရာ၊ ချက်၊ စွာ** ဟူသောပစ္စည်းတို့ကို ဆက်နိုင်သည်။ ဆက်လိုက်သောအခါ **ဂုဏ်ရည်ပြနာမ်၊ ကြိယာဝိသေသန** ဖြစ်လာသည်။

**သာဓက**။ ။

| **နဝိ** | **+** | **ပစ္စည်း** | **ပစ္စည်းရောပုဒ်** (ဂုဏ်ရည်ပြနာမ်) |
|---|---|---|---|
| ဖြောင့်မတ် | + | ခြင်း | ဖြောင့်မတ်ခြင်း |
| တည်ငြိမ် | + | မှု | တည်ငြိမ်မှု |
| ငြိမ်းချမ်း | + | ရေး | ငြိမ်းချမ်းရေး |
| ပူ | + | စရာ | ပူစရာ |
| ဖြောင့် | + | ချက် | ဖြောင့်ချက် |

| **နဝိ** | **+** | **ပစ္စည်း** | **ပစ္စည်းရောပုဒ်** (ကြိဝိ) |
|---|---|---|---|
| ကောင်း | + | စွာ | ကောင်းစွာ |
| လျင်မြန် | + | စွာ | လျင်မြန်စွာ |
| အေးချမ်း | + | စွာ | အေးချမ်းစွာ |

(၃) **အ–အ၊ အ–တ၊ မ–တ၊** ဟူသောပစ္စည်းတို့ကို ပေါင်းစပ်နာမဝိသေသနပုဒ်အချို့၌ ပါဝင်သော စကားလုံးတို့၏ ရှေ့နှင့်ကြား၌ဆက်နိုင်သည်။ ဆက်လိုက်သောအခါ **ဂုဏ်ရည်ပြနာမ်၊ ကြိယာဝိသေသန** ဖြစ်လာသည်။

**သာဓက**။ ။

| **နဝိ** | **+** | **ပစ္စည်း** | **ပစ္စည်းရောပုဒ်** (ဂုဏ်ရည်ပြနာမ်) |
|---|---|---|---|
| ကောက်ကွေ့ | + | အ –အ | အကောက်အကွေ့ |
| ထူးဆန်း | + | အ –အ | အထူးအဆန်း |
| ကောင်းမွန် | + | အ –အ | အကောင်းအမွန် |

| **နဝိ** | **+** | **ပစ္စည်း** | **ပစ္စည်းရောပုဒ်** (ကြိဝိ) |
|---|---|---|---|
| ခိုင်မာ | + | အ –အ | အခိုင်အမာ |
| ပြည့်ဝ | + | အ –အ | အပြည့်အဝ |
| ကြီးကျယ် | + | အ –အ | အကြီးအကျယ် |

| **နဝိ** | **+** | **ပစ္စည်း** | **ပစ္စည်းရောပုဒ်** (ကြိဝိ) |
|---|---|---|---|
| ဆန်းကြယ် | + | အ –တ | အဆန်းတကြယ် |
| ပူပြင်း | + | အ –တ | အပူတပြင်း |
| ကျော်စော | + | အ –တ | အကျော်တစော |

(၄) အချို့နာမဝိသေသနပုဒ်ရိုးကို နှစ်ထပ်ပြု၍ မ–တကို ရှေ့နှင့်ကြား၌ ဆက်လိုက်သောအခါ **ကြိယာဝိသေသန** ဖြစ်လာသည်။

**သာဓက**။ ။

| **နဝိ** | **+** | **ပစ္စည်း** | **ပစ္စည်းရောပုဒ်** (ကြိဝိ) |
|---|---|---|---|
| ရဲ | + | မ–တ | မရဲတရဲ |
| ကောင်း | + | မ–တ | မကောင်းတကောင်း |
| ဝ | + | မ–တ | မဝတဝ |

၁၀၀။ အထက်ဖော်ပြပါ သာဓကများအရ ပစ္စည်းရောပုဒ်ဖွဲ့ရာ၌ ကြိယာပုဒ်နှင့် နာမဝိသေသနပုဒ်တို့သည် အခြေခံအစိတ်အပိုင်းများဖြစ်သည်ကို တွေ့ရသည်။ ပစ္စည်းများမှာမူ ကြိယာပုဒ်၊ နာမဝိသေသနပုဒ်တို့ကို ပစ္စည်းရောပုဒ်ဖြစ်အောင် ဖန်တီးနိုင်၍ ဝါစင်္ပြောင်းလဲစေနိုင်သော အထောက်အပံ့စကားလုံးများဖြစ်သည်ကို တွေ့ရသည်။

ပစ္စည်းရောပုဒ်ဖြစ်အောင် ဖန်တီးနိုင်သော ပစ္စည်းတို့ကို **ပုဒ်ပြောင်းပစ္စည်း** ဟုခေါ်သည်။

၁၀၁။ ပုဒ်ပြောင်းပစ္စည်းတွင် **နာမ်ပုဒ်ပြောင်းပစ္စည်း**နှင့် **ကြိယာဝိသေသနပုဒ်ပြောင်းပစ္စည်း** ဟူ၍ နှစ်မျိုးရှိသည်ကို တွေ့ရသည်။

၁၀၂။ **နာမ်ပုဒ်ပြောင်းပစ္စည်း**သည် ကြိယာပုဒ်ကို ကြိယာနာမ်ပုဒ်သို့လည်းကောင်း၊ နာမဝိသေသနပုဒ်ကို ဂုဏ်ရည်ပြနာမ်ပုဒ်သို့လည်းကောင်း ပြောင်းလဲစေသည်။

၁၀၃။ နာမ်ပုဒ်ပြောင်းပစ္စည်းများမှာ (အ)၊ (ခြင်း၊ မှု၊ ရေး၊ ဖွယ်၊ စရာ၊ ချက်)နှင့် (အ–အ) တို့ဖြစ်ကြသည်။

၁၀၄။ **ကြိယာဝိသေသနပုဒ်ပြောင်းပစ္စည်း**သည် ကြိယာပုဒ်ကို ကြိယာဝိသေသနပုဒ်သို့လည်းကောင်း၊ နာမဝိသေသနပုဒ်ကို ကြိယာဝိသေသနပုဒ်သို့လည်းကောင်း ပြောင်းလဲစေသည်။

၁၀၅။ ကြိယာဝိသေသန ပုဒ်ပြောင်းပစ္စည်းများမှာ (အ–၊ တ–၊ မ–) (–စွာ)၊ (–တ–) နှင့် (အ–အ)၊ (တ–တ)၊ (အ–တ)၊ (မ–တ)၊ (က–က)၊ (ပ–ပ)၊ (မ–မ)တို့ ဖြစ်ကြသည်။

၁၀၆။ (အ)နှင့် (အ–အ)သည် ပုဒ်ပြောင်းပစ္စည်း ၂ မျိုးစလုံး၏တာဝန်ကို ထမ်းဆောင်နိုင်သည်ကို တွေ့ရမည်။

၁၀၇။ **ဝိဘတ်သွယ်ပုဒ်။ ။** ဝိဘတ်တစ်ခုခုနှင့် ဆက်သွယ်ထားသောပုဒ်ကို **ဝိဘတ်သွယ်ပုဒ်**ဟုခေါ်သည်။

**သာဓက**။ ။

| **ဝိဘတ်သွယ်ပုဒ်** | **နာမ်** | **+** | **ဝိဘတ်** |
|---|---|---|---|
| မောင်မောင်သည် | (မောင်မောင် | + | သည်) |
| စာအုပ်ကို | (စာအုပ် | + | ကို) |
| ဆရာအား | (ဆရာ | + | အား) |
| မနေ့က | (မနေ့ | + | က) |
| သူငယ်ချင်းနှင့်အတူ | (သူငယ်ချင်း | + | နှင့်အတူ) |
| နံနက်တိုင်း | (နံနက် | + | တိုင်း) |

| | | | |
|---|---|---|---|
| မိသားစုတွင် | (မိသားစု | + | တွင်) |
| **ဝိဘတ်သွယ်ပုဒ်** | **နာမ်စား** | **+** | **ဝိဘတ်** |
| သူ၏ | (သူ | + | ၏) |
| ငါသည် | (ငါ | + | သည်) |
| မင်းကို | (မင်း | + | ကို) |
| **ဝိဘတ်သွယ်ပုဒ်** | **ကြိယာ** | **+** | **ဝိဘတ်** |
| ပေး၏ | (ပေး | + | ၏) |
| စား၏ | (စား | + | ၏) |
| ဖြစ်သည် | (ဖြစ် | + | သည်) |
| မိုးရွာ၏ | (မိုးရွာ | + | ၏) |
| လာမည် | (လာ | + | မည်) |
| နားထောင်လော့ | (နားထောင် | + | လော့) |
| ကျန်းမာပါစေ | (ကျန်းမာ | + | ပါစေ) |
| ပြန်ပါရစေ | (ပြန် | + | ပါရစေ) |
| လွတ်စေ | (လွတ် | + | စေ) |

၁၀၈။ ဝိဘတ်သွယ်ပုဒ်တစ်ခုဖြစ်လာစေရန် နာမ်ပုဒ်၊ နာမ်စားပုဒ်၊ ကြိယာပုဒ်တစ်ခုခုကို ဝိဘတ်သွယ်ရသည်။ ထိုသို့ ဝိဘတ်သွယ်ရာ၌ ဝိဘတ်ကို နာမ်ပုဒ်၊ နာမ်စားပုဒ်၊ ကြိယာပုဒ်တို့၏နောက်၌ထားရသည်။

၁၀၉။ ဝိဘတ်သွယ်ပုဒ်အသီးသီး၏ ဝါကျတွင်းလုပ်ငန်းတာဝန်ကို ဤသို့လေ့လာနိုင်သည်။

(က) **နာမ်ပုဒ်၊ နာမ်စားပုဒ်နှင့် ဝိဘတ်သွယ်ပုဒ်ဖွဲ့ခြင်း**

(၁) နာမ်ပုဒ်၊ နာမ်စားပုဒ်တို့နောက်တွင် ဆက်ထားသော ဝိဘတ်တို့သည် ၎င်းတို့နှင့် ဆက်နေသည့်နာမ်ပုဒ်၊ နာမ်စားပုဒ်တို့၏ ဝါကျတွင်းလုပ်ငန်းတာဝန်ကို ဝေဖန်ပိုင်းခြားပြသည်။

**သာဓက**။ ။

| **ကတ္တားပုဒ်** | **ကံပုဒ်** | **လက်ခံပြပုဒ်** | **ကြိယာပုဒ်** |
|---|---|---|---|
| မောင်မောင်သည် | စာအုပ်ကို | ဆရာအား | ပေး၏။ |

| **ကတ္တားပုဒ်** | **နေရာပြပုဒ်** | **ကံပုဒ်** | **လက်ခံပြပုဒ်** | **ကြိယာပုဒ်** |
|---|---|---|---|---|
| မောင်မောင်သည် | စားပွဲပေါ်က | စာအုပ်ကို | ဆရာအား | ပေး၏။ |

| **ကတ္တားပုဒ်** | **အချိန်ပြပုဒ်** | **ကံပုဒ်** | **ကြိယာပုဒ်** |
|---|---|---|---|
| မောင်မောင်သည် | မနေ့က | ပေါင်မုန့်ကို | စား၏။ |

| **ကတ္တားပုဒ်** | **ပိုင်ဆိုင်ခြင်းပြပုဒ်** | **ယှဉ်တွဲပြပုဒ်** | **အချိန်ပြပုဒ်** | **ကြိယာပုဒ်** |
|---|---|---|---|---|
| မောင်မောင်သည် | သူ၏ | သူငယ်ချင်းနှင့်အတူ | နံနက်တိုင်း | လမ်းလျှောက်၏။ |

| **ကတ္တားပုဒ်** | **အချိန်ပြပုဒ်** | **နေရာပြပုဒ်** | **ကြိယာပုဒ်** |
|---|---|---|---|
| မောင်မောင်သည် | ကျောင်းပိတ်ရက်တွင် | စက်ရုံ၌ | လုပ်အားပေးမည်။ |

**ကတ္တားပုဒ်** **ပိုင်ဆိုင်ခြင်းပြပုဒ်** **ခွဲထုတ်ရာပြပုဒ်** **အဖြည့်ခံကတ္တားပုဒ်** **ကြိယာပုဒ်**
မောင်မောင်သည် သူ၏ မိသားစုတွင် အကြီးဆုံး ဖြစ်၏။

(၂) ဝိဘတ်ဆက်ထားသော နာမ်ပုဒ်များအနက် အချို့နာမ်ပုဒ် (နေရာပြပုဒ်၊ အချိန်ပြပုဒ်၊ ပိုင်ဆိုင်ခြင်းပြပုဒ်)တို့သည် နောက်ကနာမ်ပုဒ်ကို နာမဝိသေသနအဖြစ် အထူးပြုသည်။

**သာဓက**။ ။
စားပွဲပေါ်က စာအုပ်ကို
မနေ့က ပေါင်မုန့်ကို
သူ၏ သူငယ်ချင်းနှင့်အတူ

(၃) ဝိဘတ်ဆက်ထားသော နာမ်ပုဒ်များအနက် ကြိယာပုဒ်နှင့် ကပ်လျက်ရှိသော အချို့နာမ်ပုဒ် (**အသုံးခံပြပုဒ်၊ အချိန်ပြပုဒ်၊ နေရာပြပုဒ်**)တို့သည် နောက်က ကြိယာပုဒ်ကို ကြိယာဝိသေသနအဖြစ် အထူးပြုသည်။

**သာဓက**။ ။
စက်ဘီးဖြင့် သွားသည်။
နံနက်တိုင်းလမ်းလျှောက်သည်။
စက်ရုံ၌ လုပ်အားပေးမည်။

(ခ) **ကြိယာပုဒ်နှင့် ဝိဘတ်သွယ်ပုဒ်ဖွဲ့ခြင်း**
ကြိယာပုဒ်တို့၏နောက်တွင် ဆက်ထားသောဝိဘတ်တို့သည် ၎င်းတို့နှင့်ဆက်နေသည့် ကြိယာပုဒ်တို့၏ကာလကိုလည်းကောင်း၊ ဝါကျအမျိုးအစားကိုလည်းကောင်း ပိုင်းခြားပြသည်။

**သာဓက**။ ။
– ဦးဘသည် ကျောင်းဆရာကြီး **ဖြစ်သည်/၏။** (ပစ္စုပ္ပန်ကာလ)
– မနေ့က မိုး **ရွာ သည်/၏။** (အတိတ်ကာလ)
– မနက်ဖြန် **သူလာမည်။** (အနာဂတ်ကာလ)
– ဆရာ့စကားကို **နားထောင်လော့**။ (စေခိုင်း)
– ဖေဖေ မေမေ **ကျန်းမာပါစေ**။ (ဆုတောင်း)
– ကျွန်တော် အိမ် **ပြန်ပါရစေ**။ (ခွင့်ပန်)
– ဤအမှုမှ **လွတ်စေ**။ (အမိန့်ပေး)

# အပိုင်း ၃

## ဝါကျ

- အခြေခံပညာအလယ်တန်းနှင့် အခြေခံပညာအထက်တန်းတို့တွင် ကျောင်းသားကျောင်းသူများ အလွယ်တကူ နားလည်သဘောပေါက်စေရန် ရည်သန်လျက် သာဓကဝါကျများကို တည်ဆောက်၍ ရှင်းလင်းထားသည်။
- ဤတွင်မူ တည်ဆောက်ဝါကျများထက် စာပေကျမ်းဂန်များမှ ထုတ်နုတ်သော သာဓကဝါကျများကို အဓိကထား၍ ခွဲခြမ်းစိတ်ဖြာခြင်းဖြင့် ရှင်းလင်းထားသည်။ အပြောစကားမှ သာဓကဝါကျအချို့ကိုလည်း လိုအပ်သည့်နေရာတွင် အသုံးပြုထားသည်။
- ဤအပိုင်းကို လေ့လာခြင်းဖြင့် မြန်မာဘာသာစကား၏ ဝါကျဖွဲ့ထုံးစနစ်ကို ခြုံငုံသိရှိနိုင်သည်။

**ဝါကျ**

၁၁၀။ ဆိုလိုသည့်အဓိပ္ပာယ်ရောက်အောင် စနစ်တကျစီစဉ်ထားသော ပုဒ်အစုအပေါင်းကို **ဝါကျ** ဟု ခေါ်သည်၊

၁၁၁။ မြန်မာဘာသာစကားတွင် ဖွဲ့စည်းတည်ဆောက်ပုံအရ ဝါကျများကို အမျိုးအစားခွဲလျှင် နှစ်မျိုးရသည်။ ၎င်းတို့မှာ–

(က) ဝါကျရိုး

(ခ) ဝါကျရောတို့ဖြစ်သည်။

၁၁၂။ **ဝါကျရိုး**။ ။ ဝါကျရိုးတွင် ကတ္တားပုဒ်နှင့် ကြိယာပုဒ်ဟူ၍ အခြေခံပုဒ်နှစ်ပုဒ်ပါဝင်သည်။

**သာဓက**။ ။

| **ကတ္တားပုဒ်** | **ကြိယာပုဒ်** |
|---|---|
| (က) ရထား | ဆိုက်ပြီ။ |
| (ခ) သူ | အိပ်နေ၏။ |
| (ဂ) ရာသီဥတု | သာယာသည်။ |

၁၁၃။ ရှေ့စကားကိုမှီ၍ ဆိုလိုရင်းအဓိပ္ပာယ်ကို နားလည်နိုင်သော ဝါကျများတွင် ပုဒ်တစ်ခုတည်းဖြင့် ဖွဲ့စည်းနိုင်သည်။

(က) ကြိယာပုဒ်တစ်ခုတည်းဖြင့် ဖွဲ့စည်းနိုင်သည်။

**သာဓက**။ ။

(၁) စားမလား။

(၂) မစားချင်ဘူး။

(၃) စားလိုက်ပါဦး။

(၄) ချမ်းသာကြပါစေ။

( ခ ) နာမ်ပုဒ်တစ်ခုတည်းဖြင့် ဖွဲ့စည်းနိုင်သည်။

**သာဓက**။ ။

(၁) (သူကဘယ်သူလဲ။) မောင်မောင်။

(၂) (ဘယ်မြို့ကလဲ။) မြစ်ကြီးနားက။

(၃) (ဘာရထားနဲ့လာသလဲ။)အမြန်ရထားနဲ့။

(၄) (ဘယ်လဲ။) ဈေးကို။

(၅) (ဘယ်တော့ပြန်ဆုံကြဦးမလဲ။) စနေနေ့ညနေ။

(၆) (သူကဘယ်သူ့သမီးလဲ။) ဦးဘိုးချစ်သမီး။

၁၁၄။ ရှေ့စကားကို မှီ၍ ဆိုလိုရင်းအဓိပ္ပာယ်ကို နားလည်နိုင်သည့် ဝါကျများတွင် ပုဒ်နှစ်ခု၊ သုံးခုစသည်ဖြင့် ဖွဲ့စည်းနိုင်သည်။

(က) ကြိယာပုဒ်တစ်ခုနှင့် အထူးဖော်ပြလိုသော နာမ်ပုဒ်တစ်ခုဖြင့် ဖွဲ့စည်းနိုင်သည်။

**သာဓက**။ ။

| **နာမ်ပုဒ်** | **(ကံ)** | **ကြိယာပုဒ်** |
|---|---|---|
| (၁) | အမှိုက် | မပုံရ။ |
| (၂) | ကြော်ငြာ | မကပ်ရ။ |
| (၃) | အိပ်ရာ | သိမ်း။ |
| (၄) | သွား | တိုက်။ |
| (၅) | အငှားကား | စီးသွားပါလား။ |
| (၆) | ထမင်း | စားပါဦး။ |

| **နာမ်ပုဒ်** | **(နေရာပြ)** | **ကြိယာပုဒ်** |
|---|---|---|
| (၁) | ဘယ်မှာ | နေသလဲ။ |
| (၂) | ထမင်းဆိုင်မှာ | စားမလား။ |
| (၃) | ဒီမှာ | တည်းပါ။ |
| (၄) | မြန်မာပြည်မှာ | လုပ်သည်။ |

(ခ) ကြိယာပုဒ်ကို မြှုပ်၍ နာမ်ပုဒ်၊ နာမ်ပုဒ်စုများဖြင့် ဖွဲ့စည်းနိုင်သည်။

**သာဓက**။ ။

(၁) ထိုပဉ္စောင်ပင် တစ်မူကား အာဠဝက ဘီလူးနေရာတည်း။[၁]

(၂) ငါးပါးသော်ကား–ပေးကမ်းခြင်း၊ ချစ်ဖွယ်သောစကားကိုဆိုခြင်း၊ အကျိုးစီးပွားကိုဆောင်ခြင်း၊ ကိုယ်နှင့်အတူကျင့်ခြင်း၊ မချွတ်မယွင်းခြင်းတည်း။[၂]

(၃) သစ်ပင်၊ သစ်ကိုင်း၊ သစ်ခက်၊ သစ်ညွန့်၊ သစ်ပွင့်၊ သစ်သီးတို့သည်လည်း အဌကလာပ်ရုပ်အစုတို့၏ အရိပ်ကြီးငယ်တို့သာတည်း။[၃]

၁၁၅။ ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခုပါဝင်သော ဝါကျတွင် ထွက်ခွာရာပြပုဒ်၊ ရှေးရှုရာပြပုဒ်၊ အသုံးခံပြပုဒ်စသော နာမ်ပုဒ်တို့ကို လိုအပ်သလို ဖြည့်စွက်ဖွဲ့စည်းနိုင်သည်။

**သာဓက**။ ။

(က) ဦးဘသည် ပြန်လာသည်။

( ခ ) ဦးဘသည် **မန္တလေးမှ** ပြန်လာသည်။

(ဂ) ဦးဘသည် မန္တလေးမှ **ရန်ကုန်သို့** ပြန်လာသည်။
(ဃ) ဦးဘသည် မန္တလေးမှ ရန်ကုန်သို့ **မီးရထားဖြင့်** ပြန်လာသည်။
(င) ဦးဘသည် မန္တလေးမှ ရန်ကုန်သို့ မီးရထားဖြင့် **မနေ့က** ပြန်လာသည်။
(စ) ဦးဘသည် **မောင်မောင်နှင့်အတူ** မန္တလေးမှရန်ကုန်သို့ မီးရထားဖြင့် မနေ့က ပြန်လာသည်။

၁၁၆။ ဝါကျတွင်ပါသော နာမ်ပုဒ်များအနက်မှ အလေးပေးလိုသည့်နာမ်ပုဒ်ကို ဝါကျရှေ့ဆုံး၌ ထား၍ ဖွဲ့စည်းနိုင်သည်။

**သာဓက**။ ။

(က) **ဦးဘသည်** မန္တလေးမှ ပြန်လာသည်။
(ခ) **မန္တလေးမှ** ဦးဘ ပြန်လာသည်။
(ဂ) **အမြန်ရထားဖြင့်** မန္တလေးမှ ဦးဘပြန်လာသည်။
(ဃ) **မနေ့က** မန္တလေးမှ အမြန်ရထားဖြင့် ဦးဘပြန်လာသည်။
(င) **မောင်မောင်နှင့်အတူ** ဦးဘသည် မန္တလေးမှ အမြန်ရထားဖြင့် မနေ့က ပြန်လာသည်။

၁၁၇။ ကတ္တားပုဒ်၊ ကံပုဒ်၊ ထွက်ခွာရာပြပုဒ်အစရှိသော နာမ်ပုဒ်များနှင့် ကြိယာပုဒ်တွင် အထူးပြုပုဒ်များကို ဖြည့်စွက်ဖွဲ့စည်းနိုင်သည်။

**သာဓက**။ ။

(က) ဦးဘသည် မောင်မောင်နှင့်အတူ မန္တလေးမှ ရန်ကုန်သို့ ရထားဖြင့် နံနက်က ပြန်ရောက်လာသည်။
ဖော်ပြပါဝါကျရိုးတွင် ကတ္တားပုဒ်နှင့် ကြိယာပုဒ်တို့အပြင် ယှဉ်တွဲပြပုဒ်၊ ထွက်ခွာရာပြပုဒ်၊ ရှေးရှုရာပြပုဒ်၊ အသုံးခံပြပုဒ်၊ အချိန်ပြပုဒ်များ ပါဝင်သည်။ အဆိုပါဝါကျရိုးတွင် ပါဝင်ဖွဲ့စည်းထားသောပုဒ်တို့၌ အထူးပြုပုဒ်များကို အောက်ပါကဲ့သို့ ဖြည့်စွက်ဖွဲ့စည်းနိုင်သည်။

(ခ) **ပါမောက္ခ** ဦးဘသည် **သား** မောင်မောင်နှင့်အတူ **အထက်** မန္တလေးမှ **မြို့တော်** ရန်ကုန်သို့ **အမြန်** ရထားဖြင့် **မနေ့** နံနက်က **ချောချောမောမော** ပြန်ရောက်လာသည်။
ဖော်ပြပါဝါကျတွင် အထူးပြုပုဒ်များကို စာလုံးမည်းဖြင့်ပြထားသည်။ အခြားသောနာမ်ပုဒ်များတွင်လည်း အထူးပြုပုဒ်များကို ဖြည့်စွက်ဖွဲ့စည်းနိုင်သည်။

၁၁၈။ **ဝါကျရိုးဖွဲ့စည်းပုံနှင့် အနက်အဓိပ္ပာယ်**။ ။ ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခု ပါဝင်သော ဝါကျရိုးတွင် နာမ်ပုဒ်၊ နာမ်စားပုဒ်တို့ကို လိုအပ်သလို ဖြည့်စွက်ဖွဲ့စည်းနိုင်သည်။ ထိုသို့ ဖွဲ့စည်းရာ၌ နာမ်ပုဒ်၊ နာမ်စားပုဒ်တို့၏နောက်တွင် လိုအပ်သော ဝိဘတ်ကို ဆက်ရသည်။ အဆိုပါ ဝိဘတ်တို့သည် ဆိုင်ရာနာမ်ပုဒ်၊ နာမ်စားပုဒ်တို့၏ လုပ်ဆောင်ပုံကို ဝေဖန်ပိုင်းခြားပြသည်။

၁၁၉။ ထိုနည်းအတူ ကြိယာပုဒ်တွင် ဝိဘတ်ဖြစ်စေ၊ ပစ္စည်းဖြစ်စေ၊ ဝိဘတ်နှင့်ပစ္စည်း နှစ်ခုစလုံးဖြစ်စေ ဆက်နိုင်သည်။ ဝိဘတ်သည် ကာလနှင့်ဝါကျအမျိုးအစားကို ခွဲခြားပြသည်။ ပစ္စည်းသည် ဝါကျ၏ အနက်အဓိပ္ပာယ်ကို ကွဲပြားစေသည်။

၁၂၀။ ဝါကျရိုးရှိ ကြိယာများတွင် **သည်၊ ၏၊ မည်၊ လတ္တံ့၊ အံ့** ဟူသော ဝိဘတ်များ ဆက်သောအခါ ပြုခြင်း၊ ဖြစ်ခြင်း၊ ရှိခြင်းကိုပြသော ဝါကျများဖြစ်လာသည်။

**သာဓက**။ ။

(က) တပ်မတော်သားတို့သည် နိုင်ငံအတွက် အသက်ကို ပေးလှူကြ**သည်**။

(ခ) ဆန်စပါးသည် မြန်မာ့ထွက်ကုန်များအနက် အဓိကထွက်ကုန်တစ်ခုဖြစ်**၏**။

(ဂ) မန္တလေးမြို့၌ မြို့ရိုးနှင့်ကျုံးရှိသည်။

(ဃ) ဤအခန်း၌ ဝါကျအကြောင်းကို အကျယ်ဖော်ပြပါမည်။

(င) ဤသူငယ်သည် ဉာဏ်ပညာကြီးလတ္တံ့။

(စ) ဤအမှုကို ပြုလျှင် အကျိုးရှိအံ့။

သာဓက ဝါကျ က၊ ခ၊ ဂ ရှိ ကြိယာတို့တွင် **သည်၊ ၏** ဟူသော ဝိဘတ်များ ဆက်လိုက်သောအခါ ကတ္တား၏ ပြုသည်၊ ဖြစ်သည်၊ ရှိသည်၏အဖြစ်ကိုပြ၍

သာဓက ဝါကျ ဃ၊ င၊ စ ရှိ ကြိယာတို့တွင် **မည်၊ လတ္တံ့၊ အံ့** ဟူသော ဝိဘတ်များ ဆက်လိုက်သောအခါ ကတ္တား၏ ပြုမည့်၊ ဖြစ်မည့်၊ ရှိမည့်အဖြစ်ကို ပြသည်။

၁၂၁။ ပြုခြင်းပြုကြိယာများတွင် ဝိဘတ်ပစ္စည်းမဆက်စေကာမူ အမိန့်ပေးခြင်း၊ စေခိုင်းခြင်းကို ပြသောဝါကျများ ဖြစ်နိုင်သည်။

**သာဓက**။ ။

(က) အတွင်းဝန်မှစ၍ သင်းစုပင်းစုစာရင်းကိုလည်း **သွင်း**။[၆]

(ခ) ရှေးစီရင်ထုံးနှင့်အညီ ကွပ်ညှပ်**စီရင်**။[၇]

(ဂ) ဒိုင်းခေါင်းအဝှန်း ထောင်ကဲပဲ့နင်းတို့ကို မြေနန်းတော်တွင် သစ္စာတော်**ပေး**။[၈]

၁၂၂။ ပြုခြင်းပြုကြိယာများ၌ **လော့၊ ပါလော့** ဟူသော ဝိဘတ်၊ **နှင့်၊ နော်၊ ကွယ်၊ ပါလား၊ နှင့်ပါလား** စသောပစ္စည်းများနှင့်ဆက်လျှင် စေခိုင်းခြင်း၊ တိုက်တွန်းခြင်း၊ နှိုးဆော်ခြင်း စသည်တို့ကို ပို၍ထင်ရှားစေသော ဝါကျများဖြစ်လာသည်။

**သာဓက**။ ။

(က) သွား **လော့**။

(ခ) သွား **ပါလော့**။

(ဂ) သွား **နှင့်**။

(ဃ) သွား **နော်**။

(င) သွား **ကွယ်**။

(စ) သွား **ပါလား**။

(ဆ) သွား **နှင့်ပါလား**။

၁၂၃။ ပြုခြင်းပြုကြိယာများ၌ **စို့၊ ကြစို့၊ ရအောင်** ဟူသော ဝိဘတ်များဆက်လျှင် အတူတကွ ဆောင်ရွက်ခြင်း၊ နှိုးဆော်ခြင်းကိုပြသော ဝါကျများဖြစ်လာသည်။

**သာဓက**။ ။

(က) သွား **စို့**။

(ခ) အိမ်ပြန် **ကြစို့**။

(ဂ) ငါတို့ စပေါင်းလုပ်အားပေး **ရအောင်**။

၁၂၄။ ကြိယာများ၌ **ပါစေ** ဟူသော ဝိဘတ်ဆက်လျှင် ကြိယာ၏သတ္တိကိုလိုက်၍ တောင့်တခြင်း၊ ကျိန်ဆဲခြင်း၊ ခွင့်ပြုခြင်း စသည်ကိုပြသော ဝါကျများဖြစ်လာသည်။

**သာဓက**။ ။

(က) သတ္တဝါအပေါင်း ကျန်းမာ**ပါစေ**။ (တောင့်တခြင်း)

( ခ ) သွားလေရာ ဘေးတွေ့**ပါစေ**။ (ကျိန်ဆဲခြင်း)

( ဂ ) ကလေးများ ကစား**ပါစေ**။ (ခွင့်ပြုခြင်း)

၁၂၅။ ကြိယာများ၌ **ပါရစေ** ဟူသော ဝိဘတ်ဆက်လျှင် ခွင့်တောင်းခြင်းကိုပြသော ဝါကျများဖြစ်လာသည်။

**သာဓက**။ ။

(က) စကားတစ်ခွန်းလောက် ပြော**ပါရစေ**။

( ခ ) ရေလေးတစ်ပေါက်လောက် သောက်**ပါရစေ**။

( ဂ ) ဒီနေရာမှာ ခေတ္တထိုင် **ပါရစေ**။

၁၂၆။ ကြိယာများ၌ **စေ** ဟူသော ဝိဘတ်ဆက်လျှင် အမိန့်ပေးခြင်း၊ စေခိုင်းခြင်းကို ပြသော ဝါကျများ ဖြစ်လာသည်။

**သာဓက**။ ။

(က) ရာဇဒဏ်ဆယ်ချက်ခတ်၍ လွှတ်**စေ**။[၇]

( ခ ) ဆိုးမြီကောင်းမွေကို မယားက ရ**စေ**။[၈]

( ဂ ) ကျမ်းသစ္စာတော်နှင့် အစစ်ခံ**စေ**။[၉]

၁၂၇။ အပိုဒ် (၁၂၀)မှ (၁၂၆)အထိ လေ့လာခြင်းအားဖြင့် ကြိယာပုဒ်တွင် ဆက်သောဝိဘတ်များကိုလိုက်၍–

(က) တစ်စုံတစ်ရာ ပြုခြင်း၊ ဖြစ်ခြင်း၊ ရှိခြင်းကို ပြသောဝါကျအမျိုးအစား၊

( ခ ) အမိန့်ပေးခြင်း၊ စေခိုင်းခြင်း၊ တိုက်တွန်းခြင်း၊ နှိုးဆော်ခြင်းကိုပြသော ဝါကျအမျိုးအစား၊

( ဂ ) အတူတကွ ဆောင်ရွက်လိုခြင်းကိုပြသော ဝါကျအမျိုးအစား၊

(ဃ) တောင့်တခြင်း၊ ကျိန်ဆဲခြင်း၊ ခွင့်ပြုခြင်း၊ ခွင့်တောင်းခြင်းကိုပြသော ဝါကျအမျိုးအစားဟူ၍ ကွဲပြားသွားသည်ကို တွေ့နိုင်သည်။

၁၂၈။ ကြိယာတွင် ဝိဘတ်ဆက်ပြီးနောက် အကြောင်းအားလျော်စွာ ပစ္စည်းကိုလည်း ဆက်နိုင်သေးသည်။ ထိုအခါ ဝါကျ၏အနက်အဓိပ္ပာယ်သည် ပစ္စည်းကိုလိုက်၍ တစ်ခုနှင့်တစ်ခု အနည်းနှင့်အများ ကွာခြားသွားသည်။ ကွာခြားပုံကို အောက်ပါသာဓကများတွင် နှိုင်းယှဉ်လေ့လာနိုင်သည်။

**သာဓက**။ ။

(က) သွားကြစို့။

( ခ ) သွားကြပါစို့။

( ဂ ) သွားကြပါစို့ကွယ်။

(ဃ) သွားကြပါစို့ကွာ။

(င) သွားစို့လေ။

(စ) သွားကြရအောင်ကွာ။

၁၂၉။ ကြိယာရှေ့တွင် အငြင်းပြပစ္စည်း **မ** ဆက်လျှင် အငြင်းဝါကျဖြစ်လာသည်။ ထိုကြိယာပုဒ်၏ နောက်၌ အခြားဆီလျော်သောပစ္စည်းများကို ဆက်နိုင်သည်။

ထိုပစ္စည်းများမှာ–

(က) ဘူး (ခ) နဲ့၊ နှင့်

(ဂ) ပေါင် (ဃ) ဘဲ၊ ဘဲကို စသည်တို့ဖြစ်သည်။

၁၃၀။ အငြင်းပြပစ္စည်း **မ** ပါဝင်သည့် အငြင်းဝါကျရိုးအဖွဲ့၌ **ဘူး** ဟူသော ပစ္စည်း၏နောက်တွင် ဆီလျော်သော ပစ္စည်းတစ်ခုခုကိုလည်းကောင်း၊ **ကြိယာ** နှင့် **ဘူး** ဟူသော ပစ္စည်းအကြားတွင် ဆီလျော်သော ပစ္စည်းတစ်ခုခုကိုလည်းကောင်း ဖြည့်စွက်ဖွဲ့စည်းနိုင်သည်။

**သာဓက**။ ။

(က) မ + (ကြိယာ) + ဘူး + { ကွယ် / ကွာ / နော် }

(ခ) မ + (ကြိယာ) + { ပါ / သေး / တော့ / နိုင် / ရ / စေရ / စေရပါ } + ဘူး

၁၃၁။ **နဲ့၊ နှင့်** ဟူသော ပစ္စည်းများနောက်တွင်လည်း ဆီလျော်သောပစ္စည်းတစ်ခုခုကို ဖြည့်စွက်ဖွဲ့စည်းနိုင်သည်။

**သာဓက**။ ။

မ + (ကြိယာ) + နဲ့/နှင့် + { လေ / ကွယ် / ကွာ / အုံး / တော့ / နော် }

၁၃၂။ **ကြိယာ** နှင့် **နဲ့၊ နှင့်** ဟူသော ပစ္စည်းများ အကြား၌ ဆီလျော်သော ဝိဘတ်၊ ပစ္စည်းတစ်ခုခုကို ဖြည့်စွက်ဖွဲ့စည်းနိုင်သည်။

**သာဓက**။ ။

| | | | | |
|---|---|---|---|---|
| မ | + | (ကြိယာ) + | ပါ<br>စေ<br>ပါစေ<br>ပါရစေ | + နဲ့/နှင့် |

၁၃၃။ **ကြိယာ**နှင့် **ပေါင်၊ ဘဲ**ကို တို့၏အကြားတွင် ဆီလျော်သောပစ္စည်းတစ်ခုခုကို ဖြည့်စွက် ဖွဲ့စည်းနိုင်သည်။

**သာဓက**။ ။

| | | | | | |
|---|---|---|---|---|---|
| မ | + | (ကြိယာ) + | သေး<br>နိုင် | + | ပေါင်/ဘဲကို |

၁၃၄။ **နည်း၊ လဲ၊ တုံး** ဟူသော အမေးပစ္စည်းများကို ကြိယာနှင့်ဆက်၍ အမေးဝါကျရိုးဖွဲ့သော အခါ အမေးနာမ်စား၊ အမေးနာမဝိသေသသန၊ အမေးကြိယာဝိသေသနတစ်ခုခုနှင့် တွဲဖက်ဖွဲ့စည်း သည်။

**သာဓက**။ ။

(က) အမေ **ဘယ်** သွားသနည်း။

( ခ ) အမေ **ဘာ** ဝယ်လာသလဲ။

( ဂ ) ဘုရားကို **ဘယ်သူ** နဲ့ သွားသတုံး။

(ဃ) ကျောင်းသား **မည်မျှ** စာမေးပွဲအောင်သနည်း။

( င ) အမေ **ဘာ** ဟင်းချက်သလဲ။

( စ ) **ဘယ်** မုန့်ကို ပိုကြိုက်သ**တုံး**။

(ဆ) သူ **ဘာကြောင့်** မလာသ**နည်း**။

( ဇ ) စကားကို **ဘယ်လို** ပြောသင့်သလဲ။

( ဈ ) သူ့အကြောင်းကို မင်း **ဘယ်လောက်** သိသတုံး။

၁၃၅။ ကြိယာမြှုပ်၍ဖွဲ့သော အမေးဝါကျရိုးတွင် **နည်း၊ လဲ၊ တုံး** ဟူသော အမေးပစ္စည်းများကို အမေးနာမ်စား၊ အမေးနာမဝိသေသန တစ်ခုခုနှင့် တွဲဖက်ဖွဲ့စည်းသည်။

**သာဓက**။ ။

(က) အမေးဝါကျဟူသည် **အဘယ်နည်း**။

( ခ ) မောင်မောင် **ဘယ်** မှာ **လဲ**။

( ဂ ) ဟဲ့ **ဘယ်တုံး**။

(ဃ) ဤကျောင်း၌ ကျောင်းသား **မည်မျှနည်း**။

(င) အဲဒါ **ဘာ** ပန်း **လဲ**။

(စ) အဲဒါ **ဘာ** စာအုပ် **တုံး**။

၁၃၆။ **နည်း၊ လဲ၊ တုံး** တို့သည် အလဲအလှယ်ပြု၍ သုံးနိုင်သော အမေးပစ္စည်းများ ဖြစ်သည်။

**သာဓက**။ ။

(က) (၁) အမေဘယ်သွားသ**နည်း**။

(၂) အမေဘယ်သွားသ**လဲ**။

(၃) အမေဘယ်သွားသ**တုံး**။

(ခ) (၁) ကျောင်းသားမည်မျှစာမေးပွဲအောင်သ**နည်း**။

(၂) ကျောင်းသားဘယ်လောက်စာမေးပွဲအောင်သ**လဲ**။

(၃) ကျောင်းသားဘယ်လောက်စာမေးပွဲအောင်သ**တုံး**။

(ဂ) (၁) သူအဘယ်ကြောင့် မလာသ**နည်း**။

(၂) သူဘာကြောင့် မလာသ**လဲ**။

(၃) သူဘာကြောင့် မလာသ**တုံး**။

၁၃၇။ **လား၊ လော** တို့သည် အလဲအလှယ်ပြု၍ သုံးနိုင်သော အမေးပစ္စည်းများဖြစ်သည်။

**သာဓက**။ ။

(က) (၁) မောင်မောင် ပထမရသ**လား**။

(၂) မောင်မောင် ပထမရသ**လော**။

(ခ) (၁) အဖေတို့ ပြန်ရောက်ကြပြီ**လား**။

(၂) အဖေတို့ ပြန်ရောက်ကြပြီ**လော**။

(ဂ) (၁) သူကျောင်းမသွားဘူး**လား**။

(၂) သူကျောင်းမသွားဘူး**လော**။

၁၃၈။ **ဝါကျရော**။ ။ ဝါကျရိုး ၂ ခု၊ သို့မဟုတ် ၂ ခုထက်ပိုသော ဝါကျရိုးများကို ဝါကျတစ်ခုတည်းဖြစ်စေရန် ဝိဘတ်၊ ပစ္စည်း၊ သမ္ဗန္ဓတစ်ခုခုဖြင့် ဆက်၍ရေးသောဝါကျကို **ဝါကျရော**ဟု ခေါ်သည်။

၁၃၉။ **ဝါကျကဏ္ဍ**။ ။ ဝါကျရော၏ အစိတ်အပိုင်းတစ်ခုဖြစ်သည့်အပြင် ကတ္တားနှင့် ကြိယာပါရှိသော ပုဒ်အစုအပေါင်းကို **ဝါကျကဏ္ဍ**ဟု ခေါ်သည်။

၁၄၀။ **အမှီဝါကျကဏ္ဍ**။ ။ ဝါကျရောတွင် ကတ္တားနှင့်ကြိယာပါရှိသော်လည်း သီးခြားမရပ်တည်နိုင်သော အဓိပ္ပာယ်မပြည့်စုံသေးသော ပုဒ်အစုအပေါင်းကို **အမှီဝါကျကဏ္ဍ**ဟု ခေါ်သည်။

၁၄၁။ **အမှီခံဝါကျကဏ္ဍ**။ ။ ဝါကျရောတွင် ကတ္တားနှင့်ကြိယာပါရှိပြီး သီးခြားရပ်တည်နိုင်သော အဓိပ္ပာယ်ပြည့်စုံသော ပုဒ်အစုအပေါင်းကို **အမှီခံဝါကျကဏ္ဍ**ဟု ခေါ်သည်။

၁၄၂။ အထက်ပါ အဓိပ္ပာယ်ဖွင့်ဆိုချက်များနှင့်ပတ်သက်၍ မြန်မာသဒ္ဒါ၊ အတွဲ ၂၊ အခန်း ၅၊ အခန်း ၆ တို့တွင် အထိုက်အလျောက် ရှင်းလင်းဖော်ပြခဲ့ပြီးဖြစ်သည်။

၁၄၃။ အမှီဝါကျကဏ္ဍနှင့် အမှီခံဝါကျကဏ္ဍတို့တွင် ကတ္တား၊ ကြိယာပါရှိသည်ဟုဆိုသော်လည်း အဓိပ္ပာယ်ဆက်စပ်မှုကိုလိုက်၍ ကတ္တား မြုပ်ရေးသည်လည်းရှိသည်။ ထို့ပြင် အမှီဝါကျကဏ္ဍကို အမှီခံဝါကျကဏ္ဍ၏ **ကတ္တား၊ ကံ**အဖြစ် ရေးဖွဲ့ထားသည်လည်းရှိသည်။ ဤသို့ ဝါကျရောများတွင် တွေ့ရှိရသည့် ဝါကျကဏ္ဍ၏ သဘောလက္ခဏာများကို မြန်မာစကားပြေကျမ်းများမှ ထုတ်နုတ်ဖော်ပြသွားမည်။

၁၄၄။ ဝါကျရောတစ်ခုတွင် အမှီဝါကျကဏ္ဍတစ်ခုဖြစ်စေ၊ တစ်ခုထက်ပို၍ဖြစ်စေ ပါရှိသည်။ ထို့ပြင် အမှီဝါကျကဏ္ဍများ ထပ်ဆင့်ပါဝင်ဖွဲ့စည်းနေသည့် အမှီဝါကျကဏ္ဍကြီးလည်း ရှိတတ်သည်။ အမှီခံဝါကျကဏ္ဍမှာမူ တစ်ခုသာပါဝင်သည်။ ဝါကျရော၌ပါရှိသော အမှီဝါကျကဏ္ဍများနှင့် အမှီခံဝါကျကဏ္ဍကို အောက်ပါအတိုင်း အဆင့်ဆင့် ခွဲထုတ်လေ့လာနိုင်သည်။

## အမှီဝါကျကဏ္ဍတစ်ခုသာပါဝင်သော ဝါကျရောကိုခွဲစိတ်ခြင်း

၁၄၅။ အမှီဝါကျကဏ္ဍတစ်ခုသာပါဝင်သော ဝါကျရောတစ်ခုတွင် ကြိယာ ၂ ခု ပါရှိသည်။ ကြိယာတစ်ခုသည် **ဝါကျ၏ရှေ့ပိုင်း**တွင်ရှိ၍ ကျန်ကြိယာတစ်ခုသည် **ဝါကျ၏အဆုံးပိုင်း**တွင် ရှိသည်။

၁၄၆။ ဝါကျ၏ရှေ့ပိုင်းရှိ ကြိယာနောက်တွင် **ဝိဘတ်**ဖြစ်စေ၊ **ပစ္စည်း**ဖြစ်စေ၊ **သမ္ဗန္ဓ**ဖြစ်စေ တစ်ခုခုရှိမည်။ ထိုဝိဘတ်၊ ပစ္စည်း၊ သမ္ဗန္ဓဖြင့်ဆုံးသော ဝါကျ၏ရှေ့ပိုင်းသည် **အမှီဝါကျကဏ္ဍ**ဖြစ်၍ ကျန် ကြိယာတစ်ခုပါဝင်သော အစိတ်အပိုင်းသည် **အမှီခံဝါကျကဏ္ဍ**ဖြစ်သည်။

**သာဓက**။ ။

| **သင်** | **အခွင့်** | **ပေး** | **မှု** | **ငါ** | **ဝင်** | **အံ့**။[၁၀] |
|---|---|---|---|---|---|---|
| (ကတ္တား) | | (ကြိယာ) | (သမ္ဗန္ဓ) | (ကတ္တား) | (ကြိယာ) | (ဝိဘတ်) |
| အမှီဝါကျကဏ္ဍ | | | | အမှီခံဝါကျကဏ္ဍ | | |

ဖော်ပြပါ သာဓကဝါကျရောတွင် **သင်အခွင့်ပေးမှု**ဟူသော အမှီဝါကျကဏ္ဍနှင့် **ငါဝင်အံ့** ဟူသော အမှီခံဝါကျကဏ္ဍတို့ ပါဝင်သည်။ ထိုအမှီဝါကျကဏ္ဍနှင့် အမှီခံဝါကျကဏ္ဍတို့သည် ကတ္တားနှင့် ကြိယာပါရှိသော ဝါကျကဏ္ဍများ ဖြစ်ကြသည်။

၁၄၇။ စာပိုဒ်(၁၄၅)နှင့် (၁၄၆)အရ အမှီဝါကျကဏ္ဍတစ်ခုသာပါဝင်သော ဝါကျရောတို့ကို အောက်ပါအတိုင်း ခွဲစိတ်လေ့လာနိုင်သည်။

**သာဓက**။ ။

(က) ထိုမင်းမ **ရှိ** လျှင် သားတော်အတိတျာ **မင်းဖြစ်** တော်မူ၏။[၁၁]

(ကြိယာ) (ကြိယာ)

**ထိုမင်း** **မရှိ** **လျှင်** **သားတော်အတိတျာ** မင်းဖြစ်တော်မူ၏။
(ကတ္တား) (ကြိယာ) (သမ္ဗန္ဓ) (ကတ္တား) (ကြိယာ)
အမှီဝါကျကဏ္ဍ အမှီခံဝါကျကဏ္ဍ

(ခ) ထိုအရှင် **ဆုံးမ**မည့်အကြောင်းကိုလည်း ဘုရားသခင်
ဤသို့ဗျာဒိတ်**ကြား**တော်မူ၏။[၃၂]
(ကြိယာ) (ကြိယာ)

**ထိုအရှင်** **ဆုံးမ** **မည့်** အကြောင်းကိုလည်း **ဘုရားသခင်**
(ကတ္တား) (ကြိယာ) (ပစ္စည်း) (ကတ္တား)
ဤသို့ဗျာဒိတ် **ကြား**တော်မူ၏။
(ကြိယာ)
အမှီဝါကျကဏ္ဍ အမှီခံဝါကျကဏ္ဍ

(ဂ) နွားအပေါင်းတို့သည် မြက်သစ်ရွက်ကို **စား** သောကြောင့်
(ကြိယာ)
မိုးသည် နွားအပေါင်းတို့၏ ကိုးကွယ်ရာ **ဖြစ်** ၏။[၃၃]
(ကြိယာ)

**နွားအပေါင်းတို့သည်** မြက်သစ်ရွက်ကို **စား** **သောကြောင့်**
(ကတ္တား) (ကြိယာ) (သမ္ဗန္ဓ)
အမှီဝါကျကဏ္ဍ

**မိုးသည်** နွားအပေါင်းတို့၏ ကိုးကွယ်ရာ **ဖြစ်** ၏။
(ကတ္တား) (ကြိယာ)
အမှီခံဝါကျကဏ္ဍ

(ဃ) မင်းသည် **မေး** အပ်သော ပြဿနာအပေါင်းတို့ကို ဝိဓုရသုခမိန်သည်
**ဖြေ**ပေ၏။[၃၄]
(ကြိယာ) (ကြိယာ)

**မင်းသည်** **မေး** အပ် **သော** ပြဿနာ အပေါင်းတို့ကို
(ကတ္တား) (ကြိယာ) (ပစ္စည်း)
**ဝိဓုရသုခမိန်သည်** **ဖြေ** ပေ၏။
(ကတ္တား) (ကြိယာ)
အမှီဝါကျကဏ္ဍ အမှီခံဝါကျကဏ္ဍ

၁၄၈။ ဝါကျကဏ္ဍတွင် ကတ္တားနှင့်ကြိယာ ပါရှိမြဲဖြစ်သော်လည်း အချို့ဝါကျကဏ္ဍတို့၌ ကတ္တားပုဒ်ကို မြှုပ်ထားတတ်သည်။

**သာဓက။ ။**

(က) **ဘုရားအလောင်းသည်** ဆွမ်းကို **ယူ၍** **ကြွ** ၏။[၁၅]
(ကတ္တား) (ကြိယာ) (ကြိယာ)
အမှီဝါကျကဏ္ဍ — အမှီခံဝါကျကဏ္ဍ

(ခ) ထိုခြသေ့ကို **မြင်** ၍ **အမတ်တို့သည်** မင်းအား **လျှောက်**ကြ၏။[၁၆]
(ကြိယာ) (ကတ္တား) (ကြိယာ)
အမှီဝါကျကဏ္ဍ — အမှီခံဝါကျကဏ္ဍ

(ဂ) **ကြောက်** လှသောကြောင့် မုတ္တမမြို့ကိုမျှ **မဝင်** ဝံ့။[၁၇]
(ကြိယာ) (ကြိယာ)
အမှီဝါကျကဏ္ဍ — အမှီခံဝါကျကဏ္ဍ

– ဖော်ပြပါ သာဓကဝါကျရော (က)၊ (ခ)နှင့် (ဂ)တို့အနက်
(က) ရှိ **အမှီခံဝါကျကဏ္ဍ** တွင် ကတ္တားပုဒ်ကို မြှုပ်ထားသည်။
(ခ) ရှိ **အမှီဝါကျကဏ္ဍ** တွင် ကတ္တားပုဒ်ကို မြှုပ်ထားသည်။
(ဂ) ရှိ **အမှီဝါကျကဏ္ဍ**နှင့် **အမှီခံဝါကျကဏ္ဍ** ၂ ခုစလုံးတွင် ကတ္တားပုဒ်ကို မြှုပ်ထားသည်။

၁၄၉။ **အမှီဝါကျကဏ္ဍ ၃ မျိုး**။ ။ ဝါကျရောတစ်ခုတွင် အမှီဝါကျကဏ္ဍများ၏ လုပ်ငန်းတာဝန်ကိုလိုက်၍ အောက်ပါအတိုင်း အမျိုးအစား ခွဲခြားသတ်မှတ်နိုင်သည်။

(က) နာမ်ဝါကျကဏ္ဍ
(ခ) နာမဝိသေသနဝါကျကဏ္ဍ
(ဂ) ကြိယာဝိသေသနဝါကျကဏ္ဍ

၁၅၀။ **နာမ်ဝါကျကဏ္ဍ**။ ။ နာမ်၏လုပ်ငန်းတာဝန်ကို ဆောင်ရွက်သော အမှီဝါကျကဏ္ဍသည် နာမ်ဝါကျ ကဏ္ဍဖြစ်သည်။ နာမ်ဝါကျကဏ္ဍသည် **ကတ္တား**၏ လုပ်ငန်းကိုသော်လည်းကောင်း၊ **ကံ၏** လုပ်ငန်းကိုသော်လည်းကောင်း ဆောင်ရွက်သည်။

**သာဓက**။ ။

(က) **ဘီလူးကြမ်းတို့ နေခွင့်မရသည် ဖြစ်၏**။[၁၈]
**နာမ်ဝါကျကဏ္ဍ၊ ကတ္တား–** ဘီလူးကြမ်းတို့ နေခွင့်မရသည်
**အမှီခံဝါကျကဏ္ဍ–** ဖြစ်၏။

( ခ ) **အရှင်ဂေါတမတွင် ကောင်းသောအကျင့်ကို ကြားသည်လျှင် ဖြစ်လိမ့်သတည်း။**[၁၉]

**နာမ်ဝါကျကဏ္ဍ၊ ကတ္တား** – အရှင်ဂေါတမတွင် ကောင်းသောအကျင့်ကို ကြားသည်လျှင်

**အမှီခံဝါကျကဏ္ဍ** – ဖြစ်လိမ့်သတည်း။

( ဂ ) **သူတော်ကောင်းအချီးအမွမ်းကို ခံတော်မူရမည် ဖြစ်သည်။**[၂၀]

**နာမ်ဝါကျကဏ္ဍ၊ ကတ္တား** – သူတော်ကောင်းအချီးအမွမ်းကို ခံတော်မူရမည်။

**အမှီခံဝါကျကဏ္ဍ**– ဖြစ်သည်။

(ဃ) **ရွက်သင်္ဘောတစ်ခု သီဟိုဠ်လမ်းသွားသည်ကို မြင်သည်။**[၂၁]

**နာမ်ဝါကျကဏ္ဍ၊ ကံ** – ရွက်သင်္ဘောတစ်ခု သီဟိုဠ်လမ်းသွားသည်ကို

**အမှီ ခံဝါကျကဏ္ဍ** – မြင်သည်။

( င ) **လောက်ဖျားသားသမက်တို့ ပြေးလေသည်ကိုလည်း ရမည်။**[၂၂]

**နာမ်ဝါကျကဏ္ဍ၊ ကံ**– လောက်ဖျားသားသမက်တို့ ပြေးလေသည်ကိုလည်း

**အမှီခံဝါကျကဏ္ဍ** – ရမည်။

( စ ) **တန်ဆောင်မုန်းလပြည့်ကျော်တစ်ရက်နေ့ ကောင်းမှုတော်မဟာစေတီ ရောင်တော်ပြသည်ကို ရွှေတန်ဆောင်၊ ငွေတန်ဆောင်၊ ရွှေပေါက်ပေါက်၊ ငွေပေါက်ပေါက်နှင့် ပူဇော်တော်မူသည်။**[၂၃]

**နာမ်ဝါကျကဏ္ဍ၊ ကံ**– တန်ဆောင်မုန်းလပြည့်ကျော်တစ်ရက်နေ့ ကောင်းမှုတော်မဟာစေတီ ရောင်တော်ပြသည်ကို

**အမှီခံဝါကျကဏ္ဍ** – ရွှေတန်ဆောင်၊ ငွေတန်ဆောင်၊ ရွှေပေါက်ပေါက်၊ ငွေပေါက်ပေါက်နှင့် ပူဇော်တော်မူသည်။

၁၅၁။ **နာမဝိသေသနဝါကျကဏ္ဍ။** ။ နာမဝိသေသန၏ လုပ်ငန်းတာဝန်ကို ဆောင်ရွက်သော အမှီဝါကျကဏ္ဍသည် နာမဝိသေသနဝါကျကဏ္ဍဖြစ်သည်။ နာမဝိသေသနဝါကျကဏ္ဍသည် သက်ဆိုင်ရာနာမ်၊ နာမ်စားကို အထူးပြုသည်။

**သာဓက။** ။

(က) **မင်းသည် မေးအပ်သော ပြဿနာအပေါင်းတို့ကို ဝိစုရသုခမိန်သည် ဖြေပေ၏။**[၂၄]

**နာမဝိသေသနဝါကျကဏ္ဍ** – မင်းသည် မေးအပ်သော (ပြဿနာ)

**အမှီခံဝါကျကဏ္ဍ** – ပြဿနာအပေါင်းတို့ကို ဝိစုရသုခမိန်သည် ဖြေပေ၏။

( ခ ) **အင်္ဂလိပ်အရာရှိတို့က ပြန်ပေးသည့်စာကို ပေးပို့လာသည်။**[၂၅]

**နာမဝိသေသနဝါကျကဏ္ဍ** – အင်္ဂလိပ်အရာရှိတို့က ပြန်ပေးသည့် (စာ)

**အမှီခံဝါကျကဏ္ဍ** – စာကို ပေးပို့လာသည်။

( ဂ ) **ယခုမင်းကြီးသွားရမည့် ခရီးသည် ဥပဒ်အန္တရာယ်ထူထပ်လှ၏။**[၂၆]

**နာမဝိသေသနဝါကျကဏ္ဍ** – ယခုမင်းကြီးသွားရမည့် (ခရီး)

**အမှီခံဝါကျကဏ္ဍ** – ခရီးသည်ဥပဒ်အန္တရာယ်ထူထပ်လှ၏။

၁၅၂။ **ကြိယာဝိသေသနဝါကျကဏ္ဍ**။ ။ကြိယာဝိသေသန၏ လုပ်ငန်းတာဝန်ကို ဆောင်ရွက်သော အမှီဝါကျကဏ္ဍသည် ကြိယာဝိသေသနဝါကျကဏ္ဍဖြစ်သည်။ ကြိယာဝိသေသနဝါကျကဏ္ဍသည် သက်ဆိုင်ရာကြိယာကို အထူးပြုသည်။

**သာဓက**။ ။

(က) **သင်အခွင့်ပေးမူ ငါဝင်အံ့**။[၂၇]
**ကြိယာဝိသေသနဝါကျကဏ္ဍ** – သင်အခွင့်ပေးမူ
**အမှီခံဝါကျကဏ္ဍ** – ငါဝင်အံ့။

(ခ) **နဂါးမင်းသည် ကိုယ်ထည်ကြီးသောကြောင့် ပခြုပ်၌မဆံ့**။[၂၈]
**ကြိယာဝိသေသနဝါကျကဏ္ဍ** – နဂါးမင်းသည် ကိုယ်ထည်ကြီးသောကြောင့်
**အမှီခံဝါကျကဏ္ဍ** – ပခြုပ်၌မဆံ့။

(ဂ) **မင်းကြီးအား အကြိမ်ကြိမ်အထပ်ထပ် ကျွန်ုပ်လျှောက်ပါသော်လည်း ပြာသာဒ်ကိုသာ ချီးမွမ်းနေတော်မူခဲ့၏**။[၂၉]
**ကြိယာဝိသေသနဝါကျကဏ္ဍ** – မင်းကြီးအား အကြိမ်ကြိမ်အထပ်ထပ် ကျွန်ုပ် လျှောက်ပါသော်လည်း
**အမှီခံဝါကျကဏ္ဍ** – ပြာသာဒ်ကိုသာ ချီးမွမ်းနေတော်မူခဲ့၏။

(ဃ) **လျှပ်စစ်မိုးတိမ်တို့သည် တညီးညီးပြက်ကုန်လျက် ကြောက်မက်ဖွယ်မိုးကြိုးတို့သည် ထစ်ကုန်၏**။[၃၀]
**ကြိယာဝိသေသနဝါကျကဏ္ဍ** – လျှပ်စစ်မိုးတိမ်တို့သည် တညီးညီး ပြက်ကုန်လျက်
**အမှီခံဝါကျကဏ္ဍ** – ကြောက်မက်ဖွယ်မိုးကြိုးတို့သည် ထစ်ကုန်၏။

၁၅၃။ ဖော်ပြခဲ့ပြီးသော ဝါကျကဏ္ဍများကို လေ့လာခြင်းဖြင့် အမှီဝါကျကဏ္ဍတစ်ခုသာပါရှိသည့် ဝါကျရော၏ အခြေခံသဘောလက္ခဏာများကို သိရသည်။

**အမှီဝါကျကဏ္ဍတစ်ခုသာပါဝင်သော ဝါကျရောတို့၏ အခြေခံသဘောလက္ခဏာများ။**

(က) အမှီဝါကျကဏ္ဍသည် ဝါကျအစပိုင်း၌ရှိ၍ အမှီခံဝါကျကဏ္ဍသည် ဝါကျ၏ အဆုံးပိုင်း၌ ရှိသည်။
– သားတော်လေးပါးတို့သည် ခမည်းတော်ကို ခယရိုသေစွာရှိခိုးပြီးလျှင် သွားခွင့်ပန်ကုန်၏။ [၃၁]
(ခမည်းတော်ကို ခယရိုသေစွာရှိခိုးပြီးလျှင် – အမှီဝါကျကဏ္ဍ; သွားခွင့်ပန်ကုန်၏ – အမှီခံဝါကျကဏ္ဍ)

(ခ) အမှီဝါကျကဏ္ဍသည် အမှီခံဝါကျကဏ္ဍ၏ ကတ္တားနှင့်ကြိယာအကြား၌လည်း ရှိတတ်သည်။
– ငါသည် ဤဝက်ကို သတ်မည်ဟူ၍ လိုက်သည်။[၃၂]
(ဤဝက်ကို သတ်မည်ဟူ၍ – အမှီဝါကျကဏ္ဍ; ငါသည် ... လိုက်သည် – အမှီခံဝါကျကဏ္ဍ)

(ဂ) အမှီဝါကျကဏ္ဍသည် ဝါကျရိုးကို ဝိဘတ်၊ ပစ္စည်း၊ သမ္ဗန္ဓတစ်ခုခုဆက်ထားသော ဝါကျကဏ္ဍဖြစ်သည်။

– **မှာ၊ က၊ ကို** စသော နာမ်ဝိဘတ်များ၊ **ကား၊ ဟု၊ ဟူ၍** စသည့်ပစ္စည်းများ ဆက်ထားသော အမှီဝါကျကဏ္ဍများသည် နာမ်ဝါကျကဏ္ဍများ ဖြစ်ကြသည်။

– **သော၊ သည့်၊ မည့်** ပစ္စည်းများဆက်ထားသော အမှီဝါကျကဏ္ဍများသည် နာမဝိသေသန ဝါကျကဏ္ဍများဖြစ်ကြသည်။

– **မူ၊ သောကြောင့်၊ သော်လည်း၊ လျက်** စသော သမ္ဗန္ဓများဆက်ထားသော အမှီဝါကျကဏ္ဍများသည် ကြိယာဝိသေသန ဝါကျကဏ္ဍများဖြစ်ကြသည်။

(ဃ) ဝိဘတ်၊ ပစ္စည်း၊ သမ္ဗန္ဓတို့သည် အမှီဝါကျကဏ္ဍ၏ နယ်နိမိတ်ကို ပိုင်းခြားပြရုံမျှမက အမှီဝါကျကဏ္ဍသည် အမှီခံဝါကျကဏ္ဍကို မည်သို့အမှီပြုနေကြောင်းကိုလည်း ပြသည်။

(င) ဝါကျရိုးတွင် ကတ္တားပုဒ်တစ်ခုနှင့် ကြိယာပုဒ်တစ်ခု ပါဝင်ဖွဲ့စည်းထားသည် ဆိုသော်လည်း ဝါကျကဏ္ဍအဆင့်၌ ကတ္တားပုဒ်ကို ရံဖန်ရံခါမြှုပ်၍ ရေးတတ်သည်။

၁၅၄။ အမှီဝါကျကဏ္ဍတစ်ခုသာပါဝင်သော ဝါကျရောခွဲစိတ်ခြင်းကိုလည်းကောင်း၊ အမှီဝါကျကဏ္ဍသည် ဝါကျတွင်း တာဝန်ထမ်းဆောင်ပုံကိုလိုက်၍ **နာမ်ဝါကျကဏ္ဍ၊ နာမဝိသေသန ဝါကျကဏ္ဍ၊ ကြိယာဝိသေသနဝါကျကဏ္ဍ** ဖြစ်နိုင်ပုံကိုလည်းကောင်း ဖော်ပြခဲ့ပြီ။

၁၅၅။ ယခု အမှီဝါကျကဏ္ဍ တစ်ခုမကပါဝင်သော ဝါကျရောခွဲစိတ်ခြင်းကို ဖော်ပြမည်။ ထို့ပြင် အမှီခံဝါကျကဏ္ဍကို တိုက်ရိုက်အမှီပြုလျက်ရှိသော အမှီဝါကျကဏ္ဍနှင့် ယင်းအမှီဝါကျကဏ္ဍကို ထပ်ဆင့်အမှီပြုနေသည့် အခြားအမှီဝါကျကဏ္ဍများအကြောင်းကိုလည်း ဆက်လက်ဖော်ပြမည်။

## အမှီဝါကျကဏ္ဍတစ်ခုမကပါဝင်သော ဝါကျရောတို့ကို ခွဲစိတ်ခြင်း

၁၅၆။ အမှီဝါကျကဏ္ဍတစ်ခုမက ပါဝင်သော ဝါကျရောတစ်ခုတွင် ၂ ခုမကသောကြိယာများ ပါရှိသည်။ ထိုကြိယာများတွင် **ဝါကျရော၏အဆုံးပိုင်း**၌ရှိသော ကြိယာသည် အမှီခံဝါကျကဏ္ဍ၏ ကြိယာဖြစ်၍ **ဝါကျရော၏အရှေ့ပိုင်း**၌ရှိသော ကျန်ကြိယာတို့သည် အမှီဝါကျကဏ္ဍများ၏ ကြိယာများ ဖြစ်ကြသည်။

၁၅၇။ ဝါကျရော၏ရှေ့ပိုင်းရှိ ကြိယာများနောက်တွင် **ဝိဘတ်**ဖြစ်စေ၊ **ပစ္စည်း**ဖြစ်စေ၊ **သမ္ဗန္ဓ** ဖြစ်စေ တစ်ခုခုရှိမည်။ ထိုဝိဘတ်၊ ပစ္စည်း၊ သမ္ဗန္ဓတို့ဖြင့်ဆုံးသော အစိတ်အပိုင်းတို့သည် အမှီဝါကျကဏ္ဍများ ဖြစ်ကြသည်။

**သာဓက**။ ။

ဗာရာဏသီပြည်၌ ဂါမဏိမင်းသားသည် သားချင်းတစ်ရာတွင် အငယ်ဆုံး**ဖြစ်**လျက် ပညာရှိ၏ အဆုံးအမ၌ **တည်** သောကြောင့်၊ လုံ့လဝီရိယနှင့် **ပြည့်စုံ**သောကြောင့် ခမည်းတော်အရာ၌ **မင်းပြု**ရဖူး လေ၏။[၃၃]

| အမှီဝါကျကဏ္ဍ | | အမှီခံဝါကျကဏ္ဍ |
|---|---|---|
| (က) ဗာရာဏသီပြည်၌ ဂါမဏိမင်းသားသည် သားချင်းတစ်ရာတွင် အငယ်ဆုံး **ဖြစ်** (ကြိယာ) **လျက်** (သမ္ဗန္ဓ) | | |
| (ခ) ပညာရှိ၏အဆုံးအမ၌ **တည်** (ကြိယာ) **သောကြောင့်** (သမ္ဗန္ဓ) | | ဂါမဏိမင်းသားသည်.......... ခမည်းတော်အရာ၌ **မင်းပြု** ရဖူးလေ၏။ |
| (ဂ) လုံ့လဝီရိယနှင့် **ပြည့်စုံ** (ကြိယာ) **သောကြောင့်** (သမ္ဗန္ဓ) | | |

ဖော်ပြပါ သာဓကဝါကျရောတွင် အမှီဝါကျကဏ္ဍ (က)၊ (ခ)နှင့် (ဂ)ဟူ၍ အမှီဝါကျကဏ္ဍ ၃ ခုကို တွေ့ရမည်။ ထိုအမှီဝါကျကဏ္ဍ ၃ ခုစလုံးသည် အမှီခံဝါကျကဏ္ဍရှိ **မင်းပြု** ဟူသော ကြိယာကို တိုက်ရိုက်အထူးပြုလျက်ရှိသည့် **ကြိယာဝိသေသနဝါကျကဏ္ဍ**များ ဖြစ်ကြသည်။

၁၅၈။ အမှီဝါကျကဏ္ဍတို့တွင် ထပ်ဆင့်အမှီဝါကျကဏ္ဍများ ရှိနေတတ်သည်။

**သာဓက။ ။**

မင်းတကာတို့ **မကိုးကွယ်** (ကြိယာ) ရဖူး **သော** (ပစ္စည်း) စွယ်တော်**ရောက်** (ကြိယာ) **၍** (သမ္ဗန္ဓ)

ငါသည် **ကိုးကွယ်**(ကြိယာ)တော် မူရပေသည်။[၃၄]

| အမှီဝါကျကဏ္ဍကြီး၊ | ကြိယာဝိသေသနဝါကျကဏ္ဍ | အမှီခံဝါကျကဏ္ဍ |
|---|---|---|
| အမှီဝါကျကဏ္ဍ(က) နာမဝိသေသနဝါကျကဏ္ဍ | အမှီဝါကျကဏ္ဍ (ခ) ကြိယာဝိသေသနဝါကျကဏ္ဍ | |
| မင်းတကာတို့ **မကိုးကွယ်** ရဖူးသော | စွယ်တော် **ရောက်** ၍ | ငါသည်ကိုးကွယ်တော်မူရပေသည်။ |

- ဖော်ပြပါ သာဓကဝါကျရောတွင် **မင်းတကာတို့မကိုးကွယ်ရဖူးသော** ဟူသည့် အမှီဝါကျကဏ္ဍ(က)နှင့် **စွယ်တော်ရောက်၍** ဟူသည့် အမှီဝါကျကဏ္ဍ (ခ)ဟူ၍ အမှီဝါကျကဏ္ဍ ၂ ခု ပါဝင်သည်။
- အမှီဝါကျကဏ္ဍ ၂ ခုအနက် **စွယ်တော်ရောက်၍** ဟူသော အမှီဝါကျကဏ္ဍ(ခ) သည် **ငါသည် ကိုးကွယ်တော်မူရပေသည်** ဟူသော အမှီခံဝါကျကဏ္ဍကို တိုက်ရိုက်အမှီပြုလျက်ရှိသည့် **ကြိယာဝိသေသနဝါကျကဏ္ဍ** ဖြစ်သည်။
- **မင်းတကာတို့ မကိုးကွယ်ရဖူးသော** ဟူသည့် အမှီဝါကျကဏ္ဍ (က)သည် **စွယ်တော်ရောက်၍** ဟူသည့် အမှီဝါကျကဏ္ဍ (ခ)ရှိ **စွယ်တော်** ဟူသော **နာမ်**ကို ထပ်ဆင့်အထူးပြုလျက်ရှိသော **နာမဝိသေသနဝါကျကဏ္ဍ** ဖြစ်သည်။

– အမှီဝါကျကဏ္ဍ(က)နှင့် (ခ)တို့ပါဝင်သော **မင်းတကာတို့ မကိုးကွယ်ရဖူးသော စွယ်တော်ရောက်၍** ဟူသော အမှီဝါကျကဏ္ဍကြီးသည် အမှီခံဝါကျကဏ္ဍကို အထူးပြုလျက် ရှိသည့် **ကြိယာဝိသေသနဝါကျကဏ္ဍ** ဖြစ်သည်။

၁၅၉။ အထက်ဖော်ပြပါ စာပိုဒ်(၁၅၈)ရှိ သာဓကဝါကျရောမှာကဲ့သို့ပင် အမှီခံဝါကျကဏ္ဍကို တိုက်ရိုက်အမှီပြုသော အမှီဝါကျကဏ္ဍတစ်ခု၌ အမှီဝါကျကဏ္ဍများ ထပ်ဆင့်ပါဝင်ဖွဲ့စည်းနေပုံကို ဆက်လက်လေ့လာနိုင်သည်။

၁၆၀။ အမှီခံဝါကျကဏ္ဍကို တိုက်ရိုက်အမှီပြုသော **နာမ်ဝါကျကဏ္ဍ** တစ်ခုတွင် **နာမဝိသေသနဝါကျကဏ္ဍ၊ ကြိယာဝိသေသနဝါကျကဏ္ဍ**နှင့် **နာမ်ဝါကျကဏ္ဍ**တို့ ထပ်ဆင့်ပါဝင် ဖွဲ့စည်းနေတတ်သည်။

(က) **နာမဝိသေသနဝါကျကဏ္ဍ ထပ်ဆင့်ပါဝင်ဖွဲ့စည်းပုံ**

အမှီခံဝါကျကဏ္ဍကို တိုက်ရိုက်အမှီပြုသော နာမ်ဝါကျကဏ္ဍ၌ နာမဝိသေသနဝါကျကဏ္ဍ ထပ်ဆင့်ပါဝင်ဖွဲ့စည်းနေပုံကို အောက်ပါအတိုင်း လေ့လာနိုင်သည်။

**သာဓက** ၁။ ။

| အမှီဝါကျကဏ္ဍကြီး၊ နာမ်ဝါကျကဏ္ဍ၊ (ကတ္တား) | | အမှီခံဝါကျကဏ္ဍ |
|---|---|---|
| အမှီဝါကျကဏ္ဍ (က)<br>နာမဝိသေသနဝါကျကဏ္ဍ | အမှီဝါကျကဏ္ဍ(ခ)<br>နာမ်ဝါကျကဏ္ဍ | |
| နတ်ရွာနိဗ္ဗာန်ရောက်ကြောင်း<br>**ဖြစ် သော** | **တရား** တို့ကို<br>**ဟော** တော်မူသည် **ကား** | များးစွာ၏။[၃၅] |

– ဖော်ပြပါ သာဓကဝါကျရောတွင် **နတ်ရွာနိဗ္ဗာန်ရောက်ကြောင်းဖြစ်သော** ဟူသည့် အမှီဝါကျကဏ္ဍ(က)နှင့် **တရားတို့ကို ဟောတော်မူသည်ကား** ဟူသည့် အမှီဝါကျကဏ္ဍ (ခ)ဟူ၍ အမှီဝါကျကဏ္ဍ ၂ ခု ပါဝင်သည်။

– အမှီဝါကျကဏ္ဍ ၂ ခုအနက် **တရားတို့ကိုဟောတော်မူ သည်ကား** ဟူသော အမှီဝါကျကဏ္ဍ(ခ)သည် **များးစွာ**၏ဟူသော အမှီခံဝါကျကဏ္ဍကို တိုက်ရိုက် အမှီပြုလျက်ရှိသော **နာမ်ဝါကျကဏ္ဍ** ဖြစ်သည်။

– **နတ်ရွာနိဗ္ဗာန်ရောက်ကြောင်းဖြစ်သော** ဟူသည့် အမှီဝါကျကဏ္ဍ(က)သည် **တရားတို့ကို ဟောတော်မူသည်ကား** ဟူသောအမှီဝါကျကဏ္ဍ(ခ)ရှိ **တရား** ဟူသည့်**နာမ်**ကို ထပ်ဆင့်အထူးပြုလျက်ရှိသော **နာမဝိသေသနဝါကျကဏ္ဍ** ဖြစ်သည်။

– အမှီဝါကျကဏ္ဍ(က)နှင့် (ခ)တို့ပါဝင်သော **နတ်ရွာနိဗ္ဗာန်ရောက်ကြောင်း ဖြစ်သော တရားတို့ကို ဟောတော်မူသည်ကား**ဟူသည့် အမှီဝါကျကဏ္ဍကြီး သည် အမှီခံဝါကျကဏ္ဍ၏ **ကတ္တား**အဖြစ် ဆောင်ရွက်သော နာမ်ဝါကျကဏ္ဍ ဖြစ်သည်။

**သာဓက ၂**။ ။

| အမှီဝါကျကဏ္ဍကြီး၊ နာမ်ဝါကျကဏ္ဍ (ကံ) | | အမှီခံဝါကျကဏ္ဍ |
|---|---|---|
| အမှီဝါကျကဏ္ဍ(က)၊ နာမ်ဝါကျကဏ္ဍ | အမှီဝါကျကဏ္ဍ(ခ)၊ နာမဝိသေသနဝါကျကဏ္ဍ | |
| **ဘိုးတော်ဥဇနာကို သော်ကား ...*...ပညာရှိတို့ ချီးမွမ်း** ကုန်ရာ၏ဟု | * ပစ္စုပ္ပန်သံသရာ အကျိုး ၂ ပါးကို **မြင်သော** | လျှောက်၏။[၃၆] |

- ဖော်ပြပါ သာဓကဝါကျရေးတွင် **ဘိုးတော်ဥဇနာကိုသော်ကား... ပညာရှိတို့ ချီးမွမ်း ကုန်ရာ၏ဟု** ဟူသည့် အမှီဝါကျကဏ္ဍ (က)နှင့် **ပစ္စုပ္ပန်သံသရာအကျိုး ၂ ပါးကိုမြင်သော** ဟူသည့်အမှီဝါကျကဏ္ဍ(ခ)ဟူ၍ ၂ ခု ပါဝင်သည်။ အမှီဝါကျကဏ္ဍ ၂ ခုအနက် **ဘိုးတော် ဥဇနာကိုသော်ကား... ပညာရှိတို့ ချီးမွမ်းကုန်ရာ၏ဟု** ဟူသည့် အမှီဝါကျကဏ္ဍ (က)သည် **လျှောက်၏**ဟူသော အမှီခံဝါကျကဏ္ဍကို တိုက်ရိုက် အမှီပြုလျက်ရှိသော နာမ်ဝါကျကဏ္ဍဖြစ်သည်။
- **ပစ္စုပ္ပန်သံသရာအကျိုး ၂ ပါးကို မြင်သော**ဟူသည့် အမှီဝါကျကဏ္ဍ (ခ) သည် **ဘိုးတော်ဥဇနာကိုသော်ကား...ပညာရှိတို့ ချီးမွမ်းကုန်ရာ၏ဟု** ဟူသည့် အမှီဝါကျကဏ္ဍ (က)အတွင်း၌ ပါဝင်ဖွဲ့စည်းလျက်ရှိပြီး အမှီဝါကျကဏ္ဍ (က)ရှိ **ပညာရှိတို့**ဟူသောနာမ်ကို ထပ်ဆင့်အထူးပြုလျက်ရှိသော နာမဝိသေသန ဝါကျကဏ္ဍဖြစ်သည်။
- အမှီဝါကျကဏ္ဍ(က)နှင့် (ခ)တို့ ပါဝင်ဖွဲ့စည်းထားသော **ဘိုးတော်ဥဇနာကို သော်ကား (ပစ္စုပ္ပန်သံသရာအကျိုး ၂ ပါးကိုမြင်သော) ပညာရှိတို့ ချီးမွမ်းကုန်ရာ၏ဟု** ဟူသည့် အမှီဝါကျကဏ္ဍကြီးသည် အမှီခံဝါကျကဏ္ဍ၏ **ကံ** အဖြစ် ဆောင်ရွက်သည့် နာမ်ဝါကျကဏ္ဍဖြစ်သည်။

အမှီခံဝါကျကဏ္ဍရှိ **လျှောက်** ဟူသည့် ကြိယာ၏ကတ္တားပုဒ်မှာ ရှေ့ဝါကျများ၏ တစ်နေရာရာ၌ ပါရှိပြီးဖြစ်သည်။

(ခ) **နာမဝိသေသနဝါကျကဏ္ဍနှင့် ကြိယာဝိသေသနဝါကျကဏ္ဍ ထပ်ဆင့်ပါဝင် ဖွဲ့စည်းပုံ**

အမှီခံဝါကျကဏ္ဍကို တိုက်ရိုက်အမှီပြုသော နာမ်ဝါကျကဏ္ဍ၌ နာမဝိသေသန ဝါကျ ကဏ္ဍနှင့် ကြိယာဝိသေသနဝါကျကဏ္ဍတို့ ထပ်ဆင့်ပါဝင်ဖွဲ့စည်းနေပုံကို အောက်ပါအတိုင်း လေ့လာနိုင်သည်။

**သာဓက**။ ။

| | | | | | | | |
|---|---|---|---|---|---|---|---|
| ပညာရှိ | **လျှောက်** | **သော** | စကားကို | **ယုံ** | **၍** | အရေးတော် **ပြီး** | သည် |
| | (ကြိယာ) | (ပစ္စည်း) | | (ကြိယာ)(သမ္ဗန္ဓ) | | (ကြိယာ) | (ဝိဘတ်) |
| အမှီဝါကျကဏ္ဍ(က) | | | အမှီဝါကျကဏ္ဍ (ခ) | | | အမှီဝါကျကဏ္ဍ(ဂ) | |




**များ၏** ။[၃၇]

(ကြိယာ)

အမှီခံဝါကျကဏ္ဍ

- ဖော်ပြပါ သာဓကဝါကျရော၌ **ပညာရှိလျှောက်သော**ဟူသည့် အမှီဝါကျကဏ္ဍ (က)၊ **စကားကိုယုံ၍**ဟူသော အမှီဝါကျကဏ္ဍ(ခ)နှင့် **အရေးတော်ပြီးသည်** ဟူသော အမှီဝါကျကဏ္ဍ(ဂ)ဟူ၍ အမှီဝါကျကဏ္ဍ ၃ ခုပါဝင်သည်။
- အမှီဝါကျကဏ္ဍ ၃ ခုအနက် **အရေးတော်ပြီးသည်** ဟူသော အမှီဝါကျကဏ္ဍ(ဂ) သည် **များ၏**ဟူသည့် အမှီခံဝါကျကဏ္ဍကို တိုက်ရိုက်အမှီပြုလျက်ရှိသော နာမ်ဝါကျကဏ္ဍ ဖြစ်သည်။
- **ပညာရှိလျှောက်သော** ဟူသည့် အမှီဝါကျကဏ္ဍ (က)နှင့် **စကားကို ယုံ၍** ဟူသော အမှီဝါကျ ကဏ္ဍ (ခ)တို့ ပါဝင်သော အမှီဝါကျကဏ္ဍကြီး ၁ သည် **အရေးတော်ပြီးသည်** ဟူသော အမှီဝါကျကဏ္ဍ(ဂ)ရှိ **ပြီး** ဟူသောကြိယာကို အထူးပြုလျက်ရှိသော ကြိယာဝိသေသန ဝါကျကဏ္ဍ ဖြစ်သည်။
- အမှီဝါကျကဏ္ဍကြီး ၁ တွင် **ပညာရှိလျှောက်သော** ဟူသည့် အမှီဝါကျကဏ္ဍ (က) သည် **စကားကိုယုံ၍** ဟူသော အမှီဝါကျကဏ္ဍ(ခ)ရှိ စကားဟူသောနာမ်ကို အထူးပြု လျက်ရှိသော နာမဝိသေသနဝါကျကဏ္ဍ ဖြစ်သည်။
- **ပညာရှိလျှောက်သောစကားကိုယုံ၍** ဟူသော အမှီဝါကျကဏ္ဍကြီး ၁ နှင့် **အရေးတော်ပြီးသည်** ဟူသော အမှီဝါကျကဏ္ဍ (ဂ)တို့ ပါဝင်သည့် **ပညာရှိလျှောက်သောစကားကို ယုံ၍ အရေးတော်ပြီးသည်** ဟူသော အမှီဝါကျကဏ္ဍကြီး ၂ သည် **များ၏**ဟူသော အမှီခံဝါကျကဏ္ဍ၏ ကတ္တားအဖြစ်ဆောင်ရွက်သည့် နာမ်ဝါကျကဏ္ဍ ဖြစ်သည်။

(ဂ) **နာမ်ဝါကျကဏ္ဍ ထပ်ဆင့်ပါဝင်ဖွဲ့စည်းပုံ**

အမှီခံဝါကျကဏ္ဍကို တိုက်ရိုက်အမှီပြုသော နာမ်ဝါကျကဏ္ဍတွင် နာမ်ဝါကျကဏ္ဍတစ်ခု ထပ်ဆင့်ပါဝင်ဖွဲ့စည်းနေပုံကို အောက်ပါအတိုင်း လေ့လာနိုင်သည်။

**သာဓက**။ ။



- ဖော်ပြပါသာဓကဝါကျရော၌ **နန္ဒကျော်သူမိဘအိမ်သို့ လိုက်ရမည်** ဟူသည့် အမှီဝါကျကဏ္ဍ(က)နှင့် **ခေါ်သည်မှာ** ဟူသည့် အမှီဝါကျကဏ္ဍ(ခ) ဟူ၍ အမှီဝါကျကဏ္ဍ ၂ ခု ပါဝင်သည်။
- အမှီဝါကျကဏ္ဍ ၂ ခုအနက် **ခေါ်သည်မှာ** ဟူသော အမှီဝါကျကဏ္ဍ(ခ)သည် **မခေါ်သင့်ပါ**ဟူသော အမှီခံဝါကျကဏ္ဍကို တိုက်ရိုက်အမှီပြုလျက်ရှိသည့် နာမ်ဝါကျကဏ္ဍဖြစ်သည်။
- **နန္ဒကျော်သူမိဘအိမ်သို့ လိုက်ရမည်** ဟူသော အမှီဝါကျကဏ္ဍ(က)သည် **ခေါ်သည် မှာ**ဟူသည့် အမှီဝါကျကဏ္ဍ(ခ)၏ ကံအဖြစ် ဆောင်ရွက်သော နာမ်ဝါကျကဏ္ဍဖြစ်သည်။
- အမှီဝါကျကဏ္ဍ (က) နှင့် (ခ)တို့ ပါဝင်သော **နန္ဒကျော်သူ မိဘအိမ်သို့ လိုက်ရမည် ခေါ်သည်မှာ** ဟူသည့် အမှီဝါကျကဏ္ဍကြီးသည် အမှီခံဝါကျကဏ္ဍ၏ **ကတ္တား**အဖြစ် ဆောင်ရွက်သည့် နာမ်ဝါကျကဏ္ဍဖြစ်သည်။

၁၆၁။ အမှီခံဝါကျကဏ္ဍကို တိုက်ရိုက်အမှီပြုသော **နာမ်ဝါကျကဏ္ဍ** တစ်ခု၌ အထက်တွင် ဖော်ပြထားသကဲ့သို့ အမှီဝါကျကဏ္ဍများထပ်ဆင့် ပါဝင်ဖွဲ့စည်းနေသည့်နည်းတူ **ကြိယာဝိသေသနဝါကျကဏ္ဍ** တစ်ခု၌လည်း အမှီဝါကျကဏ္ဍများ ထပ်ဆင့်ပါဝင်ဖွဲ့စည်းနေတတ်သည်။

၁၆၂။ အမှီခံဝါကျကဏ္ဍကို တိုက်ရိုက်အမှီပြုသော **ကြိယာဝိသေသနဝါကျကဏ္ဍ** တစ်ခုတွင် **နာမ်ဝါကျကဏ္ဍ၊ နာမဝိသေသနဝါကျကဏ္ဍ**နှင့် **ကြိယာဝိသေသနဝါကျကဏ္ဍ**တို့ ထပ်ဆင့် ပါဝင် ဖွဲ့စည်းနေတတ်သည်။

(က) **နာမ်ဝါကျကဏ္ဍ ထပ်ဆင့်ပါဝင်ဖွဲ့စည်းပုံ**

အမှီခံဝါကျကဏ္ဍကို တိုက်ရိုက်အမှီပြုသော ကြိယာဝိသေသနဝါကျကဏ္ဍ၌ နာမ်ဝါကျကဏ္ဍ ထပ်ဆင့်ပါဝင်ဖွဲ့စည်းနေပုံကို အောက်ပါအတိုင်း လေ့လာနိုင်သည်။

**သာဓက**။ ။

| အမှီဝါကျကဏ္ဍကြီး၊ | ကြိယာဝိသေသနဝါကျကဏ္ဍ | အမှီခံဝါကျကဏ္ဍ |
|---|---|---|
| အမှီဝါကျကဏ္ဍ(က)<br>နာမ်ဝါကျကဏ္ဍ(ကံ) | အမှီဝါကျကဏ္ဍ(ခ)<br>ကြိယာဝိသေသနဝါကျကဏ္ဍ | |
| တုလောင်းတောင်တွင်<br>ဖွားတော်မူသည်ကို | အကြောင်းပြု၍ | မင်းသားတုလောင်း<br>ဟု မှည့်တော်မူ၏။[၃၉] |

- ဖော်ပြပါသာဓကဝါကျရော၌ **တုလောင်းတောင်တွင် ဖွားတော်မူသည်ကို** ဟူသည့် အမှီဝါကျ ကဏ္ဍ(က)နှင့် **အကြောင်းပြု၍** ဟူသည့် အမှီဝါကျကဏ္ဍ(ခ)ဟူ၍ အမှီဝါကျကဏ္ဍ ၂ ခုပါဝင်သည်။
- အမှီဝါကျကဏ္ဍ ၂ ခုအနက် **အကြောင်းပြု၍** ဟူသော အမှီဝါကျကဏ္ဍ(ခ)သည် **မင်းသားတုလောင်းဟု မှည့်တော်မူ၏** ဟူသည့် အမှီခံဝါကျကဏ္ဍကို တိုက်ရိုက် အမှီပြု လျက်ရှိသည့် ကြိယာဝိသေသနဝါကျကဏ္ဍ ဖြစ်သည်။

- **တုလောင်းတောင်တွင် ဖွားတော်မူသည်ကို** ဟူသော အမှီဝါကျကဏ္ဍ(က)သည် **အကြောင်းပြု၍** ဟူသည့် အမှီဝါကျကဏ္ဍ(ခ)၏ ကံအဖြစ် ဆောင်ရွက်သော **နာမ်ဝါကျကဏ္ဍ** ဖြစ်သည်။
- အမှီဝါကျကဏ္ဍ(က)နှင့်(ခ)တို့ပါဝင်သော **တုလောင်းတောင်တွင် ဖွားတော်မူသည်ကို အကြောင်းပြု၍** ဟူသည့် အမှီဝါကျကဏ္ဍကြီးသည် အမှီခံဝါကျကဏ္ဍကို အထူးပြုလျက် ရှိသည့် **ကြိယာဝိသေသနဝါကျကဏ္ဍ** ဖြစ်သည်။

(ခ) **နာမဝိသေသနဝါကျကဏ္ဍ ထပ်ဆင့်ပါဝင်ဖွဲ့စည်းပုံ**

အမှီခံဝါကျကဏ္ဍကို တိုက်ရိုက်အမှီပြုသော ကြိယာဝိသေသနဝါကျကဏ္ဍ၌ နာမဝိသေသနဝါကျကဏ္ဍထပ်ဆင့်ပါဝင်ဖွဲ့စည်းနေပုံကို အောက်ပါအတိုင်း လေ့လာနိုင်သည်။

**သာဓက**။ ။

ဤသို့ ကောင်းစွာပွားစေအပ်သော စိတ်ရှိသော၊ စင်ကြယ်သော အဝတ်ကို ဝတ်သော ပုဏ္ဏေးမသည် ကျွန်မကို အာဟာရကို ယူခဲ့စေ၍ ကြွင်းသောသူနှင့်တကွ လယ်သို့သွား၏။[၄၀]

| အမှီဝါကျကဏ္ဍကြီး ၂ ၊ ကြိယာဝိသေသနဝါကျကဏ္ဍ | | | | အမှီခံဝါကျကဏ္ဍ |
|---|---|---|---|---|
| အမှီဝါကျကဏ္ဍကြီး ၁ နာမဝိသေသနဝါကျကဏ္ဍ | | | | |
| အမှီဝါကျကဏ္ဍ (က) နာမဝိသေသနဝါကျကဏ္ဍ | အမှီဝါကျကဏ္ဍ (ခ) နာမဝိသေသနဝါကျကဏ္ဍ | အမှီဝါကျကဏ္ဍ (ဂ) နာမဝိသေသနဝါကျကဏ္ဍ | အမှီဝါကျကဏ္ဍ (ဃ) ကြိယာဝိသေသနဝါကျကဏ္ဍ | |
| ဤသို့ကောင်းစွာပွားစေအပ်သော | စိတ်ရှိသော | စင်ကြယ်သော အဝတ်ကို ဝတ်သော | ပုဏ္ဏေးမသည် ကျွန်မကို အာဟာရကို ယူခဲ့စေ၍ | ကြွင်းသောသူနှင့် တကွ လယ်သို့ သွား၏။[၄၀] |

- ဖော်ပြပါ သာဓကဝါကျရှေ့၌ ဤသို့ **ကောင်းစွာပွားစေအပ်သော** ဟူသည့် အမှီဝါကျကဏ္ဍ (က)၊ **စိတ်ရှိသော**ဟူသည့် အမှီဝါကျကဏ္ဍ (ခ)၊ **စင်ကြယ်သော အဝတ်ကို ဝတ်သော**ဟူသည့် အမှီဝါကျကဏ္ဍ (ဂ)နှင့် **ပုဏ္ဏေးမသည် ကျွန်မကို အာဟာရကို ယူခဲ့စေ၍** ဟူသည့် အမှီဝါကျကဏ္ဍ (ဃ)ဟူသော အမှီဝါကျကဏ္ဍ ၄ ခုပါဝင်သည်။
- အမှီဝါကျကဏ္ဍ ၄ ခုအနက် **ပုဏ္ဏေးမသည် ကျွန်မကို အာဟာရကို ယူခဲ့စေ၍** ဟူသော အမှီဝါကျကဏ္ဍ(ဃ) သည် **ကြွင်းသောသူနှင့်တကွ လယ်သို့သွား၏** ဟူသော အမှီခံဝါကျကဏ္ဍကို တိုက်ရိုက်အထူးပြုလျက်ရှိသော ကြိယာဝိသေသနဝါကျကဏ္ဍဖြစ်သည်။
- **စင်ကြယ်သောအဝတ်ကို ဝတ်သော** ဟူသည့် အမှီဝါကျကဏ္ဍ (ဂ)သည် **ပုဏ္ဏေးမ သည် ကျွန်မကို အာဟာရကိုယူခဲ့စေ၍** ဟူသော အမှီဝါကျကဏ္ဍ(ဃ)ရှိ

**ပုဏ္ဏေးမ** ဟူသောနာမ်ကို ထပ်ဆင့်အထူးပြုလျက်ရှိသော နာမဝိသေသနဝါကျကဏ္ဍ ဖြစ်သည်။

– ထို့အတူ ဤသို့ **ကောင်းစွာပွားစေအပ်သော**ဟူသည့် အမှီဝါကျကဏ္ဍ(က)နှင့် **စိတ်ရှိသော**ဟူသည့် အမှီဝါကျကဏ္ဍ(ခ)တို့ပါဝင်သော အမှီဝါကျကဏ္ဍကြီး ၁ သည်လည်း **ပုဏ္ဏေးမသည် ကျွန်မကို အာဟာရကို ယူခဲ့စေ၍** ဟူသော အမှီဝါကျကဏ္ဍ(ဃ)ရှိ **ပုဏ္ဏေးမ**ဟူသော**နာမ်**ကို ထပ်ဆင့်အထူးပြုလျက်ရှိသော နာမဝိသေသန ဝါကျကဏ္ဍဖြစ်သည်။

– တစ်ဖန် အမှီဝါကျကဏ္ဍကြီး ၁ တွင် ပါဝင်သော **ဤသို့ကောင်းစွာပွားစေအပ်သော** ဟူသည့် အမှီဝါကျကဏ္ဍ(က)သည် **စိတ်ရှိသော**ဟူသည့်အမှီဝါကျကဏ္ဍ ၁ ရှိ **စိတ်** ဟူသောနာမ်ကို အထူးပြုလျက်ရှိသော နာမဝိသေသနဝါကျကဏ္ဍဖြစ်သည်။

– **ဤသို့ကောင်းစွာ ပွားစေအပ်သောစိတ်ရှိသော** ဟူသည့် အမှီဝါကျကဏ္ဍကြီး ၁၊ **စင်ကြယ်သောအဝတ်ကိုဝတ်သော**ဟူသည့် အမှီဝါကျကဏ္ဍ(ဂ)နှင့် **ပုဏ္ဏေးမသည် ကျွန်မကို အာဟာရကို ယူခဲ့စေ၍**ဟူသော အမှီဝါကျကဏ္ဍ(ဃ)တို့ ပါဝင်သော အမှီဝါကျကဏ္ဍကြီး ၂ သည် **ကြွင်းသောသူနှင့်တကွ လယ်သို့သွား၏**ဟူသော အမှီခံဝါကျကဏ္ဍရှိ **သွား**ဟူသော **ကြိယာ**ကို အထူးပြုလျက်ရှိသော ကြိယာဝိသေသန ဝါကျကဏ္ဍဖြစ်သည်။

(ဂ) **ကြိယာဝိသေသနဝါကျကဏ္ဍနှင့် နာမဝိသေသနဝါကျကဏ္ဍ ထပ်ဆင့်ပါဝင် ဖွဲ့စည်းပုံ**

အမှီခံဝါကျကဏ္ဍကို တိုက်ရိုက်အမှီပြုသော ကြိယာဝိသေသနဝါကျကဏ္ဍ၌ ကြိယာဝိသေသနဝါကျကဏ္ဍနှင့် နာမဝိသေသနဝါကျကဏ္ဍ ထပ်ဆင့်ပါဝင် ဖွဲ့စည်းနေပုံကို အောက်ပါအတိုင်း လေ့လာနိုင်သည်။

**သာဓက**။ ။

စိတြဂီဝါခိုမင်းသည် အခြွေအရံခိုများဆိုရာ လိုက်နာမိ၍ မုဆိုးထောင်သော ပိုက်ကွန်တွင် မိသဖြင့် သေအံ့သောဘေးသို့ရောက်သော်လည်း ဟိရဏ္ဏကကြွက်မင်း ကယ်၍ ချမ်းသာ ရဖူးလေသည်။[၆၁]

| အမှီဝါကျကဏ္ဍကြီး ၃၊ ကြိယာဝိသေသနဝါကျကဏ္ဍ | | | | | | အမှီခံဝါကျကဏ္ဍ |
|---|---|---|---|---|---|---|
| အမှီဝါကျကဏ္ဍကြီး ၁၊ ကြိယာဝိသေသနဝါကျကဏ္ဍ | | | အမှီဝါကျကဏ္ဍကြီး ၂၊ ကြိယာဝိသေသနဝါကျကဏ္ဍ | | | |
| အမှီဝါကျကဏ္ဍ (က) ကြိယာဝိသေသနဝါကျကဏ္ဍ | အမှီဝါကျကဏ္ဍ(ခ) နာမဝိသေသနဝါကျကဏ္ဍ | အမှီဝါကျကဏ္ဍ(ဂ) ကြိယာဝိသေသနဝါကျကဏ္ဍ | အမှီဝါကျကဏ္ဍ(ဃ) နာမဝိသေသနဝါကျကဏ္ဍ | အမှီဝါကျကဏ္ဍ(င) ကြိယာဝိသေသနဝါကျကဏ္ဍ | အမှီဝါကျကဏ္ဍ(စ) ကြိယာဝိသေသနဝါကျကဏ္ဍ | |
| အခြွေအရံခိုများ ဆိုရာလိုက်နာမိ၍ | မုဆိုးထောင်သော | ပိုက်ကွန်တွင် မိသဖြင့် | သေအံ့သော | ဘေးသို့ ရောက်သော်လည်း | ဟိရဏ္ဍကက ကြွက်မင်းကယ်၍ | စိတြဂီဝါ ခိုမင်းသည် ......... ချမ်းသာရဖူး လေသည်။[၆၁] |

- ဖော်ပြပါသာဓကဝါကျရောတွင် **အခြွေအရံရှိများဆိုရာ လိုက်နာမိ၍**ဟူသော အမှီဝါကျ ကဏ္ဍ(က)၊ **မုဆိုးထောင်သော**ဟူသည့် အမှီဝါကျကဏ္ဍ(ခ)၊ **ပိုက်ကွန်တွင်မိသဖြင့်** ဟူသော အမှီဝါကျကဏ္ဍ(ဂ)၊ **သေအံ့သော** ဟူသည့် အမှီဝါကျကဏ္ဍ(ဃ)၊ **ဘေးသို့ ရောက်သော်လည်း** ဟူသောအမှီဝါကျကဏ္ဍ(င)နှင့် **ဟိရဏ္ဏကကြွက်မင်းကယ်၍** ဟူသော အမှီဝါကျကဏ္ဍ (စ)ဟူသော အမှီဝါကျကဏ္ဍ ၆ ခု ပါဝင်သည်။
- အမှီဝါကျကဏ္ဍ ၆ ခုအနက် **ဘေးသို့ရောက်သော်လည်း** ဟူသော အမှီဝါကျ ကဏ္ဍ(င)နှင့် **ဟိရဏ္ဏကကြွက်မင်းကယ်၍** ဟူသော အမှီဝါကျကဏ္ဍ(စ)တို့သည် **စိတြဂီဝါခိုမင်းသည် ချမ်းသာရဖူးလေသည်**ဟူသော အမှီခံဝါကျကဏ္ဍကို တိုက်ရိုက်အထူးပြုလျက်ရှိသော ကြိယာဝိသေသနဝါကျကဏ္ဍများ ဖြစ်ကြသည်။
- **အခြွေအရံရှိများဆိုရာလိုက်နာမိ၍** ဟူသော အမှီဝါကျကဏ္ဍ(က)သည် **ပိုက်ကွန်တွင်မိသဖြင့်** ဟူသော အမှီဝါကျကဏ္ဍ(ဂ)ရှိ **မိ** ဟူသော **ကြိယာကို** အထူးပြုလျက်ရှိသော ကြိယာဝိသေသနဝါကျကဏ္ဍ ဖြစ်သည်။
- တစ်ဖန် **မုဆိုးထောင်သော** ဟူသည့် အမှီဝါကျကဏ္ဍ(ခ)သည် **ပိုက်ကွန်တွင် မိသဖြင့်** ဟူသော အမှီဝါကျကဏ္ဍ(ဂ)ရှိ **ပိုက်ကွန်**ဟူသော **နာမ်**ကို အထူး ပြုလျက်ရှိသော နာမဝိသေသနဝါကျကဏ္ဍဖြစ်သည်။
- **အခြွေအရံရှိများဆိုရာလိုက်နာမိ၍** ဟူသော အမှီဝါကျကဏ္ဍ(က)၊ **မုဆိုးထောင်သော** ဟူသည့် အမှီဝါကျကဏ္ဍ(ခ)နှင့် **ပိုက်ကွန်တွင်မိသဖြင့်** ဟူသော အမှီဝါကျကဏ္ဍ(ဂ)တို့ ထပ်ဆင့်ပါဝင်ဖွဲ့စည်းလျက်ရှိသော အမှီဝါကျ ကဏ္ဍကြီး ၁ သည် **ဘေးသို့ရောက်သော်လည်း** ဟူသည့် အမှီဝါကျကဏ္ဍ(င) ရှိ **ရောက်**ဟူသော **ကြိယာ**ကို အထူးပြုလျက်ရှိသော ကြိယာဝိသေသန ဝါကျကဏ္ဍဖြစ်သည်။
- တစ်ဖန် **သေအံ့သော** ဟူသည့် အမှီဝါကျကဏ္ဍ(ဃ)သည် **ဘေးသို့ ရောက်သော် လည်း** ဟူသောအမှီဝါကျကဏ္ဍ(င)ရှိ **ဘေး** ဟူသော **နာမ်**ကို ထပ်ဆင့် အထူးပြုလျက်ရှိသည့် နာမဝိသေသနဝါကျကဏ္ဍ ဖြစ်သည်။
- **အခြွေအရံရှိများဆိုရာလိုက်နာမိ၍ မုဆိုးထောင်သော ပိုက်ကွန်တွင် မိသဖြင့်**ဟူသော အမှီဝါကျကဏ္ဍကြီး ၁နှင့် **သေအံ့သောဘေးသို့ ရောက် သော်လည်း** ဟူသော အမှီဝါကျကဏ္ဍကြီး ၂ တို့ ထပ်ဆင့် ပါဝင်ဖွဲ့စည်းလျက်ရှိသည့် **အခြွေအရံ ရှိများဆိုရာ လိုက်နာမိ၍ မုဆိုးထောင်သော ပိုက်ကွန်တွင်မိသဖြင့် သေအံ့သောဘေးသို့ ရောက်သော်လည်း** ဟူသော အမှီဝါကျကဏ္ဍကြီး ၃ သည် **စိတြဂီဝါခိုမင်းသည် ချမ်းသာရဖူးလေသည်**ဟူသော အမှီခံဝါကျကဏ္ဍကို အထူးပြုလျက်ရှိသည့် ကြိယာဝိသေသနဝါကျကဏ္ဍဖြစ်သည်။

၁၆၃။ ဖော်ပြခဲ့သောသင်ခန်းစာများကို လေ့လာခြင်းဖြင့် အမှီဝါကျကဏ္ဍတစ်ခုမက ပါရှိသည့် ဝါကျရော၏ အခြေခံသဘောလက္ခဏာများကို သိရှိရသည်။

**အမှီဝါကျကဏ္ဍတစ်ခုမကပါဝင်သော ဝါကျရောတို့၏ အခြေခံသဘောလက္ခဏာများ**

(က) အမှီဝါကျကဏ္ဍများသည် အမှီခံဝါကျကဏ္ဍ၏ရှေ့၌ရှိသည်။

**သာဓက**။ ။

ကိန္နရာ ကိန္နရီတို့သည် ဘုရားလောင်းကို ခြံရံ၍

အမှီဝါကျကဏ္ဍ

သစ်သီးကြီးငယ်တို့ကို ဆွတ်ယူ၍

အမှီဝါကျကဏ္ဍ

ဘုရားလောင်းအား ပေးကုန်၏။[၄၂]

အမှီခံဝါကျကဏ္ဍ

(ခ) အမှီဝါကျကဏ္ဍသည် အမှီခံဝါကျကဏ္ဍ၏ ကတ္တားနှင့်ကြိယာအကြား၌လည်း ရှိတတ်သည်။

**သာဓက**။ ။

(၁) **မြတ်စွာဘုရားသည်** ဤရာဟုလာမင်းသားကို
(ကတ္တား) ငါအမွေ......**မိန့်တော်မူ၏**။[၄၃]

သနားတော်မူလိုသည် (ကြိယာ)

အမှီဝါကျကဏ္ဍ

ရှင်ပြုဘိလော့ဟု

အမှီဝါကျကဏ္ဍ

အမှီခံဝါကျကဏ္ဍ

(၂) **ခြသေ့်သည်** ထိုမြေခွေးကို အိုမြေခွေး မပြေးလင့်......**ဆို၏**။[၄၄]
(ကတ္တား) ခေါ်၍ (ကြိယာ)

အမှီဝါကျကဏ္ဍ အမှီဝါကျကဏ္ဍ

ငါသည်ညွှန်၌နစ်၏ ငါ့အသက်ကို ပေးပါလှည့်လော့ဟု

အမှီဝါကျကဏ္ဍ အမှီဝါကျကဏ္ဍ

အမှီခံဝါကျကဏ္ဍ

(ဂ) အမှီဝါကျကဏ္ဍများတွင် အမှီခံဝါကျကဏ္ဍကို တိုက်ရိုက်မှီသော အမှီဝါကျကဏ္ဍများလည်းရှိသည်။ အမှီဝါကျကဏ္ဍတစ်ခုက အခြားအမှီဝါကျကဏ္ဍတစ်ခုကို ထပ်ဆင့်မှီလျက်ရှိသော အမှီဝါကျကဏ္ဍများလည်းရှိသည်။

(ဃ) ဝါကျကဏ္ဍ၏ အဓိပ္ပာယ်ဖွင့်ဆိုချက်အရ ဝါကျကဏ္ဍတွင် ကတ္တားပုဒ်နှင့် ကြိယာပုဒ်ပါရှိသည်ဟု ဆိုသော်လည်း ရံဖန်ရံခါ၌ ကတ္တားပုဒ်ကို မြုပ်ရေးတတ်သည်။

( င ) အမှီခံဝါကျကဏ္ဍကို တိုက်ရိုက်အမှီပြုသော **နာမ်ဝါကျကဏ္ဍ**တစ်ခုတွင် **နာမဝိသေသန ဝါကျကဏ္ဍ၊ ကြိယာဝိသေသနဝါကျကဏ္ဍ**နှင့် **နာမ်ဝါကျကဏ္ဍ**တို့ ထပ်ဆင့် ပါဝင်ဖွဲ့စည်းနေတတ်သည်။

( စ ) အမှီခံဝါကျကဏ္ဍကို တိုက်ရိုက်အမှီပြုသော **ကြိယာဝိသေသနဝါကျကဏ္ဍ**တစ်ခုတွင် **နာမ်ဝါကျကဏ္ဍ၊ နာမဝိသေသနဝါကျကဏ္ဍ၊ ကြိယာဝိသေသန ဝါကျကဏ္ဍ**တို့ ထပ်ဆင့်ပါဝင်ဖွဲ့စည်းနေတတ်သည်။

